မန္တလေးမြို့ ဘုရားသမိုင်း၊

ကျောင်းတိုက်ကြီးများသမိုင်း၊ သာသနာ့ဝန်ဆောင်

ဆရာတော်ဘုရားများ၏ ဖြစ်ခဲတော်စဉ်

စသည်တို့ဖြင့် တန်ဆာဆင်အပ်သော

# မန္တလေးသာသနာဝင်

ပဌမတွဲ

အရှင်ကေလာသ မေဓာဝိရိယ ဂဏဝါကေ

B-A-HONS. ဝိဇ္ဇာဂုဏ်ထူး (သီရိလင်္ကာ)

ပြုစုရေးသားသည်။

ပထမအကြိမ်

အုပ်ရေ ၃၀၀၀

၁၉၇၀-ပြည့်နှစ်၊ ဒီဇင်ဘာလ။



ရန်ကုန်မြို့၊ ကမ္ဘာအေး၊ သာသနာရေးဦးစီးဌာနအတွက်၊ အမှတ် ၁၁၊ ၁၂၅-လမ်း၊ နေလင်းပုံနှိပ်တိုက် (၀၂၀၃၀) တွင် ဒေါ်တင်လှက ပုံနှိပ်၍ လက်ထောက်ညွှန်ကြားရေးမှူး ဦးမြင့်မောင် မှတ်ပုံတင်အမှတ်(၀၂၅၂၇) က ထုတ်ဝေသည်။



မဟာမြတ်မုနိဘုရားကြီး

မန္တလေးသာသနာဝင်ကျမ်း

# ကျမ်းဦး မှတ်ဖွယ်

**မန္တလေးအမွန်အစ ပဘာဝ။** ။မန္တလေးသာသနာသည် အလွန်လျှင် စိတ်ဝင်စားစရာကောင်းပြီး အလွန်လည်း ကျယ်ပြောလှသည်။မန္တလေးမြို့တော်နေ သာသနာ့ဝန်ဆောင်ဆရာတော်များ၏ သာသနာပြုလုပ်ငန်းသည် အလွန်လျှင် ထိရောက်လှသည်။လွန်ခဲ့သော နှစ်တရာလောက်မှစ၍ ယခုတိုင် ဘုရား သဗ္ဗညုသာသနာတော်ကို ထမ်းရွက်တော် မူကြသည့် မြန်မာနိုင်ငံအရပ်ရပ်ရှိ သာသနာ့ဝန်ဆောင်တို့သည် ယေဘုယျ အားဖြင့် မန္တလေး ထိပ်တန်းသာသနာ့ဝန်ဆောင် ဆရာတော်တို့၏ နည်းဥပဒေသလျှင် အမွန်အစ ပဘာဝရှိသူတို့ ဖြစ်ကြကုန်၏။

**မင်းတုန်းမင်းတရား၏အမြော်အမြင်။** ။မန္တလေး မြို့တော်ကို လက်မွန်မဆွ တည်ထောင်တော်မူခဲ့သည့် မင်းတုန်းမင်း၏ သာသနာပြုရန် အမြော်အမြင်ဉာဏ်သည်လည်း မဇ္ဈိမဒေသ ပါဋလိပုတ်မြို့တော်၌ နန်းတက်ပေါ်ထွန်းခဲ့သည့် သီရိဓမ္မာသောကမင်း၊ သီဟိုဠ်ကျွန်း၌ ပေါ်ထွန်းခဲ့သည့် ဒုဋ္ဌဂါမဏိမင်းတို့၏ အမြော်အမြင်အောက် မနိမ့်ကျခဲ့ချေ။

**ပရိယတ္တိသာသနာ ချီးမြှောက်ပုံ အချက်ကျလှ။** ။မင်းတုန်းမင်းတရား၏ ပရိယတ္တိ သာသနာတော်ကြီး အရှည်ခံ့ခံ့ တည်တန့်ရန် ချီးမြှောက်တော်မူခဲ့ပုံမှာ သူ့ခေတ်နှင့်သူ အချက်ကျလှပေသည်။ ပိဋကတ်တော်ပါဠိ၊အဋ္ဌကထာ၊ဋီကာများကို ရွှေရေး၊မင်ရေး ကညစ်ရေးတို့ဖြင့် ရေးသားစေတော်မူပြီး မှုအစောင်စောင်ပွားပုံ၊ ကျောက်ထက်အက္ခရာတင်တော်မူပုံ၊ ပိဋကတ်သုံးပုံ စာပြန်ပွဲများကျင်းပ၍ သာသနာချီးမြှောက်တော်မူပုံ၊ ပဋ္ဌမစာတော်ပြန်ပွဲများကျင်းပ၍ သာသနာချီးမြှောက်တော်မူပုံ၊ ဆရာတော် သံဃာတော် အရှင်မြတ်တို့အား ရာဇဂုရု၊ ရာဇာဓိရာဇဂုရု၊ ပဋ္ဌမစာချ၊ ဒုတိယ၊ တတိယစာချ ဘွဲ့တံဆိပ်ခဘော်များ ဆက်ကပ်ဆောက်ပံ့လှူဒါန်း၍ သာသနာပြုတော်မူခဲ့သည်။

**ပဋိပတ္တိသာသနာ မလျော့အောင် ချီးမြှောက်ပုံ ချက်ပိုင်လှ။** ။ရင်းပြင် စစ်ကိုင်း မင်းကွန်း တောင်ရိုး ရွှေဘိုစသည့် ထိုထိုဒေသ တောရကျောင်းတို့၌ သီတင်းသုံးနေတော်မူကြ၍ ပဋိပတ္တိအလုပ်ကို ကြိုးကုတ် အားသစ်တော်မူကြသော ပဋိပတ္တိ ဝန်ဆောင်

ရဟန်းတို့အားလည်း ဆွမ်း သင်္ကန်း ကျောင်း ဆေး ပစ္စည်းလေးပါး ထောက်ပံ့လှူဒါန်း၍ သာသနာပြုတော်မူပုံမှာလည်း ချက်ပိုင်လှသည်။ နောက်နောက်မင်းများအတုယူဖွယ်ရာဖြစ်လေသည်။

**သီပေါမင်းတရား၏ ဆက်လက်ထောက်ပံ့ပုံ။** ။၎င်းပြင် ရတနာပုံ ဒုတိယနန်းစံ- သီပေါမင်း တရား သည်လည်း ခမည်းတော် ပဉ္စမသံဂါယနာတင် မင်းတရားကြီး၏ ခံမှတ်သည့် မူဝါဒအတိုင်း သာသနာတော်ကို ပါတော်မူသည်အထိ ဆက်လက်ချီးမြှင့် ထောက်ပင့်တော်မူခဲ့လေသည်။

**ရေမြင့် ကြာတင့်။** ။ယင်းသို့ ရေနှင့်တူသော မင်း ၂-ပါးတို့၏ ထောက်ပံ့ကူညီ ချီးမြှင့်မှုကြောင့် ကြာနှင့်တူသော သာသနာတော်သည် မြင့်မားစည်ကားခဲ့လေသည်။ မင်းတရား ၂-ပါး၏ အကူအညီကို ရတော်မူကြသော သာသနာ့ဝန်ထမ်းများ၏ ကြိုးပမ်းမှုကြောင့် ဘုရားသဗ္ဗညုသာသနာသည် နေ လ ရာထောင်ပမာ တောက်ပြောင် လင်းလက်ခဲ့လေသည်။

**ရွှေရောင်တောက်နေသော စေတီပုထိုးများ။** ။သာသနာပြု ဘုရင်မင်းမြတ်များ၏ လှူနတ်ဦးခိုက် ပူဇော်ထိုက်သည့် စေတီပုထိုးများ ဤနေရာ ဤဒေသ၌ ရှိသင့်သည်ဟူသော အမြော်အမြင်ကြီးမားစွာဖြင့် တည်ထားကိုးကွယ်ခဲ့ခြင်းကြောင့် ဗုဒ္ဓဘာသာဝင်တို့၏ ကုသိုလ် ပုညမျိုး ပျိုးချပြုလုပ်ရာ မန္တလေးမြို့ ၄-မြင် ၄-ရပ်၌ ရွှေရောင်တောက်နေသော စေတီပုထိုးတို့ဖြင့်လည်း ကျက်သရေရှိလှသည်။

**သာသနာပြုအသင်းအဖွဲ့များ။** ။ထိုမှတပါး မန္တလေးမြို့တော်၌ ပရိယတ္တိသာသနဟိတ အသင်းကြီး၊ မလွန်ဆန်လှူ အသင်းကြီးတို့က သာသနာပြုမင်းနှစ်ပါးမရှိသည့်နောက် ယင်း မင်း ၂-ပါး၏ သာသနာတော်အား ထောက်ပံ့သည့်အလုပ်ကို ဆက်လက်လုပ်ကိုင် ထောက်ပံ့ သာသနာပြုခဲ့ကြသည်မှာလည်း အားရကျေနပ်ဖွယ်ရာဖြစ်လေသည်။

**အဖက်ဖက်မှ တောင့်တင်းသော မန္တလေးသာသနာ။** ။သို့ဖြစ်၍ မန္တလေး သာသနာသည် အဖက်ဖက်မှ တောင့်တင်းခဲ့လေသည်။ ဒါယကာ ဒါယိကာမတို့၏ဘက်မှဆိုလျှင် လေးကီပစ္စည်းဥစ္စာ ကြွယ်ဝကြသလောက် လောကုတ္တရာသဒ္ဓါစေသော ဥစ္စာ

လည်း ကိုလိုသဖြင့် သာသနာတော်ကို လိုလေသေးမရှိအောင် ထောက်ပံ့လှူဒါန်းကြသည်။ ရဟန်းသံဃာတော်အရှင်မြတ်တို့ကလည်း ဆန္ဒ၊ စိတ္တ၊ ဝီရိယ၊ ဝိမံသ ရှေ့သွားဖြင့် ဓူရ ၂-ပါး ပွားများအားသစ်တော်မူကြသည်။

**ငါးတန်းရွှက်စပ် ရင်ချဉ်းကပ်သလို။** ။ယင်းသို့ မင်းတရား ၂-ပါးနှင့် ဒကာဒကာမတို့၏ ပစ္စည်းလေးဖြာထောက်ပံ့လှူဒါန်းခြင်း၊ သာသနာ့ဝန်ဆောင် ဆရာတော် သံဃာတော် အရှင်ဘုရားမြတ်တို့၏ မလျော့မပေါ့မဆသော လုံ့လဝီရိယကြောင့် ငါးထန်းရွက်စပ် ရင်ချင်းအပ်သလို ဘုရားမြတ်စွာ သာသနာတော်ပွဲကို ဒကာ ဆရာ တူစုံတွဲ၍ စည်ပင်အောင် နွှဲနိုင်ခဲ့လေသည်။

**မန္တလေးသာသနာဝင်ကျမ်း ရေးသားရန် ဦးလှမောင် တောင်းပန်ခြင်း** သက္ကရာဇ် ၁၃၃၂-ခုလောက်တွင် ဗုဒ္ဓ သာသနာအဖွဲ့ (သာသနာရေးဦးစီးဌာန)မှ အုပ်ချုပ်ရေး အရာရှိချုပ်၊ (နောက် ညွှန်ကြားရေးမှူးချုပ်၊ နိုင်ငံတော်ကောင်စီဝင်) ဦးလှမောင်သည် ဤစာပြုသူအား မန္တလေးသာသနာဝင်ကျမ်းကြီး ရေးသား ပြုစုပါရန် ရန်ကုန်မြို့ ဗုဒ္ဓသာသနာအဖွဲ့ (သာသနာရေးဦးစီးဌာန)သို့ ပင့်၍ တောင်းပန် လျှောက်ထားလေသည်။ မိမိသည် အလွန်လျှင် ကြီးလေးသော အလုပ်ဖြစ်၍ အကြိမ်ကြိမ်ငြင်းပါသည်။ သို့ရာတွင် ဒါယကာကြီး ဦးလှမောင်၏ အကြိမ်ကြိမ် လျှောက်ထားတောင်းပန်မှုကြောင့် ဤမည်သော မန္တလေးသာသနာဝင်ကျမ်းကြီးကို ကြိုးပမ်းအားသစ် ရေးသားပြုစုပါသည်။ ယင်းသို့ ပြုစုရာ ၃-နှစ်ခန့် အကြာတွင် မန္တလေးသာသနာဝင်ကျမ်းကြီး ၁၀-တွဲစာခန့် ပြီးစီးပါသည်။

**ညွှန်ကြားရေးမှူးချုပ် ဦးကြည်ညွန့် တောင်းပန်လျှောက်ထားပြန်ခြင်း** ဦးလှမောင် သာသနာရေး အကြံပေး အရာရှိ၊ ဝန်ထမ်းရွေးချယ်လေ့ကျင့်ရေး အဖွဲ့ဝင်၊ နိုင်ငံတော်ကောင်စီဝင် ဖြစ်၍ ဗိုလ်မှူးကြည်ညွန့် သာသနာရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ် ဖြစ်လာသောအခါ ဦးကြည်ညွန့်က မိမိအား ရင်းရင်းနှီးနှီး "ဦးပဥ္စင်း၊ မန္တလေးသာသနာဝင်ကျမ်းကြီးကို အပြီးတိုင် ဖြည့်စွက် သုတ်သင်တည်းဖြတ်ပေးပါ၊ တပည့်တော်တို့ အမြန်ရိုက်နှိပ် ထုတ်ဝေလိုပါသည်"ဟု လျှောက်ထားသဖြင့် ၁၃၄၁-ခုနှစ် တပေါင်းလလောက်ကစ၍ မန္တလေး သာသနာဝင်ကျမ်းကြီးကို ဆက်လက် ဖြည့်စွက်ရေးသားသုတ်သင်ပါသည်။

**အတွဲပေါင်း ၁၅–တွဲ။** ။ယင်းသို့ ထပ်မံဖြည့်စွက် ရေးသားသုတ်သင်ရာ မန္တလေး သာသနာဝင်ကျမ်းကြီးမှာ အတွဲပေါင်း ၁၅–တွဲ စာမျက်နှာ ၆၀၀၀–(ခြောက်ထောင်)ကျော်ခန့်ဖြင့် အတော်အသင့် ပြည့်စုံသည့် ကျမ်းကြီးအဖြစ်သို့ ရောက်ရှိလေသည်။

**အတုယူ သာသနာပြုနိုင်ပါစေ။** ။ဖော်ပြပါ ဖြစ်တော်ဖြစ်ခဲ့ မန္တလေး သာသနာဝင်ကျမ်းကြီး ပေါ်ထွက်လာပြီ ဖြစ်ရာ ဤသာသနာဝင်ကျမ်းကြီးကို ဖတ်ရှု လေ့လာ၍ ရဟန်း သာမဏေဖြစ်လျှင် ဤမန္တလေးသာသနာဝင်ကျမ်းပါ ဆရာတော်အရှင်သူမြတ်တို့၏ သာသနာပြုနည်းကို အတုယူ၍ ကျင့်ကြံကြိုးပမ်းနိုင်ပါစေ။ လူပုဂ္ဂိုလ်ဖြစ်လျှင် မင်းတုန်းမင်း၊ သီပေါမင်း ၂-ပါးနှင့် မန္တလေးမြို့ ဥပါသကာ ဥပါသိကာတို့၏ ထုံးနှစ်လုံးမူကာ သာသနာပြုနိုင်ပါစေဟု တောင့်တယင်း ဤနိဒါန်းကို လက်စသတ်လိုက်ပါပြီ။

အရှင်ကေလာသ
ဓမ္မာစရိယ ဂဏဝါစက ဘီအေ(ဂုဏ်ထူး)
သာသနဇောတိပါလကျောင်း
မဟာဝိသုတာရာမတိုက်
ပခုက္ကူမြို့
၁၃၄၂-ခု ကဆုန်လဆန်း ၈-ရက်။

## မန္တလေးသာသနာဝင်ကျမ်း ပဌမတွဲ ကျမ်းဦးမှတ်ဖွယ်

**ပဓာနအခြေခံ။** ။မန္တလေး သာသနာဝင်ကျမ်း၊ ပဌမတွဲသည် ကျယ်ပြောလှသော မန္တလေးသာသနာဝင်ကျမ်းကြီး တကျမ်းလုံး၏ ပဓာနကျသော ကျမ်းတတွဲဖြစ်သည်။မန္တလေးသာသနာဝင်ကျမ်းကြီး တကျမ်းလုံး၏ လိုရင်းအခြေခံအတွဲလည်း ဖြစ်သည်။

**ပါဝင်သည့် အကြောင်းအရာများ။** ။ဖော်ပြပါ မန္တလေး သာသနာဝင်ကျမ်း ပဌမတွဲ၌—

၁။ အခြေခံအပိုင်းပေါင်း ၉-ပိုင်း၊
၂။ မဟာမြတ်မုနိ ဘုရားကြီးသမိုင်း၊
၃။ မဟာနွယ်စဉ်ရပ် ဗောဓိကုန်းမှ မဟာဗောဓိပင်သမိုင်း၊
၄။ ပဌမဆင်တဲတိုက်.သာသနာဝင်၊
၅။ အသောကာရာမ သာသနာဝင်၊
၆။ ရွှေရေးဆောင် သာသနာဝင်—
တို့ ပါဝင်သည်။

**အခြေခံ ပဌမပိုင်း။** ။ယင်း ပါဝင်သည့် အကြောင်းအရာများတွင် အခြေခံ ပဌမပိုင်းတွင် မန္တလေးမြို့၌ ယခုလက်ရှိအဆောက်အအုံများကို လိုရင်းအကျဉ်းချုပ်ဖော်ပြထားရာ ယင်း အခြေခံပဌမပိုင်းမှာ မန္တလေးမြို့၏ လမ်းညွှန်သဖွယ်ဖြစ်သည်။

**အခြေခံ ဒုတိယပိုင်း။** ။အခြေခံဒုတိယပိုင်း၌ကား လွှတ်လပ်ရေးကျောက်တိုင် အာဇာနည်ဗိမာန်စသည်တို့အကြောင်းကို အကျဉ်းသခ်ေပထုတ်ပြထားပါသည်။ နောက်ဆိုင်ရာအတွဲများတွင် ယင်း အပိုင်းလာ တချို့အကြောင်းအရာ အချက်အလက်များကို အကျယ်တွေ့ရှိရပါလိမ့်မည်။ ဤပဌမတွဲ၌ သာမညသိရှိနိုင့်ရုံ ဖော်ပြထားပါသည်။

**အခြေခံ တတိယပိုင်း။** ။အခြေခံတတိယပိုင်းတွင် မန္တလေး အနုပညာဆိုင်ရာ လုပ်ငန်းများကို သုတေသီတို့ အလွယ်အကူကြည့်ရှု လေ့လာနိုင်ရန် လေ့လာသိရှိသမျှ အကျဉ်းချုပ်၍ ဖော်ပြပါသည်။ ဤကျမ်းကား သာသနာဝင် သာသနာ့သမိုင်းကို အဓိကထား၍ ရေးသား ပြုစုသည်ဖြစ်

ရာ အကျယ်တဝင့်ပြရန်လည်း လိုအပ်သည်ဟု မယူဆပါ။ သို့ဖြစ်၍ အခြေခံ တတိယပိုင်း၌ အနုပညာဆိုင်ရာ လုပ်ငန်းတို့ကို အကျဉ်းမျှသာ ပြခြင်းဖြစ်လေသည်။

**အခြေခံ စတုတ္ထပိုင်း။** ။အခြေခံစတုတ္ထပိုင်း၌ မြတ်စွာပရမေ ဗျာဒိတ်တော်ချွေခြင်း၊ မန္တလေးမြို့တော်တည်ထွန်းရန် တဘောင်ပေါ်ခြင်းမှစ၍ မြို့တော်တည်ခြင်း စသည်တို့ကို အကျဉ်းချုပ်၍ ပြထားရာ လေ့လာဖတ်ရှုသူ သုတေသီတို့ များစွာအကျိုးရှိပါမည်။

**အခြေခံ ပဉ္စမပိုင်း။** ။အခြေခံ ပဉ္စမပိုင်း၌ ရတနာပုံနေပြည်တော် တံခါး ၅၇-ရပ်လက်ာ၊ မန္တလေးရွှေမြို့တံခါး ၁၂-ရပ် တေးထပ်၊ တံခါး ၁၂-ရပ်နှင့် မြို့တည်လက်ာ၊ လေးပြင်လေးရပ် ရပ်ကွက်လက်ာ၊ မန္တလေးမြို့ဘွဲ့သီချင်းများ ရတနာပုဏ် မူလအမည်ဖြစ်ကြောင်းတို့ကို ဖော်ပြထား၏။ ကဗျာသုတေသီ၊ စာပေသုတေသီတို့အဖို့ရာ ရွှင်ပျို့ဖွယ် ဖြစ်ပေသည်။

**အခြေခံ ဆဋ္ဌပိုင်း။** ။အခြေခံ ဆဋ္ဌပိုင်း၌ မန္တလေးမြို့တော်တွင် အင်္ဂလိပ်အုပ်စိုးစဉ် မှတ်စရာအမြွက်၊ ဂျပန်ခေတ် မှတ်စရာအမြွက်တို့ကိုဖော်ပြထားသည့်အပြင် မန္တလေးမြို့ မြို့တည်နန်းတည် နှစ်တရာပြည့်ပွဲတော်ကြီးအကြောင်းကို ချုပ်၍ ဖော်ပြထားပါသည်။

**သတ္တမပိုင်း။** ။သတ္တမပိုင်းကို ရတနာပုံ မန္တလေးမြို့တော်ကြီးကိုတည်ထောင်တော်မူခဲ့သော ပဉ္စမသင်္ဂါယနာတင် ဘဝရှင်မင်းတရားကြီး၏ သာသနာဆိုင်ရာ လုပ်ဆောင်ချက်တို့ကို ပြဆိုရာအခန်း ( သတ္တမပိုင်း ) ဟု ခေါင်းစဉ်တပ်၍ ဖော်ပြထားသည်။ ယင်းဖော်ပြထားသည့်အတိုင်း ယင်းသတ္တမပိုင်း၌ မင်းတုန်းမင်းကြီး၏ သာသနာရေးလုပ်ဆောင်ချက်တို့ကို အကျဉ်းချုပ်၍ ဖော်ပြထားသည်။ တချို့အချက်အလက် အကြောင်းအရာများကို ကျမ်းကြီးလေးလွန်းမည်ကို စိုးရိမ်သဖြင့် ချန်လှပ်ခဲ့ပါသည်။

**အဋ္ဌမပိုင်း။** ။အဋ္ဌမပိုင်း၌ ပဉ္စမသင်္ဂါယနာတင် မင်းတုန်းမင်းတရားကြီး၏ ကုသိုလ်ကောင်းမှုတော်များကို နံပါတ်ထိုး၍ ပြထားသည်။ ယင်းသို့ နံပါတ်ပြထားသော်လည်း အကုန်အစင် မပြနိုင်ပါ။ လေ့လာရှာဖွေသိသမျှ ထုတ်ပြခြင်းဖြစ်သည်။

**နဝမပိုင်း။** ။နဝမပိုင်း၌ ရတနာပုံမြို့တော် ဒုတိယနန်းစံ သီပေါမင်းတရားကြီး၏ သာသနာရေးဆောင်ရွက်ချက်တို့ကို အကျဉ်းချုပ်၍ ဖော်ပြထားပါသည်။ ဤနဝမပိုင်းကို ဖတ်ရှုသဖြင့် သီပေါမင်းတရား၏ သဒ္ဓါတရား ကြီးမားပုံကို ပိုင်ပိုင်မိမိ သိရှိနိုင်လေသည်။

**မဟာမြတ်မုနိဘုရားကြီး။** ။နဝမပိုင်းအပြီး မဟာမြတ်မုနိဘုရားကြီးသမိုင်းကို လိုအပ်မည်ထင်သလောက် ဤသာသနာဝင် ပဌမတွဲကျမ်း၌ မကျဉ်းမကျယ် အလယ်အလတ်အနေဖြင့် ဖော်ပြပါသည်။ မဟာမြတ်မုနိဘုရားကြီး၏သမိုင်းကို ဖတ်ရှုလေ့လာသဖြင့် မဟာမြတ်မုနိဘုရားကြီးနှင့်စပ်၍ မှတ်သားဖွယ်၊ အံ့ဩဖွယ်များကို တွေ့ရှိနိုင်ပါသည်။

**မဟာဗောဓိပင်။** ။မဟာမြတ်မုနိဘုရားကြီးသမိုင်း ပြဆို၍အပြီးတွင် မဟာနွယ်စဉ်ရပ် ဗောဂိကုန်းမှ မဟာဗောဓိပင် သမိုင်းကို ကြည်ညိုဖွယ်ရာ ပြထားပါသည်။ သမိုင်းကျောက်စာများကိုလည်း မခိုမကပ် မူရင်းအတိုင်း ဖော်ပြထားရာ ထိုစဉ် စာပေအရေးအသား အသုံးအနှုန်းကိုလည်း သိရှိနိုင်လေသည်။

**ပဌမဆင်တဲ သာသနာဝင်။** ။မန္တလေးမြို့၌ ဆင်တဲတိုက်တွေ တော်တော်များများ ရှိနေရာ ဤပဌမတွဲ၌ ယခင်က အမရပူရ ယခုအခါ မန္တလေးနယ်နိမိတ်တွင် ပါဝင်နေပြီဖြစ်သော ပဌမဆုံး ဆင်တဲတိုက်ကြီးသမိုင်းနှင့် ယင်းတိုက်၌ သီတင်းသုံးတော်မူကြ၍ သာသနာပြုတော်မူခဲ့ကြသော သာသနာ့ဝန်ဆောင် ဆရာတော်များ၏ အဖြစ်တော်စဉ် လုပ်ဆောင်ချက်တို့ကို အတတ်နိုင်ဆုံးလေ့လာ၍ ဖော်ပြထားပါသည်။

**အသောကာရာမ သာသနာဝင်။** ။ပဌမဆင်တဲသာသနာဝင်အပြီး အသောကာရာမတိုက် သာသနာဝင်ကို ပြည့်စုံစွာ ပြဆိုထားရာ ကျောင်းတိုက်ကြီးသမိုင်းနှင့် မောင်းထောင်သာသနာပိုင်ဆရာတော်ကြီး စသည့် သာသနာ့ဝန်ဆောင်ဆရာတော်တို့နှင့်စပ်၍ ထူးထူးဆန်းဆန်း မှတ်သားဖွယ်၊ ကြည်ညိုဖွယ်၊ ဗဟုသုတဖွယ် အချက်အလက် အကြောင်းအရာတို့ကို စာပေသုတေသီတို့ အားရပါးရ ရှုစားနိုင်ပါသည်။

**ရွှေရေးဆောင်သာသနာဝင်။** ။အသောကာရာမ သာသနာဝင်ကို ပြဆို၍ အပြီးတွင် ရွှေရေးဆောင်သာသနာဝင်ကို ပြဆိုထားသည်။ ယင်းရွှေရေးဆောင်သာသနာဝင်တွင် ရွှေရေးဆောင်ကျောင်းတိုက်ကြီးသမိုင်း၊ ယင်းကျောင်းတိုက်ကြီး၏ မဟာနာယက၊ ဂဏဝါစကစာချ

တပည့်တိုက်ထွက် အစဉ်အဆက်တို့ကို အပြောကျယ်လှသော သမိုင်းပင်လယ်ကို ကူးခတ်၍ ပြဆိုထားရာ သာသနာ့ဝင်ဆောင်တို့ အတုယူဖွယ်ရာ ဖြစ်ပေသည်။

လောကီ လောကုတ္တရာကြောင်းဆိုင်ရာ စုံလှင်။ ။ဤမန္တလေးသာသနာ့ဝင် ပဌမတွဲ၌လည်း မန္တလေး မြို့ရှိ လောကီကြောင်းဆိုင်ရာ၊ လောကုတ္တရာကြောင်းဆိုင်ရာ မှတ်သားဖွယ်တို့ တင်းကြမ်းပြည့်ပါရှိရာ လက်မလွှတ်တမ်း ဖတ်ရှုလေ့လာကြရန် တိုက်တွန်းအပ်ပါသည်။

အရှင်ကုမာရ၊ အရှင်ပညာသီဟတို့ ကူညီကြ။ ။ဤမန္တလေး သာသနာ့ဝင် ပဌမတွဲကျမ်းကြီးကို ပြုစုရာ၊ ရေးသားရာ၌ မိမိ၏ စာဆိုတပည့်များဖြစ်ကြသော အစိုးရဓမ္မာစရိယ အရှင် ကုမာရ (မင်းကန်)၊ အစိုးရဓမ္မာစရိယ အရှင်ပညာသီဟ (ရေစကြို) တို့က လက်နှိပ်စက်ရိုက်ပေးခြင်း၊ စာမူတိုက်ပေးခြင်း စသည်တို့ဖြင့် များစွာကူညီ ကြကုန်၏။

ကုမာရော ပညာသီဟော ၁ စ ၊ ဥဘော တေ ဓမ္မာမကာ။
ဂန္ထကာရကံ ထမ္ဘေသုံ၊ ဂန္ထေသု လဂ္ဂမာနသာ။

အရှင် ကေလာသ
ဂ၊ ၅၊ ဂဝ။

မန္တလေးသာသနာဝင်

# မာတိကာ


| အကြောင်းအရာ | | စာမျက်နှာ |
|---|---|---|
| ရတနတ္တယ ပဏာမ | .... | ၁ |

အခြေခံ ပဌမပိုင်း

| | | |
|---|---|---|
| မန္တလေးမြို့ | .... | ၄ |
| ရှေးဟောင်းအဆောက်အအုံများ | .... | ၅ |
| အုတ်မြို့ရိုးတော် | .... | ၆ |
| နန်းမြို့တော် | .... | ၆ |
| မှန်နန်းဆောင် | .... | ၇ |
| အုတ်ဂူပြာသာဒ် သင်္ချိုင်းတော်များ | .... | ၇ |
| ဒင်္ဂါးစက်ရုံ | .... | ၇ |
| မှန်စီရွှေချ ကျောင်းတော် | .... | ၈ |
| သီပေါမင်းသား၏ အိမ်ရှေ့မင်းသားဘဝ စံအိမ်တော် | .... | ၈ |
| မင်္ဂလာကြား စည်တော်ကြီးထားရာ စည်တော်ရုံ | .... | ၈ |
| မင်္ဂလာရွှေမောင်းနှင့် စွယ်တော်စင်စသည်များ | .... | ၉ |
| နာရီဘွဲ့ ရှေးဟောင်းလေးဆစ်ကဗျာ | .... | ၁၁ |
| မြန်မာပဟိုရ်နှင့် စက်နာရီ အကြမ်းဖျင်း နှိုင်းယှဉ်ချက် | .... | ၁၂ |
| နန်းတော်ပုံစံငယ်နှင့် ကျောက်စာရုံစသည်များ | .... | ၁၂ |
| သုဓမ္မာဇရပ်နှင့် ပဋ္ဌာန်းသိမ်တော်၊ စေတီပုထိုးများ | .... | ၁၃ |
| ကျောက်တော်ကြီးဘုရားနှင့် ကုသိုလ်တော်ဘုရား | .... | ၁၄ |
| မန္တလေးမြို့ ကုသိုလ်တော်လှမ်းချင်း | .... | ၁၄ |
| စန္ဒာမုနိဘုရားစသည်များ | .... | ၁၅ |
| ဗောဓိပင်နှင့် ကျောင်းတိုက်ကြီးများ | .... | ၁၇ |

အခြေခံ ဒုတိယပိုင်း

| | | |
|---|---|---|
| လွှတ်လပ်ရေးကျောက်တိုင် | .... | ၁၈ |
| အာဇာနည်ဗိမာန်နှင့် ဓမ္မဗိမာန် စသည်များ | .... | ၁၈ |

အကြောင်းအရာ စာမျက်နှာ

စျေးချိုတော်ဘွဲ့ တေးထပ် .... ၂၀
နာရီစင်နှင့် စည်ပင်သာယာရုံးကြီးစသည်များ .... ၂၁
မန္တလေး တက္ကသိုလ်များ .... ၂၂
အခြားလူမှုရေး အဆောက်အအုံများ .... ၂၅

အခြေခံ တတိယပိုင်း

ယဉ်ကျေးမှု အနုပညာထွံ့ စုဝေးရာမြို့ .... ၂၇
ကြေးသွန်းလုပ်ငန်းစသည်များ .... ၂၇

အခြေခံ စတုတ္ထပိုင်း

မန္တလေး နေပြည်တော်ကြီး ပေါ်ထွန်းမည်ကို ဘုရားရှင် မိန့်ခွန်းတော်ချွေခဲ့ခြင်း .... ၃၂
မန္တလေးမြို့တော် တည်ထွန်းရန် တဘောင်ပေါ်ခြင်း .... ၃၃
မြို့တော်တည်သင့်ကြောင်း စာသွင်းကြခြင်း .... ၃၄
မန္တလေးမြို့ ပြောင်းရွှေ့တော်မူခြင်း .... ၃၆
မြို့ကွက်ချ လွှတ်တော်ဆောက် .... ၃၆
နန်းစဉ်ဘုရားများနှင့် သံဃာတော် ၅၀၀ ကျော်တို့ကိုလည်း မန္တလေးသို့ ပင့်ဆောင်ခြင်း .... ၃၇
နန်းမြို့တော် ပန္နက်ချ၊ အုတ်မြစ်ချခြင်း .... ၃၀
မြို့တော် ကျုံးတော်အစရှိသော ၇-ဌာန ပန္နက်ချခြင်း .... ၃၀
အသီးအသီး ကြီးကြပ်လုပ်ဆောင်စေခြင်း .... ၄၀
စေ့ငုအောင် ကမ္ပည်းတပ်စေခြင်း .... ၄၁
သာသနာတော်နှစ် ၂၄၀၀ အထိမ်းအမှတ် .... ၄၁
မန္တလေးဘွဲ့ ရှစ်ဆယ်ပေါ်တေးထပ်(လူးတားညှာ) .... ၄၂

အခြေခံ ပဥ္စမပိုင်း

ရတနာပုံနေပြည်တော် မြေမြို့ရိုးကြီး တံခါး ၅၇-ရပ်လင်္ကာ .... ၄၄
မန္တလေးရွှေမြို့တော် တံခါး ၁၂-ရပ်တေးထပ် .... ၄၅
မန္တလေးရွှေမြို့တော်တံခါး ၁၂-ရပ်နှင့် မြို့တည်လင်္ကာ .... ၄၆
မန္တလေးမြို့ ရပ်ကွက်များ .... ၄၆

အကြောင်းအရာ စာမျက်နှာ

မန္တလေးမြို့ လေးပြင် ၅၄-ရပ်ကွက်လက်ာ .... ၄၇
မန္တလေးမြို့ ဝိဂ္ဂြိုဟ်နှင့် အရကောက် .... ၄၈
မန္တလေးမြို့ဘွဲ့များ .... ၅၀
မန္တလေးမြို့ဘွဲ့ ဘွဲ့သီချင်း .... ၅၀
မန္တလေးဘွဲ့ လွမ်းချင်း .... ၅၁
မန္တလေးသာသနာဘွဲ့ .... ၅၁
သီပေါဘုရင်လက်ထက် သာသနာထွန်းကားပုံဘွဲ့ ကေပိုဒ်ရတု.... ၅၂
ရတနာပုမ်-ရတနာပုံ .... ၅၂

အခြေခံ ဆဋ္ဌပိုင်း

အင်္ဂလိပ်ခေတ် မှတ်စရာအမြွက် .... ၅၅
ခေတ်ရထားဘွဲ့ တေးထပ် .... ၅၆
မန္တလေး-ရန်ကုန် မီးရထားလမ်း ဖောက်လုပ်ပြေးဆွဲ .... ၅၇
ဂျပန်ခေတ် မန္တလေးမှတ်စရာအမြွက် .... ၅၇
သာသနာတော်ဘက်၌ာနဦ ဝမ်းမြောက်ဖွယ်ရာကြီး .... ၅၉
စစ်အတွင်းက ပျက်စီးခဲ့ရသော သမိုင်းဝင် ပြန်လည် မဖြစ် နိုင်သော အဆောက်အအုံများ .... ၆၀
မန္တလေး မြို့တည်နန်းတည် နှစ်တရာပြည့် ပွဲတော်ကြီး .... ၆၀

အခြေခံ သတ္တမပိုင်း

ပဥ္စမ သံဂါယနာတင် ဘဝရှင်မင်းတရားကြီး၏ သာသနာရေး လုပ်ဆောင်ချက်များအကျဉ်းချုပ် .... ၆၅
သာသနာရေး အမိန့်တော်ပြန်တမ်း .... ၇၈
ပိဋကတ်တော်များ ကူးရေးခြင်း၊သာသနာတော်သန့်ရှင်းရေး လျှောက်ခြင်း .... ၈၄
ရဇ္ဇာဘိသေက မုဒ္ဓါဘိသိက်ခံတော်မူခြင်း .... ၈၈
မဟာဝိသုတာရာမတိုက်တော်၊ ကျောင်းတော် စတင် ပန္နက်ချ တိုင်ထူ .... ၈၈
ယိုးဒယားနိုင်ငံမှ လက်ဆောင်များ ရောက်ခြင်း .... ၈၉

အကြောင်းအရာ စာမျက်နှာ

စွယ်တော်ပွား ၁-ဆူရောက်ခြင်းနှင့် ဗောဓိပင်စိုက်ခြင်း .... ၉၀
သုဓမ္မာဇရပ် စာတော်ပြန်ပွဲဘွဲ့ တေးထပ် .... ၉၇
ရွှေနန်းတော်သို့ တက်တော်မူခြင်း .... ၉၇
သာသပိုင်အောက် သုဓမ္မာဆရာတော် ရှစ်ပါးထားခြင်း .... ၉၉
ကျောက်တော်ကြီး ဆင်းတုတော် ပမာဏ .... ၁၀၅
သီဟိုဠ်ကျွန်းမှ ရွှေစေတီ၊ ငွေစေတီ ဓာတ်တော်စသည်တို့ ရောက်ရှိခြင်း .... ၁၀၈
ပိဋကတ ၃-ပုံ၊ နိကာယ် ၅-ရပ်ကို ကျောက်ထက်အက္ခရာ တင်တော်မူခြင်း .... ၁၀၈
မုခါရူဠ္ဍ ပဉ္စမသံဂါယနာတင်ခြင်း .... ၁၁၁
ပဉ္စမသံဂါယနာတင်ပြီး အမိန့်တော် .... ၁၁၁
သီပေါမင်းသား ပဌမပြန်စာမေးပွဲ ပြန်ဆိုသည့် အကြောင်းတေးထပ် .... ၁၁၆
အတုမရှိ ကျောင်းတော်ကြီးဘွဲ့ .... ၁၁၇
နတ်ရွာစံ ကံတော်ကုန်ခြင်း .... ၁၁၈

## အခြေခံ အဌမပိုင်း

မင်းတုန်းမင်းတရားကြီး၏ ကုသိုလ်တော် ကောင်းမှုတော် များကို ချုပ်ပြရာအခန်း .... ၁၁၉
သံဃာတော်များအပေါ် အပြစ်မမြင် ကြည်ညိုစိတ် အမြဲဝင် .... ၁၃၀

## အခြေခံ နဝမပိုင်း

သီပေါမင်းတရားကြီး၏ သာသနာရေးဆောင်ရွက်ချက်တို့ကို ပြဆိုရာအခန်း .... ၁၃၂
ဥပဒေ ၃၂-ချက် သာသနာပြုဆရာတော်က မင်းတရားထံ ဆက်သွင်း .... ၁၄၅
သီပေါမင်းလက်ထက် သာသနာပိုင်ဆရာတော်ဘုရားကြီး အမိန့်တော် .... ၁၄၆
ဆရာတော် ၇၄- တို့ ထုတ်ပြန်သည့် ရဟန်းတော်များ လိုက်နာရန် ကျင့်ဝတ်ဥပဒေ ၃၄-ချက် .... ၁၄၇

| အကြောင်းအရာ | | စာမျက်နှာ |
|---|---|---|
| ၃၄-ချက်ကို ထပ်မံတိုးဖြည့်၍ ထုတ်ပြန်သည့် အမိန့်တော် | .... | ၁၅၆ |
| ဥပဒေ ၃၄-ချက်တွင် အကျုံးဝင်သည့်အချက်များနှင့် ထပ်မံတိုးတက် ဆင့်ဆိုပေးအပ်သည့် ဥပဒေ | .... | ၁၅၇ |
| ၁၂၄၇-ခုနှစ် ဆင့်ဆိုသည့် အမိန့်တော် | .... | ၁၅၈ |
| တံဆိပ်တော်ရ ဆရာတော်ကြီးတို့ စုံညီဆင့်ဆိုတော်မူသည့် သာသနာပိုင်ဆရာတော်ဘုရားကြီးအမိန့်တော် | .... | ၁၆၀ |
| ဆရာတော် ၈၁-ပါးတို့အား အဆင့် ၅-မျိုးခွဲ၍ တံဆိပ်တော်များ ဆက်ကပ်လှူဒါန်းခြင်း | .... | ၁၆၇ |
| ပါတော်မူခြင်း | .... | ၁၇၅ |
| နတ်ရွာစံတော်မူခြင်း | .... | ၁၇၆ |

## မဟာမြတ်မုနိဘုရားကြီး


| | | |
|---|---|---|
| အတိုင်းအတာ ပမာဏ | .... | ၁၇၉ |
| သမိုင်းအကျဉ်းချုပ် | .... | ၁၈၀ |
| မဟာမြတ်မုနိ ဘုရားရှင် အံ့ဖွယ် ၉-ပါး | .... | ၁၈၄ |
| မဟာမြတ်မုနိပူဇော်ရန် ၄-ဂါထာပါဠိနိဿယ | .... | ၁၈၆ |
| မဟာမြတ်မုနိဘုရားကြီး အံ့ဖွယ်ရှစ်ပါး လင်္ကာ | .... | ၁၈၈ |
| မဟာမြတ်မုနိရုပ်ရှင်တော်နှင့်စပ်၍ သိမှတ်ဖွယ်လင်္ကာ | .... | ၁၈၈ |
| ဆရာကြီး ဦးနိုးဆို မဟာမြတ်မုနိ သမိုင်းလင်္ကာ | .... | ၁၈၉ |
| ကြေးရုပ်ကြီးများနှင့် ကြေးစည်ကြီး | .... | ၁၉၁ |


## မဟာနွယ်စဉ်ရပ် ဗောဓိကုန်းမှ

## မဟာဗောဓိပင်သမိုင်း


| | | |
|---|---|---|
| သမိုင်းအကျဉ်း | .... | ၁၉၈ |
| ဗောဓိဝန္ဒနာဂါထာ | .... | ၂၀၀ |
| ဗောဓိပင်သမိုင်းကျောက်စာ | .... | ၂၀၁ |

| အကြောင်းအရာ | | စာမျက်နှာ |
|---|---|---|

### ဗောဓိဝံသအခန်း

ချောက်နံ့ဇရပ်ကြီးများနှင့် ထိန်းဖြူရုံ .... ၂၁၃
သီပေါမင်းတရားနှင့် ဗောဓိပင် .... ၂၁၃
မင်းတရားကြီး အမြဲပူဇော်ကန်တော့ခြင်း .... ၂၁၄
တန်ဆောင်းတော်ကြီးများ .... ၂၁၄
ဆုတောင်းရဘုရားနှင့် ဆုဘောင်ပြည့်ဘုရား .... ၂၁၄

### ပဌမ ဆင်တဲသာသနာဝင်

ပဌမဆင်တဲဆရာတော် အရှင်ဉာဏသာဒ္ဓမ္မ .... ၂၁၇
မောင်းထောင်သာသနာပိုင်နှင့် ဆင်တဲဆရာတော် .... ၂၁၈
ရိုက်နှိပ်သူ၏ နိဂုံး ကောပိဒ်ရုတုသံခေါက် .... ၂၂၁
သာရတ္ထဒီပနီဋီကာနိဿယကျမ်းပြု အရှင်ဓမ္မသီရိ .... ၂၂၆
ဉာဏကိတ္တိယတိသာရဓမ္မ မဟာဓမ္မရာဇဂုရု ဘွဲ့တံဆိပ်တော်ရ
ဆင်တဲဆရာတော် အရှင်ဉာဏကိတ္တိ .... ၂၃၂
ရာဇဂုရု၊ ရာဇာဓိရာဇဂုရု ဘွဲ့တံဆိပ်တော်သုံးထပ်ရ
ဆင်တဲဆရာတော် အရှင်သာဂရ မဟာထေရ် .... ၂၃၃
ဇနိန္ဒာဘိ သိရိပဝရမဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု
ဆရာတော် အရှင်ဇနိန္ဒ .... ၂၃၇
ပုံနှိပ်ခြင်း နိဂုံးလင်္ကာ .... ၂၄၁
နေရင်းဆရာတော်များ .... ၂၄၈
ဉာဏာလင်္ကာရ သိရိပဝရမဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု
ဘွဲ့တံဆိပ်တော်ရ အရှင်ဉာဏာလင်္ကာရ .... ၂၄၆
ဆင်တဲတိုက်အုပ်ဆရာတော် အရှင်ဥတ္တမ .... ၂၅၀
ဆင်တဲတိုက်အုပ်ဆရာတော် ဦးသောဓ .... ၂၅၂

### အသောကာရာမ သာသနာဝင်

ပဌမ မောင်းဘောင်သာသနာပိုင်ဆရာတော် .... ၂၅၅
တံဆိပ်နာမံ လျှောက်ထားရန် ပေဘ္ဘာစာ ဆက်သွင်းခြင်း .... ၂၆၃

အကြောင်းအရာ စာမျက်နှာ

ဆရာတော် နှစ်ဆယ့်ငါးပါးတို့အား ရာဇဂုရုဘွဲ့တံဆိပ်လှူ .... ၂၆၄
တိဂုမ္ဘစေတီယ ထောမနာစာတမ်း .... ၂၇၄
မြေငလျင်လှုပ် အဟောလင်္ကာ .... ၂၉၄
ရဟန်းဘဝမှ လူဘဝသို့ .... ၃၀၄
မဟာဓမ္မသင်္ကြံ၏ ဦးဆောင်လုပ်ငန်းများ .... ၃၀၆
အသောကရာမတိုက်ထွက် ကြည်းကန်သာမဏေကျော်
ရှင်နန္ဒဓဇ .... ၃၀၈
ဂုဏမုနိန္ဒာဘိသဒ္ဓမ္မဓဇမဟာဓမ္မရာဇာဓိရာဇဂုရု
အရှင်ဂုဏမုနိန္ဒထေရ် .... ၃၁၅
အသောကာရာမတိုက် သာသနာပိုင် စလင်းဆရာတော်
အရှင်ပညာသီဟမဟာထေရ် .... ၃၁၇
ကလျာဏဝံသာဘိဓဇ မဟာဓမ္မရာဇဂုရု
အရှင်ကလျာဏဝံသထေရ် .... ၃၂၄
အရှင် ဂုဏာဓဇမဟာထေရ် .... ၃၂၆
တတိယ မဲထီးဆရာတော် အရှင်ဉာဏသီရိဓဇ .... ၃၂၇
ရာဇာဓိရာဇဂုရု ဓမ္မသေနာပတိ ဘွဲ့တံဆိပ်တော်လေးထပ်ရ
ဒုတိယ ဗားကရာသာသနာပိုင်ဆရာတော်
အရှင် ပညာဇောတ .... ၃၂၇
ဒုတိယ ဗားကရာသာသနာပိုင် အရှင်ပညာဇောတ၏
အတ္ထုပ္ပတ္တိစာတမ်း .... ၃၄၅
ဒုတိယ ဗားကရာသာသနာပိုင် ခေါင်းလောင်းစာ .... ၃၅၈
ဒီပါလင်္ကာရာဘိသီရိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု
ဒုတိယ ငါးခုန်ဆရာတော် အရှင်ဒီပါလင်္ကာရ .... ၃၆၄
ဒုတိယ ဗားကရာ သာသနာပိုင်ဆရာတော်ဘုရားကြီး၏တပည့်
ဗန်းမော်ဆရာတော် အရှင်ပဏ္ဍိတ .... ၃၆၇
ဇာဂရာဘိဝံသ တိပိဋကဓရ မဟာဓမ္မရာဇာဓိရာဇဂုရု
အရှင်ဇာဂရ .... ၃၆၈
အရှင် ပဒုမာဘိဓဇ မဟာထေရ် .... ၃၇၄
အုဂ်ဖိုရ်ဆရာတော် အရှင်ဥက္ကံဝံသမာလာ .... ၃၇၆

| အကြောင်းအရာ | | စာမျက်နှာ |
|---|---|---|
| ရဟန်းတော်အရှင်ဝိသုဒ္ဓ (နောက်ပခန်းမင်းကြီး ဦးရန်ဝေး) | .... | ၃၀၀ |
| ဘွဲ့တံဆိပ်တော် ၂-ထပ်ရ အရှင်ပဏ္ဍိတာဘိဝံသ | .... | ၃၀၃ |
| အသောကာရာမတိုက် စာချသာသနာပြု အရှင်ဂုဏ | .... | ၃၀၄ |
| အသောကာရာမတိုက် နာယကဆရာတော်များ | .... | ၃၀၄ |
| စာချဆရာတော် အရှင်ပုည | .... | ၃၀၄ |
| အရှင် ဉာဏဝံသ မဟာထေရ် | .... | ၃၀၅ |
| အသောကာရာမတိုက် ဂဏဝါစက စာချဆရာတော်များ | .... | ၃၀၆ |
| အသောကာရာမတိုက်နှင့် ညောင်ကန်တိုက် | .... | ၃၉၁ |

ရွှေရေးဆောင် သာသနာဝင်

| | | |
|---|---|---|
| ကျောင်းတိုက်ကြီးမြင်ကွင်းနှင့် သမိုင်းအကျဉ်း | .... | ၃၉၃ |
| ရွှေရေးဆောင်တိုက် ပဌမဆရာတော် အရှင် ဩဘာသမွေ | .... | ၃၉၄ |
| ဒုတိယနာယကဆရာတော် | .... | ၃၉၆ |
| တတိယ နာယကဆရာတော် | .... | ၃၉၆ |
| စတုတ္ထ နာယကဆရာတော် | .... | ၃၉၇ |
| မိုင်းခိုင်းဆရာတော် အရှင်ပဏ္ဍိတ မဟာထေရ် | .... | ၃၉၇ |
| အရပ်ပြစ်ရှစ်ပါးပြ ဂါထာပါဌ်အနက် | .... | ၄၀၇ |
| သီဟိုဠ်ကျွန်းသို့ ပေးပို့သော သန္ဒေသတပုဒ် | .... | ၄၀၈ |
| သီဟိုဠ်ကျွန်းမှ ပို့အပ်သော သန္ဒေသကထာ | .... | ၄၁၃ |
| သီဟိုဠ်ကျွန်းသို့ ပြန်ပေးသော သန္ဒေသကထာပါဌ် | .... | ၄၁၄ |
| သီဟိုဠ်ကျွန်းသို့ ပြန်ပေးသော သန္ဒေသကထာပါဌ်အနက် | .... | ၄၁၇ |
| ရွှေရေးဆောင်ဆရာတော် အရှင် အာဒိစ္စရံသီ | .... | ၄၂၆ |
| ဆရာတော်ဦးကြည် ပျံလွန်တော်မူစဉ်က စိန်ထီးရှစ်ချက် ကနက်ဖွင့်ရာ မဟာဩဘာစာ | .... | ၄၄၀ |
| ရွှေပြည် ဦးဘတင် ဖတ်ကြားအပ်သော ဩဘာစာ ရတုပိုဒ်စုံ | .... | ၄၄၅ |
| ဆရာတော်ဦးကြည်ထံ ပညာသင်တပည့်အချို့ | .... | ၄၄၆ |
| ဘဝင်မမြင့် မာန်မထ နှိမ့်ချသော ဆရာတော် | .... | ၄၆၅ |
| ဆရာတော် အရှင် အာသဝ | .... | ၄၆၆ |
| စာချအကျော် ရွှေရေးဆောင်ဆရာတော် အရှင်ပဏ္ဍဝ | .... | ၄၆၇ |

| အကြောင်းအရာ | | စာမျက်နှာ |
|---|---|---|
| ရွှေရေးဆောင်ဆရာတော် အရှင်စန္ဒိမာ | .... | ၄၇၁ |
| ရွှေရေးဆောင်တိုက် ဂဏ္ဌဝါစက စာချဆရာတော်များ | .... | ၄၇၃ |
| ရွှေရေးဆောင်ကျောင်းတိုက်ကြီး မီးသင့်ခြင်း | .... | ၄၈၁ |
| ကျောင်းတိုက်ကြီး စည်ကားလာခြင်း အလယ်ကျောင်းကြီး ပြန်လည်ဆောက်လုပ်ခြင်း | .... | ၄၈၂ |
| ပရိတ်ရွတ် ကျောင်းတိုက်နေရာသန့်စင် | .... | ၄၈၃ |
| ခမ်းနားကြီးကျယ်သော ကျောင်းလွှတ်သဘင် | .... | ၄၈၄ |
| ရွှေရေးဆောင် မဟာဝိဟာရပုဗ္ဗာရုံထာ မော်ကွန်းသံပိုင်းစာ | .... | ၄၈၅ |
| သံပိုင်းလက်ာ | .... | ၄၈၉ |
| ရွှေရေးဆောင်တိုက် အလယ်အုတ်ကျောင်းကြီး၏ အဋ္ဌုပ္ပတ္တိ အကြောင်းအရာ မင်္ဂလာရတုပို့ဒ်စုံ | .... | ၄၉၀ |
| ရွှေရေးဆောင် သာသနာ့ဝင် အပြီးသတ်ခြင်း | .... | ၄၉၂ |
| မန္တလေးသာသနာ့ဝင် ပဋ္ဌမတွဲကျမ်းကြီး အပြီးသတ်ခြင်း | .... | ၄၉၂ |
| မန္တလေးသာသနာ့ဝင်ကျမ်း ပဋ္ဌမတွဲနိဂုံး | .... | ၄၉၃ |
| အရှင်ကေလာသ ပြုစုသော ကျမ်းစာများ | .... | ၄၉၇ |

မာတိကာ ပြီး၏။

# မန္တလေးသာသနာဝင်

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

ရတနတ္တယပဏာမ

နတွာ သာသနဝံသဿ၊ ဒေသကံ အဂ္ဂပုဂ္ဂလံ၊
သေဝိတံ တေန ဓမ္မဉ္စ၊ သံဃဉ္စာပိ နိရင်္ဂဏံ။

အဟံ၊ မန္တလေးသာသနာဝင် မည်တွင်သောကျမ်း ကျမ်းဂန်ရေးရန် အားအန်ကြိုးကုတ် အကျွန်ုပ်သည်။ သာသနဝံသဿ၊ ကိုယ်တော်မြတ်စွာ ဦး စွာ တီထွင် ကိုယ်တော့်သာသနာဝင်ကို။ ဒေသကံ၊ အသာခာရဏ မဟာ ကရုဏာတော်ဖြင့် ဟောဖော်ညွှန်ပြတော်မူတတ်သော။ အဂ္ဂပုဂ္ဂလံ၊ သုံး လောကဓာတ် အမြတ်ဓခါင်ဖျား သဗ္ဗညုမြတ်စွာဘုရားကိုရင်း။ တေန၊ သုံး လောကဓာတ် အမြတ်ခေါင်ဖျား ထိုသဗ္ဗညုမြတ်စွာဘုရားသည်။ သေဝိတံ၊ အမြဲမပြတ် ပူဇော်မှီဝဲအပ်သော။ ဓမ္မဉ္စ၊ မဂ်ဖိုလ်နိဗ္ဗာန် ဓမ္မက္ခန်ဟု ဆယ်တန် ထင်ပေါ် တရားတော်မြတ်ကိုရင်း။ နိရင်္ဂဏံ၊ ရာဂ ဒေါသ မောဟ အင်္ဂဏ ကင်းစင်ပတော်မူသော။ သံဃဉ္စာပိ၊ ရှစ်ပါးသံဃာ အရိယာကိုရင်း။ နတွာ၊ ကာယတလီ ဝစီ မန သုံးဒွါရဖြင့် ဦးချရှိခိုးပြီး၍။

[မိမိသည် မန္တလေးသာသနာဝင် ပဌမတွဲကျမ်းကြီးကို ရေးသား စီရင်ရာ၌ အန္တရာယ်ပျောက်ကင်း ကျမ်းပြီးခြင်းကို အလိုရှိပါသည်။ သို့ဖြစ်၍ ဘုရား၊ တရား၊ သံဃာဟူသော ရတနာသုံးပါးကို လေး စားကော်ရော် ရှိခိုးပူဇော်ပါသည်။ ယင်းသို့ ရတနာသုံးပါးကို မြတ် နိုးကော်ရော် ပူဇော်ရသဖြင့် ဗုဒ္ဓါရမ္မဏ၊ ဓမ္မာရမ္မဏ၊ သံဃာရမ္မဏ ပီတိများဖြင့် ကာယဗလ၊ ဉာဏဗလ ပြည့်လျှမ်းသဖြင့် ဤကျမ်းကြီး အပြီးတိုင် ကြိုးပမ်းနိုင်မည်ဟု ယုံကြည်ပါသည်။]

ဇိနသာသနဝံသမ္ပိ၊ ဂုရဝေါ ထေရပုင်္ဂဝါ။
တေသမ္ပိ စရဏာဒမ္မာဇေ၊ သုနိဝါတေန စေတသာ။

ဇိနသာသနစံသမို၊ ဘုရားဇိနေ၁် သာသနာ့အနွယ်တော်၌။ ဂုရဝေါ၊ ကျော်ထိီးအလား လေးစားအပ်သော ဆရာသမားဖြစ်တော်မူကြကုန်သော။ ယေ ထေရပုင်္ဂဝါ၊ အကြင် ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက် ဟိုက်အုပ် ဆရာတော် အရှင်နန္ဒိယမဟာထေရ်၊ မန္တလေးမြို့ တောင်ပြင် ဒက္ခိဏာရာမ တိုက် အမရပူရကျောင်း ဆရာတော် အရှင် ဥက္ကံသာဘိဝံသ အစရှိကုန်သော မဟာထေရ်မြတ်တို့သည်။ သန္တိ၊ သာသနာ့ဝန် အားသွန်ကြိုးပမ်း ထမ်းရွက် ကာပျော် ရှိတော်မူကြကုန်၏။ တေသမ္ပိ တေရပုဂ်ဂဝါနံ၊ ထိုအရှင်နန္ဒိယ အရှင်ဥက္ကံသာဘိဝံသဟူသော မထေရ်မြတ်တို့၏လည်း။ စရဏာမ္ဗုဇေ၊ ခြေ တော်အစုံ ကြာပဒုံတို့ကို။ ဘုနိဝါဒကေန၊ လှုံ့စွာနှိမ့်ချ ရှိတုပ်ကုသော။ စေတသာ၊ သဒ္ဓါယုဖိတ် ကုသိုလ်စိတ်ဖြင့်။ နတွာ၊ ဆယ်လက်မြှောက်မိုး ရှိခိုးဦးချပြီး၍။

[ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက် တိုက်အုပ်ဆရာတော် အရှင် နန္ဒိယ၊ မန္တလေးမြို့ ဒက္ခိဏာရာမ ဘုရားကြီးဘိုက် အမရပူရကျောင်း ဆရာတော် အရှင်ဥက္ကံသာဘိဝံသတို့က မိမိအား ထူးထူးခြားခြား စာဆိုဝါ ပေး၍ ချီးမြှောက်တော်မူကြပါသည်။ ထိုကျေးဇူးရှင် ဆရာတော်ဘုရား ၂-ပါးတို့၏ ခြေတော်အစုံ ကြာပဒုံတို့ကို ဆယ်လက် မြှောက်မိုး ရှိခိုးဦးချပါသည် ဟူလို။]

ကရိဿံ မဟုဿာဟေန၊ ဂန္ထံ သဗ္ဗင်္ဂသောဘနံ။
ဝံသတ္ထိကာန-မတ္ထာယ၊ သာဓူနံ သာဓုယာစနာ။

ဝံသတ္ထိကာနံ၊ မန္တလေးသာသနာဝင် ဖတ်ချင်ကြည့်ချင် သာသနာဝင် သမိုင်းဝါသနာရှင်တို့၏။ အတ္ထာယ၊ အကျိုးစီးပွား များစိမ့်သောငှာ။ သာ ဓူနံ၊ သူ့ကျိုးကိုယ့်ကျိုး သည်ပိုးမပြတ် ပြီးစေတတ်သော (ပြည်တောင်စု မြန်မာ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ဝင်) သူတော်စင် သူတော်ကောင်းတို့၏။ သာဓု ယာစနာ၊ သာသနာဝင်ကျမ်းကြီးတစောင် ထွန်းပြောင်ထိန်ကြည် တည်ရှိရစ် ရန် ဖန်ဖန်ညွှတ်ပြောင်း တောင်းပန်ခြင်းကြောင့်။ မဟုဿာဟေန၊ သည်းစွာ လုံ့လ ဝါယာမဖြင့်။ သဗ္ဗင်္ဂသောဘနံ၊ အလုံးစုံသော အစိတ်အပိုင်း အခန်း ကဏ္ဍတိုင်း၌ တင့်တယ်သော။ ဂန္ထံ၊ မန္တလေးသာသနာဝင် ကျမ်းပဌမတွဲကို။ ကရိဿံ၊ ဂန္ထမူ၊ ကိစ္စလတ်လျား ချိန်အကြား၌ ရေးသားပြုပြင် စီရင်ပေအံ့ သတည်း။

[ပခုက္ကူသာသနာဝင်ကျမ်းနှင့် မဟာဝိသုတာရာမ နိကာယသာသ နာဝင်ကျမ်းကြီး ထွက်ပေါ်ပြီး မကြာမီ ဗုဒ္ဓသာသနာအဖွဲ့မှ အုပ်

ချုပ်ရေးအရာရှိချုပ် ဦးလှမောင်အစရှိသော သူတော်စင် သူတော်ကောင်းတို့က မိမိအား ပန်၍ မန္တလေးသာသနာဝင်ကျမ်းကြီး ရေးပေးရန် လျှောက်ထားကြပါသည်။ မိမိသည် အလွန်ကြီးလေးသော တာဝန်ဖြစ်သဖြင့် မူလတွင် ငြင်းဆန်ပါသည်။ သို့ရာတွင် အကြိမ်ကြိမ် လျှောက်ထားတောင်းပန်ကြသဖြင့် ၎င်းတို့၏ စေတနာသဒ္ဓါတရားကို ငဲ့ပြီး လက်ခံ၍ ဤမန္တလေးသာသနာဝင်ကျမ်းကြီးကို ရေးသားပါသည်။ ရေးသားသောအခါ သာ့ပန်လုံ့လနှင့် မရေးနိုင်ပါ။ မန္တလေးတမြို့လုံးကို လေ့လာပြီး ကျောက်စာ၊ ပေစာ၊ မှတ်တမ်းမှစ၍ များစွာသော စာပေတို့ကို လေ့လာကြည့်ရှု၍ ရေးရပါသည်။ သို့ဖြစ်ရာ "ကရိယံ မဟုဿာဟေန၊ ဂန္ထံ သင်္ဂဟံသောဘနံ" အစရှိသော ဂါထာဖြင့် ကြိုးပမ်းရပုံနှင့် အဘိယာစက ပဋိညာဉ်ကို ဖော်ပြပါသည်။

# အခြေခံ ပဌမပိုင်း

## မန္တလေးမြို့

မန္တလေးမြို့သည် နောက်ဆုံး မြန်မာဘုရင်မင်း နှစ်ပါးတို့၏ စံရာမြို့တော် ဖြစ်လေသည်။ ပဥ္စမ သံဂါယနာတင် မင်းတုန်းမင်းတရားကြီး တည်ထောင်တော်မူခဲ့သော မြို့ဖြစ်၍ ယခုအခါ မြန်မာနိုင်ငံ အထက်ပိုင်း မန္တလေးတိုင်း၏ ရုံးစိုက်ရာမြို့ ဖြစ်လေသည်။ ရန်ကုန်မြို့ပြီးနောက် ပြည်ထောင်စုဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံ၏ ဒုတိယအကြီးဆုံးမြို့ ဖြစ်သည်။ ယင်း မန္တလေးမြို့ကား ငါတို့ပျော်စံ အမိမြန်မာနိုင်ငံ၏ အလယ်ဗဟိုတွင် တည်ရှိသကဲ့သို့ပင် မြန်မာ့ယဉ်ကျေးမှု အမြုတေတို့၏ စုဝေးရာ အချက်အချာ အရပ်ဒေသလည်း ဖြစ်ပေသည်။

မန္တလေးမြို့သည် ဒုတိယကမ္ဘာစစ် ဒဏ်ရာဒဏ်ချက်ကို ခံရသော်လည်း အသစ် ပြန်လည်ထူထောင်နိုင်ခဲ့လေသည်။ မြန်မာမင်း နှစ်ပါးတို့စံရာ လှပ ထူးဆန်း နန်းတော်ကြီးကား ယခု မရှိပါတော့ချေ။ သို့ရာတွင် မြို့ရိုးကျုံးနှင့် ကျောင်း၊ ကန်၊ ဘုရား စေတီပုထိုး အမျိုးမျိုးတို့ကား အများအပြားပင် တည်ရှိနေပေသေးသည်။

သို့ဖြစ်၍ မန္တလေးမြို့သည် အဟောင်းနှင့်အသစ် ရောပြွမ်းလျက်ရှိကာ မန္တလေးသို့ရောက်ဘူးသူတိုင်း ရှေးဖြစ်ဟောင်းကို မအောက်မေ့ပဲမနေနိုင်ပါချေ။

မန္တလေးမြို့သည် ဧရာဝတီ မြစ်နဒီ၏ လက်ဝဲဘက်ဖြစ်သော အရှေ့ဘက် ကမ်းပေါ်တွင် တည်ရှိ၍ ဧရာဝတီမြစ်နဒီနှင့် မောတို့ဌာနီ ရှမ်းပြည်ကုန်းပြင် မြင့်၏ အကြား အနံ ၈–မိုင်ခန့်ရှိသော သာယာစင်သန့် မြေပြန့်၏ တစိတ် တပိုင်းတွင် တည်ရှိ၏။ ယင်းသို့ မြေပြန့်ဟု ဆိုသော်လည်း မြောက်ဘက်တွင် ၉၅၄–ပေ အမြင့်ဆောင်သော တောင်တလုံးရှိ၍ ထိုတောင်မှာ မန္တလေး တောင်ဟု ခေါ်တွင်လေသည်။ ယင်းတောင်ကို စွဲ၍၊ သို့မဟုတ် ယင်းတောင်၏ အနီးတွင် တည်သောမြို့ဖြစ်၍ မန္တလေးမြို့ဟု ခေါ်ကြောင်းလည်း ပညာရှိတို့ ဆိုကြသည်။



သတ္တဌာနအပါအဝင် ကျုံးတော်ပုံ

**မန္တလာစလသာမန္တေ၊ သတ္တိကံ ရာမဏေယျကံ။**
**တေန မန္တလေးပုရန္တိ၊ ပဏ္ဍိတေဟိ သုသမ္မတံ။**

ဖော်ပြပါ မန္တလေးတောင်၏ အနောက်တောင်ဘက် ၁-မိုင်ခွဲ အလှန်တွင် ပဉ္စမသံဂါယနာတင် မင်းတုန်းမင်းတရားကြီး တည်ထားခဲ့သော မြို့ရိုးနှင့် ကျုံးတို့ကို တွေ့နိုင်ပေသည်။ ယခုအခါ အနောက်နန်း၏ နေရာဟောင်းတွင် နန်းတော်၏ ပုံစံအတိုင်း ပြုလုပ်ထားသော နန်းတော်ပုံစံကိုသာ မြင်နိုင်တော့၏။ မြို့ရိုးပတ်လည် ၆-မိုင်ခန့် ရှိ၏။ မန္တလေးမြို့သည် အကျယ်အဝန်းအားဖြင့် ၂၅-စတုရန်းမိုင် ရှိသည်။ လူဦးရေမှာ ၁၉၇၇-ခုနှစ် မဲစာရင်းအရ ၄၃၇၅၉၃-ယောက် ရှိလေသည်။ ရန်ကုန်မြို့ကဲ့သို့ပင် လူမျိုးပေါင်းစုံသော မြို့ဖြစ်သည်။မန္တလေးမြို့ လမ်းများသည် တည့်တည့်ဖြောင့်ဖြောင့်နှင့် ထောင့်မှန်ချိုး တည်ရှိသည်။ လမ်းကျယ် လမ်းမကြီးများကို အေ-လမ်း၊ ဘီ-လမ်း၊ စီ-လမ်း၊ ဒီ-လမ်း စသည်ဖြင့် အမည်ပေး၍ တောင်မှမြောက်သို့ ဖြစ်သော လမ်းများကိုမူ ဂဏန်းသင်္ကေတ အမှတ်လက္ခဏာများပေး၍ ခေါ်ဝေါ်သည်၊ မန္တလေးမြို့သည် သေသေသပ်သပ် ညီညီညာညာ အကွက်ချ၍ တည်ထားသော မြို့ဖြစ်၏။ ခမ်းနားကြီးကျယ်သော အိမ်ကြီးများ၊ တိုက်အိမ်ကြီးတို့သည်း များစွာရှိကုန်၏။

လူနေအိမ်ခြေများဖြင့် စည်ကားသလို မန္တလေးမြို့သည် စေတီပုထိုးများ၊ ကျောင်းတိုက်ကြီးများ၊ ရဟန်းသံဃာတော်များစွာတို့ဖြင့် ဘုရားမြတ်စွာ သာသနာရောင် အလွန်လျှံ တောက်ပြောင်ထွန်းလင်းရာ မြို့မြတ်မဟာလည်း ဖြစ်ပေသည်။ ၁၃၃၀—ပြည့်နှစ် စာရင်းအရ မန္တလေးမြို့ လေးပြင် လေးရပ်၌ ကျောင်းတိုက်ပေါင်း ၂၅၄-တိုက်၊ ကျောင်းပေါင်း ၁၁၆၄-ကျောင်း ရှိကြောင်း သိရသည်။ နှစ်စဉ် သံဃာတော်ပေါင်း ၇၃၄၀-ပါးခန့်မျှ သီတင်းသုံးတော်မူကြ၍ ပရိယတ်၊ ပဋိပတ် နှစ်ရပ်သော ဓုရအလုပ်ကို အားထုတ်တော်မူကြကုန်၏။ မင်းတုန်းမင်းကြီး လက်ထက်မှ "ဥဩတွန်သံသာ မန်းမြို့သံဃာ" ဟူသော လင်္ကာအရ မန္တလေးမြို့တော်၌ သံဃာတော်ဦးရေ ၁၁၇၆၆—ပါး၊ (သို့မဟုတ်) ၁၁၀၆၆-ပါး ရှိခဲ့ဘူးသည်ဟု သိရ၏။

## ရှေးဟောင်းအဆောက်အအုံများ

မန္တလေးမြို့၌ လေ့လာစရာ၊ သုတေသနပြုစရာ၊ သံဝေဂယူစရာ ရှေးဟောင်းအဆောက်အအုံပေါင်း များစွာတို့ တည်ရှိကုန်၏။ လေ့လာ၍ သုတေသနပြု၍ မကုန်နိုင်အောင်ပင် များလှသည်။

## အုတ်မြို့ရိုးတော်

မန္တလေးမြို့ ရှေးဟောင်း အဆောက်အအုံများအနက် အုတ်မြို့ရိုးဟောင်းကို ရှေးဦးမဆွ အစလက်မှန် တွေ့ကြရမည်။ အုတ်မြို့ရိုးကြီးကို ကျုံးလေးတန် ရံလျက် သာသနာတော်နှစ် သက္ကရာဇ် ၂၄၀၀-ကို အစွဲပြု၍ တမျက်နှာလျှင် တာ ၆၀၀၊ လေးမျက်နှာ တာပေါင်း ၂၄၀၀-စေတုရန်းကျကျ တည်ထောင်စေခဲ့သည်။ ကျုံးသည် ၂၂၅-ပေ အနံကျယ်၍ ပျမ်းမျှ ၁၁-ပေ နက်သည်။ မြို့သို့ဝင်ရန် တံခါး ၁၂-ခုရှိ၍ ကျုံးဖြတ်ကူးတံတားမှာ ယခင်က ၅-ခု ရှိသော်လည်း ယခုအခါတွင်မူ ၄-ခုသာ ကျန်ရှိတော့သည်။ အနောက်မြောက်ဘက် စက်ရှင် (စည်ရှင်) တံတားမှာ ပျက်စီးနေသည်။ မြို့ရိုးတွင် မြို့ထောင့် ပြာသာဒ် ၄-ခု၊ တံခါးမုခ် ပြာသာဒ် ၁၂-ခု၊ ပြအိုး ပြာသာဒ် ၃၂-ခု ပေါင်း ၄၈-ဆောင်နှင့် လွန်စွာတင့်တယ် ရှုမောဖွယ် ကောင်းလှပေသည်။ ယခုအခါ ပြာသာဒ်များ အနည်းငယ်သာ ကျန်တော့သည်။ မြို့ရိုးတလျှောက်တွင် သူရဲခိုများရှိ၍ မြို့ရိုးအမြင့်မှာ မြေပြင်မှ သူရဲခိုအထိ ၂၇-ပေ ရှိသည်။ သူရဲခို၏မြင့်မှာ ၄-ပေ၊ ၆-လက်မ ရှိသည်။ မြို့ရိုးထုမှာ အောက်ခြေက ၁၀-ပေရှိ၍ အထက်ပိုင်းတွင် ၄-ပေ ၁၀-လက်မခွဲ ရှိသည်။ အုတ်မြို့ရိုးအတွင်းတလျှောက်လျှော မြေဘာရီထုမှာ အောက်ခြေပေ ၇၀-ရှိ၍ အထက်၌ သူရဲပြေး ၆-ပေအကျယ် အုတ်ခင်းထား၏။ ဤမြေရိုးသည် ကျုံးတူးရာမှ ရရှိသော မြေများဖြစ်သည်။

မြို့တော်အတွင်း၌ စတုရန်းကွက် ၁၄၄-ကွက်မှာ နန်းမြို့တော်နေရာဖြစ်သည်။ အလယ် ၁၆-ကွက်နှင့် မြောက်ဘက် အနောက်ခပ်ယွန်းယွန်းတွင် အိမ်ရှေ့မင်း၊ ဝန်တို့၏နေရာ ရှိခဲ့သည်။ ထိုမှတပါး မြို့ရိုးလေးမျက်နှာကပ်လျက်ပတ်လည်တွင် သူအိုချုံ သူနာရုံများ ရှိခဲ့သည်။ ကျီတော်များသည်ကားဘောင်မြောက်နှင့် အနောက်မျက်နှာများတွင် ရှိလေသည်။

## နန်းမြို့တော်

အုတ်မြို့ရိုးတော်အတွင်း အလယ် ၁၆-ကွက်နေရာကို ရှေးယခင်က သစ်တပ်ခြံရံပြီး နန်းမြို့တော်ဟု ခေါ်သည်။ သစ်တပ်လုံးပတ်မှာ ၂-ပေ ၆-လက်မ (တတောင့်တွာ) ခန့် ရှိသည်။ သစ်တပ်လေးမျက်နှာတွင် တံခါးပေါက် ၄-ပေါက်ရှိ၍ အရှေ့တံခါးကို ရွှေတော်ယူတံခါးဟု ခေါ်သည်။ သစ်တပ်နှင့် ပေ ၆၀-ခန့်အကွာ ၁၅-ပေမြင့် အုတ်ရိုးတထပ်ပတ်လည် ကာရံထား၏။ တဖန် အရှေ့မျက်နှာတွင် အတွင်းအုတ်တံတိုင်း ၃-ထပ် ရှိပြန်သည်။ အတွင်း



မန္တလေးနန်းတော်တွင်း၌ ရှိခဲ့သော မြေနန်းပြာသာဒ်တော်ကြီး

အရှေ့တံခါးမှာ တံခါးနီတော်ဟု ခေါ်သည်။ ယင်းအုတ်တံတိုင်းအတွင်း ၆-ပေ ၉-လက်မမြင့်သော နန်းတော်အုတ်ခုံပေါ်တွင် မြေနန်းပြာသာဒ်တော်ကြီးနှင့်တကွ အဆောင်ဆောင်အခန်းခန်း ၁၆၆-ရှိသည်။ ရှေ့ပိုင်းနန်းဆောင်များမှာ ဘုရင်နှင့်ဆိုင်၍ နောက်ပိုင်းနန်းဆောင်များမှာ မိဖုရားများနှင့် ဆိုင်လေသည်။ ၁၃၀၆-ခုနှစ်၊ တန်ခူးလဆန်း ၅-ရက် (၁၇-၃-၁၉၄၅) တွင် စစ်ဘေးစစ်ဒဏ်ကြောင့် နန်းတော်အဆောက်အအုံအားလုံး မီးသင့်ပျက်စီးဆုံးရှုံးခဲ့လေသည်။

ဝေုံ အနိစ္စာ ဘောဂါဟိ၊ အစုံဝါ အသယံဝသိ။
တသ္မာ တေသု အလဂ္ဂေတွာ၊ အလံ တေသု ဝိရဇ္ဇိတုံ။

## မှန်နန်းဆောင်

မှန်နန်းဆောင်မှာ ဘုရင်မင်းမြတ်အမြဲစံရာ ဖန်မှန်များ စီခြယ်ထားသော အဆောင်ဖြစ်သည်။ ကွန်း ၅-စင်၊ စမြင်ခံ၊ အမိုး ၅-ထပ်နှင့် ဆောက်လုပ်ထားသည်။ မှန်နန်းဆောင်နေရာတွင် ရှေးယခင်က ပုံစံကိုယူ၍ ပြည်ထောင်စု မြန်မာနိုင်ငံတော်တော်လှန်ရေးအစိုးရ (ယခု ပြည်ထောင်စု ဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော်အစိုးရ) ယဉ်ကျေးမှုဝန်ကြီးဌာနမှ ဦးစီး၍ အုတ်အင်္ဂတေတို့ဖြင့် ပြတိုက်အဆောက်အအုံဆောက်လုပ်ထားလေသည်။

အာဒါသနိကေတနမ္ပိ၊ အတိဝ ရာမဏီယကံ။
ရညော နိဝါသအာလယ-ဘာဝေန ပညာတံ ဟိ ဝေ။

## အုတ်ဂူပြာသာဒ်သင်္ချိုင်းတော်များ

မြေနန်းအုတ်ခုံအရှေ့ စွယ်တော်စင်၊ ပဟိုရ်စင်တို့၏ မြောက်ဘက်တွင် (၁) ပဌမသံဂါယနာတင် မင်းတုန်းမင်းတရား၏ သင်္ချိုင်းတော် မှန်စီအုတ်ပြာသာဒ်၊ (၂) ၎င်းတောင်ဘက် သာယာဝတီမင်း၏ မိဖုရားခေါင်ကြီး၏ သင်္ချိုင်းကျွန်းပြာသာဒ်၊ (၃) ၎င်းအနောက်ဘက် အလယ်နန်းတော် ဆင်ဖြူမရှင်၏ သင်္ချိုင်းတော် အုတ်ပြာသာဒ်နှင့်၊ (၄) ၎င်းမြောက်ဘက် သီပေါမင်းမယ်တော် လောင်းရှည်မိဖုရား၏ သင်္ချိုင်းတော် ကျွန်းပြာသာဒ်များ ရှိသည်။

## ဒင်္ဂါးစက်ရုံ

သက္ကရာဇ် ၁၂၂၇-ခုနှစ် မင်းတုန်းမင်းလက်ထက် ခြင်္သေ့တံဆိပ် ရွှေဒင်္ဂါး၊ ဒေါင်းတံဆိပ် ရွှေဒင်္ဂါး၊ တိုးတံဆိပ် ကြေးဒင်္ဂါး၊ ယုန်တံဆိပ် ခဲဒင်္ဂါး၊

ပိုက်ဆံများသွန်းလုပ်သော "ရတနာပုံ ဒင်္ဂါးစက်ရုံ" သည် မင်းတုန်းမင်း သင်္ချိုင်းအုတ်ဂူ၏ မြောက်ဘက်တွင် ရှိသည်။ ခေါင်းတိုင်နှင့်တကွ ၇-ခန်း၊ တာထပ်တိုက်တန်းလျားကြီးကို ယနေ့တိုင် မြင်နိုင်သေးသည်။

## မှန်စီရွှေချ ကျောင်းတော်

လွှတ်တော်ရှေ့တွင် သံဃာ့ဦးကိုင် မဟာသံဃရာဇာ သာသနာပိုင်ဆရာတော် ဘုရားကြီးနှင့် တံဆိပ်တော် ၎-မရ ဆရာတော်များ ခေတ္တယာယီ သီတင်းသုံး တော်မူရန်နှင့် သာသနာ့ဝန်ထမ်း မင်းသား ရဟန်းသာမဏေများ ဆရာ ဥပဇ္ဈာယ်နှင့်တကွ စာပေသင်ကြားရန်အတွက် နန်းဦး မှန်ကျောင်းတော်လည်း ရှိခဲ့ဘူးသည်။ ၁၂၃၆-ခုနှစ်က ပဉ္စမသံဂါယနာတင် မင်းတုန်းမင်းတရားကြီး ဆောက်လုပ်လှူဒါန်းခဲ့သည်။ ထိုစဉ်က သီပေါမင်းသား သုသီရိမဟာဓမ္မရာဇာ သည် သာမဏေဘ၀ဖြင့် စာပေသင်ကြားခဲ့ဘူးသည်။ နောက် အထွတ် အထိပ်သို့ ရောက်တော်မူသောအခါ ထိုနန်းဦးကျောင်းတော်ကို ကျောင်းဦး ပြာသာဒ်နှင့်တကွ ဘုံ ၃-ဆင့်ကို မှန်စီရွှေချကျောင်း ဆောက်လုပ်၍လှူဒါန်း တော် မူပြန်သည်။ ထိုအခါမှစ၍ မှန်စီရွှေချကျောင်းဟု တွင်လေသည်။ ကျောင်းတော်ကား အကြီးစားမဟုတ်ပဲ ဝပ်သေးသေးပင် ဖြစ်သည်။

## သီပေါမင်းသား၏ အိမ်ရှေ့မင်းသားဘ၀ စံအိမ်တော်

ထုံးတမ်းစဉ်လာအားဖြင့် နန်းတော်ကြီး၏ မြောက်ဘက် လေးသိန်းတံခါး လမ်းမကြီး၏ အနောက်ဘက်တွင် အိမ်ရှေ့မင်းအိမ်တော် ဆောက်လုပ်ထားရှိ မြဲဖြစ်သည်။ သို့ရာတွင် မကြာမြင့်လှသော သီပေါမင်းသား၏ အိမ်ရှေ့မင်း ဘ၀ စံတော်မူရာအိမ်တော်မှာ ရွှေနန်းတော်အတွင်း လွှတ်တော်မြောက် ရွှေး တင်းကုပ်အနီးတွင် ရှိခဲ့သည်။ ထိုနန်းတွင်း အိမ်ရှေ့အိမ်တော်တွင် သီပေါ မင်းသားသည် ၁၂၃၉-ခုနှစ် နယုန်လ စာပြန်ပွဲတွင် ပြန်ဆိုအောင်မြင်ခဲ့ပြီး သည်မှစ၍ ၁၂၄၀-ပြည့်နှစ် သီတင်းကျွတ်လဆန်း ၅-ရက်နေ့အထိ စံနေ တော်မူခဲ့လေသည်။ သီတင်းကျွတ်လဆန်း ၆-ရက်နေ့ ရောက်သောအခါ အိမ်ရှေ့တော်မှ ရွှေနန်းတော်ကြီးပေါ်သို့ ပြောင်းရွှေ့စံတော်မူသည်။

## မင်္ဂလာမင်းကြား စည်တော်ကြီးထားရာ စည်တော်ရုံ

တံခါးနီ အုတ်မြို့ရိုးအတွင်း လက်ယာဘက် (တောင်ဘက်)တွင် တရားစည် တော်ကြီးဟူ၍၎င်း၊ မင်းကြားစည်တော်ကြီးဟူ၍၎င်း၊ မင်္ဂလာစည်တော်ကြီး



နန်းတော်အတွင်း ရှိခဲ့ဘူးသော မှန်စီရွှေချကျောင်းတော်



မန္တလေး နန်းမြို့တော်အတွင်း ရှိခဲ့သော စွယ်တော်စင်

ဟူ၍ငင်း သမုတ်ပညတ်ခေါ်ဝေါ်အပ်သည့် စည်တော်ကြီးထား ရှိရာ စည် တော်ရုံ ရှိသည်။ စည်တော်ရုံကို ကျိုင်းလေးချက် စိုက်ထူထားပြီးလျှင် ရေမြေ ရှင် မင်းကေရာဇ် ထွက်တော်မူကြီး ထွက်တော်မူ၍ ဝေါယာဉ်တော်က ဝေါ တော် ရွေ့သည်ကိုမြင်လျှင် ဝတ်ကောင်း နားတောင်း အပေါင်းအထုပ်နှင့် ရွှေပြည်စိုးက ၁၁-ချက် တီးရသည်။ ၁၁-ချက်တီးသည့်အကြောင်းမှာ "အချိန် သင့်ပြီ၊ ထွက်တော်မူဦးတော့ဘုရား" ဟူသော အက္ခရာ ၁၁-လုံးတို့ဖြင့် ရွှေနား တော်ကြား လျှောက်ထားဟန် ၁၁-ချက်တီးခြင်းဖြစ်သည် ဟူ၏။

အဂ္ဂမဟေသီ မိဖုရားခေါင်ကြီး သားတော် သမီးတော် မိးရှူးသန့်စင် ဖွားမြင်တော်မူရာအခါ၌လည်း ရွှေပြည်စိုးက ဌင်းမင်္ဂလာစည်တော်ကြီးကို တီးရသည် ဟူ၏။

## မင်္ဂလာရွှေမောင်း

ဌင်းပြင် မင်္ဂလာရွှေမောင်းတော်မှာလည်း မင်္ဂလာမင်းကြားစည်တော်နှင့် အတူထား၍ ကုန်းကြောင်း ရေကြောင်း ထွက်တော်မူသည့်အခါ ရွှေတော် က တီးရှမ်းလိုက်ပါရသည့် မင်္ဂလာရွှေမောင်း အမှုထမ်း ၇-ယောက်ရှိရာ တလလျှင် လစာငွေ ၆ဝ သနားတော်မြတ် ခံရသည်ဟူ၏။

## စွယ်တော်စင်

သစ်တပ်ဝင်းတော်ကြီးအတွင်း ရွှေးတော်ယူ တံခါးတောင်ဘက်တွင် စွယ်တော်စင် တည်ရှိသည်။ လျှမ်းလျှမ်းတောက် တင့်တယ်လှပသည့် နန်းတော် ကြီးတည်ရာ အနောက်သို့ မျက်နှာပြု၍ မုခ်ဦးလှေကားတို့ဖြင့် တင့်တယ် သပ်ရပ်စွာ ဆောက်လုပ်ထားလေသည်။

အုတ်အဆောက်အအုံဖြစ်၍ ပုံပန်းသဏ္ဍာန်၏ အချိုးအစားကျခြင်း၊ ပန်းရန်၊ ပန်းတော့တို့၏လက်ရာမြောက်စွမ်းဆောင်နိုင်ခြင်းတို့ကြောင့် ကြည်နူး ရှုမောဖွယ်ဖြစ်၏။ တချိန်က ဘုရားဇိနေဘ် စွယ်တော်ဓာတ်မြတ်နှင့်တကွ ဓာတ်တော်မွေတော်ပေါင်း ကိန်းအောင်းရာဖြစ်ခဲ့ရာ စွယ်တော်စင်ဟု အမည် နာမရင်း ဖြစ်လေသည်။ ဘုရားဇိနေဘ် စွယ်တော် မကိန်းဝပ်ရာ အခါ၌လည်း အခြား ဓာတ်တော်မွေတော်များနှင့်အတူ တန်ခိုးကြီး နန်းစဉ်ဘုရား ဆင်းတု တော်များ ကိန်းအောင်းစံပယ်ရာဖြစ်သည်။

မင်းတရားသည် သီဟိုဠ်ကျွန်း ကိတ္တိသိရိ မေဃဝဏ္ဏမင်း အစရှိသော မင်းကောင်း မင်းမြတ်တို့မြို့တော်၌ ဘုရားရှင်စွယ်တော်ခါတ်မြတ် ကိန်းဝပ်စံပယ်စေ၍ ကိုးကွယ်ခဲ့ကြသည်ကို အတုယူဟန် တူပေသည်။

စွယ်တော်မြတ်၊ ကိန်းဝပ်ပါတဲ့ စွယ်တော်စင်။
ထက်သဒ္ဓါရှင်ရှင်မြူး၊ ဖူးရကြည်လင်။
မြင်လိုက်လျှင်၊ စိတ်အစဉ်ကွဲ ညွှတ်တွား။
ဘုရားရှင် ဂုဏ်ရည်စုံးကာ၊ ဖူးကြအများ။

## ပဟိုရ်စင်

စွယ်တော်စင်နှင့် ရွှေးတော်ယူတံခါး လမ်းမခြားလျက် မြောက်ဘက် ကွက်လပ်တွင် ပဟိုရ်စင် ဆောက်လုပ်ထား၏။ လုပခိုင်ခံ့စွာ လေးထောင့်အုတ်ခုံအမြင့်ခံပြီး တိုင်ဖြူလေးလုံးတူး၍ ယင်းတိုင်ဖြူလေးလုံးအပေါ်မှာ လေးတိုင်စင်နှင့် လည်ပေါ်ပြာသာဒ်ဆောင်ငယ် တင်ထားခြင်းဖြစ်လေသည်။ထိုအပေါ်ဆောင်တွင် ပဟိုရ်စည်ကြီးနှင့် ခေါင်းလောင်း ဆွဲထား၏။ နာရီတော်မှူးဆင့်ဆိုရာ နာခံ၍ နေ့ယံ၊ ညဥ့်ယံ ပဟိုရ်တီးရန် ပဟိုရ်စင်အနီး အိပ်ဖန်တန်း၌ နေ့ ညဉ့်စောင့်၍ နာရီတော်တန်ဆောင်းက နာပီတော်စောင့် ပုဏ္ဏား ၂-ယောက်တို့ ဝတ်ကောင်းဝတ်သန့် ဝတ်ဆင်လျက် လျှင်စွာလာရောက် အခါတော်ကြားသည်နှင့် တပြိုင်နက် ပုဆိုးခါးပုံထိုး အင်္ကျီရှည် ခေါင်းပေါင်းဖြူနှစ်စထောင်နှင့် ပဟိုရ်တီး လူနှစ်ယောက်တို့သည် ပဟိုရ်စင်ပေါ်ရောက် တက်ပြီးမှ ခေါင်းလောင်းတချက် စည်တော်တချက်ဖြင့် ၁၁-ချက်၊ နေ့မွန်းတည့် ၂-ချက်တီးလျှင် ၂၂-ချက်၊ ညနေ ၃-ချက်တီးလျှင် ၃၃-ချက်၊ နေ့ဝင် ၄-ချက်တီးလျှင် ၄၄-ချက် တီးရသည်။ ညဥ့်လေးပဟိုရ်မှာလည်း ဤနည်းအတိုင်း ၁-ချက်တီး၊ ၂-ချက်တီး၊ ၃-ချက်တီး၊ နံနက် ၄-ချက်တီးကိုင်အောင် အချက်ပေါင်း ၁၁၀-တီးရသည်။ ပဟိုရ်တီး နှစ်ယောက်တို့သည် ပဟိုရ်စင်ပေါ်ရောက်သည်နှင့်တပြိုင်နက် နန်းတော်ဆီသို့လှည့်၍ ဒူးပုဆစ်တုပ်ကာ ဦး ၃-ကြိမ်ချပြီးမှ ပဟိုရ်တီးရသည်။ ပြီးလျှင် ဦးသုံးကြိမ်ချပြီး ဆင်းလာရသည်။ ပဟိုရ်တီးအမှုထမ်း လူ ၅-ဦးတို့မှာ တလလျှင် လစာငွေ ၅၅-ကျပ် သနားတော်မြတ်ခံရသည်ဟူ၍။ ပုဆိုးခေါင်းပေါင်း ပိတ်အုပ်များကိုလည်း တလတကြိမ်မင်းတရားက ချီးမြှင့်တော်မူသည်။



မန္တလေးမြို့ နန်းမြို့တော်အတွင်းရှိ ဗဟိုစင်

## နာရီတော်ရုံ

နာရီတော်ရုံ နန်းတော်အတွင်းမှာ ရှိခဲ့သည်။ ယင်းနာရီတော်ရုံမှာ ပဟိုရ်စင်နှင့် ထာဝစဉ် ဆက်သွယ်နေသည်။ ယင်းနာရီတော်ရုံမှာ တံခါးနီတော်အတွင်းကျသည့်အပြင် မြောက်မာရဘင်တံခါးအတွင်း ဖွားဘက်ကျော်တန်းအနီးတွင် ထားလေ့ရှိသည်။

နာရီတော်မှူးအဖြစ် ဗေဒင်ကျမ်းဂန်တတ် မြန်မာပညာရှိ၊ သို့မဟုတ် ပုဏ္ဏားပညာရှိကို ဝန်ထားလေ့ရှိသည်။ နာရီတော်မှူးအောက်က နာရီစောင့်သူနှင့် မောင်းတီးသူ ၂-ယောက်စီ ထားရှိလေသည်။ နာရီစောင့်သူနှင့် မောင်းတီးသူသည် စနစ်တကျ တိုင်းထွာပြုလုပ်ထားသော ရေဖလားကို အလှည့်ကျစောင့်ကြည့်နေရသည်။

ဖလားမှာ ကြေးနီအချိန် တဆယ့်ခြောက်ကျပ်သားကို အစောက် ခုနစ်လက်သစ်၊ အဝ ကိုးလက်သစ်စနစ်ဖြင့် ခတ်လုပ်ပြီးလျှင် ဖလာအောက်အလယ်တည့်တည့်က ၁၀-နှစ်အရွယ် သတို့သမီးငယ်၏ ဆံပင် ၁၆-ပင်ဝင်ရုံ အပေါက်ဖောက်ထားသော ဖလားဖြစ်သည်။ ထိုချိန်ခွက်ဖလားကို ရတနာအင်တုံတွင် ချထားရသည်၊ တပြည်းပြည်း ရေဝင်၍ တခါနစ်လျှင် တကြိမ် ငွေမောင်းတီး၍ တနာရီ အမှတ်ပြုသည်။ ၁-နာရီ ၁-မောင်း၊ ၂-နာရီ ၂-မောင်း စသည်ဖြင့် ၇-မောင်း၊ ၈-မောင်းတီလျှင် တပဟိုရ်အချိန်ကျသည်။

### နာရီဘွဲ့ ရှေးဟောင်းလေးဆစ်ကဗျာ

လောဟိတတမ္ဗ၊ သောဠသက ဟာပဏာ။ သတ္တင်္ဂုလုဗ္ဗေဓနှင့်၊
မုခမှာ နဝင်္ဂု၊ ထားမှုမှန်စွာ။ ဆယ်နှစ်ရွယ် ကညာ၊ ဆံကေသာ
သွယ်ပြောင်း။ ဆယ့်ခြောက်ပင် ဝင်ရုံလုစ်ပါလို့၊ ခါနစ်လျှင်
နာရီကျော့တယ်၊ တီးတော့ ငွေမောင်း [၁]။

၇-မောင်း၊ ၈-မောင်း တပဟိုရ်ထားသည်မှာ နေထွက် နေဝင်အလိုက် ကိုက်ညီမျှတရန်နှင့် နေ့ဘာ၊ ညတာရှည်သောအခါဖြစ်လျှင် ၈-မောင်းကို တပဟိုရ်၊ နေ့တာ၊ ညဘာ တိုသောအခါဖြစ်လျှင် ၇-မောင်းကို တပဟိုရ် ပိုင်းခြားမှတ်သား၍ ချိန်ကိုက်အောင် မောင်းကို ပြောင်းလဲတီးရခြင်းဖြစ်သည်။

ဤသို့ ၇-မောင်း၊ ၈-မောင်းစေ့၍ ပဟိုရ်ချိန်ကျသောအခါ နာရီရုံတော်က အလှည့်ကျသူတယောက်က ပဟိုရ်ရုံသို့ အမြန်သွား၍ ပြောကြားရ

၁။ ပခုက္ကူအဘိဓာန်နိဿယသစ်။ ၅၉-နှာ။

၂၁၇၈

သည်။ ညအခါဖြစ်လျှင် မာရဘင်တံခါးနှင့် တံခါးနီတံခါး ၂-တန်ကို ဖွင့်နေရပြန်သဖြင့် ပို၍အချိန်ကြာမြင့်သည်တွင် ပဟိုရ်စင်မှာလည်း အမြင့်ဖြစ်နေသည့်ပြင် ပဟိုရ်မတီးမီ နန်းတော်ကို ဦးချ၍ နေရခြင်းများကြောင့် နာရီနှင့် ပဟိုရ်တီးချိန်သည် မည်သည့်အခါမျှ မကိုက်ကြ။ ပဟိုရ်က နောက်ကျလေ့ရှိသည်။ သို့ဖြစ်၍ ပဟိုရ်ကို လွှတ်ချိုးတက်ချိန်၊ ဆင်းချိန် မြို့တံခါး၊ နန်းတံခါးဖွင့်ချိန် ပိတ်ချိန်လောက်သာ လိုက်နာရသည်။

## မြန်မာပဟိုရ်နှင့် စက်နာရီ အကြမ်းဖျင်းနှိုင်းယှဉ်ချက်

မြန်မာပဟိုရ်နှင့် စက်နာရီကို အကြမ်းဖျင်းအားဖြင့် နှိုင်းယှဉ်လျှင် မြန်မာတပဟိုရ် ၁-ချက်တီးသည် စက်နာရီ ၉-နာရီ၊ ၂-ချက်တီးသည် ၁၂-နာရီ၊ ၃-ချက်တီးသည် ၃-နာရီ၊ ၄-ချက်တီးသည် ၆-နာရီနှင့် အသီးသီးကိုက်ညီဖွယ်ရှိသည်ဟု ဆိုကြသည်။

## နန်းတော်ပုံစံငယ်

နန်းတော်အုတ်ခုံကြီးအနောက်ဘက်တွင် ရှေးယခင်က ရတနာပုံနန်းတော်ကြီး အဆောင်ဆောင်အခန်းခန်းကို ပုံစံငယ်ပြုလုပ်၍ ပြာနံ့၌ တင်ပြထား၏။ နန်းတော်ပုံစံငယ်မှာ မူလနန်းတော်ကြီး၏ ၂-ပေ၊ ၁-လက်မစကေးအချိုးဖြင့် ၁၂၆၀-ခုနှစ်က ပြုလုပ်ထားသည်။

## ကျောက်စာရုံ

ပဟိုရ်စင်၏မြောက်ဘက်အနီးတွင် ရှေးဟောင်းသုတေသနဌာနမှ ကျောက်စာရုံ ၂-ရုံရှိသည်။ ပဒုံမင်းတရားကြီး အမရပူရမြို့တွင် စုထားစေခဲ့သော ကျောက်စာတိုင်များမှ တိုင်ပေါင်း ၆၂၃-တိုင်ကို ၁၅၀ ရှေးခါပြောင်းထိန်းသိမ်းခဲ့နှ ဒုတိယကမ္ဘာစစ်ကြီးအတွင်းက စစ်ဘေးစစ်ဒဏ်ကြောင့် ၆၀-တိုင်ပျက်စီးခဲ့လေသည်၊ ကျန် ၅၅၅-တိုင်ကို ၁၃၁၄-ခုနှစ်က ကျောက်စာရုံများ အသစ်ပြုပြင်ပြီး ထိန်းသိမ်းထားသည်။ သက္ကရာဇ်-၄၅၀ ပုဂံခေတ်အစောဆုံးကျောက်စာမှ ကုန်းဘောင်ခေတ် ကျောက်စာများအထိ တွေ့နိုင်လေသည်။

## ပိဋကတ်တိုက်

၇-ဌာနအပါအဝင် ပိဋကတ်တိုက်ကို သမ္ဗုဒ္ဓေဘုရားတောင်ဘက် နေရာတွင် တည်ဆောက်ခဲ့သည်။ သက္ကရာဇ် ၁၂၂၅-ခုနှစ်တွင် အမရပူရ ရတနာပုံပိဋကတ်တိုက်မှ ပေစာများကို ပင့်ဆောင်ရွှေယူ၍ ၁၂၂၆-ခုနှစ်တွင် မင်းတုန်း



မန္တလေးဆရာအတတ်သင် သင်္ဂ္ဂကျောင်းသားများ
ပုံစံထုတ်ပြထားသည့် ရွှေနန်းတော်ကြီးပုံ

မင်းက ထပ်မံ၍ ပိဋကတ်ပေစာများကို ရွှေရေး၊ မင်ရေး၊ ကညစ်ရေးဖြင့် ရေးကူးစေတော်မူပြီး သေတ္တာပေါင်း ၄၀၀-ကျော်ဖြင့် ထည့်သွင်းပူဇော်ခဲ့လေသည်။ ဤပိဋကတ်တိုက်တော်မှာ မန္တလေးတောင် တောင်ဘက် တောင်ခြေဦးခန္တီပြတိုက်အနီးတွင် ပျက်စီးလျက် ရှိနေ၏။

## သုဓမ္မာဇရပ်နှင့် ပဋ္ဌာန်းသိမ်တော်

သက္ကရာဇ် ၁၂၂၁-ခုနှစ်တွင် မန္တလေးတောင်ခြေ ရွှေမြို့တော်အရှေ့မြောက်အရပ်(ယခု ကျောက်တော်ကြီးဘုရားအရှေ့ဖက်)တွင် သုဓမ္မာဇရပ်နှင့် ပဋ္ဌာန်းသိမ်များကို မင်းတုန်းမင်းတရားကြီးက ဆောက်လုပ်လှူဒါန်းတော်မူခဲ့သည်။ တဖန် ၁၂၂၆-ခုနှစ်တွင် မှူးမတ်များအား ငွေတော်ထုတ်ပေး၍ သုဓမ္မာဇရပ်ပေါင်း ၃၃-ဆောင်ကို ဆောက်လုပ်စေတော်မူခဲ့လေသည်။ ယင်းဇရပ်များကို သုဓမ္မာဇရပ်တန်းဟု ခေါ်သည်။ ယခုအခါ မိုးဒဏ်လေဒဏ်ကြောင့် ပျက်စီးကုန်ခဲ့ရာ ၁၈-ဆောင်မျှသာ ကျန်ရှိ၍ နိုင်ငံတော်အစိုးရ ယဉ်ကျေးမှုဌာနက ပြင်ဆင်ထိန်းသိမ်းထားလျက် ရှိသည်။

## စေတီပုထိုးများ

မန္တလေးမြို့တော်၏ မြောက်ဘက်ရှိ မန္တလေးတောင်သည် ပင်လယ်ပြင်မှ ပေပေါင်း ၉၅၄–ပေမြင့်၍ တောင်ခြေမှ မှာမူ ၇၇၆-ပေ မြင့်သည်။ တောင်ပေါ်၌ ပုဂံခေတ် အနော်ရထာမင်း တည်ထားကိုးကွယ်ခဲ့သည်ဟု အဆိုရှိသော တောင်ပေါ်ဘုရားဟု ခေါ်ဝေါ်သမုတ်သည့် ဆုတောင်းပြည့်စေတီတော် မင်းတုန်းမင်းတရားကြီး၏ ကောင်းမှုတော် တဝက်ဘုရား၊ ဗျာဒိတ်ပေးဘုရား၊ ဓာတ်တော်တိုက် စသည့် ရှေးခေတ်သမယက တည်ထားကိုးကွယ်ခဲ့သော စေတီပုထိုးဘုရားများကို အားပါးတရ ဖူးမြော်နိုင်ပေသည်။ သက္ကရာဇ် ၁၂၆၈-ခုနှစ်ကစ၍ ရသေ့ကြီး ဦးခန္တီက တောင်တော်ရှိ စေတီပုထိုးဘုရားများကို ပြုပြင်မွမ်းမံ၍ ၁၃၁၀–ပြည့်နှစ် ရသေ့ကြီး ပျံလွန်တော်မူပြီးနောက် မန္တလေးတောင်တော် အုပ်ချုပ်ရေးအဖွဲ့က ယနေ့တိုင် ဆက်လက်ပြုပြင် မွမ်းမံလျက် ရှိ၏။

## ကျောက်တော်ကြီးဘုရား

မန္တလေးတောင်ခြေတွင် မင်းတုန်းမင်းတရားကြီး၏ မဟာသကျမာရဇိန် ကျောက်တော်ကြီးဘုရားထုရန် စကျင်တောင်မှ မန္တလေးရွှေမြို့တော်သို့ ကျောက်တုံးကြီးကို သက္ကရာဇ် ၁၂၂၆-ခုနှစ်တွင် သမ္ဗန်ကြီးနှစ်စင်းဖြင့်

တွဲဖက် ယူဆောင်လာသည်။ ၁၂၂၈–ခုနှစ်တွင် ထုလုပ်ပြီးစီးသည်။ ကျောက်တော်ကြီးဘုရားကြီး၏ ဂန္ဓကုဋိတိုက်တော်နှင့် အာရုံခံကို မင်းတုန်းမင်းတရားကြီး နတ်ရွာစံတော်မူပြီးနောက် ညောင်ရမ်းရွှေဘိုဆရာတော်ကြီးက ဆက်လက်လုပ်ဆောင်ရာ ရှမ်းစော်ဘွားကြီးများ၏ ထီးဖြူရုံကန့်တော့ကြီးပုံစံကို တွေ့နိုင်သည်။ မူလက မင်းတုန်းမင်းတရား၏ ဂန္ဓကုဋိပန္နက်ပုံစံမှာ လွန်စွာကြီးကျယ်သည်။ ဘုရား မဟာရံတံတိုင်း ပတ်လည်၌ အသီတိမဟာသာဝက ရဟန္တာကြီးများ၏ ပုံတော်များကို ထုလုပ်ပြီး အုတ်ပြာသာဒ်ငယ်များဖြင့် ကိုးကွယ်ထားသည်။ ကျောက်တော်ကြီးဘုရား ထောင့်လေးထောင့်၌ မဇ္ဈိမဒေသမှ ပင့်ဆောင်၍ ဗောဓိပင် လေးပင် စိုက်ပျိုးခဲ့ရာ ယခုအခါ အနောက်မြောက်ထောင့်၌ တပင်သာ ကျန်ရှိတော့သည်ဟု သိရ၏။

## ကုသိုလ်တော်ဘုရား

ကျောက်တော်ကြီးဘုရား အရှေ့ဘက်၌ မဟာလောကမာရဇိန် ကုသိုလ်တော်ကြီးကို သက္ကရာဇ် ၁၂၂၁-ခုနှစ်က စတည်၍ ၁၂၂၄–ခုနှစ်တွင် မဟာရံအုတ်တံတိုင်း သုံးထပ်နှင့်တကွ စေတီတော်ကြီး ပြီးစီးခဲ့လေသည်။ တံတိုင်းများအတွင်း ၁၂၃၀–ပြည့်နှစ်တွင် ကျောင်ကျောက်များကိုဆစ်၍ ပိဋကတ်တော်များကို ကျောက်ချပ်ရေ ၇၂၈-ချပ် သမိုင်းကျောက်ချပ်ပါ စုစုပေါင်း ၇၂၉-ချပ်ကို အုတ်ဂူပြာသာဒ်တခုစီဖြင့် သွင်းထားသည်။ ဘုရားကြီး၏ အနောက်စောင်းတန်းနှင့် တောင်စောင်းတန်းများတွင် ပန်းချီဆရာ ဆရာအေး၊ ဆရာမြတို့၏ ရတနာပုံခေတ် မြန်မာမှုပန်းချီများကိုလည်း တွေ့နိုင်သည်။ အောက်ပါ ကုသိုလ်တော် လွမ်းချင်းကိုလည်း ဖတ်ရှု၍ စိတ်ကြည်နူးရာ၏–

## မန္တလေးမြို့ ကုသိုလ်တော်လွမ်းချင်း

လာမေ လှမ်းကြစို့၊ ညာမန်းမြို့ ပြည်ဘောင်၊ ထူးမြတ်တဲ့ ရွှေတောင်မှာ၊ မြတ်ဘုန်းခေါင် စေတီယငယ်နှင့်၊ စက်ပါဒနက်သန်ကို၊ သက္ကစ္စံ ပဏာမိရယ်နှင့်၊ သမ္မာရှိ အတူပေါ်အောင်၊ အပူဇော် သွားစို့ မိငယ်လေး။

တချောင်းရွှေငယ်၊ မြောင်းရေငယ်မှ ပတ်သန်း၊ တောင်စဉ်ငယ်ထပ်၊ စရပ်တန်းနှင့်၊ လမ်းမတော်သာ၊ သုဓမ္မာ၊ ရောင်ဝါကြ ညီး၊ ကျောက်တော်ကြီး မီးရေစုံခ၊ ဗျာဒိတ်တော် သပါတဲ့၊ မြသေလာဂူ၊ ရုပ်တော်မူနှင့်၊ ရွှေဂူအတွင်း၊ ပိဋကတ်ကို ရေးမှတ်သွင်းလို့၊ တလင်း

ငယ်မှညီညီ၊ ဖန်အုတ်ကာယ်စီပါတဲ့၊ စေတီတော်ပြင်၊ ဆုထူးတော်ဆင်ရအောင်၊ မောင်ကြင်တဲ့ ခိုင်စံပယ်ရယ်၊ တသက်လှယ် မယ်မဆုတ်ပါနဲ့၊ တို့မခင် စိန်မှုန်အုပ်ကယ်နှင့်၊ သင်ပုတ်တော်ပြင်ဆင်၊ ဆုမ်းတော်တင် နေမလွဲစေနှင့်၊ မယ်နှင့်မောင် လက်စုံတွဲလို့၊ လှည်းမပါ ခြေလျင်လှမ်းကြစို့ (အိုခင်ရဲ့) ပန်းနှင့်ကွဲခလေး[၁]။

## စန္ဒာမုနိဘုရား

စန္ဒာမုနိဘုရားသည် သက္ကရာဇ် ၁၁၆၄-ခုနှစ်၌ မင်းကွန်းတဘက် စံနန်းတော်ကျွန်းတွင် ဘိုးတော်မင်းတရား သံချိန် ၁၁၃၆၈-ပိဿာဖြင့် သွန်းထုသည့် ရုပ်ပွားတော် ဖြစ်သည်။ ထိုမှ အမရပူရမြို့ စန္ဒာမုနိဘုရားအတွင်း၌ ကိန်းဝပ်တော်မူပြီး စစ်ကိုင်းမင်း ဘကြီးတော်လက်ထက်တွင် အင်းဝသို့ တဖန်ပင့်ဆောင်သည်။ ထို့နောက် သက္ကရာဇ် ၁၂၂၉-ခုနှစ်တွင် မင်းတုန်းမင်းကနန်းမြေဘုံသာ စံနန်းတော်နေရာသို့ ရွှေ့ပြောင်းစေတော်မူသည်။ ဤစန္ဒာမုနိဘုရား မဟာရံတံတိုင်းအတွင်း ဦးခန္တီသည် ၁၂၇၅-ခုနှစ်က အဋ္ဌကထာ၊ ဋီကာများကို ကျောက်ချပ်ရေ ၁၇၇၄-ချပ်ဖြင့် ရေးထွင်းစေပြီး စေတီဂူပေါင်း ၇၅၈—ဆူဖြင့် ထားရှိစေလေသည်။

## မဟာမြတ်မုနိဘုရားကြီး

သက္ကရာဇ် ၁၁၄၆—ခုနှစ်တွင် အမရပူရမြို့တည် ဘိုးတော်မင်းတရား၏ သားတော် အိမ်ရှေ့ဥပရာဇာ သီရိမဟာဓမ္မာဘိဇယသီဟသူရသည် ရခိုင်ပြည်မှ မဟာမြတ်မုနိ ရုပ်ပွားတော်ကို ပင့်ဆောင်ခဲ့ရာ ၁၁၄၇-ခုနှစ်တွင် အမရပူရမြို့ မြောက်ယွန်းတွင် ဘုံကိုးဆင့် ပြာသာဒ်နှင့် တည်ဆောက်ထားသည်။ ယင်း မဟာမြတ်မုနိ ရုပ်ရှင်တော်မှာ မြန်မာတွင်မက ကမ္ဘာကပင်သိသောဘုရားဖြစ်သည်။ ယခုအခါ မန္တလေးမြို့ တောင်ပြင်တွင် တည်ရှိရာ ရဟန်းရှင်လူ ပျားပန်းခတ်မျှ ဖူးမြော်ကြသည်[၂]။

## မဟာသကျသီဟဘုရား

မန္တလေးမြို့၊ အောင်နန်းရိပ်သာရပ် မင်းတုန်းမင်း မင်းသားဘဝက စံခဲ့သောနေရာတွင် သက္ကရာဇ် ၁၂၄၃-ခုနှစ်တွင် မဟာသကျသီဟဘုရား ကိန်းဝပ်ရန်

---

၁။ မဟာဂီတပေါင်းချုပ်၊ ၂၂၁။

၁။ မဟာမြတ်မုနိ ဘုရားကြီးကြည့်။

အုတ်ပြာသာဒ်ကို တည်ဆောက်သည်။ ၁၂၄၇-ခုနှစ် နယုန်လတွင် မဟာသကျသီဟ ရုပ်ပွားတော်ကို အမရပူရမှ ပင့်ဆောင်ခဲ့သည်။

### အိမ်တော်ရာဘုရား

မန္တလေးမြို့၊ အနောက်ပြင် မင်းတဲဒေးဝန်းရပ်တွင် ပုဂံခင်း၏ မင်းသားဘဝက အိမ်တော်ရာတွင် မဟာလောကရံသီ စေတီကို ၁၂၀၉-ခုနှစ်မှ ၁၂၁၀-ပြည့်နှစ်အထိ တည်ခဲ့သည်။

### ချမ်းသာကြီး ချမ်းသာရံဘုရားများ

မန္တလေးမြို့၊ အနောက်ပြင် ချမ်းသာကြီးဘုရားသည် သက္ကရာဇ် ၈၃၀-ပြည့်နှစ်တွင် နန်းတက်သော မဟာသီဟသူ၏ ကောင်းမှုတော် ဖြစ်သည်။ ဘိုးတော်ဘုရားလက်ထက် ဟောင်းနွမ်းပျက်စီးသည်ကို ပြင်စည်မြို့စားမောင်နဂါး ထပ်မံပြုပြင်သည်။ ချမ်းသာရံမှာလည်း ထိုမင်းကောင်းမှု ဖြစ်သည်။ ဘိုးတော်ဘုရားသားတော် အိမ်ရှေ့မင်းသား ကောင်းမှုဟုလည်း အဆိုရှိသည်။

### ရွှေကျီးမြင်ဘုရား

သက္ကရာဇ် ၄၅၄–ခုနှစ်တွင် မင်းရှင်စော အောင်ပင်လယ်သို့ ရောက်ရာ မန္တလေးအရပ် ရွှေကျီးမြင်ရာ၌ စေတီဟောင်းတွေ့၍ ထပ်မံပြုပြင်သည်ဟု သိရ၏။ ဤဘုရားတွင် မင်းရှင်စော ကိုးကွယ်သော ဆင်းတုတော်နှင့် ၁၂၅၁-ခုနှစ် သာသနာပြုဆရာတော်တို့ ကြိုးမှူးပင့်ဆောင်သော နန်းစဉ်ရုပ်ပွားဆင်းတုတော်များကို ဖူးတွေ့နိုင်သည်။

### ဘုရားနီနှင့် ဗောင်းတော်ကျ

မန္တလေးမြို့၊ ပုလဲငွေရောင်ရပ်တွင် ဘုရားနီဘုရားနှင့် ဗောင်းတော်ကျ နှစ်ဆူရှိသည်။ ဘုရားနီကို ဘိုးတော်မင်းတရားလက်ထက် ရွှေတိုက်ဝန် မောင်နှမ ၂-ယောက်တည်၍ ဆုတောင်းပြည့်ဟု ကမ္ပည်းတပ်သည်။ ကြာရှည်လေးမြင့်စွာ အင်္ဂတေ မပွတ်၍ အုတ်နီအတိုင်း တည်နေသောကြောင့် "ဘုရားနီ" ဟုခေါ်သည်။ ဘုရားနီမြောက်ဘက်ရှိ စေတီမှာ ဗောင်းတော်ကျ ဖြစ်သည်။

### ဝါခင်းကုန်း စေတီ

မန္တလေးမြို့အရှေ့ မဟာသီရိပေမဝန် ဥယျာဉ်အတွင်း၌ သက္ကရာဇ် ၁၂၄၁-ခုနှစ်တွင် သီပေါမင်းတရားသည် ကုသိုလ်တော် "မာရ်အောင်ရတနာ

စေတီ"ကို တည်တော်မူခဲ့သည်။ ဝါခင်းကုန်းအရပ်မှာ တည်ရှိ၍ ဝါခင်းကုန်း စေတီဟု တွင်သည်။

## ဗောဓိပင်

မန္တလေးမြို့၊ မဟာနန္ဒယ်စဉ် ဗောဓိကုန်းအရပ် ဝိဇ္ဇာနှင့် သိပ္ပံတက္ကသိုလ် မြောက်ဘက်၌ ၁၂၂၃-ခုနှစ်တွင် သီဟိုဠ်ကျွန်းမှ ရရှိသော ဗောဓိပင်ကို မင်းတုန်းမင်းတရားကြီး စိုက်ပျိုးတော်မူခဲ့သည်။ ကဆုန်ညောင်ရေသွန်းပွဲအချိန် အခါတိုင်း မြို့တော်သူ မြို့တော်သားအများ ရေသွန်းလောင်း၍ ကုသိုလ်ပြု ကြသည်[၁]။

## ကျောင်းတိုက်ကြီးများ

မန္တလေးမြို့တော်၌ ဘုရားမြတ်စွာ သာသနာတော်ကို မြင့်ရှည်မြားမြောင် နှစ်ငါးထောင် ကြာရှည်အောင် သယ်ဆောင်မည့် ပရိယတ္တိ စာသင်တိုက်ကြီး တို့မှာ ၂၀၀-ကျော် ရှိခဲ့လေသည်။ ဤကျမ်း၌ ဖော်ပြပါ စာသင်ကျောင်း တိုက်ကြီးများ သမိုင်းနှင့် ယင်းကျောင်းတိုက်ကြီးများ၌ ပရိယတ္တိဓမ္မက္ခန္ဓာ ကျမ်းစာချပို့ သာသနာပြုတော်မူခဲ့ကြသည့် သာသနာ့ဝန်ဆောင် ဆရာတော် ဘုရားကြီးတို့၏ အဖြစ်တော် အစဉ်အဆက်အနွယ်ကို ရေးသားမှတ်တမ်းတင် ထားရာ သက်ဆိုင်ရာအခန်းတွင် ကျောင်းတိုက်ကြီးများ သမိုင်းနှင့် သာသနာ့ ဝန်ဆောင် ဆရာတော်ကြီးများ အတ္ထုပ္ပတ္တိ အဖြစ်တော်စဉ်ကို တွေ့ရလတံ့။

## ပဌမပိုင်း အပြီးသတ်ခြင်း

သူတော်ကောင်းတို့ ကြည်ညိုရန်၊ သံဝေဂရရန် မန္တလေး သာသနာဝင် ကျမ်းကြီးကို ရေးသားစီရင်ခဲ့ရာ မန္တလေး သာသနာဝင်ကျမ်း ပဌမတွဲတွင် မန္တလေးမြို့ အကြောင်း၊ နန်းမြို့တော်အကြောင်း အကျဉ်းနှင့် စေတီပုထိုးများ တည်ရှိရာနှင့် သမိုင်းအကျဉ်းချုပ်ကို ပြဆိုရာ အခြေခံ ပဌမပိုင်း ဤတွင် လက်စ သတ်လိုက်ပါပြီ။

သုဇနာနံ ပသာဒါယ၊ သံဝေဂတ္ထာယ မေ ကတော။
ပဌမမူလဘာဂေါယံ၊ သမတ္တော သာစုဝဏ္ဏိတော။

---

၁။ အကျယ် မဟာနန္ဒယ်စင်ရပ်၊ ဗောဓိကုန်းမှ မဟာဗောဓိပင် ကြည့်။

# အခြေခံ ဒုတိယပိုင်း

ဤအခြေခံ ဒုတိယပိုင်းတွင် မန္တလေးမြို့၌ ထင်ရှားသော အဆောက်အအုံများကို အကျဉ်းချုပ်၍ ဖော်ပြထားသည်။

## လွှတ်လပ်ရေး ကျောက်တိုင်

မန္တလေးနန်းတော်ကြီး မီးသင့်ပျက်စီးပြီးနောက် ဤမှာခေတ်ကာလတွင် နန်းတွင်း၌ လွှတ်လပ်ရေးကျောက်တိုင်ကြီး ပေါ်ပေါက်လာလေသည်။ ယင်းလွှတ်လပ်ရေးကျောက်တိုင်ကြီးကို နန်းမြို့တော်အတွင်း ကျော်မိုး (မင်္ဂလာ) တံခါးအဝင် လက်ယာဖက် အရှေ့ခပ်ယွန်းယွန်းတွင် မားမားမတ်မတ် တွေ့မြင်နိုင်၏။ သက္ကရာဇ် ၁၃၀၉-ခုနှစ်၊ ပြာသိုလပြည့်ကျော် ၉-ရက်၊ တနင်းလာနေ့၊ (၄-၁-၄၈) လွှတ်လပ်ရေးရကြောင်း ခြောက်ကြောင်းရေး မော်ကွန်းစာ ရေးထိုးထားသည်။ ကျောက်တိုင်အမြင့်မှာ ပေ-၁၂၀ဖြစ်သည်။

ရဋ္ဌေ သရာဇဘာဝေန၊ ယဟိ ကာလေ ပဝတ္တတိ။
တံ ကာလံ လက္ခဏံ ကတွာ၊ သိလာထမ္ဘော သမုဿိတော။

## အာဇာနည်ဗိမာန်

သက္ကရာဇ် ၁၃၀၀-ပြည့်နှစ်၊ တပို့တွဲလဆုတ် ရက် (၁၀-၂-၃၉)တွင် ၂၆-လမ်း(အာဇာနည်လမ်း)၌ မြန်မာ့လွှတ်လပ်ရေးအတွက် အာဇာနည် ၁၇-ဦး သွေးမြေကျခဲ့သည်။ ကျဆုံးခဲ့ရသည်။ ၎င်းတို့အား သင်္ဂြိုဟ်ရာ အာဇာနည်ဗိမာန်သည် မန္တလေးမြို့ တောင်ပြင်၊ မန္တလေး–စစ်ကိုင်းသွားကားလမ်း အရှေ့ဘက် တမ္ဗဝတီသူကြွယ်ကုန်းတွင် တည်ရှိသည်။

## ဓမ္မဗိမာန်

မန္တလေးမြို့ အနောက်ကျုံးလမ်းတွင် သာသနာတော်လုံးဆိုင်ရာ ဗုဒ္ဓဘာသာ ဗဟိုအဖွဲ့၏ "ဓမ္မဗိမာန်"ကို ပြာသာဒ်တန်ဆောင်းနှင့် လှပခမ်းနားစွာ တွေ့မြင်နိုင်သည်။ ဝါတွင်းကာလ ချိန်ခါသမယတွင် ဥပုသ်နေ့တိုင်း တရား



မန္တလေးမြို့ နာရီစင်နှင့် ဈေးချိုတော်

ပွဲများ ရှိသည်။ [ရံခါ သာသနာ့အာဇာနည်ဘွဲ့ရ ပုဂ္ဂိုလ်များ ဤခမ်းမဗိမာန်၌ ပူဇော်ပွဲများ ကျင်းပသည်။ ရံခါ ဝါပတွင်လည်း ဓမ္မကထိကပုဂ္ဂိုလ်ကျော်များ၏ တရားပွဲများလည်း ရှိတတ်သည်။ အလှူမင်္ဂလာနှင့် စာပေဟောပြောပွဲများကိုလည်း ဤဗိမာန်၌ ပြုလုပ်သည်။

## သာသနာ့ဗိမာန်တော်

မန္တလေးမြို့ အနောက်ပြင် မလွန်ရပ်၌ ပရိယတ္တိသာသနဟိတအသင်းက ဆောက်လုပ်ထားသော ''သာသနာ့ဗိမာန်''ကြီး ရှိသည်။ ဤဗိမာန်တော်ကြီး၌ စာမေးပွဲများ ကျင်းပ၍ စာအောင်သံဃာတော်များကိုလည်း ဆုနှင်းသဘင် ကျင်းပသည်။ တရားပွဲများလည်း ရံခါကျင်းပသည်။ အလှူမင်္ဂလာပွဲများလည်း ဤဗိမာန်တော်မှာပင် ပြုလုပ်လေ့ရှိသည်။ ဗိသုကာပုံစံမှာ မြန်မာမှုလက်ရာများဖြစ်၍ ဗိသုကာဆရာကြီး ဦးဆိုင် ဦးစီးဆောက်လုပ်ခဲ့သည်။

## ဈေးချိုတော်

ရှေးမြန်မာမင်းများ လက်ထက်က ''ဈေးကြိုတော်''ဟူ၍ အင်းဝမြို့၊ အမရပူရမြို့များတွင် ရှိခဲ့သည်။ မန္တလေးသို့ မင်းတုန်းမင်းတရားကြီး ပြောင်းရွှေ့ရာ ဈေးကြိုတော်ကြီး ဆောက်လုပ်စေခဲ့သည်။ ဤနေရာမှာ ဝယ်သူများအား ကြိုပြီး ကုန်မျိုးဆိုင်ရာအလိုက် ရပ်ကွက်များသို့ ခေါ်ဆောင်ရောင်းချလေ့ရှိသည်။ မူလ ဈေးကြိုတော်နေရာမှာ ယခု ဈေးချို၏ အရှေ့မြောက်ဘက်တွင် ရှိသည်။ သက္ကရာဇ် ၁၂၅၆၊ (၁၈၉၇)ခုတွင် ဈေးချိုအဟောင်း မီးသင့်သဖြင့် ယာယီအဆောက်အအုံကို ဆောက်လုပ်ထားရာ သက္ကရာဇ် ၁၂၆၅၊ (၁၉၀၃)ခုတွင် ထပ်မံမီးသင့်ပြန်သည်။ သို့ဖြစ်ရာ ထိုနှစ်မှာပင် ယခုလက်ရှိ အုတ်ကာသွပ်မိုး အဆောက်အအုံ ဈေးချိုတော်ကို တည်ဆောက်ခဲ့သည်။ ငွေပေါင်း ၇၂၃၀၀၀(ခုနစ်သိန်းနှစ်သောင်းသုံးထောင်)ကျပ်ကုန်ကျသည်။[1] ဆောက်လုပ်သူမှာ အီတလီ ဗိသုကာဆရာ ဖြစ်သည်ဟု သိရ၏။ ဈေးချိုမှာ ရှေးမူအတိုင်း ၁၂-ရုံရှိသည်။ ကုန်များအလိုက် ရုံများတွင် သတ်မှတ်ခွဲခြားပြီး တည်ခင်းရောင်းချသည်။ ဖော်ပြပါ ဈေးချိုတော် ပန္နက်ချစဉ်က ဈေးချိုတော်ရပ်နေ ခေါင်မြို့က ဈေးချိုတော်ဘွဲ့ တေးထပ်ကို အောက်ပါအတိုင်း ရေးစပ်ခဲ့သည်—

---

၁။ ၁၁–သိန်းကုန်ကျသည်ဟုလည်း တချို့ မှတ်တမ်း၌ [illegible]။

### ဈေးချိုတော်ဘွဲ့ တေးထပ်

မြတ်လောင်းတော် ရွှေညာဏ်ရှု၊
ဝေဖန်ခု စီရင်။

မြေပံသုံ မဟီခွင်မှာ၊
ရှည်အစဉ်တင့်ညီး။

ရာမမင်း ပဏ္ဍာကိုခြုံသည်၊
ကမ္ဘာဟုန် ဘုန်းတော်က ကြီး။

မန်းနဂရာ အောင်နက်သန်မှာ၊
ရောင်ယှက်လျှံ ဖိတ်ညီး။

နောင်ဆက်ရန် ရိပ်ထီး၊
နီသယည်း ထွန်းပြောင်။

မြတ်ဈေးတော် အောင်တံဆိပ်ကိုဖြင့်၊
နောင်အတိတ် ချီးအံ့လောက်အောင်။

ပြောင်နိမိတ် မန်းသာခေါင်မှာ၊
နန်းညာတောင် ရွှေဘုန်းကြောင့်၊

မြေချုန်းမျှ ကျက်သရေ၊
ဖြိုးကွန့်ကွန့်ဝေ။

မိုးအညွန့် တလွှာမြေမှာ၊
သိကြွားတွေ ပုံကူးလို့လေး[၁]။ ။

### နာရီစင်

ဈေးချိုအနီး၌ နာရီစင်တည်ရှိသည်။ လမ်းဆုံနေ့ရာတွင် တည်ရှိ၍ အရှေ့အနောက် တောင် မြောက်မှ လာသူတိုင်းအား အချိန်ကို ပြောနေသည်။ ပြာသာဒ်တည်ဆောက်ထားပုံမှာ မြန်မာ့ဟန် ဖြစ်သည်။ ၁၂၆၅-ခုနှစ်က ဝိတိုရိယ ဘုရင်မကြီး၏ စိန်ရတုသဘင် အထိမ်းအမှတ်အဖြစ်ဖြင့် တည်ဆောက်ခဲ့သည်[၂]။

---

၁။ မဟာဂီတပေါင်းချုပ်။ ၂၄၀။

၂။ ၁၂၈၂-ခုနှစ်က တည်ဆောက်သည်ဟုလည်း မှတ်တမ်းတချို့၌ တွေ့ရသည်။

## စည်ပင်သာယာရုံးကြီး

၁၂၄၉ (၁၈၈၇) ခုနှစ်တွင် မန္တလေး မြူနီစီပါယ်ကို စတင်ဖွဲ့စည်းခဲ့သည်။ ဒုတိယ ကမ္ဘာစစ်ကြီး ပြီးသည်နောက် ၁၃၀၇-ခုနှစ်တွင် ယခုလက်ရှိ မြူနီစီပါယ်ရုံးကြီးနှင့် မြို့တော်ခန်းမကြီးကို ဆောက်လုပ်သည်။ မြို့တော်ခန်းမမှာ မြို့၏ ကျက်သရေဆောင် ဖြစ်သည်။ ယခင်က မြူနီစီပါယ်ရုံးကြီးအဖြစ် တွင်ခဲ့ရာ ယခု စီပင်သာယာရုံးဟု တွင်သည်။ "ဘယ်ဟာ မတည်မြဲ ဖောက်လွဲ ဖောက်ပြန်"ဆိုတဲ့အတိုင်း ဖြစ်၏။

## ဘူတာရုံကြီး

ရန်ကုန် မန္တလေး မီးရထားလမ်းကို ၁၂၅၀-ပြည့် (၁၈၈၉) ခုနှစ်တွင် ဖောက်လုပ်ခဲ့ပြီးနောက် လားရှိုး၊ မြစ်ကြီးနား၊ မုံရွာ၊ မြင်းခြံ၊ မတ္တရာမြို့ များသို့လည်း ရထားလမ်းများ ဆက်သွယ်ခဲ့သည်။ ဒုတိယ ကမ္ဘာစစ် ပြီးသည့် နောက် မန္တလေး ဘူတာကြီးမှာ တိုးတက်စည်ကားလာပြီး ဘူတာရုံကြီးကို အသစ် ပြန်လည် ဆောက်လုပ်ခဲ့သည်။ ခရီးသွားများအတွက် သွပ်မိုးစကြံ များ၊ သံတံတားကုန်းများလည်း ပြုပြင် ဆောက်လုပ်ထားသည်။

## ဆေးရုံကြီး

မန္တလေးမြို့၌ ပြည်သူ့ဆေးရုံကြီးသည် ရန်ကုန် ပြည်သူ့ဆေးရုံကြီးမှလွဲလျှင် အကြီးဆုံး ဆေးရုံကြီး ဖြစ်သည်။ ယင်းဆေးရုံကြီးသည် ဘူတာကြီး၏ အရှေ့ မြောက်ဖက်တွင် တည်ရှိသည်။ ဆေးရုံကြီးတွင် သံဃဆေးရုံ၊ အမျိုးသား ဆေးရုံ၊ အမျိုးသမီး ဆေးရုံ၊ ကလေးဆေးရုံ၊ အဆုတ်ရောဂါ ဆေးရုံ အစ ရှိသည်ဖြင့် အဆောက်အအုံများစွာ ခွဲခြားသတ်မှတ်ပေးထားသည်။

## ကိုယ်ရေပြားရောဂါကု ဆေးရုံ

မန္တလေးမြို့ မေမြို့ အထွက် ကားလမ်းတောင်ဘက်၌ ကိုယ်ရေပြားရောဂါ သည်များ ဆေးရုံရှိသည်။ ယင်းဆေးရုံကို သက္ကရာဇ် ၁၂၅၂-ခုနှစ်က တည် ဆောက်ခဲ့သည်။ အစိုးရအဆက်ဆက်တို့ တိုင်းသူပြည်သားတို့ ကျန်းမာသန် စွမ်းရေးအတွက် လိုလေသေးမရှိအောင် ကူညီစောင့်ရှောက်ကြသည်။

## ဗထူးအားကစားကွင်း

အားခွန်ဗလသည် အလွန်အရေးကောင်းပါသည်။ မကျန်းမာ၍ အားခွန် ဗလမရှိလျှင် စည်းပွားရေး၊ ပညာရေး အဖက်ဖက်မှ နောက်ကောက်ကျမည်

မှာ သေချာသည်။ ဖက်ဆစ်တော်လှန်ရေးတွင် အသက်ပေးသွားခဲ့သော ဗိုလ်မှူးကြီး ဗထူး၏ အထိမ်းအမှတ်အဖြစ် မန္တလေးမြို့ ယူ၊ ဘီ၊ အေ၊ အေ(ဘောလုံး) အားကစားကွင်းကို "ဗထူးအားကစားဝင်း"ဟု အမည်ပေးထားသည်။ နိုင်ငံတော်အစိုးရသည် တိုင်းသူပြည်သားတို့ ကျန်းမာချမ်းသာစွာရှိရန် အထူးအားပေးလျက် ရှိသည်။ ယခုအခါ အားကစားများနှင့် ပွဲကြည့်ပရိသတ်များအတွက် ခေတ်မီ အဆောက်အအုံများ ပြုပြင်ဆောက်လုပ်လျက်ရှိသည်။

## မန္တလေး တက္ကသိုလ်များ

ရန်ကုန်မြို့၌ ပဌမဆုံး တက္ကသိုလ်သပိတ်ကြီးမှစ၍ မြန်မာနိုင်ငံတွင် နိုင်ငံရေးနိုးကြားမှုများ ဖြစ်ပေါ်ခဲ့ပြီး တပြည်လုံး အုံကြွလာကာ ပညာရေးစနစ်သစ် ပြောင်းလဲရေးနှင့် လွတ်လပ်ရေးအတွက် တိုက်ပွဲများ စတင်ခဲ့ကြသည်။ ထိုသို့ အုံကြွမှုကြောင့် ၁၂၈၃-ခုနှစ်တွင် မန္တလေးမြို့မှ နိုင်ငံရေးခေါင်းဆောင် ဦးဘဦးသည် မန္တလေးနယ်မြေ ပညာရေးဌာနသစ်ဖြစ်သော ဥပစာကောလိပ် ဖွင့်လှစ်ပေးရန် ပညာရေးဝန်ကြီး အမ်-အေ-ဦးမောင်ကြီးထံ တောင်းဆိုခဲ့သည်။ မန္တလေးတောင် ရသေ့ကြီး ဦးခန္တီနှင့် မစ္စတာ ဇော်စိန်ခိုတို့ကလည်း မန္တလေးမြို့လူထု၏ ထောက်ခံချက်ဖြင့် မန္တလေး ဥပစာကောလိပ် ဖွင့်လှစ်ရန် တောင်းဆိုကြသည်။ ထိုစဉ်က မန္တလေးမြို့တွင် ကျော်ပသော ဂျီ-စီ-ဘီ-အေ ကွန်ဖရင့်မှ ဦးချစ်လှိုင် ခေါင်းဆောင်ပြီး မန္တလေး ဥပစာကောလိပ် ဖွင့်လှစ်ရေး ကြိုးစားခဲ့ကြသည်။ ယင်းတို့ကြောင့် ၁၂၈၇-ခုနှစ်တွင် မန္တလေး ဥပစာကောလိပ်ကို စတင်ဖွင့်လှစ်ခဲ့သည်။

ယင်းသို့ဖြင့် တစတစ မန္တလေး ဥပစာကောလိပ်သည် တိုးတက်ရန် ကြိုးပမ်းဆဲ ၁၂၈၉-ခုနှစ်က တကြိမ်၊ ၁၂၉၂-ခုနှစ်တွင် တကြိမ် ရန်ကုန်တက္ကသိုလ်မှ ပိတ်ပစ်ရန် ကြံစည်ခဲ့လေသည်။ ၁၃၀၄-ခုနှစ်တွင် ဒုတိယကမ္ဘာစစ်ကြီးကြောင့် ပိတ်ခဲ့ရသည်။ စစ်ကြီးပြီးသောအခါ မန္တလေး ဥပစာကောလိပ်ကို ပြန်လည်ဖွင့်လှစ်၍ ၁၃၁၀-ခုနှစ်၌ မန္တလေးတွင် ဒီဂရီကောလိပ်ကျောင်းအဖြစ်သို့တက်လှမ်းခဲ့သည်။တဖန် ၁၃၁၄-ခုနှစ်တွင် သီးခြားတက္ကသိုလ် ဖြစ်လာပြီး စိုက်ပျိုးရေး မဟာဌာနနှင့် ဆေးအတတ်သင် မဟာဌာနများ တွဲထားခဲ့သည်။ ၁၃၂၆-ခုနှစ်တွင် တက္ကသိုလ်ပညာရေးစနစ်သစ်အရ မန္တလေးတက္ကသိုလ် ပြန်လည်ဖွဲ့စည်းရာ မန္တလေးမြို့တွင် တက္ကသိုလ်သုံးခု ဖြစ်ပေါ်လာသည်။



မန္တလေး ဝိဇ္ဇာနှင့်သိပ္ပံတက္ကသိုလ်

ယင်း တက္ကသိုလ် သုံးခုတို့ကား—

၁။ ဝိဇ္ဇာနှင့် သိပ္ပံတက္ကသိုလ်၊ မန္တလေး၊

၂။ ဆေးတက္ကသိုလ်၊

၃။ စိုက်ပျိုးရေးတက္ကသိုလ်—

တို့ ဖြစ်ကြကုန်၏။

## ဝိဇ္ဇာနှင့် သိပ္ပံတက္ကသိုလ်

မန္တလေး ဝိဇ္ဇာနှင့် သိပ္ပံ တက္ကသိုလ်တွင် ဘာသာရပ်ဆိုင်ရာဌာန ၁၂-ခုဖြင့် သင်ကြားလျက် ရှိသည်။ နေ့သင်တန်းများအပြင် အထက်တန်းပညာကို ဆက်လက် သင်ကြားလိုသော လုပ်သားများအတွက် တိုးချဲ့သင်တန်းများ အမည်ဖြင့် ညနေပိုင်းတွင် သီးခြားသင်ပေးသည်။ ၁၃၃၀-ပြည့်နှစ် ပညာသင်နှစ်က သင်တန်းသားဦးရေ ၅၄၀၃-ယောက်ရှိ၍ တိုးချဲ့သင်တန်းသားဦးရေ ၆၀၄-ယောက် ရှိလေသည်။

## ဆေးတက္ကသိုလ်

မန္တလေး ဆေးတက္ကသိုလ်သည် ၁၃၁၆—ခုနှစ်တွင် ရန်ကုန်ဆေးတက္ကသိုလ် အတတ်သင် မဟာဌာနလက်အောက် မန္တလေး ဆေးအတတ်သင် မဟာဌာနခွဲ အဖြစ် စတင်ဖွင့်လှစ်ခဲ့သည်။ ၁၃၂၀-ပြည့်နှစ် မန္တလေး တက္ကသိုလ်အောက် သို့ ရောက်လာခဲ့သည်။ ထို့နောက် ပညာရေး‌စနစ်သစ်အရ ၁၃၂၆-ခုနှစ်တွင် မန္တလေး ဆေးတက္ကသိုလ်ဟူ၍ သီးခြားပေါ်လာသည်။ မန္တလေး ဆေး တက္ကသိုလ်အဖွဲ့ကိုလည်း မြန်မာနိုင်ငံတော် တက္ကသိုလ်များ ဗဟိုကောင်စီက ဖွဲ့စည်းပေးခဲ့သည်။ ၁၃၃၀-ပြည့်နှစ် ဆေးတက္ကသိုလ်တွင် ပညာဆည်းပူးနေ သော ကျောင်းသူကျောင်းသားဦးရေမှာ ၆၀၆-ယောက် ရှိခဲ့သည်။ မန္တလေး ဆေးတက္ကသိုလ်မှ ၁၃၃၀-ပြည့်နှစ်အထိ ဆရာဝန်ပေါင်း ၃၂၂-ဦး ဘွဲ့ရရှိခဲ့ သည်။ အမ်-ဘီ-ဘီ-အက်(စ်) ဆေးပညာဘွဲ့ သင်တန်းများသာမက ၁၃၂၈- ခုနှစ်မှစ၍ ဆေးပညာ မဟာသိပ္ပံ (ဇီဝကမ္မဗေဒ) ဘွဲ့လွန်သင်တန်းကိုလည်း သင်ပေးလျက် ရှိသည်။

ဘေသဇ္ဇဝိဇ္ဇာပီဌမ္ပိ၊ သံဝိဇ္ဇတိ ပုရေ သုဘေ။
မန္တလမန္တလေး ပုရေ၊ သုရာဇ ရာဇမာပိတေ။

## စိုက်ပျိုးရေးတက္ကသိုလ်

သက္ကရာဇ် ၁၂၈၆-(၂၂၊ ၁၂၊ ၁၉၂၄) ခုနှစ်၌ မြန်မာပြည် လယ်ယာစိုက်ပျိုးရေးဌာနမှ မန္တလေးမြို့တွင် စိုက်ပျိုးရေးကောလိပ်နှင့် သုတေသနဌာနကို ဖွင့်လှစ်ခဲ့သည်။ ထိုစဉ်က ဒီပလိုမာ သုံးနှစ်သင်တန်းသာ ဖြစ်သည်။ ၁၂၉၅-ခုမှ ၁၂၉၉-ခုနှစ်အထိ ပိတ်ထားခဲ့ပြီး တဖန် ၁၃၀၀-ပြည့်နှစ်မှစ၍ ရန်ကုန်တက္ကသိုလ်နှင့် ပေါင်းစပ်လျက် ကောလိပ်ကျောင်းအဖြစ် ပြန်ဖွင့်ခဲ့သည်။ ထိုအခါမှစ၍ အောင်မြင်သော ကျောင်းသားများကို ဘီ-အက်စ်စီ (စိုက်ပျိုးရေး) ဘွဲ့အပ်နှင်းသည်။ ၁၃၀၃-ခုနှစ်တွင် ဒုတိယကမ္ဘာစစ်ကြောင့် ပိတ်ထားခဲ့ပြီး ၁၃၀၉-ခုနှစ်တွင် ရန်ကုန်တက္ကသိုလ်၏ လက်အောက်၌ စိုက်ပျိုးရေး မဟာဌာနအဖြစ် ပြန်လည်ဖွင့်ခဲ့သည်။ ၁၃၂၀-ပြည့်နှစ် မန္တလေးတက္ကသိုလ် သီးခြားပေါ်လာသောအခါ စိုက်ပျိုးရေး မဟာဌာနသည် မန္တလေး တက္ကသိုလ်၏ မဟာဌာနအဖြစ် ပြောင်းလဲလာခဲ့သည်။ ၁၃၂၆-ခုနှစ်မှစ၍ ပညာရေးစနစ်သစ်အရ စိုက်ပျိုးရေး တက္ကသိုလ်အဖြစ် တိုးချဲ့တည်ထောင်ခဲ့သည်။

စိုက်ပျိုးရေး တက္ကသိုလ်သည် ငါးနှစ်သင်တန်း ဖြစ်သည်။ ၁၃၁၀-ခုနှစ်မှ ၁၃၃၀-ခုနှစ်အထိ စိုက်ပျိုးရေးဘွဲ့ ယူပြီးသော ပုဂ္ဂိုလ်စုစုပေါင်းမှာ ၃၇၃-ယောက် ဖြစ်သည်။ စိုက်ပျိုးရေး တက္ကသိုလ်ဘွဲ့ ဒီဂရီအတွက် ဘာသာရပ်ပေါင်း ၁၃-ခုကို သင်ကြားပို့ချသည်။ ၁၃၃၀-ပြည့် စာသင်နှစ် စိုက်ပျိုးရေးတက္ကသိုလ်တွင် ကျောင်းသူ ကျောင်းသားပေါင်း ၈၃၂-ယောက် ရှိလေသည်။ စိုက်ပျိုးရေး တက္ကသိုလ် အဆောက်အအုံများကို မန္တလေး ဝိဇ္ဇာနှင့် သိပ္ပံတက္ကသိုလ်နယ်မြေအတွင်းတွင် တွေ့နိုင်သည်။

ဝပ္ပနပိဇ္ဇာပီဌမှိ၊ သံဝိဇ္ဇတိ ပုမေ သုဘော။
မဏ္ဍလေ မန္တလေး ပုရေ၊ သုရာဇရာဇမာပိတော။

### စက်မှုလက်မှုသိပ္ပံ

မန္တလေးမြို့၌ စက်မှုလက်မှု သိပ္ပံကျောင်းကို ၁၃၁၇-ခုနှစ်ကစ၍ မန္တလေးရုံးကြီး တောင်ဖက်တွင် ဖွင့်လှစ်ထားသည်။ ဤကျောင်းသို့ အခြေခံ ပညာရေး အသက်တန်း စာမေးပွဲ အနည်းဆုံး (ခ) စာရင်းမှ အောင်မြင်၍ အသက် ၁၅-နှစ်မှ ၂၅-နှစ်အတွင်း ရှိသူများ အမျိုးသား အမျိုးသမီးမရွေး လျှောက်ထားနိုင်သည်။ ကျောင်းဝင်ခွင့်စာမေးပွဲ ဖြေဆိုအောင်မြင်ပြီးမှ နေခွင့်ရှိသည်။

**စက်မှုလက်မှု အထက်တန်းကျောင်းမှ စက်မှုလက်မှု အကြိုသင်တန်း စာမေးပွဲ** အောင်မြင်သူများမှာ ဤကျောင်းသို့ တိုက်ရိုက်ဝင်ခွင့်ရှိသည်။ တက်ရောက်သင်ကြားခွင့်ရသော ကျောင်းသူကျောင်းသားများမှ ရွေးချယ်၍ နှစ်စဉ် ကျောင်းသူ ကျောင်းသား ၆၀-ကို ပညာသင်ထောက်ပံ့ကြေး တလလျှင် ငွေ ၆၀-ကျပ်စီ ပေးသည်။ သင်တန်းကာလမှာ ၃-နှစ်ဖြစ်၍ ပြီးဆုံးအောင်မြင်သောအခါ ဒီပလိုမာဘွဲ့ ပေးအပ်သည်။ ဒီပလိုမာရပြီးနောက် ပညာဆက်လက်သင်ကြားလိုသူများအား ရန်ကုန်မြို့၊ စက်မှုတက္ကသိုလ်သို့ ဝင်ရောက်ရန် အရည်အချင်းစစ် သင်တန်းအတွက် တနှစ်နေပြီးမှ စက်မှုစတုတ္ထနှစ် သင်တန်းတွင် တက်ခွင့်ရသည်။

စက်မှုလက်မှုသိပ္ပံတွင် (၁) မြို့ပြအင်ဂျင်နီယာသင်တန်း၊ (၂) လျှပ်စစ်ဆက်သွယ်ရေးသင်တန်း၊ (၃) လျှပ်စစ်(အား)သင်တန်း၊ (၄) စက်မှု(အား) သင်တန်းများကို သင်ကြားချပို့ပေးသည်။ ယင်း သင်တန်းများအတွက် လက်တွေ့ သင်ကြားရန် အလုပ်ရုံ ၉-ခုနှင့် စမ်းသပ်ခန်း ၂-ခုရှိသည်။ ၁၃၃၀-ပြည့် ပညာသင်နှစ်တွင် ၃-နှစ်အတွက် အဆင့် ၃-ဆင့် ခွဲခြားသင်ကြားနေသော ကျောင်းသားဦးရေ စုစုပေါင်း ၅၄၄-ယောက် ဖြစ်သည်။

### စက်မှုလက်မှု အထက်တန်းကျောင်း စသည်

မန္တလေးမြို့၊ ဇမ္ဗူမျက်ရှင်ရပ်၌ ၁၃၃၀-ပြည့်နှစ်က စတင်ဖွင့်လှစ်ခဲ့သည့် စက်မှုလက်မှု အထက်တန်းကျောင်းလည်း ရှိသည်။ ၎င်းပြင် ဆရာအတတ်သင်သိပ္ပံ၊ အနုပညာပန်းချီနှင့် အကကျောင်း၊ ပြည်သူ့ရဲတပ်ဖွဲ့ ကျွမ်းကျင်မှုဆိုင်ရာ အတတ်သင်ကျောင်းလည်း ရှိသည်။ ၎င်းပြင် ဒေသကောလိပ် ၂-ကျောင်းရှိပြီး မန္တလေးမြို့၊ အရှေ့မြို့နယ်တွင် အထက်တန်းကျောင်း ၈-ကျောင်း၊ အလယ်တန်းကျောင်း ၃-ကျောင်း၊ မူလတန်းကျောင်း ၄၅-ကျောင်းရှိ၍ အနောက်မြို့နယ်တွင် အထက်တန်းကျောင်း ၁၇-ကျောင်း၊ အလယ်တန်းကျောင်း ၇-ကျောင်း၊ မူလတန်းကျောင်း ၇၀၊ မန္တလေးမြို့မတွင် စုစုပေါင်း အထက်တန်းကျောင်း ၂၅-ကျောင်း၊ အလယ်တန်းကျောင်း ၁၀-ကျောင်း၊ မူလတန်းကျောင်း ၁၁၅-ကျောင်းရှိသည်။

### အခြားလူမှုရေး အဆောက်အအုံများ

၎င်းပြင် မန္တလေးမြို့၌ နေ့ကလေးထိန်းဌာန၊ မူလတန်းကြိုကျောင်း၊ လူငယ်သင်တန်းကျောင်း၊ သက်ကြီး အမျိုးသမီးသင်တန်းကျောင်း၊ ဆွံ့အနားမကြားကျောင်း၊ ဘိုးဘွားရိပ်သာ၊ တိုင်းရင်းမြန်မာ ဆေးသိပ္ပံကျောင်း၊

ဗဟိုကြေးနန်းဌာန၊ ဗဟိုစာတိုက်ကြီး၊ စာကြည့်တိုက်နှင့် အမျိုးသားပြတိုက် စသည်တို့လည်းရှိလေရာ မြို့ကြီးပြကြီး အင်္ဂါနှင့်စုံလင်သည့် မြို့စင်စစ်ဖြစ်သည်။

သမ္ပန္နံ နဂရင်္ဂေဟိ၊ မန္တလေး သုပုရံ ပုရံ။
ဝိသာလံ ဝိတ္ထိန္နံ စေဝ၊ အတိဝ ရာမဏေယျကံ။

## ဒုတိယပိုင်း အပြီးသတ်ခြင်း

**သူတော်ကောင်းတို့** ကြည်ညိုဖို့ သံဝေဂယူဖို့ ဤမန္တလေးသာသနာဝင် ကျမ်းကြီးကို ရေးသားပြုစုခဲ့ရာ ဤတွင် မန္တလေးသာသနာဝင်ကျမ်း ပဌမတွဲ အခြေခံဒုတိယပိုင်း လက်စသတ်လိုက်ပါပြီ။

သုဇနာနံ ပသာဒါယ၊ သံဝေဂတ္ထာယ မေ ကတော။
ဒုတိယမူလဘာဂေါယံ၊ သမတ္တော သာဓုဝဏ္ဏိတော။

# အခြေခံတတိယပိုင်း

## ယဉ်ကျေးမှုအနုပညာတို့ စုဝေးရာမြို့

မန္တလေးမြို့သည် မြန်မာ့ယဉ်ကျေးမှုအနုပညာတို့ စုဝေးရာမြို့လည်း ဖြစ်ပေသည်။ စင်စစ်မူကား မန္တလေးသည် ယဉ်ကျေးမှုအနုပညာတက္ကသိုလ်ပင် ဖြစ်လေသည်။ မြန်မာဘုရင်များ နောက်ဆုံး နန်းစံသွားသောမြို့ဖြစ်၍လည်း မြန်မာမှုဆိုင်ရာ အနုပညာလုပ်ငန်းများ ဆက်လက်လုပ်ကိုင်နေကြသည်ကို ယနေ့တိုင် တွေ့မြင်နိုင်သည်။ "ဘုရားမတင် နတ်မဝင် လူတွင် ဆယ်ပွင့်ပန်း" ဟူ၍ ပန်းဆယ်မျိုးဆိုသော အနုပညာလုပ်ငန်းရပ်ရှိသည်။ ၎င်းတို့မှာ—(၁) ပန်းထိမ်၊ (၂) ပန်းပဲ၊ (၃) ပန်းပု၊ (၄) ပန်းချီ၊ (၅) ပန်းရန်၊ (၆) ပန်းတဉ်း (ကြေးသွန်းအတတ်)၊ (၇) ပန်းတော့၊ (၈) ပန်းတမော့ (ကျောက်ဆစ်အတတ်ပညာ)၊ (၉) ပန်းပွတ်၊ (၁၀) ပန်းယွန်း (ယွန်းထည်ပညာ) တို့ ဖြစ်ပါသည်။

"ပန်းပွင့်မာလာ တတ်သိပ္ပာ လူ့ရွာ ဆယ်နှစ်ပွင့်" ဟူ၍ (၁၁) ပန်တျာဂီတ အကပညာနှင့် (၁၂) ပန်းရွဲကျောက်သွေးအတတ် ပညာရပ်များကို ထည့်သွင်း၍ ၁၂-မျိုးရှိသည်ဟုလည်း ယူကြသည်။ မန္တလေးမြို့ပေါ်တွင် ပန်းယွန်း၊ ယွန်းထည်လုပ်ငန်းများ ယခုအခါ တိမ်မြုပ်လျက်ရှိသော်လည်း အခြားအနုပညာလုပ်ငန်းများကား ကျန်ရှိသေးသည်။ ထိုအနုပညာလုပ်ငန်းများနှင့် နှီးနွယ်လျက်ရှိသော ရွှေဆိုင်းလုပ်ငန်း၊ ရွှေလှောင်စက္ကူလုပ်ငန်း၊ ရွှေချည်ထိုးလုပ်ငန်း၊ မှန်စီရွှေချလုပ်ငန်း၊ လွန်းအချိပ်လုပ်ငန်း စသည်များကိုလည်း တွေ့မြင်နိုင်သည်။

## ကြေးသွန်းလုပ်ငန်း

ကြေးသွန်းအတတ် ကြေးသွန်းလုပ်ငန်းကို မန္တလေးမြို့ တောင်ပြင် တမ္ပဝတီ ကြေးသွန်းခတ်တန်းရပ်များတွင် အများဆုံး လုပ်ကိုင်လျက် ရှိကြ၏။ ကြေးများကို အရည်ကျို၍ ပုံသွင်းသောအတတ်ပညာ၊ ဇွန်း လင်ပန်းအစရှိသော ပစ္စည်းကဲ့သို့ ခတ်လုပ်ရသော ခတ်ပညာ ဟူ၍ ၂-မျိုးရှိသည်။ ကြေးသွန်း

လုပ်ငန်းတွင် ဘုရားဆင်းတုတော်၊ ခေါင်းလောင်း၊ ကြေးစည်၊ လင်းကွင်း၊ ချူ၊ ဆည်းလည်း၊ မောင်းဆိုင်း၊ ကြေးနောင်၊ လူရုပ်၊ ဆင်ရုပ်၊ မြင်းရုပ် စသည်နှင့် စားပွဲတင် လူ့အသုံးအဆောင် အလှအပပစ္စည်းများကို ပြုလုပ်ကြသည်၊ ယင်းလုပ်ငန်းရှိရာ တမ္ဗဝတီရပ်ကွက်ကား နာမည်နှင့်လုပ်ငန်း ဟပ်မိလေသည်။ ကြေးသွန်းလုပ်ငန်းမှ စိတ်ဝင်စားစရာကောင်းသည့် ခေါင်းလောင်းသွန်းလုပ်ပုံ ရှေးလင်္ကာကလေးကား—

"ကြေးစည်ခေါင်းလောင်း၊ တင့်ကြောင်းစီရင်၊ သွင်ပြင်လက္ခဏာ၊ ဆိုသည်မှာကား၊ အောက်ဝါကားကား၊ အဖျား ပုစွန်တုပ်၊ လည်ကုပ် ကျင်ကျင်၊ ပလ္လင်ကျားပျံ၊ ထက်ယံမနု၊ ဟောက်မည်ပြုသို့၊ စတုဟာသ၊ သေးဝစုံလင်၊ မြင်သူအများ၊ သဒ္ဓါပွားအောင်၊ သုံးပါးအတိ ဦးညွတ်ဘိသည်"—

စသည် ဖြစ်၏။

## သံထိုးလုပ်ငန်း

မန္တလေးမြို့ မဟာမြတ်မုနိဘုရားကြီးတဲ့ဘက် သံထိုးလုပ်ငန်းကို အကြီးအကျယ် လုပ်ကိုင်လျက်ရှိသည်ကို တွေ့ရသည်။ တပြည်လုံး လိုအပ်သမျှ ထီးများကို မန္တလေးက လုပ်ပေးနေသည်ဟုဆိုလျှင် စကားပိုပြောသည်ဟု စောဒနာနိုင်မည်မထင်မိချေ။ စစ်ကိုင်းငလျှင် ပုဂံငလျှင် အခါတုန်းက မန္တလေးမြို့ မဟာမြတ်မုနိဘုရားကြီး အနောက်မုခ်မှ သံထိုးပညာရှင်များ နေ့မအား ညမအား လုပ်ကြရသည်။ သံထီးတော်၊ မကိဋ်တော်၊ ငှက်မြတ်နားတော်များမှာလည်း ပန်းချီ၊ ပန်းပု၊ ပန်းထိမ်နှင့် မှန်စီရွှေချပညာ မတတ်ကျွမ်းပါက ဆရာတဆူ မဖြစ်နိုင်ချေ။

## ကျောက်ဆစ်လုပ်ငန်း

ကျောက်ဆစ်လုပ်ငန်းကိုလည်း မန္တလေးမြို့ မဟာမြတ်မုနိဘုရားကြီး အနောက်ဖက် စစ်ကိုင်းသွား ကားလမ်းဘေးတွင် တွေ့နိုင်သည်။ အနောက်ပြင် သမီးတော်ဈေး၊ ကျောက်ဆစ်တန်းများတွင်လည်း အနည်းအပါးလုပ်ကိုင်သူများကို တွေ့ရသည်။ စဉ့်ကူးမြို့နယ် စကျင်တောင်အနီး စကျင်ရွာတွင်လည်း လုပ် ကိုင်လျက်ရှိကြသည်။ သာသနာရေးနှင့်စပ်သည့် ဆင်းတုတော်၊ ကျောက်ပြား၊ ကျောက်တိုင်စသည်တို့ကို ပြုလုပ်ကြသည်။

## ကျောက်သွေးလုပ်ငန်း

မန္တလေးမြို့၌ ရှေးယခင်က ကျောက်သွေးလုပ်ငန်း ထင်ရှားခဲ့သဖြင့် ရပ်ကွက် အမည်ပင် ကျောက်သွေးတန်းရပ်ဟု တွင်သည်။ တွင်းထွက်ကျောက်စိမ်းတို့ကို သွေးလေ့သွေးထ ရှိကြသည့်အပြင် ယခုအခါ ဖန်အကြည်များကို သွေး၍ ကျောက်စိမ်းအတု ကြယ်သီး လက်ကောက်များကိုလည်း ပြုလုပ်ကြသည်။ မလွန်ရပ်ကွက်၌ ရွှေမှုန်ကြယ်သီး, ဖန်အကြည်သွေးသော လုပ်ငန်းများ လုပ်ကိုင်လျက် ရှိကြသည်။ ရှေးခေတ်အခါက ဂုန္တန်ထိုးသော လုပ်ငန်းကို ဂုန္တန် ရပ်၌ ပြုလုပ်ကြ၍ ရွှေကြယ် ငွေကြယ်ခတ်သော လုပ်ငန်းကို ကြခတ်ဝန်းတွင် လုပ်ကိုင်ခဲ့ကြသည်။

## မှန်စီရွှေချလုပ်ငန်း

မှန်စီရွှေချလုပ်ငန်းကိုလည်း မန္တလေးမြို့၌ ကြီးကျယ်စွာ ပြုလုပ်ကြသည်။ မန္တလေးမြို့ စာတိုက်တန်း (၈၁-လမ်းနှင့် ၃၅-လမ်း) ဘုရားကြီး အာနန္ဒာ စောင်းတန်းတွင် မှန်စီရွှေချလုပ်ငန်းကို အများအပြား လုပ်ကိုင်လျက်ရှိသည်။ ရှင်ပင်ပက်လက် ဘုရားအနီးဟွင်လည်း လုပ်ကိုင်ကြသည်။ ယင်းမှန်စီရွှေချ လုပ်ငန်းတွင် သစ်သား သံ နှီး အစရှိသော အဖြူထည်ကို ပုံကြမ်းပြု၍ သရိုး ထေးခြင်း၊ သရိုးကြိုးခင်းခြင်း၊ ကြိုးဆောက်ခြင်း၊ မှန်စီခြင်းများ ပြုပြီး မြေတိုက်သွင်းခြင်းများ ပြုလုပ်ရသည်။ ၎င်းနောက်မှ ရွှေချရသည်။ ဘုရားရှင် ရုပ်ပွားတော် ဆင်းတုတော်များ၊ ပလ္လင်၊ တကဲများ၊ သဉ္ဇာလီကုလားတိုင်များ၊ တံခွန်တိုင်များ၊ ပိဋကတ်တော်များထားရန် စာတိုက်ဗီရိုများ၊ မင်းခန်းတော် အပါအဝင် ပစ္စည်းများ၊ တူရိယာဆိုင်ရာ ဆိုင်းဝိုင်း စသော ပစ္စည်းများကို လုပ်ကိုင်ပေးသည်။ ဤလုပ်ငန်းကား ပန်းပုပညာရှင်များနှင့်လည်း ဆက်သွယ် လျက် ရှိသည်။

## ပန်းပုလုပ်ငန်း

မန္တလေးမြို့တွင် တောင်ရွာသစ်အရပ်နှင့် ဘုရားကြီးတဝိုက်တွင် ပန်းပုပညာ ရှင်များ ရှိသည်။ သစ်သားပန်းပုရုပ်များနှင့် ပန်းကနုတ်ဖော်သော ပန်းချီ ကားဘောင်များကိုလည်း ပြုလုပ်ကြသည်။

## ရွှေဆိုင်းလုပ်ငန်း

မန္တလေးမြို့ရှိ ရွှေဆိုင်းလုပ်ငန်းကို ကမ္ဘာကပင် အံ့ဩရသည်။ နိုင်ငံခြားသီးသီး မှ လာရောက်၍ မန္တလေး ရွှေဆိုင်းလုပ်ငန်းကို လေ့လာကြရသည်။ မန္တလေးမြို့

မျက်ပါးရပ်သည် အစဉ်အလာ ရွှေဆိုင်းလုပ်ကိုင်ရာရပ်ကွက် ဖြစ်သည်။ဆယ်မူး ရည်ပြည့်သော ရွှေကောင်းရွှေသန့်ကိုသာ အသုံးပြုသည်။ ယင်းရွှေဆိုင်း လုပ်ငန်းတွင် ရွှေလက်ဆန့်ခြင်း၊ အလျားဖောက်ခြင်း၊ ပဇ(ပါးစ)ခတ်ခြင်း၊ ရွှေခတ်ခြင်းများ အဆင့်ဆင့်ပြုလုပ်ရသည်။ ရွှေခတ်ရာတွင် ရွှေခတ်စက္ကူ တမျိုးဖြင့်ညှပ်၍ အထုပ်ပြုပြီး ရွှေများပါးလုပ်လာစေရန် အဆင့်ဆင့်ခတ်ရ သည်။ ခတ်ပြီး ရွှေများကို ရွှေလောင်းစက္ကူများ၌ ကပ်ရသော ရွှေတိုးလုပ်ငန်း ရွှေပြင်လုပ်ငန်းများ ဆက်လုပ်ရသည်။ ရွှေဘဆိုင်းလျှင် မျက်ပါးခတ်ပြီး ရွှေချပ် ၉၉-၁၀၀ ပါရှိသည်။ ယင်း ရွှေဆိုင်းလုပ်ငန်းမှာ လွန်ခဲ့သော နှစ် ပေါင်း ၉၀၀-ကျော်က ပုဂံခေတ်က စ၍ အဆက်ဆက် သယ်ဆောင်လာခဲ့ သော ယဉ်ကျေးမှု အနုပညာရပ် ဖြစ်သည်။

## ရွှေချည်ထိုးလုပ်ငန်း

မန္တလေးမြို့ မျက်ပါးရပ် ၃၅-လမ်း မီးရထားသံလမ်း ကျော်ဖြတ်လျှင် ရွှေချည်ထိုးလုပ်ငန်းများကို တွေ့ကြရသည်။ ထိုအရပ်ကား ရှေးအစဉ်အဆက် ဆက်ကတည်းက ရွှေချည်ထိုးအလုပ်များ လုပ်ခဲ့ရာအရပ်ဖြစ်သဖြင့် ရွှေချည်ထိုး ရပ်ကွက်ဟု ယခုတိုင် တွင်လျက်ရှိသည်။ အယ့်ူမင်္ဂလာ အခမ်းအနားများနှင့် မြန်မာ့ဇာတ်သဘင် အခမ်းအနားမှ လိုအပ်သော ရွှေချည်ထိုးထည်များ လုပ်ကိုင်ပေးကြသည်။

## ရွှေခတ်စက္ကူလုပ်ငန်း

မန္တလေးမြို့ မျက်ပါးရပ်အနီးတဝိုက်မှာပင် ရွှေခတ်စက္ကူများလုပ်ကိုင်ကြ သည်။ စက္ကူလုပ်ငန်းအတွက် မျှင်ပါးကို အသုံးပြုသည်။ ဝါးများကိုနှီးလှော် ၍ ရက်ပေါင်း ၁၁၀၀-ထိုးရည်စိမ်ရသည်။ ၎င်းနောက် မျိုးပြုတ်ခြင်း၊ မျိုး စိတ်ခြင်း၊ အညက်ထုခြင်း၊ ဆုံထောင်းခြင်း၊ သမင်ချိုဆက်ခြင်း၊ ကားသွင်း ခြင်း စသည့်လုပ်ငန်းများကို အဆင့်ဆင့်ပြုလုပ်ပြီးနောက် စက္ကူကြမ်း ဖြစ် လာသည်။ ထိုမှတဖန် စက္ကူကို ကားချောခြင်း၊ စက္ကူခြစ်ခြင်း၊ ကန့်ခြင်း၊ အကျက်ရိုက်ခြင်း စသော လုပ်ငန်းများကို ဆက်လက်ပြုလုပ်ပြီး ရွှေခတ်စက္ကူ များအဖြစ် ရောက်သည်။ မျက်ပါးရပ် ရွှေဆိုင်းလုပ်ငန်းသည် ရွှေခတ်စက္ကူ မပါလျှင် မပြီးနိုင်ချေ။

## ထီးလုပ်ငန်း

လူဆောင်းထီး၊ ဘုန်းကြီးဆောင်းထီး၊ ထီးဖြူ၊ ရွှေထီး စသည့် ထီးလုပ်ငန်းကိုလည်း မန္တလေး၌ လုပ်ကိုင်လျက် ရှိသည်။ ယင်းထီးလုပ်ငန်းကို ၈၄-လမ်း ရွှာဟိုင်းဈေး ၄၁-လမ်း၊ ဥပုသ်တော်ကုန်း၊ ဥပုသ်တော် မင်းဇရပ် လှေတန်း ဘုရားကြီးတဝိုက်၌ တွေ့ရှိနိုင်ပေသည်။

ရင်းပြင် လွန်းရက်ကျ အထည်လုပ်ငန်း၊ ပန်းဘဲလုပ်ငန်း၊ အရုပ်လုပ်ငန်း စသည်တို့ကိုလည်း ပြုလုပ်၍ မြန်မာ့ယဉ်ကျေးမှုအနုပညာရပ်များကို ဆက်လက် ထိန်းသိမ်းပြုလုပ်လျက် ရှိကြကုန်၏။ မန္တလေးမြို့ကား တချိန်က ဂန္ဓာရတိုင်း၌ ရှိခဲ့သော တက္ကသိုလ်မြို့တော်အစား ပေါ်ထွန်းခဲ့သည်။ ပညာအရပ်ရပ်ကို ဆည်းပူးရာ သင်ယူရာ အတတ်မြို့တော်စင်စစ် ဖြစ်ပေသည်။

မန္တလေးနာဂရံ နာမ၊ နာနာသိပ္ပနိပ္ဖာဒနံ။
အတီတေ ဂန္ဓာရေ တက္က–သီလာ ပုရံဝ ဝတ္တတိ။

## အခြေခံတတိယပိုင်း အပြီးသတ်ခြင်း

သူတော်သူကောင်း သူမြတ်လောင်းတို့ နှစ်တောင်းအားရ ဝမ်းမြောက်ရှင် လမ်း ကြည်ညိုဖို့၊ သံဝေဂရယူဖို့ ဤမန္တလေးသာသနာဝင်ကျမ်းကို ရေးသား ပြုစုရာ မန္တလေးသာသနာဝင်ကျမ်း ပဌမတွဲတွင် အခြေခံ တတိယပိုင်းကို ဤတွင် လက်စသတ်လိုက်ပါပြီ။

သုဇနာနံ ပသာဒါယ၊ သံဝေဂတ္ထာယ မေ ကတော။
ကဏ္ဍောယံ တတိယော ဣဓ၊ ယမတ္တော သာဝုဝဏ္ဏိတော။

# အခြေခံစတုတ္ထပိုင်း

## မန္တလေးနေပြည်တော်ကြီး ပေါ်ထွန်းမည်ကို ဘုရားရှင် မိန့်ခွန်းတော်ချွေခဲ့ခြင်း

သုံးလောကထွတ်ထား ဘုရားသဗ္ဗညုသည် ဖော်ပြခဲ့သည့် အတတ်ပညာမျိုးစုံနှင့် ဖော်ပြလတ္တံ့သည့် ထိပ်တန်းသာသနာ့ဝန်ဆောင်တို့ဖြင့် သာသနာထွန်းလင်းရာ မြို့ကြီးဖြစ်မည်ကို အနာဂတံသ ဉာဏ်စွမ်းအင်ဖြင့် မြင်တော်မူခဲ့လေသည်။

ဘုရားဘုန်းခေါင်သည် ညီဘွားလိမ္မာ အာနန္ဒာနှင့်အတူ ဇမ္ဗူပို့မွေး မန္တလေးတောင်မြေအင်ငူသို့ ကွန့်ချီကြွမြန်းတော်မူခဲ့ဘူးသည်။ ထိုစဉ်က လပြည့်ဝန်းတမျှ လှပရွှန်းစည်သော မျက်နှာရှိသဖြင့် စန္ဒမုခီအမည်ရှိသော ဘီလူးမသည် သဒ္ဓါကြည်ညိုခြင်း ပိုမိုကဲလွန်လှပသဖြင့် မိမိ၏ ပန်းငုံနှယ်ပုံ သားမြတ်အစုံကို ခြွေဖြတ်လှူဒါန်းခဲ့လေသည်။ ထိုအခါ ဘုရားရှင်က နောက်တော်ပါ ညီတော် အာနန္ဒာအား—

အို—ညီဘွားလိမ္မာ အာနန္ဒာ၊ ဤစန္ဒမုခီဘီလူးမကား ငါဘုရားသာသနာတော် ၂၄၀၀ ပြည့်သော ချိန်ကာလ ဝါသမယတွင် ဤ မန္တလေးတောင်သေလာအရပ်၌ ရာဇဓာနီ မင်းနေပြည်ကြီး တည်ထောင်ဖန်ဆင်းပြီး ငါဘုရား၏ သာသနာတော်ကို လွန်စွာချီးမြှောက်သူ ဖြစ်လိမ့်မည်ဟု မိန့်ခွန်းတော် လှစ်ချွေတော်မူခဲ့လေသည်။ ယင်းသို့ဖြစ်ကြောင်းကို စလေဦးပုညက—

> ဘာဝန္တရူ၊ သယမ္ဘူလျှော်၊ နှစ်ဆူစကြာ၊ ဒေသစာဖြင့်၊ သုနာပရန်၊ နက်သန်ဌာနီ၊ တမ္ပဒီသို့၊ ပါရမီနှီး၊ မဝေနေစုကို၊ မျှော်ရှုရှယ်ရည်၊ ချွတ်အံ့လည်သော်၊ မြန်ပြည်အခေါင်၊ ပန်းရွှေတောင်ဝယ်၊ ယေရောင်စက်ဝါ၊ လက္ခဏာနှင့်၊ မျက်နှာကြည်မြ၊ ရွှန်းရွှန်းပသည့်၊ စန္ဒမုခီ၊ နတ်နာရီလျှင်၊ သင်္ဂီဦးသာစ်၊ ဇမ္ဗူရစ်သို့၊ ကျစ်လစ်ဖွံ့ထွား၊ ရင်ညှို့သားကို၊ တရားညွတ်နူး၊ ပန်းနှယ်ဦးရှ်၊ ကျေးဇူးလေးနက် လှူဒါန်းဆက်သော်၊ ရွှင်ဂုဏ်ကရဝိက်၊ တောင်လုံးညိတ်မျှ၊ ထိတ်ထိတ်သဟန်၊ ရင့်ကတွန်သို့၊ ဆင်းကြွန်အင်ညီ၊ မယ်ဒေဝီအား၊ ပစီနက်တံ၊ ဗျာဒိတ်သံဖြင့်၊ တောင်ယံနှီးနိမ့်၊ ဖြိုးဖြိုးသိမ့်သည်၊ ငြိမ့်ငြိမ့် ပွဲတင်ခတ်တီးတည်း[၁]။

---

၁။ ရတနာနဒီ မော်ကွန်းအပိုဒ်၊ ၂။

ဒီပလာကာ၊ သုမ္မောနှင့် ခေတ္တာရာစီ၊ ပုဂံထောင်တည်၊ ဝရွှေပြည်၌၊
မြို့ကျက်ရည်ဓမ္မစက်၊ ငါ့နှုတ်နက်လျှင်၊ မွန်းချက်သူရိန်၊ ထွန်းခဲ့ထိန်ပြီ၊
အာလိန်ခွေညွတ်၊ သိန္နေထွတ်သို့၊ ဝင်သဝတ်ရောင်၊ မြခိုးမှောင်သည်၊
မန်းတောင်သမိုက်၊ မြေမကိုင်ထက်၊ လင့်ရိုက်သာသနာ၊ နှစ်ထောင်
သာ၍၊ ငါးရာမွန်ရှည်၊ အညွန့်စည်သော်၊ ဤသည်နတ်နှယ်၊
ကလျာငယ်လျှင်၊ နယ်ဇမ္ဗူပြင်၊ ရန်မာန်နှင်၍၊ အိမ်ရှင်စည်ကြီး၊
အလိုတီးလိမ့်၊ ငဲ့ခြီးကြော်ကြွေး၊ နှစ်ထောင်ရွေးတို့၊ လေးရာအစ၊
ထွန်းသည်ကပင်၊ ဇေယျတေဇ၊ နေလရောင်ခြည်၊ မန်းတောင်တည်
သား၊ ကြည်သရာနံ၊ စက်ပျံစီးလွတ်၊ လောကမာတ်ကို၊ ဆုံးဖြတ်
ဆော်နှိုး၊ ကုန်းဘောင်ရိုးလျှင်၊ တန်ခိုးပြည့်စုံ၊ တိုက်လုံးခြုံ၍၊ ရွှေဘုံ
ရတနာ၊ ပြည်အောင်သာကို၊ နိမ္မာနတ်တူ၊ တည်အံ့ဟူသည်။ ။
ရှစ်ဆူရိပ်ကြာ ညီးညီးတည်း[၁] —

ဟူသော မော်ကွန်း ၂-ပိုဒ်ဖြင့် မှတ်တမ်းတင်ခဲ့လေသည်။ ဖော်ပြပါသမိုင်းကြောင်းကို ခိုင်မာစေသည့်အနေဖြင့် မန္တလေးတောင်တော်ထိပ် ဆုတောင်းပြည့်ဘုရား အနီး ဘီလူးမစေတီတော်၌ စန္ဒမုခီဘီလူးမပုံကိုရင်း၊ တောင်ထက်၌ ညာဏ်တော် ၁၈-တောင်ရှိ ဗျာဒိတ်ပေး ရွှေရုပ်တော် ဆင်းတုတော်ကြီးကိုရင်း ထုလုပ်ပူဇော်ခဲ့ကြကုန်၏။ စန္ဒမုခီဘီလူးမပုံမှာ ရသေ့ကြီး ဦးခန္တီ စီမံသွန်းလုပ်ခဲ့သော ပုံဖြစ်၍ ဗျာဒိတ်ပေးရွှေရုပ်တော်ကြီးမှာ မန္တလေးတည်ထောင်စက ထုလုပ်ပူဇော်ခဲ့သော မူလရုပ်ပွားတော်မြတ်မှ ဆင့်ပွားလာသော ကိုယ်ပွားတော် ဖြစ်လေသည်။ မင်းတုန်းမင်းတရားကြီး၏ မူလကုသိုလ်တော်ဖြစ်သော ရုပ်ပွားတော်မြတ်မှာ ၁၂၅၅-ခုနှစ်က မီးသင့်ရာ ဤပုံတော်ကို အသစ်မွမ်းမံပြင်ဆင်လုပ်ဆောင်ထားခြင်းဖြစ်လေသည်။

## မန္တလေးမြို့တော် တည်ထွန်းရန် တပေါင်ပေါ်ခြင်း

"သိရိပဝရ ဝိဇယာနန္တယသပဏ္ဍိတမဟာဓမ္မရာဇာဓိရာဇာ" တံဆိပ်နာမံကို ခံယူတော်မူသော ပဉ္စမသံဂါယနာတင် ဘဝရှင် မင်းတုန်းမင်းတရားကြီးသည် သက်တော် ၃၈-နှစ်၊ သက္ကရာဇ် ၁၂၁၄-ခုနှစ်၊ တပေါင်းလဆန်း ၁၁-ရက်နေ့တွင် မင်းအဖြစ်သို့ ရောက်တော်မူသည်။ မင်းအဖြစ်သို့ ရောက်တော်မူသည့် အချိန်မှစ၍ အမရပူရမြို့တော်၌ စံလိုတော်မူစိတ် နည်းသည်နှင့် မြို့တော်သစ်၊ နန်းတော်သစ်တည်၍ စံတော်မူရန် ကြံစည်စိတ်ကူးတော်မူခဲ့လေသည်။ ယင်းသို့ ရွှေစိတ်တော်ကူးဆဲဖြစ်ချိန်တွင်—

---

၁။ ရတနာနဒီမော်ကွန်း အပိုဒ် ၃။

"မကြို့စတောင်း၊ ထွတ်မင်းလောင်း၊မင်းကောင်းရွှာပြည်၊မန္တလေး၌ အေးစိမ့်ဘည်၊ လေးမည်ကျွန်းကို၊ ဖြူဝန်းမိုး၍၊ အစိုးရတော်မူလိမ့်မည်"ဟူ၍၎င်း၊

"အသက်ရှည်ဇေလို မန်းတောင်ရိပ်ခို" စသည်ဖြင့်၎င်း

တဘောင်များပေါ်လာသည်။ ယင်းတဘောင်များလည်း မင်းတုန်းမင်းတရားကြီးအား မြန်မြန်ဆန်ဆန် မြို့တည်ဖြစ်အောင် နှိုးဆော်သကဲ့သို့ ဖြစ်လေသည်။

## မြို့တော်တည်သင့်ကြောင်း စာသွင်းကြခြင်း

ယင်းသို့ တဘောင်များ ပေါ်လာသည့်အတိုင်း မင်းတုန်းမင်းတရားကြီးသည် မြို့တော်အသစ် တည်သင့် မတည်သင့်ကို သံဃသာမိ၊ သံဃာဓိပတိ၊ သံဃနာယက၊ သံဃပါမောက္ခ၊ သံဃဦးကိုင် သာသနာပိုင်ဖြစ်တော်မူသော "ဥ ယျမမ္မာဘိမုနိဝရဉာဏကိတ္တိသိရိဓဇ မမ္မသေနာပတိမဟာမမ္မရာဇာဓိရာဇဂုရု"စသော ဘွဲ့တံဆိပ်နာမံတော် ၃-ထပ် ရရှိတော်မူသော ဆရာတော်ဘုရားကြီး ဦးဥ ယျထံ သံတော်ဆင့် ရတနာလှေကားတော်မှူး မင်းလှသီရိဇေယျသူနှင့် အမ္ဘာစာရေး ဒြ ဆပြေငါးရွာစား မင်းလှသခ်ယာတို့ကို စေလွှတ်၍လျှောက်ထားစေတော်မူသည်။

သာသနာပိုင်ဆရာတော်ဘုရားကြီးသည် ရေမြွေရှင် ငါတို့ဘုရင်သည် သာသနာပြုမင်းတရားဖြစ်သည်။ မြို့တော်သစ်၊ နန်းတော်သစ်၌ စိတ်သစ်မွေးကာ ဘုရားမြတ်စွာသာသနာတော်ကို ချီးမြှောက်တော်မူလိမ့်မည်ဟု သဘောတော်ပိုက်တော်မူ၍ ကျမ်းဂန်ထုံးစံရှိသည့်အတိုင်း မြို့တော်သစ်တည်သင့်ကြောင်း၊ ထောက်ခံအားပေးသင့်ကြောင်း မြွက်ကြားတော်မူ၍—

၁။ ရွှေရေးဆောင်ဆရာတော်၊
၂။ ဆူးခါးဆရာတော်၊
၃။ ညောင်ကန်ဆရာတော်၊
၄။ ကတိုးဆရာတော်၊
၅။ ခွေးချိုဆရာတော်၊
၆။ ဝိဘင်းပြန်ဆရာတော် ဦးတိလောက—

ဟူသော တံဆိပ်တော်ရ ဆရာတော် ၆-ပါးကို သိုက်ဓာတ်စာဟောင်း စာတမ်းများနှင့် ညှိနှိုင်းဆက်သွင်းရမည်ဟု မိန့်တော်မူသဖြင့် ဖော်ပြပါ ဆရာတော်

၆-ပါးအသီးအသီး စာဆက်သွင်းရလေသည်။ ဘုံကျော်ဆရာတော်စသော ဆရာတော်များ တချို့သဘောမတူကြချေ။ လူပညာရှိ အများအပြားတို့ကလည်း မြို့တော်သစ်တည်၍ စံတော်မူသင့်ကြောင်း စာသွင်းကြသည်။ သို့ဖြစ်၍ မြို့တော်သစ်တည်ရန်အတွက် မြို့ရာချဉ်းနင်းကြည့်ရှုရာအခါ မှစ၍ ကောင်းမြတ်သောအခါ နေ့ရက်ကိုလည်း ပညာရှိတို့က ရွေးချယ်ဆက်သွင်းစေဟူသော အမိန့်တော်မြတ်ကို သက္ကရာဇ် ၁၂၁၈-ခုနှစ်၊ ပြာသိုလဆုတ်လေးရက်နေ့တွင် နာခံတော်ပျော့ကြီးမှူး မင်းလှမင်းကျော် ထုတ်ပြန်ရသည်။

ဝန်ရှင်တော် မြတောင်မြို့စား သေနတ်ဝန်ကြီး သတိုးမင်းကြီး မဟာမင်းလှကျော်သူ စသူတို့ ၁၂၁၈-ခုနှစ်၊ တပို့တွဲလဆန်း ၃-ရက်နေ့တွင် အမရပူရမြို့မှ မန္တလေးတောင်အရပ်သို့သွား၍ မြို့နန်းရာ ချဉ်းနင်းကြည့်ရှုကြရာ မန္တလေးတောင် အဦးထား၍ တောင်ကို ဒုဋ္ဌဝတီမြစ်၊ မြောက်ကို မတ္တရာမြစ်၊ အနောက်ကို ဧရာဝတီမြစ်၊ အရှေ့ကို နတ်ထိပ်တောင်ရိုးအထိ ရတနာပုံရွှေမြို့တော်နယ် ၄-ချပ် နိမိတ်ရွှေကြိုးသတ်မှတ်၍ မြို့တော်ကို တည်သင့်ကြောင်း ပုံစံများရေးသားစေကြပြီးလျှင် တပို့တွဲလဆန်း ၄-ရက်နေ့၊ နံနက် ညီလာခံ မှန်နန်းတော်စနုဆောင်တွင် ဆက်သွင်းရာ ဤနေရာကား နန်းတော်၊ ဤနေရာကား မြို့စသည်ဖြင့် .နန်းရာ၊ မြို့ရာများကို မင်းတရားကြီးကိုယ်တိုင် ပိုင်းခြားသတ်မှတ်တော်မူသည်။

သက္ကရာဇ် ၁၂၁၈-ခုနှစ်၊ တပို့တွဲလဆန်း ၈-ရက်၊ တနင်္ဂနွေနေ့ နံနက်တွင် တောခုတ်ထွင် စင်ကြယ် သန့်ရှင်းစေတော်မူသည်။

သက္ကရာဇ် ၁၂၁၈-ခုနှစ်၊ တပို့တွဲလဆုတ် ၅-ရက်၊ သောကြာနေ့တွင် ရတနာ ၃-ပါး၊ သိကြား၊ စတုလောကပါလနတ်၊ သာသနာတော်စောင့် သမ္မာဒေဝ နတ်တို့အား ပူဇော်ပသ တိုင်ကြားပြီးလျှင် ဂြဟာဇာပွင့်ရာ အရှေ့အရပ်သို့ မျက်နှာမူလျက် စနေသား ကြိုးရင်း၊ တနင်္ဂနွေသား ကြိုးဖျားကိုင်စေ၍ ပန်းသုန်းပန္နက် စိုက်မှတ်စေ၍ ရွှေမြို့တော်ကြီးရာ၊ နန်းတော်ရာများကို အခါတော်နှင့် နေ့ကျော်သားတို့စ၍ မြေပြင်ဆင် ညီညွတ်အောင်ပြုရလေသည်။

ယင်းသည့် ၁၂၁၈-ခုနှစ်၊ တပေါင်းလဆန်း ၁၂-ရက်၊ သောကြာနေ့တွင် ရွှေမြို့တော်ကြီးတည်ရန် မြို့တော်ရာ၊ နန်းတော်မြေရာများကို ကြန်အင်လက္ခဏာနှင့် ပြည့်စုံသော နွား ၈-ရှဉ်းတို့ကို ရွှေကြိုး ငွေကြိုး တန်ဆာဆင်လျက် ရွှေထွန်၊ ငွေထွန်၊ ရွှေထွန်သွား၊ ငွေထွန်သွားတို့ဖြင့် မိတ်နံသင့်သူ ရှစ်ဦးတို့ကို ထွန်စီးစေ၍ ဂဟပတိမဟာသာလဖြစ်သော သူကြွယ် ၈-ယောက်တို့ကို ရွှေပေါက်တူး၊ ငွေပေါက်တူး စွဲကိုင်စေပြီးလျှင် ဗြာဟ္မဏမျိုးရိုးစစ်သော ပုဏ္ဏာ

ဂ-ယောက်တို့ကို ရွေးဦးတည်စေ၍ အရွှေအရပ်သို့ မျက်နှာရည်လျက် လင်္ကယာရစ် ရွှေမြို့တော်ကြီးနှင့် နန်းမြို့တော်မြေများ စ၍ စိုက်စဉ်ရသည်။

ယင်းသည့် ၁၂၁ဂ-ခုနှစ်၊ တပေါင်းလဆုတ် ၅-ရက်၊ စနေနေ့၌ မန္တလေးမြို့တော်တွင် မြို့နန်းတော် တည်လုပ်တော်မူရာ မြို့နန်းမပြီးမီ စံတော်မူရန် နန်းမြို့တော်ပုံ အတွင်း အနောက်မြောက်ထောင့် အရပ်တွင် ယာယီ စံနန်းတော်ကို အခါတော်နှင့် တွင်းတူး ဝါးထူ၍ ဆောက်လုပ်လေသည်။

သက္ကရာဇ် ၁၂၁၉-ခုနှစ်၊ ကဆုန်လဆန်း ၁၅-ရက်၊ သောကြာနေ့အဝင် မန္တလေးမြို့တော်၊ နန်းတော်ရာအတွင်း အရှေ့တောင်ထောင့်တွင် လက်နက်တိုက်ကို စတင် လုပ်ဆောင်စေတော်မူသည်။

## မန္တလေးမြို့ ပြောင်းရွှေ့တော်မူခြင်း

သက္ကရာဇ် ၁၂၁၉-ခုနှစ်၊ ဝါဆိုလဆန်း ၁၂-ရက်၊ ကြာသပတေးနေ့တွင် မန္တလေးမြို့တော်အတွင်း စံနန်းတော်၊ ဖော်ဆက်အိမ်၊ တိုက်တန်း၊ တင်းကုပ်၊ အလုပ်အဆောင် ပြီးပြေသဖြင့် မြို့နန်းတော်မှစ၍ လုပ်ဆောင်ရန်ရှိသည်များကို ကိုယ်တော်တိုင် ကြည့်ရှုလုပ်ဆောင်တော်မူရန် အမရပူရ ရွှေမြို့တော်မှ မိဖုရားခေါင်ကြီးနှင့်အတူ တိမ်ဦးလရောင် ဆင်မတော်ထက် ရွှေစက်တော်တင်၍ ရွှေ ၃-တပ်၊ နောက် ၃-တပ် ဝင်းကိုယ်ရံတော် အခင်းအကျင်းများ နှင့် မန္တလေးသို့ ပြောင်းရွှေ့တော်မူသည်။

မြို့တော်ကြီး ပန္နက်မချမီ မြို့အတွင်း မြေဖို့ညှိရန်ရှိသည်များကို ဖို့ကြ ညှိကြ၍ ကျုံးတော်ရာမြေက တူးသည့်မြေများကို အစု အမှုထမ်းတို့ ဖို့ညှိကြရာ မင်းတရားကြီး ကိုယ်တော်တိုင် တိမ်ဦးလရောင် ဆင်မတော်မှာ ရွှေစက်တင်တော်မူ၍ ဝင်းကိုယ်ရံတို့နှင့် ထွက်တော်မူပြီးလျှင် မြောက်မျက်နှာ၊ အနောက်မျက်နှာများကို ကြည့်ရှုတော်မူ၍ ဝင်တော်မူသည်။ တဖန် ဝါခေါင်လဆန်း ၆-ရက်နေ့၌ တောင်မျက်နှာ အလယ် တံခါးမှ ထွက်တော်မူ၍ မြို့တော် တည်လုပ်တော်မူရန် ဌာန ဒေသများကို ကြည့်ရှုတော်မူပြီး လျှင် ဝင်တော်မူသည်။

## မြို့ကွက်ချ လွှတ်တော်ဆောက်

ယင်းနောက် ဝါခေါင်လအတွင်း မန္တလေးမြို့တော်၊ မြို့တွင်း၊ မြို့ပြင်၊ ဈေးများနှင့် မင်းမိဖုရား ဝန်တော်အိမ်ဝန်း၊ မင်းညီမင်းသား၊ မှူးတော် မတ်တော် သဌေး သူကြွယ်တို့ဝင်းရပ်စု ကွက်စု တန်းအိမ်၊ လမ်းအိမ်ကို

ပုံတော်ပါသည့်အတိုင်း ဝန်ကြီး၊ အတွင်းဝန်၊ မှူးတော် မတ်တော်တို့ အနေကျအောင် ကြည့်ရှုရသည်။

ထိုသည့် ၁၂၁၉-ခုနှစ်၊ တော်သလင်းလဆန်း ၁၀-ရက်၊ သောကြာနေ့ နန်းဘော်မြို့တော်အဘွင်း လွတ်တော်တွင်းဝန်း တိုင်ထူဆောက်လုပ်လေသည်။ ၎င်းပြင် တော်သလင်းလဆုတ် ၂-ရက်၊ သောကြာနေ့တွင် အမရပူရမြို့မှ စွယ်တော်ဗင်၊ ပဟိုရ်စင်များကို စတင် ပြောင်းရွှေ့တည်ဆောက်သည်။

## နန်းစဉ်ဘုရားများနှင့် သံဃာတော် ၅၀၀-ကျော်တို့ကိုလည်း မန္တလေးသို့ ပင့်ဆောင်ခြင်း

ထိုသည့် သက္ကရာဇ် ၁၂၁၉-ခုနှစ်၊ တန်ဆောင်မုန်း လပြည့်ကျော်တွင် မန္တလေးမြို့တော်၌ စွယ်တော်ဗင်မှစ၍ ဆရာတော် သံဃာတော်များ သီတင်းသုံးရန် ယာယီကျောင်းတော်များ ဆောက်လုပ်ပြီးစီးပြီဖြစ်သဖြင့် အမရပူရမြို့တော်မှ ရုပ်ပွားတော်၊ စွယ်တော်ခါတ်၊ ပိဋကတ်တော်၊ အသီတိရဟန္တာ၊ သာသနာပြု ,သာသနာပိုင် ဆရာတော်ဘုရားကြီးနှင့် တံဆိပ်တော် ရ-မရ ဆရာတော် သံဃာတော် ၅၀၀-ကျော်တို့ကို မင်းညီမင်းသား မှူးတော် မတ်တော် သူဌေး သူကြွယ်တို့ ကြပ်မ ခြံရံစေပြီးလျှင် ခမ်းနားကြီးကျယ်စွာ တပ်ဝင်းအခင်းအကျင်းများနှင့် ဘုရားရှင်ရုပ်ပွားတော်တို့ကို ထီးဖြူ ၇-လက်၊ ပိဋကတ်တော်၊ အသီတိ ရဟန္တာရုပ်တုတော်များကို ထီးဖြူ ၆-လက် အုပ်မိုး၍ မှန်စီ ထမ်းစင်နှင့် တင်၍ မန္တလေးမြို့တော်သစ်သို့ ပင့်ဆောင်ကြလေသည်။

၎င်းပြင် "ဥေယျမမ္ဘာလင်္ကာရမဟာဓမ္မရာဇာဓိရာဇဂုရု"၊ "ဥေယျမမ္ဘာဘိဝံသသီရိပဝရာလင်္ကာရဓမ္မသေနာပတိမဟာဓမ္မရာဇာဓိရာဇဂုရု"၊ "ဥေယျမမ္ဘာဘိမုနိဝရဉာဏကိတ္တိသီရိဓဇဓမ္မသေနာပတိမဟာဓမ္မရာဇာဓိရာဇဂုရု" ဟူသော ဘွဲ့တံဆိပ်တော် ၃-ထပ်ရ သံဃဦးကိုင် သာသနာပိုင် ဆရာတော်ဘုရားကြီးကို ထီးဖြူတော် ၄-လက်၊ တံဆိပ်တော်ရ မရ ဆရာတော် သံဃာတော် ၅၀၀-ကျော်တို့ကို ထီးဖြူတော် ၂-လက်စီ အုပ်မိုး၍ မန္တလေးမြို့တော်သစ်သို့ ပင့်ဆောင်ကြကုန်၏။

သမ္ဗုဒ္ဓပဋိမာယော စ၊ ပေဋကာပေါတ္ထကေပိ စ။
ဘိက္ခူ သံဃိန္ဒပမုခေ၊ အာနေသုံ ဘိနဝံ ပုရံ။

## နန်းမြို့တော်ပန္နက်ချ၊ အုတ်မြစ်ချခြင်း

ယင်းသည့် သက္ကရာဇ် ၁၂၁၉–ခုနှစ်၊နတ်တော်လဆန်း ၁၂–ရက်၊သောကြာနေ့တွင် နန်းမြို့တော်ကို ပန္နက်ချ၍ နတ်တော်လဆုတ် ၄–ရက်၊ သောကြာနေ့တွင် အုတ်မြစ်ချသည်။ ပြာသိုလဆုတ် ၇–ရက်၊ အင်္ဂါနေ့တွင် အမရပူရမြို့နန်းတော် ဓေတဝန်ဆောင်တော်ရှိ မင်းရုပ်တုတော်များကို ထွက်တော်မူသည့် အခမ်းအနားနည်းတူ ရွှေ ၃–တပ်၊ နောက် ၃–တပ် ခင်းကျင်း၍ အမြောက်သံကြားအခါတော်နှင့် ရထားတော်ထက် တင်ဆောင်ပြီးလျှင် ထီးဖြူ ၂–လက်စီ အုပ်မိုးလျက် မန္တလေး ရွှေမြို့တော်သစ်သို့ ဝန်ကြီး အတွင်းဝန် ဝန်ထောက် မှူးတော် မတ်တော်တို့ ကြပ်မဆောင်ယူသည်။

## မြို့တော်၊ ကျုံးတော် အစရှိသော ၇–ဌာန ပန္နက်ချခြင်း

"အုတ်ကျဲစ်ကျော်အေး မန္တလေး"ဟူသည်နှင့်အညီ သက္ကရာဇ် ၁၂၂၁-ခုနှစ်၊ ကဆုန်လဆန်း ၂-ရက်၊ အင်္ဂါနေ့ နံနက် ၁-ချက်တီးအချိန်အခါတော် အတိုင်း မန္တလေးမြို့တော်ကြီး မြို့ရိုးအုတ်မြစ်ချရန်များကို တံခါး၊ ပြ၊ တန်ဆောင်း၊ ကြီးကြပ်မည့်သူဝန်ကြီး၊ အတွင်းဝန် ဝန်ထောက်၊ မှူးတော် မတ်တော်တို့ အသီးအသီး ကြပ်မ၍ မြေညှိပြင်ဆင်ရသည်။

၁၂၂၁-ခုနှစ်၊ ကဆုန်လဆန်း ၁၃-ရက်နေ့၊ ညဥ့် ၂-ချက်ကီးကျော် ၁၄-ရက်၊ တနင်္ဂနွေနေ့သို့အဝင် နာရီပြည့် ၂-ပါဒ်အချိန်တွင် အမြောက်သံကြားအခါတော်နှင့်—

၁။ ရွှေမြို့တော်ကြီး၊
၂။ ကျုံးတော်၊
၃။ မဟာလောကမာရဇိန်စေတီတော်၊
၄။ သိမ်တော်ကြီး၊
၅။ မဟာအတုလဝေယန်ကျောင်းတော်၊
၆။ ပိဋကတ်တိုက်တော်၊
၇။ သုဓမ္မာဇရပ်တော်—

ဟူသော ၇-ဌာနကို တပိုင်နက် ဝန်ကြီး၊ အတွင်းဝန်၊ ဝန်ထောက်၊ မှူးကြီး၊ မတ်ကြီးတို့ အသီးအသီးကြပ်မ၍ စနေသားကို ကြိုးရင်း၊ တနင်္ဂနွေသားကို ကြိုးဖျားမှ ကိုင်စေလျက် တနင်းလာသားကို ရွှေပန္နက်၊ ငွေပန္နက် စိုက်မှတ်စေပြီးလျှင် စာရင်းရန်ထားရာပါသည့် စားတော်ကွမ်းရေ၊ မှူးသား၊ မတ်သား၊ သဌေးသူကြွယ် နေ့ကျော်သားတို့စ၍ အုတ်မြစ်ချရန် ကျင်းတူးရသည်။

အခါတော်မရောက်မီ မြို့လေးထောင့်မြေတွင် တွင်းတူး၍ အုတ်အင်္ဂတေ အသေအချာလုပ်ဆောင်ပြီးလျှင် ပိဿာ ၁၈၀.၀၀ အဖုံးအပိတ်စုံအိုးကြီးကို အတွင်းစဉ့်သုတ်၊ အပြင်စဉ့်သုတ် ကောင်းမွန်စွာ လုပ်ဆောင်၍ စဉ့်အိုးကြီး တလုံးတလုံးအတွင်း နှမ်းကြီးဆီ ပိဿာ ၄၀၊ နှမ်းလျှင်ဆီ ၄၀၊ မုန်ညင်းဆီ ၄၀၊ ၃.ရပ်ပေါင်း ဆီ ၁၂၀-ကို ထည့်သွင်းစေပြီးလျှင် မြဲမြံခိုင်ခံ့အောင် ဖုံးပိတ်ပြီးမှ သက္ကရာဇ် ၁၂၂၁-ခုနှစ်၊ ကဆုန်လဆန်း ၁၃-ရက်နေ့၊ ညဉ့် ၂. ချက်တီးကျော် ၁၄-ရက်၊ တနင်္ဂနွေနေ့သို့အဝင် ၂.နာရီ၊ ၃.ပါဒ်၊ ၅.ဗီဇနာ ၁.ပြန် ခရာပြည့်အချိန်မတိမ်းမယိမ်းစေရ တည့်မတ်စွာ ဆီအိုးကြီးကို မြှုပ်နှံရသည်။

သက္ကရာဇ် ၁၂၂၁-ခုနှစ်၊ ကဆုန်လဆုတ် ၆.ရက်နေ့၊ ညဉ့် ၃.ချက်တီး ကျော် ၇.ရက်၊ တနင်္လာနေ့သို့အဝင် ၄.နာရီ၊ ၂.ပါဒ်၊ ၂.ဗီဇနာ၊ ၅.ပြန်၊ ၅.ခရာအချိန်တွင် ရွှေမြို့တော်ကြီးနှင့်တကွ ၇-ဌာနကို တပြိုင်နက် အကြီးအကြပ် မှူးတော်၊ မတ်တော် နေ့ကျော်သားတို့စ၍ အမြောက်သံကြား အခါတော်နှင့် တပြိုင်နက် အုတ်စီခင်းလုပ်ဆောင်ပြီးလျှင် မြို့တံခါး ၁၂.ရပ် ယွန်းဆက်ပြေ တန်ဆောင်းပြာသာဒ်တိုင်များကို စိုက်ထူရသည်။

မြို့တော်လေးမျက်နှာ ခတ်တံခါးလေးခု၌ ပြာသာဒ်ဘုံ ၇.ဆင့်၊ မိတ်တံခါး ရှစ်ခု၌ ပြာသာဒ်ဘုံ ၅.ဆင့်၊ ထောင့်ပြကြီး ၄.ခု၊ ပြယဲ ၃၇.တို့မှာ ပြာသာဒ်ဘုံ ၅.ဆင့် လုပ်ဆောင်၍ သစ္စေး၊ သားရိုး၊ ဟင်းသပြဒါး၊ ရွှေ မွမ်းမံရသည်။

တံခါးတော်တိုင်ထူမတ်သည့်နေ့ကစ၍ အမရပူရ မြို့တံခါးဟောင်းအမည် များကို မခေါ်စေရ၊ သမုတ်တော်မူသည့် ကမ္ပည်းသစ်အမည်ကိုသာ ခေါ် ဝေါ်ရမည်ဟု အမိန့်တော် မှတ်ပြီးလျှင်—

၁။ ရွှေမျက်နှာ တံခါးကြီး ၁၂-ရပ် မြောက်စွန် ဝန်ထောက် ပုပ္ပါးမြို့စား မဟာမင်းလှမင်းထင်ကျော် ကြီးကြပ်သည့် မိတ် တံခါးကို လွန်ကဲတံခါး။

၂။ မကွေးမြို့စားဝန်ကြီး သတိုးမင်းကြီး မဟာမင်းလှသီဟသူ ကြီးကြပ်သည့် အလယ်သူရဇ္ဇ ခတ်တံခါးကို ဦးထိပ်တံခါး။

၃။ ဝန်ထောက် ခန်းပတ်မြို့စား မဟာမင်းလှသီဟသူ ကြီးကြပ် သည့် တောင်စွန်မိတ်တံခါးကို သောင်းညွတ်တံခါး။

၄။ တောင်မျက်နှာ အရှေ့စွန် ဝန်ထောက် ဖောင်ဝန့်မြို့သစ်မြို့စား မဟာမင်းထင်သီဟသူ ကြီးကြပ်သည့် မိတ်တံခါးကို ကျွန်းလုံး ယူတံခါး။

၅။ လောင်းရှည်မြို့စား အတွင်းဝန်မင်းကြီး မဟာစည်သူ ကြီးကြပ်သည့် အလယ်ကောလီခေတ် တံခါးကို ကျော်မိုးတံခါး။

၆။ ဗန်းမော်အတွင်းဝန်မင်းကြီး မဟာမင်းလှစည်သူ ကြီးကြပ်သည့် တောင်မျက်နှာ နောက်စွန်မိတ်တံခါးကို ရန်နည်းတံခါး။

၇။ အနောက်မျက်နှာ တောင်စွန် သစ်တော်ဝန်မင်းကျော်မင်းလှ စည်သူ ကြီးကြပ်သည့် မိတ်တံခါးကို ကြေးမုံတံခါး။

၈။ မြတောင်မြို့စား သေနတ်ဝန်ကြီး သတိုးမင်းကြီး မဟာမင်းလှ ကျော်သူ ကြီးကြပ်သည့် အလယ်ပါပ ခေတ်တံခါးကို စည်ရှည် တံခါး။

၉။ အတွင်းဝန် ရေနံချောင်းမြို့စား မင်းကြီးမဟာမင်းကျော် မင်းခေါင် ကြီးကြပ်သည့် နောက်မျက်နှာ မြောက်စွန်မိတ် တံခါးကို ထင်ရှားတံခါး။

၁၀။ မြောက်မျက်နှာ နောက်စွန် ပင်းတလဲမြို့ ပုဂံမြို့ဝန် မင်းကြီး မဟာမင်းခေါင် ကြီးကြပ်သည့် မိတ်တံခါးကို စည်သာတံခါး။

၁၁။ ပခန်းကြီးမြို့စား ဝန်ကြီး သတိုးမင်းကြီး မဟာမင်းလှစည်သူ ကြီးကြပ်သည့်အလယ်အမြိတ္တခေတ်တံခါးကိုလေးသိန်းတံခါး။

၁၂။ ကင်းဝန်မဟာမင်းလှဇေယသူ ကြီးကြပ်သည့် မြောက်မျက်နှာ ရှေ့စွန်မိတ်တံခါးကို မန်းဦးတံခါး သမုတ်တော်မူသည်။

## အသီးအသီး ကြီးကြပ်လုပ်ဆောင်စေခြင်း

ရွှေမြို့တော် အရှေ့မြောက်ထောင့် ပြကြီးကို လက်ဝဲဝင်းမှူး မြေဒူးမြို့စား မင်းကြီး မဟာမင်းခေါင်၊ အရှေ့တောင်ထောင့် ပြကြီးကို မြို့ဝန်နောက်တော်ပါ မြင်းဝန်မင်းကြီး မဟာမင်းခေါင်၊ အနောက်တောင်ထောင့် ပြကြီးကို မြင်းစုဝန်ကြီး မင်းကြီးမင်းလှမင်းထင်၊အနောက်မြောက်ထောင့် ပြကြီးကို ရွှေဝန်မှူးသူရဲဝန်မင်းကြီး မဟာသမိန်ဘောဖြတ်စကို ကြီးကြပ်၍လုပ်ဆောင်စေတော်မူသည်။ ကျန်ပြငယ် ၃၂-များနှင့် ရွှေမြို့တော်ကြီး ၇ ဌာနအဝင် ကျုံးတော်၊

စေတီတော်၊ သိမ်တော်၊ ကျောင်းတော်၊ ပိဋကတ်တိုက်တော်၊ သုခမ္မာဇရပ်တော်များမှာလည်း အမိန့်တော်နှင့် ခန့်ထားကြီးကြပ်စေသည်။ မှူးတော်မတ်တော်တို့ကို အသီးသီး ကြီးကြပ်စေပြီးလျှင် အခါတော် အမြောက်သံကြားသည်နှင့်တပြိုင်နက် စ၍ လုပ်ဆောင်ကြရသည်။ ဖော်ပြပါ ၇-ဌာန တည်ဆောက်ရာအရပ်၌ ပွဲသဘင် ကြီးစွာခံရသည်။

ရွှေမြို့တော်ကြီးအပါအဝင် ၇-ဌာနတည်သည့် အချိန်အခါသမယတွင် ထောင်တန်း အကျဉ်းကျခံနေရသူတို့ကို ဘေးမဲ့ပေးတော်မူသည်။

## စေ့ငုအောင် ကမ္ဘည်းတပ်စေခြင်း

တံခါးဘောင်ပြင် မီးတားရွက်အနီး အုတ်ပလ္လင် ၃-ဆင့်ခံ၍ မော်ကွန်းတိုင်စိုက်ထူကမ္ဘည်းတပ်ပြီးလျှင် သက္ကရာဇ် ၁၂၂၁—ခု ကဆုန်လပြည့်ကျော် ၆-ရက်၊ ညဉ့် ၃—ချက်တီးကျော် ၇—ရက်၊ တနင်းလာနေ့သို့အဝင် ၄-နာရီ ၂—ပါဒ် အချိန်တွင် ရတနာပုံ ရွှေမြို့တော်ကြီး ဦးထိပ်တံခါး၊ သောင်းညွှတ်တံခါးစသော ဆိုင်ရာတံခါးအမည်နှင့်တကွ တံခါး ၁၂-ရပ် စေ့ငုအောင် ကမ္ဘည်းတပ်စေတော်မူသည်။

## သာသနာတော်နှစ် ၂၄၀၀—အထိမ်းအမှတ်

မြို့ရိုးအုတ်မြစ်သံဘောင် ၁-တောင်၊ အုတ်ရိုးထု ၁-တာ၊ အရပ်သံတောင် ၁၅-တောင်၊ သူရဲခို သံဘောင် ၃-တောင်၊ ၂-စုအရပ် ၁၈-တောင်၊ အချင်းတာ ၆-ရာ၊ ၄-မျက်နှာတာပေါင်း ၂၄၀၀၊ ယင်းသို့ တည်လုပ်သည်မှာ သာသနာတော်နှစ် ၂၄၀၀-ရောက်သောအခါ၌ တည်လုပ်သည့် အထိမ်းအမှတ်အနေဖြင့် တည်လုပ်ခြင်း ဖြစ်သည်။

ရွှေမြို့တော်ကြီး တပြလျှင် တာ ၅၀-စီထား၍ အရှေ့အနောက် ၁၂-ပြ၊ တာ ၆၀၀၊ တောင်မြောက် ၁၂-ပြ တာ ၆၀၀၊ အဝန်းတာပေါင်း ၂၄၀၀၊ ပြကွက်ပေါင်း ၁၄၄-ရှိသည်တွင် နန်းတော်ရာပြကွက်ပေါင်း ၁၆ ကွက်ကိုနုတ်၍ ကျန်ပြကွက်ပေါင်း ၁၀၈—ကွက်မှာ မင်းမိဖုရား၊ အိမ်ရှေ့မင်း၊ မင်းညီမင်းသား၊ မှူးတော်မတ်တော်၊ သဋ္ဌေးသူကြွယ်၊ အမှုထမ်း၊ ဆင်းရဲသား၊ ကျွန်မျိုးတို့ နေထိုင်ရန် ဖြစ်သည်။ ကျုံးတော်အကျယ် တာ ၂၀-ထား၍ မြို့တွင်းမြို့ပြင်၊ တံခါးလမ်း၊ ပြလမ်း၊ ဒူးလမ်းများကိုလည်း အကျယ် ၉-တာစီ အညီအမျှ ထားရသည်။

ရှင်ဘိုးတော်ရှင်၊ မင်းထက်မင်းလျှင်၊ နန်းခင်းမြေကြန်၊ ချင့်ဝေဖန်လျက်၊ ရွှေညာဏ်ပိုက်ကြုံး၊ အစဉ်ထုံးဖြင့်၊ မြို့ကျုံးစေတီ၊ သိင်္ဂီလျှံမောင်း၊ သိမ်ကျောင်းသုဓမ္မာ၊ ရွှေစာအမြွတ်၊ ပိဋကတ်တိုက်၊ သမိုက်မြမှန်၊ ခုနစ်ဌာန်ကို၊ ဆောက်ဘန်အောင်စည်၊ တပြိုင်တည်းက[၁]။

ဤသို့စသည်ဖြင့် နန်းတော်စသည်တို့ကို တည်ဆောက်တော်မူ၍ မင်းတုန်းမင်းတရားသည် တိုင်းပြည်ကို အုပ်ချုပ်တော်မူ၍ ဘုရားမြတ်စွာ သာသနာတော်ကို များစွာ ချီးမြှောက်တော်မူခဲ့လေသည်။

မန္တလေးမြို့တော်ကြီးနှင့် နန်းတော်ကြီးတို့၏ ကြီးကျယ်ခမ်းနားလှပုံကို စလေဦးပုညသည် အောက်ပါ ရှစ်ဆယ်ပေါ်တေးထပ်(လူးတားညှပ်)ဖြင့် မှတ်တမ်း ပြုခဲ့လေသည်။

မန္တလေးဘွဲ့ ရှစ်ဆယ်ပေါ်တေးထပ်(လူးတားညှပ်)

သုံးသိန်းသုံးသောင်းလေးထောင်ထိပ်၊ နှစ်ကျိပ်ရှစ်ထက် မဟာဝင်၊ အတိတ်ဖြစ်ပျက် ကမ္ဘာတွင်အောင်၊ ဘယ်ရာဇဝင် မစံမြန်း။ လေးဆယ့်ရှစ် ရပ်ပြာသာဒ်ရံသည်၊ နတ်ဝိသုကံ သစ်လင်းဖန်သည့်နန်း။

"လူးတားညှပ်" ရှစ်သောင်းလေးထောင်၊ နှစ်ပြန်ဆောင်သား၊ ရန်အောင်ဗဟို၊ မြမြင်းမိုရ်ဝယ်၊ ရေညို့ခွေချပ်၊ ဂဟေထပ်လျက်၊ မြေစပ်ခန်းဝါ၊ ကဲ့ပမာသို့၊ မန္တာဘူတပတ်၊ မြေဥက္ကင်လည်း၊ လူနတ်ချီပင့်၊ ပလ္လင့်သဏ္ဌာန်၊ ဘုံဗိမာန်ဝယ်၊ ဝေယန်ကြငှန်း၊ သိကြားနန်းသို့၊ တသန်းခြည်ရောင်၊ သုံးတိုက်လောင်သည့်၊ အခေါင်သေဌ မင်းတည့်လေး။ ။ဝိသုဒ္ဓိပွင့်ပန်း တည်သည့်နန်း။

တေးထပ်ဆက်။ ။အိုင်ရေနဝရတ် နှုန်းတန္တိကို၊ ရွှေကျုံးဂမ္ဘီရံကာသန်း၊ ပြည်ကြီးမွန်ဖောင် လောင်ကမန်းနှင့်၊ ရွှေတောင်ရွှေနန်းကျက်သရေ၊ ရွှေလောင်း ရွှေသေ့ ထွေထွေယှက်၊ တေဇော်ရွှေစက်ရေလက်ျာရစ်ခွေ၊ ရတနာဘုမ္မိတိုင်းဌာနေ၊ သမိုင်းစာခွေ ထိန်ထိန်လှစ်လို့၊ နေဗ္ဗုဒ္ဓရာဇ် နတ်ရှင်ခေတ်ပေ၊ အံ့မျိုးသာစွထွေ၊ ရွှေနန်းစံသက် မဂ္ဂဒေလို၊ ပုံတောင်းစက်ရွှေ ဆိုက်ပွဲခါဖြာ့လေး။

---

၁။ မင်္ဂလာချောင်း ၆–ပိုဒ်။

## အခြေခံစတုတ္ထပိုင်း အပြီးသတ်ခြင်း

သူတော်ကောင်းတို့ ကြည်ညိုရန်၊ သံဝေဂယူရန် ရေးသားစီရင်အပ်သော မန္တလေးသာသနာ့ဝင်ကျမ်း အဋ္ဌမတွဲတွင် မန္တလေးမြို့တော်တည်ပုံကို အကျဉ်း ပြဆိုရာဖြစ်သော အခြေခံစတုတ္ထပိုင်း ဤတွင် ပြီး၏။

သုဇနာနံ ပသာဒါယ၊ သံဝေဂတ္ထာယ မေ ကတော။
စတုတ္ထမူလဘာဂေါယံ၊ သမတ္တော သာဓုဝဏ္ဏိတော။



# အခြေခံပဉ္စမပိုင်း

## ရတနာပုံနေပြည်တော် မြေမြို့ရိုးကြီး

## တံခါး ၅၇-ရပ် လင်္ကာ

မဟာဒေဝရာဇ်၊ နတ်ဖြစ်ရိပ်ငြိမ်၊ တာဝတိံသနှင့်၊ နှိုင်းချိန်ပမာ၊ ဩဘာသာယာ၊ နတ်သညာဖြင့်၊ ရတနာပုံမည်၊ မြတ်ရွှေပြည်ဝယ်၊ ထောင်ခြည်ရောင်ယှက်၊ ရွှေကြည်ရွက်ကို၊ ရေတွက်ဘွယ်လှစ်၊ တံသားထစ်သို့၊ ခုနစ်ငါးဆယ်၊ အသွယ်သွယ်ကို၊ သိလွယ်စေငှာ၊ လင်္ကာပေါင်းရုံး၊ ပန်းနွယ်ကုံးပိမ့်၊ သောင်းလုံးဆံကျင်၊ အရှေ့ပြင်ဝယ်၊ လွန်းကြင်-လိုင်ကျော်၊ လိုင်ကျွန်းဆိုင်လျက်၊ ရိပ်မြိုင်ရဲဘက်ကင်း၊ ပုံသင်းလှိုင်ကြူ၊ ဥတုသုံးကြိမ်၊ တိုက်-ဒါန်း-နှိမ်နှင့်၊ မွေသိမ်စွာလှ၊ ပ-ဒု-ဘ-ခအောင်၊ ရန်မှောင်ရှင်းစင်၊ နန်းထွန်းထင်တည်၊ ဥဒည်မရိမ်း၊ အောင်ငြိမ်း-သာစည်၊ မြရည်သိမ်းစံ၊ တတန်သည္ဘာ၊ မော်ကွန်းသာသည်၊ ရတနာရောင်တုံ၊ သာစုံ-သူစံ၊ ဆယ့်ရှစ်ဘန်တည့်၊ တတန်လှည့်ကာ၊ တောင်မျက်နှာ၌၊ ရတနာရွှေစိုင်၊ ကြိုင်လှိုင်-ခွန်ယူ၊ ကောင်းလှိုင်ဟူသည်၊ တမူကျော်မိုး၊ တန်ခိုးကြူးရိုက်၊ ကောင်းမြိုက်လျှံတင်၊ ကဲနှစ်ဆင့်နှင့်၊ မြင့်-မိုး တံဆိပ်၊ လေးရန်ပိတ်၍၊ နှိပ်-နှိမ်-နိုင်-နှင်း၊ ဆယ့်တစ်သင်းတည့်၊ ထွန်းလင်းတေဇာ၊ နောက်မျက်နှာလည်း၊ ဇေယျာရှိန်းရှိန်း၊ ရန်ပေါင်းငြိမ်းသည်၊ ထိန်းရ-ထုံးရှည်၊ မြူခြည်မမှောင်၊ မြန်အောင်-မြရိပ်၊ လျှံဘိတ်ဘောင်ရှည်၊ ရွှေရည်စံချာ၊ စဉ်ကာမပျက်၊ ပန်းဆက်-ဘာရိန်၊ ဂေါဝိန်-စံရှည်၊ တမည်ရေစုံ၊ ရန်လုံပိုက်ကျုံး၊ တန္ဒုန်းရေကြည့်၊ စက်ရိပ်ထွန်းစည့်စံရှား၊ မပြားရဲထင်၊ မြသွင် ရန်ပြို၊ ရဲတပ်ဆိုသည်၊ ထိုဆိုအံ့ဖွယ်၊ ရွှန်းရွှန်းကယ်အောင်၊ တဆယ့်ရှစ်ရပ်၊ ကမ္ဘည်းတပ်၍၊ တရပ်ဒိသာ၊ မြောက်မျက်နှာလည်း၊ မည်သာရဲထွန်း၊ တုလွတ်နှံ့လှိုင်၊ ကြူ-သင်းပြိုင်၍၊ ရိုင်မြိုင်သိစံ၊ အမွန်နှစ်လေ၊ သာ-သောက်ပေတည့်၊ ညွန့်ဝေလှိုင်သာ၊ ရတနာမာန်အောင်၊ လျှံပြောင်ကွန့်မြူး၊ ရဲသွန့်ခူးသား၊ မြောင်းဦး-မျိုးဦး၊ ဆယ်ရပ်ထူးသည်။ ။မျိုးဦးသတ္တပဉ္စာတည်း ။

ဤလင်္ကာတွင် ပါသော တံခါး ၅၇-ချပ်ကား—

အရှေ့မျက်နှာမြောက်စွန်းမှ တောင်သို့—

---

၁။ ပိုက်ကျုံးတံခါး ဗိုလ်မှောင်ဆိုင်။

၁။ လွန်းကြင်၊ ၂။ လှိုင်ကျော်၊ ၃။ လှိုင်ကျွန်း၊ ၄။ လွတ်ကင်း၊ ၅။ လှိုင်ကြူ၊ ၆။ ဦးတိုက်၊ ၇။ ဥဒါန်း၊ ၈။ ဦးနှိမ်၊ ၉။ အောင်နန်း၊ ၁၀။ အောင်ထွန်း၊ ၁၁။ အောင်ထင်၊ ၁၂။ ဥဒည်၊ ၁၃၊ အောင်ငြိမ်း၊ ၁၄။ သာစည်၊ ၁၅။ သိမ်းစံ၊ ၁၆။ သညာ၊ ၁၇။ သးစုံ၊ ၁၈။ သူစံ၊

တောင်မျက်နှာ အရှေ့စွန်မှ အနောက်သို့—

၁။ ကြိုင်လှိုင်၊ ၂။ ခွန်ယူ၊ ၃။ ကောင်းလှိုင်၊ ၄။ ကျော်မိုး၊ ၅။ ကောင်းမြိုက်၊ ၆။ ကဲမြင့်၊ ၇။ ကဲမိုး၊ ၈။ ရန်နှိမ်၊ ၉။ ရန်နှိပ်၊ ၁၀။ ရန်နိုင်၊ ၁၁။ ရန်နှင်။

အနောက်မျက်နှာတောင်စွန်မှ မြောက်သို့—

၁။ ထိန်းရ၊ ၂။ ထုံးရှည်၊ ၃။ မြန်အောင်၊ ၄။ မြရိပ်၊ ၅။ ဘောင်ရှည်၊ ၆။ စံရာ၊ ၇။ ပန်းဆက်၊ ၈။ တာရိန်၊ ၉။ ဝေါဝိန်၊ ၁၀။ စံရှည်၊ ၁၁။ ရေစုံ၊ ၁၂။ ပိုက်ကျုံး၊ ၁၃။ ရှေကြည့်၊ ၁၄။ စက်ရိပ်၊ ၁၅။ စံရွာ၊ ၁၆။ ရဲထင်၊ ၁၇။ ရန်ပြို၊ ၁၈။ ရဲတပ်။

မြောက်မျက်နှာအနောက်စွန်မှ အရှေ့သို့—

၁။ ရဲထွန်း၊ ၂။ လှိုင်ကြူ၊ ၃။ လှိုင်သင်း ၄။ သီဝံ၊ ၅။ လေသာ၊ ၆။ လေသောက်၊ ၇။ လှိုင်သာ၊ ၈။ မာန်အောင်၊ ၉။ မြောင်းဦး၊ ၁၀။ မျှို့ဦး အားဖြင့် ၅၇-ရပ် ဖြစ်သည်။

### မန္တလေးရွှေမြို့တော် တံခါး ၁၂-ရပ် တေးထပ်

ကိုးမျက်စုံ ရှောင်တင့်၊ တောင်မန်းမြင့် သေလာ။
ထောင်သန်းပွင့် နေပမာလို၊ ရတနာပုံ စံကိုင်း။
ပြုဗ္ဗာထွက် တံခါးမည်ကို၊ ကမ္ဘာတည် ထွန်းလိမ့်သမိုင်း။
လွန်ကုန်နှင့် ဦးထိပ်ပြင်၊ သောင်းညွတ်ခွင် မှန်တိုင်း။
ဒက္ခိဏာ တောင်ပိုင်းမတော့၊ စံနိုင်းရ ကျွန်းလုံးယူ။
ကျော်မိုး-ရန်နည်ဆန်းပါဘိ၊ ထိပ်နန်းက ကြေးမုံတဆူ။
စည်ရှည်နှင့် ထပ်တူ၊ စံယူကာ ထင်ရှားပ၊
မြောက်ပါးက စည်သာခေါ်ဆို၊ လေးသိန်းပဟိုရ်။
မန်းဦးက သာပိုသည်၊ ရာဇဂြိုဟ် ပြည်ကြီးသို့လေး။

## မန္တလေးရွှေမြို့တော်တံခါး ၁၂-ရပ်နှင့် မြို့တည်လင်္ကာ

မင်္ဂလာအောင်မြေ၊ မန်းတောင်ခြေလည်း၊ အနေဘင့်ဆုံး၊ မန္တာတ် ဘုန်းသို့၊ စံနှုန်းစေရာ၊ မရှိပါရှင့်၊ မန္တလာဘူမိ၊ လျှမ်းဖြိုးညီသည်၊ သီရိကျက်သရေ၊ တက်ဖြိုးဝေသား၊ ခေတ်နေ-မိတ်နံ၊ ဘုံပျံလွှားလွှား၊ တံခါးပြမြို့၊ ဝန်းရံဆို့သည်၊ နတ်တို့ကွန်းမြောက်၊ ရွှေနန်းဆောက်၍၊ အံ့လောက်စေရာ၊ ရွှေမျက်နှာတွင်၊ သာယာလွန်ကဲ၊ ခပဲဦးထိပ်၊ လျှံဖိတ်အထွတ်တောင်မူ၊ ကျွန်းလုံးယူနှင့်၊ ဇမ္ဗူကျော်မိုး၊ ပိုင်စိုးရန် နည်၊ နောက်လည်ကြေးမုံ၊ ရောင်စုံစည်ရှည်၊ ကျွန်းတည်ထင်ရှား၊ မြောက်ပါးစည်သာ၊ ပညာဖြင့်ထိန်း၊ လေးသိန်းတံခါး၊ မန်းဦးများ နှင့်၊ ပြကားတန်ဆောင်း၊ ပြာသာဒ်ပေါင်းလည်း၊ ပေါင်း လေးဆယ့် ရှစ်၊ သက္ကရာဇ်မှာ၊ အုတ် ကျစ် ကျစ် အိုက်၊ ကမ္ဘည်းရိုက်၍၊ စိုက်သည့် မော်ကွန်း၊ ထွန်းသည့်ကဆုန်၊ ကျော်တုံ ခြောက်ရက်၊ ညဥ့်သုံးချက်နှင့်၊ လွန်တက်နာရီ၊ စတုချီ၍၊ ခါမှီ ၁၂-ပေါဒ်၊ မိတ်-ခေတ်တံခါး၊ မြို့ပြ များလည်း၊ ရှည်လျားနေဝင်ဘို့၊ တူပြိုင်ပျို့လျက်၊ အောင်မျို့မင်္ဂလာ၊ သတ္တဝါလျှင်၊ ကောင်းစွာခြိမ့်လေး၊ အောင်သံပေးသည်။ ။မြည်ကြေး ခြိမ့်ခြိမ့် ကုန်၏တည်း။

(အလယ် နန်းမတော် မိဖုရား၏ စာရေးတော်ကြီး ရှိမ်းမကားရွာ သား စာရေးသည်။)

## မန္တလေးမြို့ ရပ်ကွက်များ

မန္တလေးမြို့တော်ကို မင်းတုန်းမင်းကြီးက စတင် တည်ဆောက်သောအခါ အလျားအနံ ၁၂-ပြစီ ရှိသော စတုရန်းကွက်ကြီးကို အုတ်ရိုးဖြင့် ကာရံလျက် "လေးကျွန်းအောင်မြေ"ဟု မြို့အမည်ကို ပေးခဲ့လေသည်။

၎င်းနောက် မြို့တော်၏အလယ်တည့်တည့် ၁၆-ပြကိုယူ၍ နန်းတော်ကို ဆောက်လုပ်ခဲ့လေသည်။ထိုနန်းတော်ကို "မြနန်းစံကျော်"ဟု အမည်ပေးခဲ့လေ သည်။ ရတနာပုံ မန္တလေးမြို့ပေါ် ၄-ပြင် ၄-ရပ်တို့၌ ရပ်ကွက်ပေါင်း စတု ရန်းကွက်ကျကျ ၆၄-ကွက် ဖွဲ့စည်းခဲ့ရာ ယခုအခါ အရှေ့ပြင်မှ ကျွန်းလုံးမော်၊ ဝိဇယမဟီ၊ ဇေယျမင်္ဂလာ၊ ဘူမိဇေယျာ ရပ်ကွက်များ၊ တောင်ပြင်မှ အောင် ချမ်းသာရပ်ကွက်၊ အနောက်ပြင်မှ အောင်မြေရန်လုံ၊ ဇမ္ဗူကြင့်နန်း၊ တုလွတ် ရန်အောင်၊ ဘေးမဲ့လွတ်ရှောင်၊ ကျွန်းလုံးကြေငြာ၊ ဘုန်းတော်ရောင် ရပ်ကွက်

များ၊ မြောက်ပြင်မှ မြနန်းတန်ဆောင်၊ မြနန်းအောင်မြေ၊ မြနန်းစံရာ၊ မြနန်းဘုံသာ၊ မြကျွန်းမြေငူ စသည့် ရပ်ကွက်များ ပျောက်ကွယ်သွားပြီး ယခုအခါ ရင်ကွက်ပေါင်း ၃၈–ကွက်သာ ရှေးအမည်အတိုင်း ထင်ရှားသည်ဟု သိရ၏။ ရှေးယခင်က ရှိခဲ့သော မန္တလေးမြို့တော် ၄–ပြင် ၄–ရပ်၊ ရပ်ကွက်ပေါင်း ၅၄–ကွက်ကို အောက်ပါ ဝက်မစွတ်မြို့စား ဝန်ထောက်မင်း စပ်ဆိုသော လင်္ကာဖြင့် သိရ၏။

## မန္တလေးမြို့ လေးပြင် ၅၄–ရပ်ကွက်လင်္ကာ

ရတနာပုံ၊ ဇေယျာကြွင်နန်း၊ ပြည်ရွှေမန်းဝယ်၊ နန်း၏ဝန်းကျင်၊ လေးပြင်မျက်နှာ၊ ရိကာဝပ်ညောင်း၊ ရပ်ကွက်ပေါင်းကို၊ ခြီးသောင်းသြဇာ၊ မင်္ဂလာဖြင့်၊ သညာပညတ်၊ တံဆိပ်ခတ်၍၊ တပ်မှတ်တော်မူ၊ လှိုင်ကြူပျံ့မွှေး၊ ငါးဆယ့်လေးကို၊ တဝေးလူဗိုလ်၊ မှတ်စေလို၍၊ သံချိဗျူပာ၊ လင်္ကာအားဖြင့်၊ ပျံ့ရှားချိလွှင်၊ သံပိုင်းတင်လိမ့်။

**ရှေ့ပြင်မှာသော်။** ။ကျွန်းလုံးမော်နှင့်၊ ထင်ပေါ်ပေါက်ပြ၊ ဝိဇယမဟီ၊ ကျော်ညီအိမ့်မျှ၊ ဇေယျမင်္ဂလာ၊ သညာတွင်ဘိ၊ ဘူမိဇေယျာ၊ မဟာဇေယျဘုံ၊ ဗိုလ်ပုံပျော်မှီး၊ ပြည်ကြီးမျက်မှန်၊ ထတန်ဝှဲခြီး၊ ပြည်ကြီးမျက်ရှင်၊ ခုနစ်အင်တည်း။

**တောင်ပြင်မှတ်ထုံး။** ။ပတ်ကုံးပျော်ဘွယ်၊ ပေါယယ်ဆောရ၊ ဇမ္ဗုမျက်ရှင်၊ ပုံယင်ဝေါင်းရုံး၊ ပတ်ကုံးဝန်းကျင်၊ ကြည်ရှင်ဗိုလ်ပုံ၊ ရန်မျိုးလုံနှင့်၊ မျိုးပုံမြတ်ရာ၊ မဟာနွယ်စဉ်၊ စီလျဉ်ဝံသ၊ သကျနွယ်စဉ်၊ ပေါင်းယဉ်တကွ၊ မောရဂီဝါ၊ ကြေညာပေါက်ပြ၊ စိတြမဟီ၊ သညီထင်စွာ၊ ဟေမာဇလ၊ ကဥ္စနမဟီ၊ ပျော်ညီသာစွ၊ ဟေမမာလာ။ ဗိုလ်ပါရွှင်ပျ၊ ချမ်းမြသာစည်၊ ပတ်လည်ကြေညာ၊ အောင်ချမ်းသာဲဟု၊ သချာဖွဲ့ရုံး၊ တဆဲ့သုံးရှင့်၊ တွက်ကျုံးမွှန်လှ။

**ပစ္ဆိမဝယ်။** ။အမရစံခေါင်၊ ထို့နောင်တဝ၊ အမရဌာနီ၊ ကျော်ညီသာဆုံး၊ ပြည်လုံးချမ်းသာ၊ ရေစာပြောဝ၊ မေဃဂီရိ၊ နွံသိကျော်သဲ၊ ပုလဲငွေရောင်၊ ဖြန့်ဆောင်ဝှဲခြီး၊ ပြည်ကြီးကျက်သရေ၊ အောင်မြေရန်လုံ၊ ဗိုလ်ပုံပြောထူ၊ ဇမ္ဗူကြွင်နန်း၊ တွင်မှန်းပျံ့မွှေး၊ ချမ်းအေးသာစံ၊ ပတ်ရန်ပျော်မှတ်၊ တုလွတ်ရန်အောင်၊ ထို့နောင်မှတ်ဘွဲ့၊ ဘေးမဲ့လွတ်ရှောင်၊ အောင်နန်းရိပ်သာ၊ ရတနာဘူမိ၊ လွှံ့သိကျေညာ၊ မဟာအောင်မြေ၊ ဗိုလ်ခြေရှင်ဆုံး၊ ကျွန်းလုံးကျေညာ၊ နတ်ရွာစံနှုန်း၊ ရွှေဘုန်းရှိန်တုန်း၊ ကျွန်းလုံးဥသျှောင်၊ မြန့်ဘောင်ပေါက်ပြ၊ တမ္ဗဝတီ၊ သညီမြေပေါ်၊ သန်လျက်မော်နှင့်၊ မွှေလျော်ပျော်ခန်း၊

စိန်ပန်းဒေးဝန်း၊ ရွှင်လန်းကျော်ခြီး၊ ပြည်ကြီးပျော်ဘွယ်၊ ပေါရယ်နှံ့သီ၊ သီရိဟေမာ၊ ကျေညာကျော်သိ၊ သီရိမာလာ၊ ဗိုလ်ပါအုပ်ထွေ၊ အောင်မြေသာစံ၊ ကျော်လျံဝှံခြီး- ပြည်ကြီးရန်လုံ၊ ကြည်ယုံပျော်နွဲ၊ မင်းတဲအိကင်း၊ လျံဝင်းတောက်ပြောင်၊ ဘုန်းတော်ရောင်နှင့်၊ ညောင်ကွဲဌာန၊ သမ္ဗိဏ္ဍမူ၊ ဇေနတိန်း၊ မှတ်ကိန်းပုံယင်၊ ဤသိုစင်တည့်၊ မြောက်ခွင်ဥတ္တရ၊ စိစဉ်ပြမူ၊ ကြကျွန်းတန်ဆောင်၊ မန်းတောင်နောက်ယွန်း၊ မြနန်းအောင်မြေ၊ မသေ့မှတ်ခန်း၊ မြနန်းစံရာ၊ ဗိုလ်ပါရွှင်လန်း၊ မြနန်းဘုံသာ၊ သာယာတင့်ရွှန်း၊ မြကွန်းမြေငူ၊ ငါးရပ်ဟူ၍၊ ရှင်လူမှတ်ရန်၊ ပေါင်းတုံထွန်းမူ၊ ရွှေဌာန်သတ္တ၊ တောင်မှ တေရသ်၊ နောက်မှတ်နှစ်ဆယ်၊ ကိုးစွန်းကယ်လျက်၊ မြောက်ဝယ်ငါးဖြာ၊ သချ်ာတွက်ရေး၊ ငါးဆယ့်လေးကို၊ ပျံ့မွေးသာချို၊ ကဗျာဆိုသည်။ ။ သိလိုသူ၏ လက်သုံးတည်း [၁]။

## မန္တလေးဝိဂ္ဂိုဟ်နှင့် အရကောက်

ဖော်ပြပါရပ်ကွက်ပေါင်း ၅၄-ရပ်ကွက်တို့ဖြင့်လည်း အလွန်စည်ကားလှသော မန္တလေးမြို့၏ မန္တလေးဟူသောအမည်ကို "ပဏ္ဍိတဓဇသီရိပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ မိုင်းခိုင်ဆရာတော်သည် အောက်ဖော်ပြပါအတိုင်း ဝိဂ္ဂိုဟ်ညာသ်ကောက်တော်မူခဲ့လေသည်။

မံ သီရိံ ဓာရတီတိ မန္တလေး။ မံ သီရိံ၊ အသရေကို။ ဓာရေတိ၊ ဆောင်တတ်၏။ ဣတိ တသ္မာ၊ ထိုသို့ ကျက်သရေကို ဆောင်တတ်သောသတ္တိကြောင့်။ မန္တလေး၊ မန္တလေးမည်၏။ မံသဒ္ဒါရှေးရှိသော ဓရဓာတ်။ ဇ ပစ္စည်း၊ တနည်း၊ အ ပစ္စည်း၊ အ ကို ဇ ရေး၊ ရ ကို လ ရေး၍ မန္တလေးပြီးစေ။ တနည်း ဓ ကို တ ရေး၍ မန္တလေးပြီးစေ။

ဓာရေတိကား ကတ္တုသာဓနကိတ်ဝိဂ္ဂိုဟ်၊ ဓလေးပုဒ်ကား ကတ္တုသာဓနကိတ်ပုဒ်၊ မံ ဓာရေတိကား ကတ္တုသာဓနကိတန္တသမာသ်ဝိဂ္ဂိုဟ်၊ မန္တလေးပုဒ်ကား ကိတ်ဝိဂ္ဂိုဟ်အတွင်းဝင်သော ဒုတိယာတပ္ပုရိသ်သမာသ်ပုဒ်။

မံ ဟူသော ရှေ့ပုဒ်၏အရကား သီရီတိ ပညာ ပညာနမေတံ-ဟူသော ဒွါရမူလဋီကာ၊ သီရိတိ သောဘာ ဟူသော ဂဏ္ဌိပုဒ်နှင့်အညီ ပညာဉာဏ်၊ ကောင်းမှုကံ၊ တင့်တယ်ခြင်းဟုဆိုအပ်သော ကျက်သရေ ရ၏။ ဓရဓာတ်၏အရကား ထိုကျက်သရေကို ဆောင်တတ်သော မန္တလေးမြို့၏ ပကတူပနိဿယပစ္စယသတ္တိရ၏။ ဇ-ပစ္စည်း အ-ပစ္စည်းအရကား သတ္တိမန္တဖြစ်သော မန္တလေးမြို့ဒြပ်ရ၏။

---

၁။ မန္တလေးမြို့တည် နန်းတည်စာတမ်း။ ၃၆၀–၉။

မန္တံ လာတိ ဂဏှာတီတိ မန္တလေး။မန္တံ၊ အတိုင်ပင်ပညာဉာဏ်ကို။ လာတိ ဂဏှာတိ။ ယူတတ်၏။ ဣတိ တသ္မာ၊ ထိုသို့အတိုင်ပင်ပညာဉာဏ်ကို ယူဘတ်သောသတ္တိကြောင့်။ မန္တလေး၊ မန္တလေးမည်၏။

မန္တသဒ္ဒူပပဒ လာ-ဓာတ်၊ ဧ-ပစ္စည်း။ တနည်း အ-ပစ္စည်းကို ဧ—ရေး၊ မန္တလေး ရုပ်ပြီးစေ။ မန္တံ လာတိ ဂဏှာတီတိကား ကိတန္တသမာသ်ပုဒ်။ ဇပ္ပုရိသ် ၆-ပါးတွင် ဒုတိယာဇပ္ပုရိသ်သမာသ်ပုဒ်။ မန္တဟူသောရှေးပုဒ်အရကား အတိုင်ပင်ဉာဏ်ပညာရ၏။ လာ-ဓာတ်၏အရကား မန္တလေးမြို့ဒြပ်၏ အတိုင်ပင်ပညာအား အားကြီးသောအကြောင်းဖြစ်၍ ကျေးဇူးပြုဇတ်သော ပဂဇတူပနိဿယသတ္တိရ၏။ ဧ-ပစ္စည်း၊ အ-ပစ္စည်းအရကား သတ္တိမန္တဖြစ်သော မန္တလေးမြို့ဒြပ်ရ၏။

ကျောက်စရေးအက္ခရာတွင် မန္တရေးရှိသည်ကို မန္တလေးဖြစ်အောင် ရ—ကို လ-ရေးရမည်။ သာသနာတော်ကျမ်းဂန်တို့၌ ခတ္တိယမဟာသာလ၊ ဗြာဟ္မဏ မဟာသာလ၊ ဂဟပတိမဟာသာလသဌေးကြီး ၃—ဦးကို ဟောသော မဟာ သာလပုဒ်၌ များမြတ်သော ဥစ္စာနှစ်ရှိသောကြောင့် မဟာသာရဟု ရှိလိုသည်ကို ရ-ကို လ—ရေး၍ မဟာသာလရှိကြောင်းကို သဒ္ဒါကျမ်း၊ အဋ္ဌကထာဋီကာတို့၌ လာသကဲ့သို့တည်း။

သီလက္ခန်ဋီကာသစ်နိဂုံးဝယ် မဏ္ဍလာစလသာမန္တပုဒ်တွင် မဏ္ဍလာစလသာမန္တပုဒ်၌ အစလသဒ္ဒါကား တောင်ဟော၊ သာမန္တသဒ္ဒါကား အနီးဟောဖြစ်၍ မဏ္ဍလေးတောင်၏အနီး ဆိုလိုသည်။ မဏ္ဍလဟု မုဒ္ဓဇ ဏ-ကြီးနှင့် ဍရင်ကောက်ဆင့်၍ မဏ္ဍလေးဟု ပါဠိစီသည်မှာ ပါဠိအဋ္ဌကထာတို့၌ မန္တလေးပုဒ် မဆင်ရှား။ မဏ္ဍလပုဒ်သာ ထင်ရှားသောကြောင့် ဏ-ကြီးနှင့် ဍ-ရင်ကောက်ဆင့်၍ မဏ္ဍလေးပါဠိ စီရင်တော်မူဟန်ရှိသည်။ သို့သော်လည်း လောကဝေါဟာရသာ အရာဖြစ်၍ လောကဝေါဟာရထုံးစံအတိုင်း မန္တလေးဟူ၍ ရေးသားစီကုံးခြင်းသည် သင့်မြတ်သည်သာ ဖြစ်၏။ ထို့ကြောင့် ဧင်းဋီကာသစ်ဆရာတော်အလိုဖြင့်လည်း မဏ္ဍလပုဒ်ကို သုတ်ကြီးဖြင့် မန္တလပြု၍ ထို့နောင် လ—၌ အ—ကို ဧ—ရေးပြန်၍ မန္တလေး ခေါ်ဝေါ်ခြင်းသည် သင့်၏ ဟု ယူရာ၏။

ဤကား မန္တလေးပုဒ် ဝိဂ္ဂဟဉာဏ်ကောက်အဆုံးအဖြတ်တည်း[၁]။

---

၁။ တိပေဋကဝိနိစ္ဆယကျမ်း၊ ဒုတိယတွဲ။ ၅၄၁—၂။

## မန္တလေးမြို့ဘွဲ့များ

ဖော်ပြပါ မန္တလေးမြို့ကို စာရေးဆရာ ကဗျာတတ်သိ ပညာရှိပုဂ္ဂိုလ် ကဝိခိုရ်တို့ အမျိုးမျိုးအဖုံဖုံ ဖွဲ့ဆိုကြသည်။ စိန္တကျော်သူ ဦးဩသည်—

သီရိခေတ္တ၊ မြောက်မှ ပုဂံ၊
ရွှေယံ ခပ်ခိုင်း၊ မြင်စိုင်း ပင်းယ၊
စစ်ကိုင်းစသည်၊ အင်းဝနန်းတည်၊
အပြည်ပြည်တို့၊ မရှည်ကာလ၊
သုဉ်းခဲ့မှလျှင်၊ သီလရတနာ၊
ပြည်တော်သာကို၊ စကြာတင့်ရှန်း၊
နှစ်ပွင့်ထွန်းသည်၊ ရွှေခွန်းတည့် မိန့်တော်ပေး မန္တလေး—

ဟူ၍ စပ်ဆိုခဲ့သည်။

## မန္တလေးမြို့ဘွဲ့ ဘွဲ့သီချင်း

မန္တလာဘုံ—မြေခံဘူမိ—ပြည်ရန်နှိမ်×သုဒသ်ကယ်ဝေယန်၊ နှုန်းစံတည့် ရွှေဝတိန်× မြတ်ဘုန်းနေလအာသမ္ဘိန်× ရာဇိန်—က္ကန္ဒာ— သခ်ါ မြောက်သွန်း နန်းတည်စံ × သဟာဘိသေ×ညွန်းလို့လေး × သာသနာ ရောင်ဝါ ထောင်ခြည်ထွန်းလို့လေး။

ရတု။ ။ကျွန်းမှန်ယူထက်၊ ပီသုသေလာ၊ မြေမျက်နှာဝယ်၊ ရတနာပုံ၊ ဓာတ်စုံကြွင့်နှံး၊ တည်သိမ်းမြန်းခဲ့၊ ကိန်းခန်းသာဘိ၊ သိုက်လာညှိ သည်၊ ပါစိ ရဝါ၊ ရွှေပြည့်ဗွာက၊ စကြာရောက်မည်၊ ကျော်စေ သည်နှင့်၊ ဆုရည်ပန်ညောင်း၊ ရွှေကံကောင်းဝယ်၊ ထီးပေါင်းတရာ၊ ဖူးညွတ်လာအံ့။ ။တေဇာတော်ထွန်းပါလို့၊ လေးကျွန်းငယ်ဝိုက်ခြုံ၊ ညီလာပိုင်သိမ်း၊ အောင်ကိန်းရ နက်သန်ဘုံ×ဘုန်းစက်ဟုန်၊ ဝသုန် ရေမြေစောင်းမျှလေ× ရာဇဝင် ဘယ်တွင် မကြုံတောင်းပါဘုလေး× ဗျာမြွက်တော် သံညောင်း×ရာသက်တော်ရှည်ကြောင်း× တောင်းဆု ဝေ×သွန်းညောင်းရည် — ညွှန်းအောင်စည်တီးပါလို့၊ ကောင်းချီးတွဲ့ ကြေးကြော်သံ။

**သဖြန်။** ။မြတ်ဘုန်းတော်ကံ၊ နတ်သုကံ စီမံ့သာတဲ့၊ ရတနာ ရွှေပြည် ပုံက၊ ဆယ်နိုတုံသန်း။ ရွှေပစ္စင်။ တံခါးတော် စိန်တုရင်နှင့်၊ ဘယ်ရာ ဝင်မကြုံဘူးအောင်၊ ထူးတဲ့ပြည်နန်း[၁]။

## မန္တလေးဘွဲ့ လွမ်းချင်း

လာမေလိုက်ခဲ့တော့၊ ယယ်ကြိုက်ကယ်ကြင်ဆွေ၊ တို့မန်းမြေမှာ၊ ကန်တော်ရေ ချိုချိုသောက်ပါလို့၊ ဘေးပျောက်လို့ရန်ကွာ၊ သာယာ ထူးတဲ့ မြို့ပေလေး။

တချောင်းရွှေယယ်၊ လောင်းလှေယယ်မှ ကူးတို့၊ ဗိုတည်ညီ၊စုန်ကာ ဆန် ပြန်ကာပို့လို့၊ တို့တခင်မေ၊ ယဉ်တဆွေရယ်၊ မြင်စေပြီးမှ၊ လှလှ ရွှန်းရွှန်း၊ လွမ်းသီးပန်းကို၊ ကမ်းစေသမှု၊ ဝက်မြေဥနှင့်၊ နန်းသူ့ သက်လှယ်၊ လက်ဆောင်တော်ပေးရန်ဘို့၊ ခင်လေးမောင်ဝယ်ခဲ့၊ မဟာနွယ် သမုဒ္ဒိရ်ရယ်၊ ရေမြစ်တိမ် ဟိုသောင်စဆီသို့၊ စခန်းတော် မောင်မယ်ချပါလို့၊ တောပုရှင် စိန္တေယျကိုတဲ့၊ ဖူးရမယ်လေး[၂]။

မန္တလေးမြို့ကား မြို့တည်ပြီးသည့်အချိန်မှစ၍ ယခုထိတိုင် သံဃာတော် ထောင်ပေါင်းများစွာ(သောင်းကျော်)သီတင်းသုံး၍ ပရိယတ်၊ ပဋိပတ် နှစ်ရပ် မှုရလုံ့လအားသစ်ရာမြို့ဖြစ်ရာ ဘုရားမြတ်စွာ သာသနာ့ဇရောင် တောက်ပြောင် ထိန်ဝင်း လင်းလက်ရာမြို့ ဖြစ်လေရာ မန္တလေး သာသနာတော်နှင့် စပ်၍ လည်း ပညာရှိ ကဝိမိုရ်တို့အဖွဲ့ ကဗျာ လင်္ကာအမျိုးမျိုးတို့ဖြင့် ဖွဲ့ဆိုခဲ့ကြရာ ဤမန္တလေးသာသနာဝင်ကျမ်း ပဥ္စမတွဲ၌ သုခတသီတို့ လေ့လာရန် မန္တလေး သာသနာဘွဲ့ ကေပိုဒ်လင်္ကာအချို့ကို အောက်ပါအတိုင်း ဖော်ပြအပ်ပါသည်—

## မန္တလေး သာသနာဘွဲ့

မန်းမင်္ဂလာ၊ ရှုတိုင်းမှာတည်း၊ သာယာကဲလွန်၊ နတ်ရေကန်ဝယ်၊ ဖန်ရည်ဆိုးတပ်၊ လွန်တင့်အပ်သား၊သပ်သပ်ပယ်ပယ်၊ ကြီးငယ်သံဃာ၊ ရွှေဟင်္သာတို့၊ ကျာကျာသည့်ညီ၊ပျော်မြူးစံလျက်၊ နိုင်ငံပြည်သူ၊ ပြောထူ များစွာ၊ ဘမရာငှက်၊ ဝင်ထွက်သွယ်သွယ်၊ ပန်းဝတ်ရယ်သည်၊ ကြည်

---

၁။ မဟာဂီတပေါင်းချုပ်၊ ၅၂။

၂။ မဟာဂီတပေါင်းချုပ်၊ ၂၂၁။ မန္တလေးဘွဲ့သီချင်း၊ ကဗျာများစွာပေဉ်ရှိ များစွာလာရှိသည်။ ဤ၌ အနည်းငယ်သာ ထုတ်ပြသည်။

ဖွယ် စုံပေါင်း၊ မကြိုတောင်းရှင့်၊ ပျှိုလှောင်းကြူထုံ၊ အမှုန်ကြိုင်လှိုင်၊ ဆိုင်ကာဆိုင်ကာ၊ ခိုင်ညွှာခက်ညွှတ်၊ ဝိမုရည်ဟု၊ သတာပတ်ရွှေကြာ၊ ပွင့်စေငှာတည့်၊ သာသနာ့အခြေ၊ အာကာဝေဝယ်၊ ရွှေဘုန်းတော်မြဘ်၊ တုလွှဘ်ရဝိ၊ ရဲရဲညီသည့်၊ ဒုတိယကျုံဝင်၊ နေပြဘင်လျှင်၊ ထောင်ရှင်လင်းစည့်၊ ထွန်းလှာသည့်ကြောင့်၊ နှိုင်းယှည်စရာ၊ ဥပမာပင်၊ ဖွေရှာမမြင်၊ စည်ပင်လှစွာ၊ သာသနာနှင့်၊ ပြည်ရွာနိုင်ငံ၊ စံမရှိဖွယ်၊ ကြီးကျယ်ပြောဝ၊ တိုးတက်လှ၏။

## သီပေါဘုရင်လက်တက် သာသနာထွန်းကားပုံဘွဲ့ ကေပိုဒ်ရတု

အောင်ခွန်းသဘင်၊ ပွဲကြီးယင်အံ့၊ ရန်နှင်မန္တလ၊ ပြည်သေဌကို၊ ဒုတိယနန်း၊ မြို့ဘန်ဆန်း၍၊ ကြငှန်းလှစ်ဘွင့်၊ နှစ်ကြိမ်ဆင့်သည့်၊ ရာမင့်ဘုရင်၊ သီပေါသျှင်၏၊ ဘုန်းအင်တေဇာ၊ မြတ်သမ္မာကြောင့်၊ သာသနာ့ဆောင်၊ နေ တန်ဆောင်သို့၊ အမှောင်မစွန်း၊ ရှင်ရဟန်းကို၊ လှူဒါန်းပစ္စယာ၊ နုဂ္ဂဟာဖြင့်၊ စာပေနေ့ညာ၊ သင်ပို့ချလျက်၊ မမှ မယုတ်၊ သိက္ခာပုဒ်ကို၊ ဘားထုတ်ဖြည့်စွမ်း၊ ကိုယ်စိတ်ချမ်း၏၊ မျှထမ်းဗိုလ်လူ၊ များပြည်သူတို့၊ မပူမပင်၊ ဘေးရန်စင်လျက်၊ စည်ပင်အေးမြ၊ ဘောမခပဲ၊ မြန်မာ့ဇေယျာ၊ နတ်ခြောက်ဘုံသို့၊ ဗိုလ်ပုံနှစ်ထောင်း၊ ပျော်ဘွယ်ကောင်း၏၊ မျိုးပေါင်းသေတ္တာ၊ အနှစ်စုသည့်၊ လှအမြုတေ၊ ဘုန်းဒေ့ပြောင်ဝေသည့်၊ စနေသနင်း၊ တရားမင်းလျှင်၊ နန်းဆင်းသည်မှ၊ သေဌ်နှပ်းမြတ်စွာ၊ သာသနာလျှင်၊ ရှောင်ဝါမသစ်၊ လတိမ်နစ်သို့၊ ဖြစ်ရတာဓေ၊ ရှုလူတွေသည့်၊ စေ့ရေစိတ်ဇော၊ ကြံတိုင်းမောစွ၊ ဗုဒ္ဓဘုရား၊ ဟောတားကို၊ အားထားရ၍သာ၊ သာသနာလျှင်၊ ရောင်ဝါထွန်းစိမ့်၊ ရွှန်းရွှန်းမြိမ့်အောင်၊ နှစ်သိမ့်ဖြားယောင်း၊ ပေးစေကြောင်းကို၊ အပေါင်းလူရှင်၊ သီပေါရှင်ကို၊ ခင်မင်စိတ်တမ်း၊ လွမ်းကြီးလွမ်းခဲ့၊ တမ်းတလျက်သာ၊ ရှေးခေတ်ခါတွင်၊ သာသနာတန်ခိုး၊ ရောင်ဝါဖြိုးသည့်၊ အမျိုးမြန်မာ မင်းကိုသောဝ်။

## ရတနာပုဏ်–ရတနာပုံ

ရတနာပုဏ် မန္တလေးမြို့တော်ဟူ၍ရင်း၊ ရတနာပုံ(ပုဉ်)မန္တလေးမြို့တော်ဟူ၍ရင်း အရေး၂-မျိုး ရှိသည်။ ရတနာပုဏ်မန္တလေးမြို့တော်ဟု ရေးသားခြင်းမှာ လောကီ လောကုတ္တရာ ရတနာတို့နှင့် ပြည့်စုံသော မန္တလေးမြို့တော်ဟူ၍ အဓိပ္ပာယ်ကို ရည်သည်။ ရတနာပုံ(ပုဉ်)မန္တလေးမြို့တော်ဟူ၍ ရေးသားခြင်းမှာ ရတနာတို့၏ စုပုံရာ မန္တလေးမြို့တော်ဟူသော အဓိပ္ပာယ်ကို ရည်ရွယ်သည်။

ရတနာပုဏ်မြို့တည် နန်းတည် မင်းတရားကြီး၏ သမ္မာဆန္ဒတော်ကား၊ ဤရတနာပုံရာဇဓာနီမြို့တော်ကြီးတွင် ရွှေ၊ ငွေ အစရှိသော လောကီရတနာမျိုး ဘုရား၊တရား၊ သံဃာ၊ သဒ္ဓါ၊ သီလ စသော လောကုတ္တရာ ရတနာမျိုးစုံတို့ ပြည့်စုံခြင်းအနက်ကို ရည်ရွယ်တော်မူခြင်းဖြစ်သည်။

ထို့ကြောင့် ရတနာပုံမြို့တည်နန်းတည် မင်းတရားကြီးလက်ထက်တော်ကစ၍ သားတော်ဒုတိယနန်းစံ သီပေါမင်းတရားလက်ထက်တော်တိုင်အောင် ရတနာပုဥ္သဒ္ဒါနှင့်ရေးသားခြင်း အလျှင်းမရှိပဲ ရတနာပုဏ္ဏ သဒ္ဒါနှင့် ဂါထာ စုဏ္ဏိယ ရေးသားကြသည်။

ဝန်ရှင်တော် ဝက်မစွတ်မြို့စား ရွှေပြည့်ဝန်ကြီး သတိုးမင်းကြီး မင်းလှမဟာ မင်းခေါင်သီဟသူ ရေးသား စီရင်အပ်သော အလင်္ကာနိဿယ နိဂုံးတွင် "ရတနာပုဏ္ဏံ ပဌမံ" ဟူ၍၎င်း "ရတနာပုဏ္ဏိဒကာ ရာဇာ" ဟူ၍၎င်း၊ ဝန်ထောက်တော် မင်းကြီး သီရိမဟာဇေယျသူ ရေးသားစီရင်အပ်သော ကဝိလက္ခဏာဒီပနီကျမ်း အာသိသပဗ္ဗက ဂန္ထာရမ္ဘဖြစ်သော ပဇ္ဇာဝတ္တဂါထာတို့တွင် "ရတနာပုဏ္ဏမာပက်" ဟူ၍၎င်း၊ "ဇာဂရာ ဘိဓဇ သိရီပဝရာ ကဲ့ာရ မဟာ မေ့ရာဇာမိရာ ဇာဂုရု" တံဆိပ်တော်ရ ဘုရားကြီးဆရာတော်ဘုရား ရေးသား စီရင်အပ်သော သံဝဏ္ဏနတ္တ ဒီပနီကျမ်း နိဂုံးဂါထာ တွင် "ရတနာပုဏ္ဏလဥ္ဆတေ" ဟူ၍၎င်း၊ "နရိန္ဒာဘိဓဇအတုလာဓိပတိ သိရီပဝရ မဟာဓမ္မ ရာဇာဓိ ရာဇဂုရု" တံဆိပ်တော်ရ ဆီးဘန်နီဆရာတော်ဘုရားကြီးရေး မိုထိတိုက် အဘယာရာမ မာရဇေယျော် သိမ်တော်ကျောက်စာ ဒုတိယဂါထာတွင် "ရတနာပုဏ္ဏနာမကံ" ဟူ၍၎င်း၊ "ကေတုဓဇာဘိပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု" တံဆိပ်တော်ရ စလင်းဆရာတော်ဘုရား ရေးသား စီရင်အပ်သော ဝိသုဒ္ဓိဒီပနီကျမ်းဦးအစ စတုတ္ထ ဂါထာတွင်—

ပဌမံ မာပိတံ ပုရံ ၊ရတနာပုဏ္ဏနာမကံ။
ရမ္မံ သဗ္ဗင်္ဂသမ္ပန္နံ၊အယုဇ္ဈပုရသောဘိတံ။

ရမ္မံ၊ သူခပ်သိမ်းတို့၏ နှလုံးမွေ့လျော်ရာဖြစ်ထသော။ သဗ္ဗင်္ဂသမ္ပန္နံ၊ အလုံးစုံသော မြို့၏အင်္ဂါနှင့် ပြည့်စုံထသော။ အယုဇ္ဈပုရသောဘိတံ၊ ရန်သူတပါ တို့သည် စစ်ထိုးခြင်းငှါ မတတ်နိုင်သည်ဖြစ်၍ အယုဇ္ဈမည်သော သိကြားမင်း၏ စံနေရာ တာဝတိံသာ နတ်မြို့ နတ်နန်းကဲ့သို့ တင့်တယ်ခြင်းရှိထသော။ရတနာပုဏ္ဏနာမကံ၊ ရွှေ ငွေ ပုလဲ ပတ္တမြား အစရှိသော ရတနာတို့နှင့် ပြည့်စုံသည်ဖြစ်၍ ရတနာပုံဟူသော ထူးမြတ်သော အမည်လည်း ရှိထသော။ ပုရံ၊ မြို့တော်ကြီးကို။ ပဌမံ၊ ရှေးဦးမဆွ။ မာပိတံ၊ ဖန်ဆင်းတည်ထောင်အပ်ပြီ—

ဟူ၍ရှင်း၊ ကျမ်းအစောင်စောင်တို့၌လာရှိသည့်ပြင် ၁၀-ကြောင်းရေး ပေကံ အစ ၆ေ-အဆုံးရှိသော ရတနာပုံမြို့တည်စာတမ်း စုချုပ်ရှိ ၁၅-ဂါထာအနက် ပဌမဂါထာတွင်—

ရတနာနဉ္စ ပုဏ္ဏတ္တာ၊ မဟာဘူပတိဌာနတ္တာ။
ရတနာပုံ မဟာရာဇ-ဌာနီတိ ဝုစ္စတိ စေတံ။

ရတနာနံ၊ လောကီ လောကုတ္တရာ ရတနာအပေါင်းတို့၏။ ပုဏ္ဏတ္တာ စ၊ ပြည့်ဖြိုးလျှမ်းတက်ရာဖြစ်သောကြောင့်ရှင်း။ မဟာဘူပတိဌာနတ္တာ စ၊ ပါရမီသမ္ဘာရ တေဇတောက်ထိန် ရဝိန္ဒြလား လူများသေဌ်နင်း အမင်းမင်းတို့ ဦးညွတ်ပန်ဆင်အပ်သော မင်းမြတ်မင်းကောင်း လောင်း လျာသခင် အရှင်ကေရာဇ်မင်းမြတ်တို့၏ စံပျော်ရာဖြစ်သောကြောင့် ရှင်း။ တံ ပုရံ၊ထိုပြည်ကို။ မဟာရတနာပုံ ရာဇဌာနီတိ၊မဟာ ရတနာပုံ မင်းနေပြည်ကြီးဟူ၍။ဝုစ္စတိ၊ ခေါ်ဝေါ်ပညတ် သမုတ်အပ်၏—

ဟူ၍ရှင်း ရတနာပုံမြို့တည် စာတမ်းတွင်လည်း ပြဆိုလျက်ရှိသည် [၁]။

### အခြေခံပဌမပိုင်း အပြီးသတ်ခြင်း

မန္တလေးမြို့ ရပ်ကွက်အမည်များ၊ လေးပြင် လေးရပ် ၅၄-ရပ်ကွက်လက်ာ များ၊ မန္တလေးပုဒ်ဝိဂြိုဟ်နှင့် အရကောက်၊ မန္တလေးမြို့ဘွဲ့များ၊ မန္တလေး သာသနာဘွဲ့များ၊ ရတနာပုမ်—ရတနာပုံ အဆုံးအဖြတ်တို့ဖြင့် တန်ဆာဆင်၍ ပြုစီရင်ရာ အတော်အသင့်ပြည့်စုံ လုံလောက်ပြီ ဖြစ်သဖြင့် ဤတွင် အခြေခံပဌမ ပိုင်းကို လက်စသတ်လိုက်ပါပြီ။

သုဇနာနံ ပသာဒါယ၊ သံဝေဂတ္ထာယ မေ ကတော။
ပဌမမူလဘာဂေါယံ၊ သမတ္တော သာဓုဝဏ္ဏိတော။

---

၁။ ရွှေနန်းသုံး၊ ၂၅၄-၂၅၆-လည်း ကြည့်။

# အခြေခံဆဋ္ဌပိုင်း

## အင်္ဂလိပ်ခေတ် မှတ်စရာအမြွက်

ခရစ်သက္ကရာဇ် ၁၈၈၅-ခု၊ ကောဇာသက္ကရာဇ် ၁၂၄၇-ခုနှစ်(နိဝင်ဘာလ) တန်ဆောင်မုန်းလဆုတ် ၈-ရက်နေ့တွင် မန္တလေးမြို့ကို အင်္ဂလိပ်တို့ သိမ်းယူသည်။ ယင်းသို့ သိမ်းယူပြီးလျှင် သိမ်းယူပြီးချင်း ယာယီအုပ်ချုပ်မှုကို ခန့်ခွဲထားပြီး လွှတ်တော်အမှုထမ်းသူ အားလုံးကလည်း အစိုးရသစ် ကာနယ်စလေဒင်၏ လက်အောက်တွင် ဝင်ရောက်အမှုထမ်းရန် သဘောတူကြသည်။

ဒီဇင်ဘာလ ၁၅-ရက်နေ့တွင် ကော်မရှင်နာမင်းကြီး မစ္စတာဘားနဒ် မန္တလေးသို့ ရောက်ရှိလာပြီး မြို့ပြအုပ်ချုပ်ရေး လက်သို့ လွှဲပြောင်းယူလိုက်ပြီး ဒုတိယ (လက်ထောက်) ကော်မရှင်နာ လက်အောက်၌ ထားလိုက်သည်။

၎င်းနောက် ၁၈၈၆-ခု၊ဇန်နဝါရီလ ၁-ရက်နေ့တွင် အထက်မြန်မာနိုင်ငံသည် ဗြိတိသျှနိုင်ငံတစိတ်တဒေသဖြစ်သည်ဟု ဘုရင်ခံချုပ်က ကြေငြာသည်။မန္တလေးမြို့ကိုလည်း ရာဇဝတ်ဝန်တယောက် လက်အောက်၌ ကျကျနန အုပ်ချုပ်စေသည်။ရာဇဝတ်ဝန်ကြီးကို မြို့ဝန် ၂-ယောက်က ကူညီအမှုထမ်းသည်။

## မြူနီစီပါယ်ဖွဲ့ မြို့ကိုပြင်ဆင်ခြင်း

၁၈၈၇-ခု၊ (၁၂၄၉) ခုနှစ်တွင် မြူနီစီပါယ်ဖွဲ့၍ လမ်းကြီးများကို ကျောက်စ၍ ခင်းသည်။ တယ်လီဖုံးများ တပ်ဆင်သည်။ သွယ်သည်။ မြို့ကိုတိုင်းတာခြင်းများ တစတစ တဖြည်းဖြည်း ပြုလုပ်သည်။ အိမ်ကြီးအိမ်ကောင်းများ၊ တိုက်တာများ တည်ဆောက်ခွင့် ပေးလေသည်။ ၎င်းပြင် ဆက်လက်၍ မြူနီစီပါယ်အတွင်းရှိ လမ်းမိုင် ၆၀-ကို ကျောက်ခင်း၍ လမ်းမီးများ (တပင်တိုင် မန်အိမ်မီးများ) ထွန်းထားသည်။ မြောင်းများတူးဖောက်၍ သန့်ရှင်းခေတ်မီအောင် ပြုလုပ်သည်။ ဈေးချိုအဟောင်းကိုဖျက်၍ အသစ်ဆောက်လုပ်သည်။

၁၉၀၄-ခုနှစ်တွင် ခေတ်ရထားကို လက်ထောက်ဘုရင်ခံ ဆာဟာရူးဘဲ့ဒ်နီ (ဘန်း၊စ်)က ဖွင့်လှစ်ပေးသည်။ ခေတ်ရထားခုတ်မောင်းသော အရပ်များမှာ ဘုရားကြီးနှင့် ရုံးကြီး၊ ရုံးကြီးနှင့် ဂေါ်ဝိန်ဆိပ်တို့ဖြစ်၍ ခရီးဆုံးမှာ ရှမ်းစုဘူတာ၊ မန္တလေး ဂေါ်ဝိန်ဆိပ်နှင့် ရုံးကြီးတို့ဖြစ်သည်။

တဖန် ၁၉၀၇-ခု၊ ဇန္နဝါရီလ ၂၆-ရက်နေ့တွင် ၈၄-လမ်း အတိုင်းမှ ရှမ်းစုသို့ ချဲ့ထွင် ပြီးစီးသည်။ ခေတ်ရထားပေါင်း ၂၄-စင်းထားပြီး ခရီးသည်များ သွားလာလွယ်ကူ စိတ်ချမ်းသာစေရန် ပြည့်စုံစွာ စီစဉ်ပေးသည် ဟူ၏။

ထိုစဉ်က ကဗျာပညာရှင်တဦးက အောက်ပါအတိုင်း ခေတ်ရထားဘွဲ့ တေးထပ်ကို စပ်ဆိုခဲ့လေသည်—

ခေတ်ရထားဘွဲ့တေးထပ်

ဘယ်ဝယ်ဆီဆွယ်၊ ရည်ရွယ်တတ်ဘု၊
ပြည်နယ်နဝရတ်၊ သာတင့်ဟန်၊
ရှည်ကြွယ်ဒြပ်ရပ်၊ ခါသင့်ဖန်သည်၊
ဆုဝင့်စကားသံ ရှိပြီဘူး။

မန်းမင်္ဂလ၊ မြန့်ခန်းနယ်မှာ၊
အံ့မခန်းဖွယ်၊ အခင်းကြံချက်ထူး။

ရထားခေတ်စက်၊ စေနှင်မှာမူ၊
ဝေဟင်အဇ္ဈာ၊ ညွန့်ယံဦး၊
လေယာဉ်ပမာ၊ ကွန့်ပျံမြူးလိမ့်၊
အစွန့်ကံထူး၊ ရှိလို့သာ။

စီးဘို့ခေတ်ခါ၊ ကြုံဆိုင်လင်း၊
ထုံကြိုင်သတင်း၊ ပြည်လုံးသိကြောင်ငြာ။

ဂုဏ်ပြိုင်တမင်း၊ ဆယ်ဖက်ကွာပြီ၊
နယ်စက္ကဝါ၊ ရှာပါရှားလိမ့်။

လွှာမပါးတဲ့၊ အသင်းပေနော်၊
သတင်းလှိုင်ပျံ့ကျော်။
လာမေခေတ်စက်၊ ရထားပေါ်မှာ၊
နှစ်ပါးပျော်ပျော်၊ တူစီးပါစို့လေး[၁]။

၁။ အနှစ် ၁၀၀-ပြည့် မန္တလေး။ ၂၉၂။

## မန္တလေး ရန်ကုန် မီးရထားလမ်း ဖောက်လုပ်ပြေးဆွဲ

အင်္ဂလိပ်ခေတ် တိုးတက်ပြောင်းလဲမှု အရပ်ရပ်တို့တွင် ရန်ကုန် မန္တလေး မီးရထားလမ်း ဖောက်လိုက်ခြင်းသည် အကြီးမားဆုံးသော တိုးတက်မှုဖြစ်သည်ဟု ဆိုထိုက်ပေသည်။ ၁၈၈၅-ခုနှစ် အင်္ဂလိပ်မြန်မာ တတိယစစ်ပွဲ အခါသမယတွင် ရန်ကုန်မှ တောင်ငူအထိ မိုင်ပေါင်း ၁၆၆-မိုင် ရှည်လမ်းကို ဗြိတိသျှတို့က ၎င်းတို့နယ်စပ်အထိ ဖောက်လုပ်လိုက်သည်။ ၁၈၈၆-ခုနှစ် အောက်တိုဘာလတွင် မန္တလေးအထိ ဖောက်လုပ်ရန် အမိန့်ပေးပြီး ၁၈၈၉-ခု၊ မတ်လ ၁-ရက် (၁၂၅၀) ပြည့်၊ တပေါင်းလဆန်း ၁-ရက်နေ့တွင် ရန်ကုန်မှ မန္တလေးသို့ မိုင် ၃၈၆-မိုင်ရှည် မီးရထားလမ်းကို ဖွင့်လှစ်လိုက်သည်။

ဤသည်လျှင် အင်္ဂလိပ်ခေတ်က ဓာတ်ရထား၊ မီးရထားနှင့်စပ်၍ မှတ်စရာအမြွက် ဖြစ်သည်။

ဝံ အင်္ဂလိကာလေဟိ၊ ဓာတုဝုမရဆေဟိပိ။
ဂနမသဥ္စာတဘာဝ-မုခမတ္တနိဒဿနံ။

## ဂျပန်ခေတ် မန္တလေး မှတ်စရာ အမြွက်

ဂျပန်စစ်တပ်က ဟောင်ကောင်သိမ်း၊ စင်္ကာပူသိမ်းတယ် ဆိုကတည်းက ရန်ကုန်မြို့ကို မကြာမီ ဒုက္ခပေးတော့မယ်လို့ သိထားကြသဖြင့် တချို့က အောက်ပိုင်း ရန်ကုန်စသည်မှ မန္တလေးသို့ ပြောင်းရွှေ့နေထိုင်ကြသည်။ သို့ဖြစ်၍ မန္တလေး ပိုမိုစည်ကားနေသည်။

## စတင်ဗုံးကြဲခြင်း၊ အကြီးအကျယ်ဗုံးကြဲခြင်း

၁၃၀၃-ခုနှစ်၊ တပေါင်းလဆန်း ၅-ရက်၊ ၁၉၄၂-ခု၊ ဖေဖော်ဝါရီ ၁၈-ရက်နေ့မှာ ဂျပန်လေယာဉ်ပျံတစင်း သတင်းအရ ရုတ်တရက် ရောက်ရှိလာပြီး မန္တလေးနန်းတော်အတွင်းက အထက်မြန်မာပြည် အသင်းဘိုက်ကို တိုက်ရိုက် ဗုံးကြဲဖျက်ဆီးခဲ့သည်။ အိန္ဒိယကပြန်လာသော ချန်ကေရှိတ် ခဏဝင်ကြောင်း သတင်းရသည့်အတွက် ယင်းကဲ့သို့ လာရောက်ဗုံးကြဲခြင်း ဖြစ်ကြောင်း ဆိုကြသည်။ အနည်းငယ်သာ လွဲသွားသည်ဟုလည်း ဆိုကြသည်။

၁၃၀၃-ခု၊ တန်ခူးလဆုတ် ၄-ရက်၊ ၁၉၄၂-ခု၊ ဧပြီလ ၃-ရက်၊ သောကြာနေ့ နံနက် ၁၁-နာရီအချိန်လောက်မှာ ဂျပန်လေယာဉ်ပျံတွေ အရှေ့

ဘက်၊ တောင်ဘက်နှင့် အနောက်ဘက်က အစင်းပေါင်း ၈၀-ကျော်လောက် ရောက်လာပြီး မီးလောင်ဗုံးများနှင့် ပေါက်ကွဲပျက်စီးသေကြေစေတတ်သော ဗုံးတွေကြဲချရာ တမြို့လုံး ရှုမကောင်း မြင်မကောင်းအောင် ပျက်စီးခဲ့သည်။ လူပေါင်း ၂၀၀၀-ကျော်၊ ၃၀၀၀-အတွင်း သေဆုံးရပြီး ၃၀၀၀-ထက် မနည်း ဒဏ်ရာရလေသည်။ ၁၃၀၄-ခု၊ ကဆုန်လဆုတ် ၃-ရက်၊ ၁၉၄၂-ခု၊ မေလ ၁-ရက်နေ့တွင် ဂျပန်များက မန္တလေးကို သိမ်းပိုက်ကြသည်။

မန္တလေးမြို့ကို အင်္ဂလိပ်နှင့် တရုတ်စစ်သားများ စွန့်ပစ်သွားသည့်နောက် ပျက်စီးယိုယွင်းလျက်ရှိရာ ဆရာတော်တပါး၏ စာရင်းအရ မန္တလေးမြို့၌ အိမ်ခြေ ၄-သောင်းခန့်ရှိသည့်အနက် အိမ်ခြေ ၃-သောင်းခန့် ပျက်စီးဆုံးပါး ကြောင်း ဘုန်းကြီးကျောင်းပေါင်း ၄၀၀-ကျော် မီးထဲပါသွားသည်ဟု ခန့်မှန်းကြောင်း သိရ၏။ မန္တလေးမြို့သို့ ဂျပန်တပ်ဦးဝင်လာချိန်တွင် မန္တလေး မြို့ရိုးအတွင်းရှိ ဘုရင်ခံအိမ်တော်၌ရှင်း၊ ရုံးကြီး၌ရှင်း၊ ဈေးချိုခတ်တိုင်တတိုင် ၌ရှင်း ဗမာ့လွတ်လပ်ရေး တပ်မတော်၏ ၃-ရောင်ချယ် ဒေါင်းအလံများ ထိုးလွှင့်ထူထားသည်ဟူ၏။

## ရဟန်းသံဃာတော်တချို့ သာသနာပြုလုပ်ငန်းများ လုပ်မြဲတိုင်း လုပ်

ဂျပန်ခေတ် ဗုံးကြဲစက်သေနတ်အကြားတွင် သာသနာစိတ် ပြင်းပြသော စာချဆရာတော်များ စာပေချပို့သာသနာပြုမြဲ ပြုတော်မူကြသည်။ ၁၃၀၄-ခုနှစ်၊ နယုန်လဆုတ် ၁-ရက်နေ့ညနေတွင် ရန်ကုန်မြို့ ဗုဒ္ဓသာသနာပြု အစည်း အရုံးကြီးမှ ဗဟန်း ဝေဠုဝန်ဆရာတော်ကြီးအမှူး ပြုသော ကျိုက်ဝိုင်းဦးဣန္ဒက အပါအဝင် ဓမ္မကထိကသံဃာအပါး ၁၀၀-ခန့်တို့ ရောက်ရှိလာကြ၍ မစိုးရိမ် တိုက် အလယ်ကျောင်းတိုက်ကြီး၌ ခေတ္တသီတင်းသုံး၍ တရားဓမ္မဟောပြော သာသနာပြုကြသည်။

## သာသနာတော်ညီညွတ်ရန် ကြိုးပမ်း

ထိုစဉ်က ညောင်ရမ်းဆရာတော် (နောက် အဘိဓဇမဟာရဋ္ဌဂုရုဆဋ္ဌသင်္ဂါ ယနာ သံဃမဟာနာယက)အရှင်ရေဝတသည် သံဃာတော်များ ညီညွတ်တော် မူကြရန် ရည်သန်၍ အောက်ပါအတိုင်း ၁၃၀၄-ခု၊ နယုန်လဆုတ် ၁၄-ရက် တိုင်းချစ်သတင်းစာ၌ ထုတ်ပြန်တော်မူခဲ့လေသည်။

## သာသနာတော်ဘက်ဌာနခွဲ ဝမ်းမြောက်ဖွယ်ရာကြီး

သီပေါဘုရင်မင်းမြတ်လက်ထက်တော် သာသနာပိုင် ဆရာတော်ကြီးသည် အင်္ဂလိပ်မင်းလက်ထက် အာဏာနှင့်တကွ သာသနာတော် အုပ်ချုပ်ရေးကို အပ်နှင်းချက်အရ ၁၂၄၇-ခုနှစ်မှစ၍ အထက်နိုင်ငံ အောက်နိုင်ငံ၌ သာသနာတော်ကို ပြုစုစောင့်ရှောက်တော်မူခဲ့ရာ ၁၂၅၆-ခုနှစ်တွင် ပျံလွန်တော်မူသည်။ ၎င်းနှစ်မှာပင် ၎င်းတောင်တော် သာသနာပိုင်ဆရာတော်ကြီး၏တပည့် တကျိပ် ၂-ပါး ဆရာတော်ကြီးများကို တောင်တော်သာသနာပိုင်ဆရာတော်ကြီးအလားတူ အောက်နိုင်ငံပါ သာသနာတော်ကို စောင့်ရှောက်ရန် အစိုးရမင်းတို့က အသိအမှတ်ပြုခဲ့သည်။ ၎င်းနောက် ၁၂၆၅-ခုနှစ်၊ တောင်ခွင်ဆရာတော်ကြီးကို ကင်းဝန်မင်းကြီးစသော မှူးမတ်တို့က အထက်နိုင်ငံအတွက် သာသနာပိုင် တင်မြှောက်ကြသည်။ ထိုအခါမှစ၍ တကျိပ် ၂-ပါးဂိုဏ်း၊ သာသနာပိုင်ဂိုဏ်းဟူ၍ ယခုနှစ်အထိ ကွဲပြား၍ လာခဲ့ကြသည်။ ဘုရားကြီးဆရာတော်ကြီးသည် တကျိပ် ၂-ပါးဂိုဏ်း၌မပါ၊ သာသနာပိုင်ဂိုဏ်း၌လည်း မပါ ကြားဖြစ်၍ နေတော်မူသည်။

၁၂၇၉-ခုနှစ်၊ တကျိပ် နှစ်ပါးဂိုဏ်း၊ သာသနာပိုင်ဂိုဏ်း၊ ရွှေကျင်ဂိုဏ်းများကို အညီအညွတ်ဖြစ်အောင် စေ့စပ်ခြင်းကို ပြုလုပ်ရာတွင် ဆရာတော်တပါးက ဘုရားကြီးဂိုဏ်း ကျန်ပါသေးသည်ဟု ပြောကြားရာတွင် အထူးထင်ရှား၍ လာခဲ့သည်။ ၎င်းဂိုဏ်းကြီး လေးဂိုဏ်းညီညွတ်အောင် အကြိမ်ကြိမ်စေ့စပ်ခဲ့ငြားသော်လည်း မညီညွတ်ပဲ ယခုနှစ်အထိ အနှစ် ၄၉-နှစ်တိုင်တိုင် ကွဲပြား၍ လာခဲ့ကြသည်။ ယင်းကဲ့သို့ လွန်စွာညီညွတ်ရန် ခဲယဉ်းလှသော ဂိုဏ်းကြီးများကို ယခုအခါ ထိုဂိုဏ်းကြီးများကို အုပ်ချုပ်သော ဆရာတော်ကြီးများသည် ညီညွတ်ရန် အချိန်အခါသင့်ပြီဟု ကောင်းသောစိတ်ထားဖြင့် အချင်းချင်း ဆွေးနွေးတိုင်ပင်ကြပြီးလျှင် မိမိတို့၏ ဂိုဏ်းအမည်ကို ပယ်စွန့်၍ "ဗုဒ္ဓသာသနာပြုအဖွဲ့ကြီး" ဟူသော အမည်တခုတည်းဖြင့် အညီအညွတ် ဘုရားသာသနာတော်ကို စောင့်ရှောက်ပြုစုတော်မူကြရန် ဂိုဏ်းပေါင်းစုံ နာယကဆရာတော်ကြီးများ စည်းဝေး၍ ဖွဲ့စည်းတော်မူကြသည်။ ဂိုဏ်းကို အုပ်ချုပ်သော နာယကဆရာတော်ကြီးများ ညီညွတ်ပြီးဖြစ်သောကြောင့် နိုင်ငံတော်အတွင်းရှိ လက်အောက်ခံ ဂိုဏ်းသား ရဟန်းတော်များ ညီညွတ်ကြမည်မှာ ယုံမှားဖွယ်ရာ မရှိတော့ပြီ ဖြစ်ကြောင်း။ သို့ဖြစ်ပါ၍ အလွန်ဝမ်းမြောက်ဖွယ်ရာ ကောင်းကြောင်းကို မူလက စချီ၍ ဖော်ပြလိုက်ရပါသည်။ (ဦးရေဝတ)

## စစ်အတွင်းက ပျက်စီးခဲ့ရသော သမိုင်းဝင် ပြန်လည် မဖြစ်နိုင်သော အဆောက်အအုံများ

ဆိုးဝါးကြမ်းကြုတ်လှသည့် စစ်ဒဏ်ကြောင့် မင်းနှစ်ဆက် စံတော်မူခဲ့သည့် နန်းတော်ကြီးမှာ သက္ကရာဇ် ၁၃၀၆-ခုနှစ် တန်ခူးလဆန်း ၅-ရက်နေ့တွင် မီးလောင်ပျက်စီးခဲ့လေသည်။

မန္တလေးမြို့တော် အလျှင်ပေါ်ထွန်းခဲ့သည့် မန္တလေးအရှေ့ပြင် မဟာဝိသုတာရာမ တိုက်တော်ကြီးမှာ တန်ခူးလဆန်း ၂-ရက်နေ့က ဗုံးဒဏ်ကြောင့် ပျက်စီးခဲ့လေသည်။ ၎င်းပြင် စံကျောင်း၊ မိုးထိ၊ စလင်း၊ နန်းဦးမာရိအောင်၊ ခင်မကန်၊ ဝိသုဒ္ဓါရုံ စသည့် ကျောင်းတိုက်ကြီးတို့လည်း ဗုံးဒဏ်ကြောင့် ပျက်စီးခဲ့လေသည်။

ထိုမှတပါး မဟာမြတ်မုနိ စေတီနှစ်သွယ်၊ မုခ်ဦးပြာသာဒ်တော်ကြီးများ သကျသီဟဂန္ဓကုဋီ ပြာသာဒ်တော်ကြီး၊ တောင်ပြင်ငါးစုကျောင်းကြီး၊ ရွှေရေးဆောင်တိုက် ကျောင်းကြီး၊ မြေတော် ရွှေကျောင်းကြီး၊ တောင်ခွင်ကျောင်းကြီး၊ အကောက်ဝန်ကျောင်းကြီး၊ သင်္ဂဇာကျောင်းကြီး၊ ယောအတွင်းဝန် ကျောင်းကြီး၊ သုဓမ္မာ ဇရပ်တော်ကြီး၊ စိတ္တာရာ ရာမကျောင်း၊ စက်ဝန်မင်းတိုက်၊ ညောင်ကွဲကျောင်း စသည့် အတို့အကျဖော်ပြခြင်းငှာ မတတ်သာအောင် များပြားလှသည့် သာသနိက အဆောက်အအုံအများ၊ လူနေအိမ်ခြေ တိုက်တာ အဆောက်အအုံများ စစ်ဒဏ်ကြောင့် ပျက်စီးလေရာ အစားမထိုးနိုင်သည့် ဆုံးရှုံးမှုများ ဖြစ်လေသည်။

သင်္ခါရာ ဟိ ဝိနာသိနော=ရုပ်သင်္ခါရ၊ နာမ်သင်္ခါရ မှန်သမျှ ပျက်စီးခြင်း သဘောရှိကုန်၏။

ဂါ့ပနိကာသမယေဟိ၊ ရင္ဌံ ဟိ ဗျားကုလံ ဘဝိ။
ကလိယုဂသမယေဟိ၊ ဘဒ္ဒကံ အပ္ပကံ ဘဝိ။

### မန္တလေးမြို့တည် နန်းတည် နှစ်တရာပြည့် ပွဲတော်ကြီး

သက္ကရာဇ် ၁၃၂၁-ခုနှစ်တွင် မန္တလေးမြို့တော် နန်းတော် စတင် တည်ဆောက် ၁၂၂၁-ခုနှစ်မှ ထောက်၍ နှစ် ၁၀၀-ပြည့်မြောက်သဖြင့် နိုင်ငံတော် အစိုးရက ဦးဆောင်၍ မန္တလေးမြို့တည် နန်းတည် နှစ်တရာပြည့် ပွဲတော်ကြီးကို မန္တလေးမြို့ မန္တလေးတောင်ခြေတွင် ၁၃၂၁-ခုနှစ် တန်ဆောင်မုန်း လဆန်း ၈-ရက်နေ့မှစ၍ ၁၄-ရက်နေ့အထိ ၇-ရက်တိုင်တိုင် ကြီးကျယ်ခမ်းနားစွာ ကျင်းပခဲ့လေသည်။

## တန်ဆောင်မုန်း လဆန်း ၇–ရက်နေ့

မန္တလေးမြို့တည် နန်းတည် နှစ်တရာပြည့် ပွဲတော်၏ အကြိုနေ့ဖြစ်သော ၁၃၂၁–ခုနှစ် တန်ဆောင်မုန်း လဆန်း ၇-ရက်နေ့ ည ၆-နာရီအချိန်တွင် နန်းမြို့တွင်း မြေနန်းပြာသာဒ် မင်္ဂလာမဏ္ဍပ်တွင် မင်္ဂလာစည်တော် ရွှမ်း၍ ရောက်ရှိလာသော ပရိသတ်အား ဖြေဖျော်နေသည်။ ည ၇-နာရီ အချိန်တွင် မြောက်ကျုံးတော်အတွင်း ကရဝိက်ဖောင်တော် ရေကင်းသံ တီးဝိုင်းဖြင့် လှည့်လည်၍ ပရိသတ်ကို ရွှင်လန်းအားတက်စေလသည်။ နန်းမြို့တွင်း တမြို့လုံးနှင့် ကျုံးအတွင်း ကျုံးပတ်ဝန်းကျင်၊ မန္တလေးတောင်ခြေ စသည်တို့၌ မီးရောင်စုံများ ညှိထွန်းထားရာ အလွန်လျှင် ကျက်သရေရှိလှ၏။ အနယ်နယ် အစိုစို အမြို့မြို့ အရွာရွာမှ ရောက်ရှိနေသော ပရိသတ်မှာလည်း သိန်းပေါင်းများစွာ အရေအတွက်ရှိမည်ဟု ခန့်မှန်းမိသည်။

## တန်ဆောင်မုန်းလဆန်း ၈–ရက်နေ့

တန်ဆောင်မုန်းလဆန်း ၈-ရက်နေ့ နံနက် ၄-နာရီ အချိန်မှစ၍ ဆရာတော် သံဃာတော် အရှင်မြတ်တို့သည် ဘုရားရှင်၏ ပရိတ်မန္တာန်တော်များကို မန္တလေးမြို့ ၄–ပြင် ၄-ရပ်၌ ရွတ်ဖတ်သရဇ္ဈာယ်တော်မူကြသည်။ နံနက် ၅-နာရီ အချိန်တွင် နန်းမြို့တွင်း မြေနန်းပြာသာဒ်၌ မင်္ဂလာမဏ္ဍပ်တော် အတွင်း၌ ဆရာတော် သံဃာတော် ၁၀၈-ပါးတို့အား ဆွမ်းဘောဇဉ် ချိုချဉ် အရသာများ ဆက်ကပ်လှူဒါန်း၍ ရေစက်ချ အမျှပေးဝေကြသည်။ နံနက် ၉-နာရီ ၁၅-မိနစ်အချိန်တွင် ကြီးကျယ်ခမ်းနားလှသော မှန်းရာပြည့် ပွဲတော်ကြီး ရတနာပုံမဏ္ဍပ်သို့ နိုင်ငံတော်သမ္မတကြီးနှင့် သမ္မတကတော်တို့ ကြွရောက်၍ ပွဲတော်မင်္ဂလာ ဖွင့်လှစ်ပွဲ အခမ်းအနားကို ကျင်းပသည်။ နှစ်တရာပြည့် ပွဲတော် မင်္ဂလာအခမ်းအနားကို နိုင်ငံတော်သမ္မတက ဖွင့်လှစ်လိုက်သည်နှင့် တပြိုင်နက် အမြောက် ၃–ချက် ပစ်ဖောက်ခြင်း၊ စက်ရုံများနှင့် မီးရထားများမှ ဥသြဆွဲခြင်း၊ ကြေးစည်ခေါင်းလောင်းများ တီးခတ်ခြင်းတို့ကို ပြုလုပ်ကြသည်။ နံနက် ၁၁–နာရီတွင် ဖွင့်လှစ်ပွဲအခမ်းအနား ပြီးဆုံးသည်။ ည ၈–နာရီအချိန်တွင် မန်းရာပြည့် မောင်မယ်ခရွေးပွဲ ကျင်းပခြင်း၊ မီးရှူးမီးပန်း ပစ်လွှတ်ခြင်းတို့ကို ပြုလုပ်သည်။

## တန်ဆောင်မုန်းလဆန်း ၉-ရက်နေ့

တန်ဆောင်မုန်းလဆန်း ၉–ရက်နေ့ မွန်းတည့် ၁၂–နာရီမှ ညနေ ၅-နာရီ မိနစ် ၃၀-အထိ မန္တလေးမြို့ မြင်းပြိုင်ကွင်း၌ မန်းရာပြည့်ဖလားပွဲကျင်းပသည်။ ညနေ ၈-နာရီတွင် မန်းရာပြည့် မောင်မယ်ရွေးပွဲ ကျင်းပသည်။

## တန်ဆောင်မုန်းလဆန်း ၁၀-ရက်နေ့

တန်ဆောင်မုန်းလဆန်း ၁၀-ရက်နေ့ နံနက် ၇-နာရီ မိနစ် ၃၀-အချိန်တွင် နန်းမြို့တွင်း လွတ်လပ်ရေးကျောက်တိုင်ကွင်း၌ ကျောင်းပေါင်းစုံမှ ကျန်းမာရေးလေ့ကျင့်ခန်း အလှပြပွဲများကျင်းပသည်။ နံနက် ၉-နာရီ မိနစ် ၃၀ အချိန်တွင် နန်းမြို့တွင်း မြေနန်းပြာသာဒ်တော် ပင်လာမဏ္ဍပ်အတွင်း မန်းရာပြည့် ဘိုးဘွားပူဇော်ပွဲ ကျင်းပပြုလုပ်သည်။ ည ၈-နာရီအချိန်တွင် မန္တလေးရတနာပုံခေတ် ဆင်ယင်ထုံးဖွဲ့မှုပြိုင်ပွဲများ ပြုလုပ်သည်။

## တန်ဆောင်မုန်းလဆန်း ၁၁-ရက်နေ့

တန်ဆောင်မုန်းလဆန်း ၁၁-ရက်နေ့ နံနက် ၈-နာရီအချိန်တွင် နန်းမြို့တွင်း မန္တလေးကျောက်တိုင်ကွင်း၌ မန္တလေးတိုင်း ဒူးလေး ဝါးချွန်ပြိုင်ပွဲ ကျင်းပပြုလုပ်သည်။ ညနေ ၃-နာရီ မိနစ် ၃၀-မှ ၅-နာရီအထိ မန္တလေးမြို့သူမြို့သားများကိုယ်စား မြို့တော်ဝန် ပင်းဘူး ဦးမောင်မောင်က နန်းမြို့တွင်း ပုန်းတလုပ်ကျန်တော်၌ ရာပြည့်ဥယျာဉ် လဘက်ရည်ပွဲကျင်းပ၍ ဧည့်သည်တော်များအား ကျွေးမွေးဧည့်ခံသည်။ ည ၇-နာရီအချိန်တွင် မန်းရာပြည့်ပွဲတော် ပွဲခင်းလက်ဝဲ့ရှုံအတွင်း တေးဂီတ အဆိုအတီးအက ပြိုင်ပွဲများ ကျင်းပပြုလုပ်သည်။

## တန်ဆောင်မုန်းလဆန်း ၁၂-ရက်နေ့

တန်ဆောင်မုန်းလဆန်း ၁၂-ရက်နေ့ နံနက် ၇-နာရီမှ ၁၀-နာရီအထိ မန္တလေးမြို့တွင်းသို့ တပ်မတော် ကြည်း ရေ လေ အငှားပြပွဲ ချီတက်ကျင်းပ ပြုလုပ်သည်။ ည ၇-နာရီအချိန်တွင် နိုင်ငံတော်သမ္မတကြီးနှင့် သမ္မတကတော်တို့က နန်းမြို့တွင်း ရတနာပုံရိပ်သာ၌ မန်းရာပြည့် အထိမ်းအမှတ် ညစာထမင်းစားပွဲကြီး တည်ခင်းကျွေးမွေးသည်။ ည ၈-နာရီအချိန်တွင် မန်းရာပြည့်ပွဲခင်း လက်ဝဲ့ရှုံအတွင်း တေးဂီတ အဆိုအတီးအက ပြိုင်ပွဲကျင်းပသည်။

## တန်ဆောင်မုန်းလဆန်း ၁၃-ရက်နေ့

တန်ဆောင်မုန်းလဆန်း ၁၃-ရက်နေ့ ည ၇-နာရီအချိန်တွင် မန်းရာပြည့်ပွဲတော် ပွဲခင်းလက်ဝဲ့ရှုံအတွင်း တေးဂီတ အဆိုအကပြိုင်ပွဲ ကျင်းပသည်။

## တန်ဆောင်မုန်းလဆန်း ၁၄-ရက်နေ့

တန်ဆောင်မုန်းလဆန်း ၁၄-ရက်နေ့ ည ၇-နာရီအချိန်တွင် ပွဲတော်ခင်း လက်ဝဲ့ပြိုင်ပွဲရှုံအတွင်း၌ မန်းရာပြည့်သီချင်းပြိုင်ပွဲမှ ရွေးချယ်ခြင်းခံရသူများ

ကိုယ်တိုင်သီဆို၍ ပြသည်။ ည ၉–နာရီအချိန်တွင် မန်းရာပြည့်ပွဲတော် ရတနာပုံ မဏ္ဍပ် အောင်ဆန်းခန်းမကြီးအတွင်း ပြိုင်ပွဲအသီးသီးမှ အနိုင်ရသူများ အား ဆုချီးမြှင့်ပွဲ ကျင်းပပြုလုပ်လေသည်။

## ကဇာတ်၊ ပြဇာတ်၊ ရုပ်ရှင်ပွဲများ

တန်ဆောင်မုန်းလဆန်း ၈–ရက်နေ့မှ လဆန်း ၁၄–ရက်နေ့အထိ (၁) ရွှေမန်းတင်မောင် ညဝက်စနစ်သဘင်သစ်၊ (၂) ရွှေမန်းမင်္ဂလာ ကဇာတ် ပြဇာတ်၊ (၃) ရွှေဘိုဘင်မောင် ရုပ်သေးပွဲ၊ (၄) ရာမပြဇာတ်၊ (၅) အငြိမ့်ပွဲ၊ (၆) လူမျိုးစုအလိုက် ပဒေသာကပွဲများ၊ (၇) ကချင်မနောပွဲ၊ (၈) အစိုးရရုပ်ရှင်နှင့်ပြဇာတ်၊ (၉) ယဉ်ကျေးမှုဝန်ကြီးဌာန ပဒေသာကပွဲ၊ (၁၀) ရဲပြဇာတ်၊ (၁၁) ရုပ်ရှင်ပွဲများ၊ (၁၂) ဗမာ့တပ်မတော် ဘင်ခရာ တီးဝိုင်းများ၊ (၁၃) အပျော်ဘမ်းတူရိယာအဖွဲ့များ၊ (၁၄) ရုပ်ရှင်မင်းသား မင်းသမီးများ၏ ပဒေသာကပွဲများ ကပြ သီဆို ဖျော်ဖြေကြသည်။

ဧင်းပြင် ၄–ပွင့်ဆိုင် ဘောလုံးပြိုင်ပွဲ၊ ဘောလီဘော၊ ဘားစကက်ဘော၊ မြန်မာ့လက်ဝှေ့၊ အင်္ဂလိပ်လက်ဝှေ့ပွဲများ၊ တင်းနစ်ရိုက်ပွဲ၊ ဘက်တမင်တန်ရိုက် ပွဲ၊ ခြင်းလုံးအလှခတ်ပြိုင်ပွဲ၊ ဂေါက်သီးရိုက်ပြိုင်ပွဲများ ကျင်းပ၍လည်း ပျော် ရွှင်ကြသည်။

ဧင်းပြင် မြို့တွင်းသာယာ ပျော်ရွှင်မှုများအနေဖြင့် ကက်နက်စိန်ဇာတ်ပွဲ သဘင်က ဒါးတန်း စိန်မဟာသဘင်ရုံကြီးအတွင်း ညစဉ်ကပြသည်။ ထိုမှတပါး မန္တလေး မြို့လုံးကျွတ် မီးပွဲသဘင် ဆင်ယင်ကျင်းပခြင်း၊ အလှပြယာဉ်များဖြင့် လှည့်လည်ဖြေဖျော်ခြင်း၊ မြို့ဝင်ဌာန ၅-ခုတွင် မုခ်ဦးပြာသာဒ်များ ဆောက် လုပ်၍ မီးထွန်းခြင်း၊ ကြံ့ခိုင်ရေးနယ်မြေအလိုက် မီးထွန်းပြိုင်ပွဲများ ကျင်းပ၍ ညှို့ခံမဏ္ဍပ်များမှ ဖျော်ဖြေခြင်းများ ပြုလုပ်သည်။

## ပြပွဲများ

ဧင်းပြင် ပွဲတော်ရက်များအတွင်း နေရေးညပါ ယက္ကန်းပြပွဲ အနှစ်တရာ အတွင်း အဆင့်ဆင့်တိုးလာပုံ ပန်းပုပြပွဲ၊ ဆင်စွယ်လုပ်ငန်းပြပွဲ၊ ငွေထည်လုပ်ငန်း ပြပွဲ၊ ယွန်းထည်လုပ်ငန်းပြပွဲ၊ ပန်းချီပြပွဲ၊ မာတ်ပုံအမျိုးမျိုးပြပွဲ၊ နန်းတော်မြို့ တွင်းပုံများကို ရှေးဟောင်းမူအတိုင်း သစ်သားဖြင့် ပြုလုပ်ပြသခြင်း၊ မန္တလေး တက္ကသိုလ်ရှေးဟောင်းပစ္စည်းနှင့် အနုပညာလက်ရာများပြပွဲ၊ တောင်တွင်းကြီး ပြတိုက်မှ ပစ္စည်းများပြပွဲ၊ ရှေးဟောင်းသုတေသနဌာနနှင့် နိုင်ငံတော်ပြတိုက် ဌာနတို့မှ ရှေးဟောင်းပစ္စည်းများ ပြပွဲ၊မြန်မာ့ဆေးဘက်ဆိုင်ရာပြပွဲ၊ ပခုက္ကူမျက်

မမြင်ကျောင်းမှ ကျောင်းသားများလက်ရာပြပွဲ၊ နိုင်ငံတော်အစိုးရ ပြန်ကြားရေး ဌာနပြပွဲ၊ ကျေးရွာသန့်ရှင်းရေးနှင့် ရေရရှိရေးဌာနပြပွဲ ချောတာစုဆောင်းရေး ဌာနပြပွဲ၊ စာတိုက်နှင့်ကြေးနန်းဌာနပြပွဲ၊ သစ်တောဌာနပြပွဲ၊ ရွှေချည်ထိုးလုပ်ငန်းပြပွဲ၊ ရွှေဆိုင်းလုပ်ငန်းပြပွဲ၊ လယ်ယာစိုက်ပျိုးရေးဌာနပြပွဲ၊ မြေယာကျေးလက်တိုးတက်ရေး ဌာနပြပွဲ၊ ယာဉ်သွားလာမှု ထိန်းသိမ်းရေးပြပွဲ၊ ရဲရုပ်ဇဝင် ပြပွဲ၊ လျှပ်စစ်ဓာတ်အား ပေးရေး ဌာနပြပွဲ။ မြန်မာ ပြည် သိပ္ပံအသင်းကြီးမှ ပြပွဲအမျိုးမျိုး ဆေးနှင့် ကျန်းမာရေးဌာနပြပွဲ စသည့်ပြပွဲများ ခင်းကျင်း ပြသလျက် လူထုအား ဗဟုသုတ ပေးခဲ့လေသည်။

## ကုသိုလ်ဒါနနှင့် ဝိနည်းစာပြန်ပွဲ

ထို့ပြင်တပါး ပွဲတော်ရက်များအတွင်း ကုသိုလ်တော်ဘုရားနှင့် စေတီတော်များ မီးထွန်းညှိပူဇော်ခြင်း၊ ပိဋကတ်ကျောက်စာဂူတော်များ ထုံးသုတ်ပူဇော်ခြင်း၊ သုဓမ္မာဇရပ်များ ပြင်ဆင်ခြင်း၊ သုဓမ္မာဇရပ်များ၌ ဝိနည်းစာပြန်ပွဲကြီးကျင်းပခြင်း၊ နှစ်စဉ်ကျင်းပမြဲ ဘုံကထိန်ဆင်ယင်ကျင်းပခြင်း စသည့် ကုသိုလ်ကောင်းမှုများဖြင့်လည်း ပျော်ရွှင်ကြသည်။

## အလွန်စည်ကားသည့် ပွဲတော်

ယင်း မန္တလေးမြို့တည် နှစ်တရာပြည့်ပွဲတော်ကြီးကား မန္တလေးမြို့၌ အနှစ်တရာအတွင်း တခါသာကြုံရသည့် အလွန်လျှင် စည်ကားသည့် ပွဲတော်ကြီးဖြစ်လေသည်။ ဤသည်လျှင် ရာပြည့်ပွဲ မှတ်တမ်းအမြွက်ဖြစ်၏။

ဥဿဝေါ ကောသတိမော၊ ဥပ္ပန္နော နဂရေ သုဘော။
မန္တလေး နဂရေ သန္တာ၊ သမ္ပမောဒန္တိ နေကဓာ။

## အခြေခံဆဋ္ဌပိုင်း အပြီးသတ်ခြင်း

အင်္ဂလိပ်ခေတ် မှတ်စရာအမြွက်၊ ဂျပန်ခေတ် မှတ်စရာအမြွက်၊ မန္တလေးမြို့ မြို့တည် နန်းတည် နှစ်တရာပြည့် ရာပြည့်ပွဲတော်ကြီး၊ အစီအစဉ် အခမ်းအနားတို့ဖြင့် တန်ဆာဆင်အပ်သော အခြေခံဆဋ္ဌပိုင်းကိုရေးသားစီရင်ခဲ့လေရာ အတော်အသင့် ပြည့်စုံပြီဖြစ်သဖြင့် ဤတွင် မန္တလေးသာသနာဝင်ကျမ်း ပဌမတွဲတွင် အခြေခံဆဋ္ဌပိုင်းကို လက်စသတ်လိုက်ပါပြီ။

သုဇနာနံ ပသာဒါယ၊ သံဝေဂတ္ထာယ မေ ကတော။
ဆဋ္ဌမမူလဘာဂေါယံ၊ သမတ္တော သာဓုဝဏ္ဏိတော။



# အခြေခံ သတ္တမပိုင်း

**ရတနာပုံ မန္တလေးမြို့တော်ကြီးကို တည်ထောင်တော်မူခဲ့သော
ပဉ္စမသံဂါယနာတင် ဘဝရှင်မင်းတရားကြီး၏
သာသနာရေး လုပ်ဆောင်ချက်တို့ကို
အကျဉ်းချုပ်၍ ပြဆိုရာအခန်း**

ပဉ္စမသံဂါယနာတင် ဘဝရှင်မင်းတရားကြီးသည် ရတနာ ၃-ပါးကို အလွန်လျှင် ကြည်ညိုတော်မူသည်။ မင်းအဖြစ် ရယူခဲ့ခြင်းသည်လည်း သာသနာ ပြုလိုသောကြောင့်ဟု မှတ်သားသင့်သည်။

ပဓာနပ္ပလာဘာဝေန၊ ကာရိတံ ရဇ္ဇသာဓနံ။
သမ္ဗုဒ္ဓသာသနဿေဝ၊ ဝုဒ္ဓိယာ ဝေပုလ္လာယ စေါ။

"အင်္ဂါဦးလွှင် မင်းတုန်းဘဝရှင်"ဟူသည်နှင့်အညီ ပဉ္စမသံဂါယနာတင် ဘဝရှင်မင်းတုန်းမင်းတရားကြီးသည် သက္ကရာဇ် ၁၂၁၄ – ခုနှစ်၊ တပေါင်း လဆန်း ၁၁-ရက်နေ့တွင် မင်းအဖြစ်သို့ ရောက်တော်မူသည်။

သက္ကရာဇ် ၁၂၁၅-ခုနှစ်၊ ကဆုန်လတွင် ခမည်းတော် ရွှေဘိုမင်းတရား လက်ထက်က သာသနာပြုအပ်ဘူးသော မောင်းထောင်ဆရာတော် အရှင် ဥေယျကို "ဥေယျမ္မာဘိ မုနိဝရ ဉာဏကိတ္တိသိရိ ဓဇဓမ္မသေနာပတိ မဟာဓမ္မ ရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်လှူဒါန်းရန် အဖွဲ့အရာများနှင့်တကွ ပွဲသဘင်စုံ ကျင်းပတော်မူ၍ ရွှေဘန်ဆာဘုရားရှေ့ သုဓမ္မာဇရပ်တော်တွင် သာသနာပြု အပ်တော်မူ၍ လှူဒါန်းတော်မူသည်။

၎င်းပြင် ယင်းသည့် ၁၂၁၅-ခုနှစ်၊ ပဌမဝါဆိုလအတွင်း မယ်တော်ဘုရား ရွှေတန်ဆာဘုရား၊ အင်ကြင်းတောဘုရားများသို့ တပ်ဝင်း အခင်းအကျင်း များနှင့် အဖူးမြော်ထွက်တော်မူသည်။

ရတနာသိင်္ဃမြို့ (ရွှေဘိုမြို့)နယ် မဟာနန္ဒာကန်တော်ကိုလည်း အကြည့်အရှု ထွက်တော်မူသည်။ သုဓမ္မာဇရပ်တော်သို့လည်း စာနာ ထွက်တော်မူသည်။

၁၂၁၅-ခုနှစ်၊ ဝါမဝင်မီ ရတနာသိင်္ဃမြို့တော် တောင်မျက်နှာ မစိုးရိမ်ကျောင်းတိုက်အတွင်း သာသနာပြု ဆရာတော်ကြီးအား တင်လှူရန် ဝါဆိုကျောင်း ၁၊ မြို့ရှေ့မျက်နှာ ဠက္ခဒွါတံခါးပြင် ကျောင်းတိုက်အတွင်း ဗားကရာ ဆရာတော် အရှင်ပညာဇောတ မဟာထေရ်အား တင်လှူရန် ဝါဆိုကျောင်း ၁၊ ခင်မကန်ဆရာတော် အရှင်မဏိဇောတအား တင်လှူရန် ဝါဆိုကျောင်း ၁-တို့ ဆောက်လုပ်စေတော်မူပြီးလျှင် အဖွယ်အရာ အခြံအရံ ပစ္စည်းဝတ္ထု ပရိက္ခရာများနှင့်တကွ ယင်းသည့် ၁၂၁၅ - ခုနှစ်၊ ပဌမဝါဆိုလတွင် ကျောင်းအပ်တင်လှူတော်မူသည်။

## သုဓမ္မာဇရပ် သံဃာတော်များအား သင်္ကန်းလှူဒါန်းခြင်း

ပဌမဝါဆိုလဆန်း ၉-ရက်နေ့တွင် ရွှေတန်ဆာဘုရားသို့ ဘဝရှင်မင်းတုန်းမင်းတရားကြီးသည် နန်းမတော်မိဖုရားခေါင်ကြီးနှင့်အတူ ထွက်တော်မူ၍ မြတ်လေးကော်ရော် ဖူးမြော်တော်မူပြီးလျှင် သုဓမ္မာဇရပ်အတွင်း တံဆိပ်တော်ရ ဆရာတော် သံဃာတော်များ၏ ရှေ့တော်မှောက်တွင် ပဌမပဥ္စင်းလောင်း၊ ရှင်လောင်းတို့ကို စာပြန်ဆိုမေးမြန်းသည်ကို စာနာတော်မူ၍ သုဓမ္မာဇရပ် ကြွရောက်တော်မူကြသော ဆရာတော် သံဃာတော်အရှင်မြတ် ၁၁၀-ကျော်တို့အား သင်္ကန်း ၁၁၀-ကျော် လှူဒါန်းတော်မူသည်။

## သက်စေ့ ရဟန်း၊ သာမဏေ၊ ဘိုးသူတော်၊ မယ်သီလများအား လှူဒါန်း ဥပုသ်သည်စသူများအား ချီးမြှောက်ပေးကမ်း

ယင်းသည့် သက္ကရာဇ် ၁၂၁၅-ခုနှစ်၊ ပဌမဝါဆိုလဆုတ် ၁၅-ရက်နေ့တွင် ရတနာသိင်္ဃမြို့တော်အတွင်း ရွှေတန်ဆာဘုရားအား လှူဒါန်းပူဇော်ရန် ထီးဖြူ၊ ထီးနီ၊ တံခွန်၊ ကုက္ကား၊ မုလေးပွား၊ ရေချမ်းအိုး၊ ရွှေဆိုင်း သက်စေ့ ၄၀၊ ရဟန်းတော် ၄၀၊ သာမဏေ ၄၀၊ ဆွမ်းတပါးစာစီနှင့် ပရိက္ခရာအစုံ ၄၀၊ ဘိုးသူတော် ၄၀၊ သီလရှင် ၄၀–တို့အား ပိတ်ကိုယ်ဝတ်၊ ကိုယ်ရုံ၊ တောင်ဝှေး၊ စိပ်ပုတီး၊ ဆန်တစိတ်စီ လှူဒါန်းတော်မူသည်။ ၎င်းပြင် အမျိုးသား ဥပုသ်သည် ၄၀၊ အမျိုးသမီး ဥပုသ်သည် ၄၀၊ ပုဏ္ဏား ၄၀၊ ပုဏ္ဏေးမ ၄၀-တို့အားလည်း ကိုယ်ဝတ်အင်္ကျီ၊စံပယ်တင်တထည်စီ၊ အသက်ကြီး သူအို ယောကျ်ား ၄၀၊ အသက်ကြီး သူအို မိန်းမ ၄၀၊ ကသည်းလူမျိုး ၄၀၊ ကုလားလူမျိုး ၄၀၊ တရုတ်လူမျိုး ၄၀၊ ရှမ်းလူမျိုး ၄၀၊ ယိုးဒယားလူမျိုး ၄၀၊ သူတောင်းစား ၄၀၊ ကျွန်သီးတော်ရခိုင် ၄၀-တို့အား ပုဆိုး၊ ခေါင်း



ပဌမသံဂါယနာတင် ဘဝရှင်မင်းတုန်းမင်းတရားကြီး

ပေါင်း၊ အင်္ကျီ၊ ထဘီ၊ ပဝါ၊ ဆန့်တစိတ် လှူဒါန်းတော်မူရန်၊ အဖွယ်အရာများကို အရှင်နှစ်ပါး မြေနန်းတော်သို့ ထွက်တော်မူ၍ ရေစက်သွန်းချတော်မူပြီးလျှင် ရွှေတန်ဆာဘုရားအား လှူဒါန်းရန် ဆွမ်းဟင်းလျာစုံများကိုလည်း ရဟန်းတော်များသို့ကပ်၍ လှူဒါန်းတော်မူသည်။

ကျန် အလှူခံတို့အား မြေနန်းတော်ဘွင် ပေးဝေ လှူဒါန်းတော်မူသည်။ ကျွန်သီးတော်၊ သူတောင်းစားတို့အားမူ ရွေးတော်ယူတံခါးပြင်တွင် ပေးကမ်းရ၏။

## စေတီပုထိုးများ မွမ်းမံခြင်း အင်းဘေးမဲ့ပေး

ယင်းသည့် ၁၂၁၅-ခုနှစ်အတွင်း ရွှေဘန်ဆာဘုရား၊ အင်ကြင်းတောဘုရား ၂-ဆူကို ထီးချရား သီးကစ၍ ဖိနပ်တော်အထိ လုံးတော်ပြည့် ရွှေမွမ်းမံကပ်လှူတော်မူပြီးလျှင် ရတနာသိင်္ဃ(ရွှေဘို)မြို့တော်အတွင်းရှိ ပျက်စီးယိုယွင်းသည့်စေတီပုထိုး ဆူရေ ၇၂-ဆူ၊ ဂူ ၅-လုံး၊ ပြာသာဒ်လေးဆောင်၊ အုတ်ဇရပ် ၁-ဆောင်တို့ကို ပြင်ဆင်ရန် ငွေအသပြာ ၇၉၆၇-ကျပ် ထုတ်ပေးစေတော်မူသည်။ စစ်ကိုင်းမြို့ စီရင်စု ကြက်ထောင့်မြစ် စွတ်အင်းကိုလည်း အရည်ဝါသီ ပုဂ္ဂိုလ်ထွတ်ခေါင် ဆရာတော် အရှင်ဉာဏာဓိသဒ္ဓထရ် မေတ္တာရပ်ခံသဖြင့် ဘေးမဲ့ပေးတော်မူသည်။

## ရွှေဘိုမြို့၌ထားရန် ပိဋကတ်များ ရေးစေခြင်း

ရင်းပြင် ရတနာသိင်္ဃ (ရွှေဘို) မြို့တော်၌ ထားရှိကိုးကွယ်ရန် ဘုရားရှင်ဟောကြားတော်မူအပ်သော သုတ္တန်၊ ဝိနည်း၊ အဘိဓမ္မာ ဟူသော အဋ္ဌကထာနှင့်တကွ ပိဋကတ်သုံးပုံကို ယင်းသည့် ၁၂၁၅-ခုနှစ် သီတင်းကျွတ်လဆန်း ၇-ရက်နေ့ကစ၍ ရေးသားစေတော်မူသည်။

## ထိုထိုရပ်ရွာဒေသတို့၌ ဘုရားဆင်းတု ကိုးကွယ်စေခြင်း

ယင်းသည့် သက္ကရာဇ် ၁၂၁၅-ခုနှစ်အတွင်းတွင် ဘေးတော်အလောင်းမင်းတရားကြီးဘုရား မြေနန်းပြာသာဒ်တော် တိုင်သစ်များ ထုလုပ်တော်မူသည့် ဘုရားဆင်းတုတော် ၁၀၅-ဆူ၊ ရဟန္တာဆင်းတုတော် ၉၈-ဆူ စုစုပေါင်း ဆင်းတုတော်ပေါင်း ၂၀၃-ဆူ ထုလုပ်၍ သစ္စေး၊ သားရိုး ရွှေမွမ်းမံပြီးပြေသည်ကို စံနန်းတော် ရွှေတန်ဆောင်းတော်တွင် အနေကဇာတင်၍ ကိန်းဝပ်စေပြီးလျှင် ရတနာသိင်္ဃ မြို့တော်အတွင်း စွယ်တော်စင်အနီး ၁-ဆူ၊ မင်းကျောင်း

ရွာတွင် ၁-ဆူ၊ ဆီးတောရွာတွင် ၁-ဆူ၊ ချည်ပါရွာတွင် ၁-ဆူ၊ ထနောင်းဝန်းရွာတွင် ၁-ဆူ၊ ဆိတ်ခွန်ရွာတွင် ၁-ဆူ၊ သီးလုံးရွာတွင် ၁-ဆူ၊ ကြိုးကြာရွာတွင် ၁-ဆူ၊ အိုးပေါက်ရွာတွင် ၁-ဆူ၊ ငလိုင်းရွာတွင် ၁-ဆူ၊ သင်းဝန်ချောင်ရွာတွင် ၁-ဆူ၊ ယင်းတောရွာတွင် ၁-ဆူ၊ စိုင်နံတောင်ရွာတွင် ၁-ဆူ၊ မြောက်ရွာတွင် ၁-ဆူ၊ ဟန်လင်းရွာတွင် ၁-ဆူ၊ ကျွဲရွာတွင် ၁-ဆူ၊ မောက်ကျိုးရွာတွင် ၁-ဆူ၊ ကော့ရွာတွင် ၁-ဆူ၊ မှတ်ထံရွာတွင် ၁-ဆူ၊ လှတောကြီး ၅-ရွာတွင် ၁-ဆူ၊ မူးသာရွာတွင် ၁-ဆူ၊ သရိုင်ရွာတွင် ၁-ဆူ၊ မန်ကျည်းတုံရွာတွင် ၁-ဆူ၊ ဆင်အင်းရွာတွင် ၁-ဆူ၊ ယင်းပါရွာတွင် ၁-ဆူ၊ အင်းဘဲရွာတွင် ၁-ဆူ၊ ကြေးကတူးရွာတွင် ၁-ဆူ၊ သရစိမ်းရွာတွင် ၁-ဆူ၊ သမန်သာရွာတွင် ၁-ဆူ၊ ဆားတောင်မူးသာရွာတွင် ၁-ဆူ၊ ညောင်ပင်သာရွာတွင် ၁-ဆူ၊ စည်ပုတ္တရာရွာတွင် ၁-ဆူ၊ သာဝတ္ထိရွာတွင် ၁-ဆူ၊ ညောင်စဉ်သင်ပေါင်းကျဉ်းရွာတွင် ၁-ဆူ၊ ယင်းတိုက်ရွာတွင် ၁-ဆူ၊ ခေါ်တောရွာတွင် ၁-ဆူ၊ ပြွန်ဦးရွာတွင် ၁-ဆူ၊ ရွာသာရွာတွင် ၁-ဆူ၊ လှထွေရွာတွင် ၁-ဆူ၊ ရွာဝေးရွာတွင် ၁-ဆူ၊ စည်သာရွာတွင် ၁-ဆူ၊ ကူခေါင်းတောင်ရွာတွင် ၁-ဆူ၊ တောင်ကြားရွာတွင် ၁-ဆူ၊ ငစဉ့်ကိုင်ရွာတွင် ၁-ဆူ၊ မြကန်ရွာတွင် ၁-ဆူ၊ ဆင်းကွပ်ရွာတွင် ၁-ဆူ၊ တလိုင်းရွာတွင် ၁-ဆူ၊ ဝက်လည်ရွဲရွာတွင် ၁-ဆူ၊ ပန်းတံဆိပ်ရွာတွင် ၁-ဆူ၊ မန်သာရွာတွင် ၁-ဆူ၊ စောကြီးရွာတွင် ၁-ဆူ၊ ရွာနန်းရွာတွင် ၁-ဆူ၊ ပန့်ကျည်းရွာတွင် ၁-ဆူ၊ ပုံလူးတောင်ရွာတွင် ၁-ဆူ၊ ပဲလူးမြောက်ရွာတွင် ၁-ဆူ၊ ဆင်ပြာကုန်းရွာတွင် ၁-ဆူ၊ မြောင်တောင်ရွာတွင် ၁-ဆူ၊ မြောင်မြောက်ရွာတွင် ၁-ဆူ စုစုပေါင်းဆူရေ ၆၅-ဆူတို့ကို လောကမာရဇိန်နည်းတူ ကမ္ပည်းတပ်၍ သက္ကရာဇ် ၁၂၁၅-ခုနှစ်၊ တန်ဆောင်မုန်းလဆုတ် ၁-ရက်နေ့ကစ၍ အသီးသီး အမျိုးသား အမျိုးသမီး ကပ္ပိယကာရကဗ္ဗုဒ္ဓဘာသာဝင်များ... 

ကျွန်ုပ်ဘုရား ဆင်းတုဆူရေ ၄၀၊ ရဟန္တာ ဆင်းတုတော် ၉၈-ဆူတို့ကို ရတနာသိင်္ခ (ရွှေဘို) မြို့နှင့် နီးစပ်သည့် မြို့ကျေးရွာ၊ ကျောက်မြောင်းမြို့ ကျေးရွာများက ထိုကဲ့သို့ အသီးသီး ပင့်ဆောင်ကိုးကွယ်စေ၏။ ကပ္ပိယသာဘင်များ သွင်းပြရာ မြေနန်းတော်ဦးသို့ အရှင်နှစ်ပါးထွက်တော်မူ၍ ပုဆိုး၊ ခေါင်းပေါင်းအုပ်၊ ပိတ်အုပ်၊ ပိတ်အုပ်ငါးမျိုးပုဝါအုပ် ဆုပေးစေတော်မူသည်။

ကာရာပေတွာ ပဋိမာယော၊ ဘူပါလော ရာဇသေခရော။
တေသု တေသု ပဒေသေသု၊ နာထံ ကာရာပယီ ဟိ သော။

## ဥပုသ်သီတင်း စောင့်သုံးတော်မူခြင်း

မင်းတုန်းမင်းတရားကြီးသည် ၁၂၁၅-ခုနှစ်၊ နတ်တော်လအတွင်း မှူးတော်မတ်တော်များနှင့် မြေနန်းတော်သို့ ထွက်တော်မူ၍ သံဃာတော် ၈-ပါး ပင့်၍ ဥပုသ်ယူတော်မူသည်။ ၎င်းပြင် ပြာသိုလဆန်း ၈-ရက်၊ ၁၅-ရက်နေ့တို့၌လည်း ဥပုသ်ယူတော်မူသည်။ စစ်ကိုင်းတောင်ရိုး ရတနာ့ထွတ်ခေါင်ဆရာတော်ကိုလည်း မြောက်ဥယျာဉ်တော်အတွင်း စံနန်းတော်သို့ ပင့်တော်မူ၍ ဆွမ်းကပ်လှူဒါန်း သင်္ကန်းလျာပိတ်အုပ် လှူဖွယ်ကို လှူဒါန်းတော်မူသည်။ ယင်းသည့် ပြာသိုလတွင်ပင် သက်စေ့သံဃာတော် ၄၁-ပါးတို့အား ဆွမ်းကပ်၍ တရားနာတော်မူသည်၊

## ဥပုသ်သည် ဥပုသ်သည်ခေါင်းတို့အား ချီးမြှောက်ခြင်းစသည်

၁၂၁၅-ခုနှစ်၊ တပေါင်းလဆန်း ၁၅-ရက်နေ့တွင်လည်း ဥပုသ်ယူတော်မူ၍ ရွှေမြို့တော် လေးမျက်နှာ ဥပုသ်သည်တို့ကိုလည်း ထမင်းကျွေးတော်မူ၍ ဥပုသ်စောင့်သူဘို့ သင်ကြားကျက်မှတ်စေရန် ရွှေပုရပိုက်တွင် သရဏဂုံ ၃-ပါးနှင့် ဥပုသ်အခြင်းအရာ ဒုစရိုက် သုစရိုက်များကို ရေးစေတော်မူ၍ ဥပုသ်တော်စောင့်ခေါင်းတို့အား ပေးတော်မူသည်။ မင်းတရားသည် ယဉ်ကျေးမှုကိုလည်း အလွန်မြတ်နိုးတော်မူသည်။ နှစ်စဉ်လှူဒါန်းမြဲ အတာသဘင်မှစ၍ ၁၂-ရာသီသဘင် မင်းပွဲအလှူများကို အစဉ်မပြတ် စီရင်ခင်းကျင်းလှူဒါန်းတော်မူသည်။ ယင်းသို့ဖြင့် မင်းတရားသည် လတိုင်းလတိုင်း ကုသိုလ်ကောင်းမှုဖြင့် ပျော်တော်မူခဲ့လေသည်။

မာသေ မာသေ မဟာရာဇာ၊ ဒါနံ ဥပေါသထမ္ပိ စ။
ပဒတွာန ရက္ခိတွာန၊ အနုမောဒိ သုမာနသော။

## အသက်ရှည်စေရန် သတ္တဝါများ ဘေးမဲ့ပေး

ရတနာ ထွတ်ခေါင်ဆရာတော်ဘုရားကြီး ဦးဉာဏဝံသ၏ မေတ္တာရပ်ခံချက်အရ သက္ကရာဇ် ၁၂၁၆-ခုနှစ်၊ တန်ခူးလဆုတ် ၆-ရက်နေ့တွင် စစ်ကိုင်းမြို့နယ် လက်လှုပ်အရှေ့အလား ရာဇစူဠာ၊ အနောက်အလား ငစိန်တ၀ချောင်း၊ မြောက်အလား ကုန်းရွာ၊ ကျောက်ဆည်ရွာ၊ အရှေ့မြောက်အလား စာရေးရွာနယ်အတွင်း သားငှက်တိရစ္ဆာန်များကို ဘေးမဲ့ပေးလှူတော်မူသည်[၁]။

---

၁။ ကုန်းဘောင်ဆက်၊ ၃။ ၁၇၅။

### ဆရာတော် ဦးစန္ဒိမာအား ကျောင်းတင်လှူ

၁၂၁၆-ခုနှစ်၊ ကဆုန်လဆန်း ၁၄-ရက်နေ့တွင် ဗားကရာကျောင်းတိုက်အတွင်း ဆောက်လုပ်သည့်ကျောင်းကို အရည၀ါသီ တောရဆရာတော် ဦးစန္ဒိမာအား မှူးတော်မတ်တော်တို့ကို သွားရောက်တင်လှူစေတော်မူသည်။

### ဥပုသ်သည်များအား ထမင်းကျွေး၊ ဆရာတော်များအား ဘွဲ့တံဆိပ်တော်လှူ

၁၂၁၆-ခုနှစ်၊ နယုန်လဆုတ် ၁၄-နေ့တွင် အမရပူရမြို့တော် အတွင်းအပြင် ရှစ်သီတင်းဥပုသ်စောင့်သူတို့ကို တောင်ဥယျာဉ်တော်အတွင်း ထမင်းကျွေးမွေးတော်မူသည်။ ၎င်းနောက် ထိုဥပုသ်သည်တို့ကိုလည်း သရဏဂုံ၊ အဋ္ဌသီလ၊ ပဉ္စသီလ၊ သုစရိုက်၊ ဒုစရိုက်၊ ပုညကိရိယာဝတ္ထုဆယ်ပါး ပါဠိအနက်များကို ပေးအပ်တော်မူသည်။ မင်းတုန်းမင်းတရားကြီးလည်း ဝါတွင်း ၃-လပတ်လုံး သီတင်းစဉ်မပြတ် ဥပုသ်ယူတော်မူသည်။

၎င်းပြင် သာသနာပိုင်ဆရာတော်ဘုရားကြီး၏ မေတ္တာရပ်ခံချက်အရ အလုံစီရင်စု မောင်းထောင်ရွာရှိ တဖက်ဆည်ကံအတွင်း ရေပိုး၊ ရေမွှား သား ငါးတိရစ္ဆာန်တို့ကို ဘုန်းတော်ကြီး၍ သက်တော်ရှည်ရသော အကြောင်းကို ရည်မှတ်တော်မူ၍ အဖမ်း အဆီး အပစ် အခတ် အသတ် အညှဉ်း မရှိစေရ၊ ဘေးမဲ့ပေးတော်မူသည်။

အမရပူရ ရွှေမြို့တော်အတွင်း အနောက်မြောက်ထောင့် ဆင်ကြိုးရွှေဂူဘုရားရင်ပြင်တော် အနီး မြောက်နန်းတော်မိဖုရား သီရိမဟာ ရတနာမင်္ဂလာဒေဝီက သုဓမ္မာအုတ်ဇရပ်ဆောက်လုပ်ပြီးပြေသည်ကို ရေစက်တော်သွန်း တံဆိပ်တော်လှူထွက်တော်မူ၍ သာသနာပြုဆရာတော်နှင့်အရံဆရာတော် သံဃာတော်၄၂-ပါးတို့ကို တပ်ဦးတော်က ပင့်ဆောင်ကြသွားစေတော်မူ၍ သာသနာပြု ဆရာတော်အား လှူရန် ရွှေချဒေါင်းပေါင်(ဒေါင်းလန်း) တွင်တင်၍ ထီးဖြူအုပ်မိုးပြီးလျှင် မှူးတော် မတ်တော်တို့ ဗောင်းဝတ်လုံ စလွယ်ဆင်ယင်ပိုက်ပွေ့စေပြီးမှ ရွှေချားစမြောင်သိုင်းနင်းအဖွဲ့ ၂၊ ၎င်းနောက် စည်တော်စုံ ခင်းကျင်း၍ ဆဒ္ဒန်ဆင်မင်းသခင် ဘဝရှင်မင်းတရားကြီး၊ အရှင်မိဖုရားခေါင်ကြီး၊ မင်းမိဖုရားများ၊ မင်းညီမင်းသားများနှင့် မှူးတော်မတ်တော် အပေါင်းခြံရံလျက် ၁၂၁၆-ခုနှစ် ဝါဆိုလဆန်း ၂-ရက်နေ့ တင်တော်ဝန်းတော် အခင်းအကျင်းများနှင့် ထွက်တော်မူပြီးလျှင် သုဓမ္မာဇရပ်ကို သာသနာတော်အား ရေစက်သွန်းချလှူဒါန်းတော်မူသည်။

ဆုတောင်းတော်စာနှင့် တံဆိပ်တုံးများကို ဖတ်ပြဖတ်လျှောက်စေပြီးလျှင် သာသနာပြု သံဃာ့ဦးကိုင် သာသနာပိုင် ဆရာတော်ဘုရားကြီး—

၁။ အရှင်ဥေယျအား "ဥေယျမ္ဗာဘိ မုနိဝရဉာဏကိတ္တိသိရီသဒ္ဓမ္မဓဇ ဓမ္မသေနာပတိ မဟာဓမ္မ ရာဇာဓိ ရာဇဂုရု"

၂။ ဗားကရာ ဆရာတော် အရှင်ပညာဇောတအား "ပညာဇောတ ဓမ္မသိရီ ကဝိဓဇ မဟာ ဓမ္မရာဇာဓိ ရာဇဂုရု"

၃။ ပြည်ဆရာတော် အရှင်မေဓာအား "မေဓာဘိဝံသ သဒ္ဓမ္မဓဇ မဟာဓမ္မ ရာဇာဓိ ရာဇဂုရု"

၄။ ခင်မကန်ဆရာတော် အရှင်မဏိဇောတအား "မဏိဇောတသဒ္ဓမ္မာလင်္ကာရ မဟာဓမ္မ ရာဇာဓိ ရာဇဂုရု"

၅။ စံကျောင်းဆရာတော် အရှင်စန္ဒိမာအား "စန္ဒိမာဘိသိရီဓဇ မဟာဓမ္မရာဇာဓိ ရာဇဂုရု"

၆။ ထီးလင်းဆရာတော် အရှင်ဝီရိယအား "ဝီရိယဝရအရိယဝံသ မဟာဓမ္မရာဇာဓိ ရာဇဂုရု"

၇။ ဘုံကျော်ဆရာတော် အရှင်ပညာသာမိအား "ပညာသာမိ ကဝိသာရဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု"

၈။ ကေကုဆရာတော် အရှင်မုနိန္ဒအား "မုနိန္ဒဝရဓမ္မသိရီ မဟာဓမ္မရာဇာဓိ ရာဇဂုရု"

၉။ တုတ်လှုန်းဆရာတော် အရှင်အရိယဝံသအား "အရိယဝံသာလင်္ကာရဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု"

၁၀။ ဆင်တဲဆရာတော် အရှင်ဉာဏကိတ္တိအား "ဉာဏကိတ္တိယသ တိသာရဓမ္မ မဟာဓမ္မရာဇာဓိရာဇဂုရု"

၁၁။ ကတိုးဆရာတော် အရှင်သာသနဇောတအား "သာသနဇောတာဘိ ကဝိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု"

၁၂။ မာရ်အောင်ဆရာတော် အရှင်ဇမ္ဗုဒီပအား "ဇမ္ဗုဒီပဓဇမုနိဝရ မဟာဓမ္မရာဇာဓိရာဇဂုရု"

၁၃။ လောကမ္ဘန်ကင်းဆရာတော် အရှင်ကလျာဏဝံသအား "ကလျာဏဝံသ အရိယဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု"

၁၄။ ယင်းတော်ဆရာတော် အရှင်ကေသရအား "ကေသရဓဇသဒ္ဓမ္မသိရိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု"

၁၅။ မဟာဗောဓိဆရာတော် အရှင်ကဝိန္ဒအား "ကဝိန္ဒဓဇဂုဏမဉ္ဇူသာ မဟာဓမ္မရာဇာဓိရာဇဂုရု"

၁၆။ အမရပူရမြို့ဝန်တိုက်နေ အုတ်ကျောင်းဆရာတော် အရှင်ဝါယာမအား "ဝါယာမဓဇသဒ္ဓမ္မသိရိ မဟာဓမ္မရာဇာဓိရာဇဂုရု"

၁၇။ သစ်ဆိမ့်ဆရာတော် အရှင်တေဇောသာရအား "တေဇောသာရာဘိ ပဏ္ဍိတဂုဏမဟာဓမ္မရာဇာဓိရာဇဂုရု"

၁၈။ ညောင်ကန်ဆရာတော် အရှင်ဉာဏိန္ဒအား "ဉာဏိန္ဒာဘိပဏ္ဍိတ ပရမ မဟာဓမ္မရာဇာဓိရာဇဂုရု"

၁၉။ သရက်တောဆရာတော် အရှင်မေဓာအား "မေဓာဘိမုနိပရမဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု"

၂၀။ လေးထပ်ဆရာတော်အား "ပညာသိဟာဘိမုနိသဒ္ဓမ္မ မဟာဓမ္မရာဇာဓိ ရာဇဂုရု"

၂၁။ ဘုံကျော်တိုက်နေ ဆရာတော်အရှင်ဝဏ္ဏအား "ဝိမလာစာရဓမ္မဉာဏ ဓဇ မဟာဓမ္မရာဇဂုရု"

၂၂။ တောင်လေးလုံးဆရာတော် အရှင်ဇယန္တအား "ဇယန္တာဘိဝံသဝရဓဇ မဟာဓမ္မရာဇဂုရု"

၂၃။ ဂူကြီးဆရာတော် အရှင်စန္ဒအား "စန္ဒာဘိသိရိကဝိဓဇမဟာဓမ္မရာဇဂုရု"

၂၄။ အောင်မြေရွှေဘုံဆရာတော် အရှင်ကေတုအား "ကေတုဓမ္မဝရာလင်္ကာ ရ ဓဇ မဟာဓမ္မရာဇဂုရု"

၂၅။ ပုသိမ်ဆရာတော် အရှင်သဒ္ဓမ္မအား "သဒ္ဓမ္မရံသိအရိယပရမ မဟာ ဓမ္မရာဇဂုရု"

၂၆။ ခွေးချီဆရာတော် အရှင်ဇနိန္ဒအား "ဇနိန္ဒာဘိမုနိယသစိတ္တ မဟာဓမ္မ ရာဇဂုရု"

၂၇။ ထီးလင်းဆရာတော် အရှင်သီရိန္ဒအား "သီရိန္ဒာဘိဇောတဓမ္မာလင်္ကာရ မဟာဓမ္မရာဇဂုရု"

၂၈။ မေဃဝတီဆရာတော် အရှင်ဇနိန္ဒအား "ဇနိန္ဒာဘိဉာဏသဒ္ဓမ္မဓဇ မဟာဓမ္မရာဇဂုရု"

၂၉။ ပင်း ဆရာတော် အရှင်ခေမာအား "ခေမာလင်္ကာရ ဂုဏာကိတ္တိသာရ မဟာဓမ္မ ရာဇဂုရု"

၃၀။ အသောကာရာမတိုက်နေ ဆရာတော် အရှင်ဂုဏအား "ဂုဏာဘိဝရဓမ္မ ကဝိဓဇောတ မဟာဓမ္မရာဇဂုရု"

၃၁။ မြင်းဝန်ဆရာတော် အရှင်အာစိဏ္ဏအား "အာစိဏ္ဏာဘိစက္ကသဒ္ဓမ္မကိတ္တိ မဟာဓမ္မရာဇဂုရု"

၃၂။ ပင်းတလဲဆရာတော် အရှင်သုဇာတအား "သုဇာတပရမဂုဏာဘိသာရ မဟာဓမ္မရာဇဂုရု"

၃၃။ ရွှေသင်းမာဆရာတော် အရှင်ဇာဂရအား "ဇာဂရန္တမုနိ သဒ္ဓမ္မဝရဓမ္မ မဟာဓမ္မရာဇဂုရု"

၃၃။ ဆူးခါး ဆရာတော် အရှင်နန္ဒမေဓာအား "နန္ဒမေဓာဘိသီရိပရမ မဟာ ဓမ္မရာဇဂုရု"

၃၅။ ရွှေတိုက်ဝန်ဆရာတော် အရှင်အရိန္ဒမအား "အရိန္ဒမဝရဗုဒ္ဓိဝိမလ မဟာ ဓမ္မရာဇဂုရု"

၃၆။ ရွှေတောင်ဆရာတော် အရှင်ပဏ္ဍိတအား "ပဏ္ဍိတဓဇမုနိန္ဒဃောသမဟာ ဓမ္မရာဇဂုရု"

၃၇။ ကျောက်မြောင်းဆရာတော် အရှင်ကေတုမာလာအား "ကေတုမာလာ လင်္ကာရ မဟာဓမ္မရာဇဂုရု"

၃၈။ ဂူကြီးဆရာတော် အရှင်ဝရအား "ဝရသဓ္ဓမ္မာဓိအရိယဓဇ မဟာဓမ္မရာဇ ဂုရု"

၃၉။ ဂူကြီးတိုက်ခနဆရာတော် အရှင်ဃောသအား "ဃောသဝဏ္ဏာစာရာဘိ ကဝိဓဇမဟာဓမ္မ ရာဇဂုရု"

၄၀။ ကျော်အောင်စံဆရာတော် အရှင်ကဝိသာရအား "ကဝိသာရယသကိတ္တိ ပရမ မဟာဓမ္မရာဇဂုရု"

၄၁။ အင်းနားဆရာတော် အရှင်ဓမ္မနန္ဒအား "ဓမ္မနန္ဒာဘိသီရိဓဇ မဟာဓမ္မ ရာဇဂုရု"

၄၂။ ရေလယ်တိုက်ဆရာတော် အရှင်နန္ဒမေဓအား "နန္ဒမေဓာစာရ သီရိပရမ မဟာဓမ္မရာဇဂုရု"

၄၃။ အနောက်နန်းတော်တိုက်အုပ်ဆရာတော် အရှင်ဝိစာရိန္ဒအား "ဝိစာရိန္ဒာဘိ သီရိကဝိဓဇမဟာဓမ္မရာဇဂုရု" ဟူသော တံဆိပ်တော်များကို အသီးအသီး ဆပ်ကပ်လှူဒါန်းတော်မူသည်။

## သားတော်မင်းသားစသည်များ သာသနာတွင်း သွတ်သွင်းခြင်း

သက္ကရာဇ် ၁၂၁၆-ခု၊ ဝါဆိုလတွင် သားတော်မလွန်မင်းသား သတိုးမင်းလှဇေယျသူ၊ သားတော်သုံးဆယ်မင်းသား သတိုးမင်းစော၊ သားတော်မြင်ကွန်းမင်းသား သတိုးမင်းလှကျော်စွာ၊ အိမ်ရှေ့မင်းသား၊ ပန်းထိမ်းမင်းသား သတိုးမင်းလှသီဟသူတို့ကို ခမည်းတော်တရားလက်ထက် ညီတော်အိမ်ရှေ့မင်းကို နားထွင်းသျှောင်ထုံးအခမ်းအနားနည်း၊ မိထွေးတော်သား တပယ်မြို့စားကို ဘကြီးမင်းတရားလက်ထက် တောင်ငူမင်းသား၊ မြင်းမူမင်းသား မောင်ဘိုးရောင်ကို နားထွင်းသျှောင်ထုံးအခမ်းအနားနည်း ခန့်ထားစီရင်စေ၍ မြေနန်းတော်မြောက်သကြံန်တန်ဆောင်း၌ သကြံန်ခေါ်ပြီးလျှင် မြေနန်းတော်သို့ ဆဒ္ဒန်ဆင်မင်းသခင် ဘဝရှင်မင်းတရားဘုရား၊ မိဖုရားခေါင်ကြီးဘုရားနှစ်ပါး ထွက်တော်မူ၍ အိမ်ရှေ့မင်း၊ မင်းညီမင်းသား၊ မှူးတော်မတ်တော်အပေါင်း ခြံရံလျက် စာတမ်းစာရင်းထွက်အတိုင်း အခါတော်နှင့် နားထွင်းဥသျှောင်ထုံး မင်္ဂလာဆောင်တော်မူပြီးလျှင် သာသနာ့ဒါယကာ သာသနာတော်အမွေခံ အကျိုးရည်တော်မူ၍ ယင်းပန်းထိမ်းမင်းသား၊ မိထွေးတော်သား တပယ်မြို့စားတို့ကို ရှင်သာမဏေအဖြစ် ချီးမြှောက်၍ သာသနာတော်သွင်းသို့ သွတ်သွင်းတော်မူခဲ့လေသည်။ တံဆိပ်တော်ရ ဆရာတော်ကြီး ၄၅-ပါးတို့အား လှူဒါန်းရန် သီးမျိုးစုံ ပဒေသာပင်ရေ ၄၅-ပင်၊ စွန့်ကြဲရန် ပဒေသာပင်ရေ ၁၇၀-တို့ကိုလည်း ရေစက်သွန်းချ လှူဒါန်းစွန့်ကြဲတော်မူသည်။

ဖော်ပြပါ ရှင်သာမဏေပြု အခမ်းအနားများတွင် မင်းတရားကြီးနှင့် မိဖုရားခေါင်ကြီး ဉပုသ်ယူသည်ဖြစ်၍ ပွဲသဘင် မခင်းကျင်း မတီးမမှုတ်ရ၊ သားတော်ရှင်သာမဏေတို့ကို ဆရာတော် ဦးစန္ဒိမာထံ အပ်တော်မူ၍ မင်္ဂလာအိမ်တော်ကို ကျောင်းပြုလုပ် သီတင်းသုံးစေပြီးလျှင် စာပေသင်ကြားတော်မူသည်။

ဝေမ္ပိ ဓမ္မရာဇာ သော၊ မင်းတုန်းနာမ သုဘူပတိ။
ဇိနဿ သာသနံ ပဂ္ဂဏှိ၊ ပဂ္ဂဟော ကုသလော ဝိဒူ၊။

## ဥဘတောဝိဘင်း စသည်ပြန် အရှင်ကေလာသ၏ မိဘဆွေမျိုးများကို မင်းမှုမှ လွတ်စေခြင်း

အမရပူရမြို့တော်တွင် ပိဋကတ်ကျမ်းဂန် အတန်တန်ကို သင်ကြား သီတင်းသုံးတော်မူသော ပဉ္စာလမြို့နေ ရဟန်းတော် အရှင်ကေလာသသည် ယင်းသည့်သက္ကရာဇ် ၁၂၁၆-ခုနှစ်၊ တော်သလင်းလဆုတ် ၄-ရက်နေ့တွင် ဥဘတောဝိဘင်း၊ ဒွေမာတိကာ၊ မူလသိက္ခာ၊ ခုဒ္ဒသိက္ခာများကို ဝါစုဂ္ဂတ ဆောင်ရွက်ပြန်ဆိုတော်မူခဲ့လေသည်။ သို့ဖြစ်၍ မင်းတုန်းမင်းတရားသည် ပဉ္စာလ ၅-မြို့နေ အရှင်ကေလာသ၏ မိဘ ပေါက်ဖော် ဆွေမျိုးတို့ကို တိုင်း မင်းမှုမှစ၍ လွတ်ငြိမ်းစေတော်မူသည်။

## သာသနာပိုင် ဆရာတော်ဘုရားကြီး အရှင်ဥေယျမွကို ဖူးမြော်ခြင်းစသည်

၁၂၁၆-ခုနှစ်၊ တပို့တွဲလဆုတ် ၁၃-ရက်နေ့တွင် ရေမြေ့ရှင် မင်းတုန်းမင်းတရားကြီးသည် မိဖုရားခေါင်ကြီးနှင့်တကွ ကိုယ်ရံတော် တပ်ဝင်းအခင်းအကျင်းများနှင့် မိဖုရား မင်းညီမင်းသား မှူးတော် မတ်တော်အပေါင်း ခြံရံတော်မူ၍ သံဃာ့ဦးကိုင် သာသနာပိုင်ဆရာတော်ကြီးထံ အဖူးမြော်ထွက်တော်မူသည်။ ၎င်းပြင် တပေါင်းလတွင် စစ်ကိုင်း စီရင်စု ရေခါးအင်း၊ မြတောင်မြို့စီရင်စု မြသိန်းတန်ဘုရားတောင်ခြေ၊ တောင်အောက် ဆီမီးခုံရွာ၊ သာထွန်းရွာ နယ်အတွင်းရှိ ပေါက်ပင်ရိုး၊ စစ်လျှင်တောင်၊ တောင်ကြီးစပါးအင်းများမှာရှိသည့် ရေပိုး ရေမွှား သားငှက်တိရစ္ဆာန်တို့ကို ဘေးမဲ့ပေးတော်မူသည်။ ၎င်းပြင် သီးလုံးကျောင်းတိုက်ရှိ ရဟန်းတော် ၃၀ - ပါးတို့အား တိစီဝရိက်-၃၀၊ သာမဏေ ၂၉-ပါးတို့အား သင်္ကန်းဒွိစုံ-၂၉၊ ဆွမ်းဆန်ဆေးကွမ်းများ လှူဒါန်းစေတော်မူသည်။

## ထူးကဲသော ရေကုသိုလ်တော်

မင်းတုန်းမင်းတရားသည် အလှူဒါန အလွန် ဝါသနာထုံတော်မူသည်။ ၁၂၁၆-ခုနှစ်၊ တန်ခူးလတွင် ရဟန်းသံဃာတော်၊ သူတော်၊ သီလရှင် (သီလသည်) ပြည်သူပြည်သား ဧည့်သည်ခရီးသွား ရေမွတ်သိပ်သူတို့ သုံးဆောင်မှီခိုစေရန် ဝင်းတော်လေးမျက်နှာ ရွှေမြို့တော် တံခါး ၁၂-ရပ်ပြင်များတွင် နှစ်စဉ်နွေရာသီအခါ ဆောက်လုပ်မြဲ လည်ပေါ်ကန္နားပြင် ဆောက်လုပ်ပြီးလျှင် ရေလောင်း ရေခပ်သူတို့ကို ငွေတော်ပေး၍ ရေအိုးစင် တည်တော်မူသည်။

## ဥပုသ်သည်များကို ဆုလာဘ်ပေးတော်မူခြင်း

သက္ကရာဇ် ၁၂၁၇-ခုနှစ် ဝါတွင်း ၃-လပတ်လုံး ဥပုသ်သီတင်း စောင့်သုံးကြသော ရွှေမြို့တော် မြို့တွင်း မြို့ပြင် ဥပုသ်သည်များနှင့် အင်းဝမြို့မှ ဥပုသ်သည်ပေါင်း ဂ၂၇-ယောက်တို့အား ပုဆိုး ခေါင်းပေါင်း အင်္ကျီ ဆုလာဘ်ပေးတော်မူသည်။

## ကျောင်းလှူ၊ သက်န်းလှူ၊ ဘွဲ့တံဆိပ်တော်ကပ်လှူခြင်း

ယင်းသည့် ၁၂၁၇-ခုနှစ် ပဋ္ဌမဝါဆိုလဆုတ် ၁၃-ရက်နေ့တွင် ရွှေမြို့တော်အနောက်မြောက် ရှမ်းကလေးကျွန်းတွင် ဆောက်လုပ်ပြီးပြေသည့် ကျောင်းကို ရတနာသိင်္ဃ စီရင်စု ခေါ် တောရွာ၌ သီတင်းသုံးသော ဦးနန္ဒအား တင်လှူတော်မူသည်။ ၁၄-ရက် ကြာသပတေးနေ့တွင် မင်းတရားသည် မယ်တော်ဘုရား၊ မိဖုရားခေါင်ကြီး ၃-ပါးတို့နှင့်အတူ သုံမ္မသို့ စာနာထွက်တော်မူ၍ သာသနာပိုင် ဆရာတော်ဘုရားကြီးနှင့် သံဃာတော် ၃၆၉-ပါးတို့အား သင်္ကန်းဒွိစုံစီ လှူဒါန်းတော်မူသည်။ ၎င်းပြင်—

၁။ တိုက်တော်နေ စည်ပုတ္တရာ ဆရာတော် အရှင်သီရိမာအား "သီရိပရမာလင်္ကာရ ဓဇ မဟာဓမ္မ ရာဇာဓိရာဇဂုရု"
၂။ မင်းတဲဆရာတော် အရှင်ဥတ္တမအား "ဥတ္တမာစာရပရမဓဇ မဟာဓမ္မ ရာဇာဓိရာဇဂုရု"
၃။ စလင်းဆရာတော် အရှင်ကလျာဏအား "ကလျာဏဇောတ သာသနဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု"
၄။ ပခန်းကြီး ဆရာတော် အရှင်သုဒဿနအား "သုဒဿနဝရဓမ္မသာမိ မဟာဓမ္မရာဇာဓိရာဇဂုရု"
၅။ မောင်းထောင်ဆရာတော် အရှင်ပညာသာမိအား "ပညာသာမိ သီရိကဝိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု"
၆။ မိတ္တီလာဆရာတော် အရှင်ဇာဂရအား "ဇာဂရန္တသဒ္ဓမ္မာ လင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု"
၇။ အုတ်ကျောင်းတိုက်နေ ဆရာတော် အရှင်ဝိစာရအား "ဝိစာရိန္ဒာဘိ သီရိကဝိဓဇမဟာဓမ္မရာဇာဓိရာဇဂုရု"
ဂ။ စီးတော်မြင်းဝန်တိုက်နေ ဆရာတော် အရှင်သုမင်္ဂလအား "သုမင်္ဂလ ပရမ မဏိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" ဟူသော စာကြည့်ဆရာတော်တို့အား ဘွဲ့တံဆိပ်တော်များကို လှူတော်မူခဲ့လေသည်။

## ရဟန်းလောင်း ၅၀၀-ရဟန်းခံ၊ ရှင်လောင်း ၅၀၀ သာမဏေဝတ်စေ၍ သာသနာပြုတော်မူခြင်း

ယင်းသည့် သက္ကရာဇ် ၁၂၁၇-ခုနှစ်၊ ဒုတိယဝါဆိုလဆန်း ၁၃-ရက်နေ့တွင် ပဉ္စင်းလောင်းတော် ၅၀၀၊ ရှင်လောင်းတော် ၅၀၀၊ ၂-ရပ်ပေါင်း ပဉ္စင်းလောင်း ရှင်လောင်း ၁၀၀၀-ကို တင့်တယ်လှပအောင် တန်ဆာဆင်ယင်စေ၍ ပဉ္စင်းလောင်း ရှင်လောင်း အကြီးအကြပ် နောက်လိုက်နောက်ပါအစုံ ခန့်ထားပေးအပ်ပြီးလျှင် ရွှေမြို့တော် မြို့တွင်းမြို့ပြင် ရပ်စုကွက်စုများသို့ ဆင်များဖြင့် လှည့်လည်စေတော်မူသည်။ မြေနန်းတော်ရွှေ မြေနန်းတော်လက်ဝဲလက်ယာ ရေစက်သွန်းချမည့် မဏ္ဍပ်အတွင်း သံဃာတော်အပါး ၁၀၀-နှင့် ပဉ္စင်းလောင်းတော် ရှင်လောင်းတော် ၁၀၀၀-တို့အား လှူဒါန်းရန် ပရိက္ခရာရှစ်ပါးစုံ သီးမျိုးစုံပဒေသာပင်များကို မယ်တော်ဘုရားထွက်တော်မူ၍ ရေစက်သွန်းချတော်မူသည်။ ပွဲသဘင်လည်း စည်ပင်သာယာအောင် ခံတော်မူသည်။

နောက်နေ့ ဒုတိယဝါဆိုလဆန်း ၁၄-ရက်နေ့ညအချိန် ထွက်တော်မမူမီ စီစဉ်ခင်းကျင်းထားသည့် တပ်ဝင်းအခင်းအကျင်းများနှင့် ဘဝရှင်မင်းတုန်းမင်းတရားကြီးဘုရား၊ မင်းမိဖုရားခေါင်ကြီးဘုရား၊ မင်းမိဖုရားများ၊ မင်းညီမင်းသားများ၊ မှူးတော် မတ်တော်အပေါင်းတို့နှင့် ထွက်စံတော်မူ၍ ပဉ္စင်းလောင်းတော်၊ ရှင်လောင်းတော်တို့ကို ပဉ္စင်းအဖြစ်၊ ရှင်သာမဏေအဖြစ်ဖြင့် သာသနာတော်မြတ်အတွင်းသို့ သွတ်သွင်းချီးမြှင့်တော်မူသည်။

နောက်တနေ့ဖြစ်သော ဒုတိယဝါဆိုလဆန်း ၁၅-ရက်နေ့ နံနက်တွင် ပဉ္စင်းတော် ၅၀၀၊ ရှင်တော် ၅၀၀-တို့ကို မြေနန်းတော်သို့ ပင့်၍ မင်းတုန်းမင်းတရားကြီးသည် မိဖုရားခေါင်ကြီးနှင့်တကွ ထွက်တော်မူ၍ ဆွမ်းဟင်းလျာစုံ လှူဒါန်းတော်မူသည်။

ကုလပုတ္တသဟဿေပိ၊ ပဝေသေတွာ သာသနေ သုဓီ။
သုဓိသေဋ္ဌော စက္ကဿ၊ ဝုဒ္ဓိယာ ပဂ္ဂဟံ ကရီ။

## သံဃာတော် ၆၄၀၀-ကျော်လှူ၊ ကျောင်းတိုက်ပေါင်း ၆၆-တိုက် ဥတ်ကထိန်သင်္ကန်းလှူ

မင်းတရားကြီးသည် ၁၂၁၇-ခုနှစ်၊ သီတင်းကျွတ်လပြည့်ကျော်တွင် အမရပူရမြို့တော် ၄-ပြင်၄-ရပ်ရှိ ရဟန်းသံဃာတော် ၂၇၆၅-ပါး၊ သာမဏေ ၃၆၆၂-ပါး၊ စုစုပေါင်း သံဃာတော် ၆၄၂၇-ပါးတို့အား လှူဒါန်းရန်

အဖွယ်အရာများအတွက် မိဖုရား၊ မှူးတော် မတ်တော်တို့အား အသီးသီးငွေတော်ထုတ်ပေးတော်မူ၍ ကျောင်းတိုက်ပေါင်း ၆၆-တိုက်တွင် ဥတ်ကထိန်ခင်း လှူတော်မူသည်။

### သာသနာပိုင် ဆရာတော်ကြီးကျောင်းတိုက် ကထိန်ခင်း

ယင်းသည့် ၁၂၁၇-ခုနှစ်၊ တန်ဆောင်မုန်းလတွင်လည်း ဘဝရှင်မင်းတရားကြီး ဘုရားသည် မိဖုရားခေါင်ကြီးနှင့်အတူ ထွက်တော်မူ၍ မဟာဝိဇိတာရာမဘိုက်ရှိ သာသနာပြု သာသနာပိုင် ဆရာတော်နှင့် ရဟန်းသံဃာတော် ၂၃၈၊ သာမဏေ ၁၃၇-ပါးတို့အား လှူဒါန်းရန်အတွက် အဖွယ်အရာများနှင့် သံဃာတော်အား ဥတ်ကထိန်ခင်းတော်မူသည်။

### မန်းစက်တော်ရာပြာသာဒ် ၂-ဆောင်အတွက် ရွှေဆိုင်း ၇၀၀၀-ကျော် လှူဒါန်းခြင်း

မင်းတုန်းမင်းတရားကြီးသည် သက္ကရာဇ် ၁၂၁၇-ခုနှစ်၊ ပြာသိုလဆုတ် ၁၁-ရက်၊ သောကြာနေ့တွင် မန်းစက်တော်ရာအထက်၊ အောက်ပြာသာဒ် နှစ်ဆောင်ကို ရွှေချမွမ်းမံကပ်လှူရန် ရွှေဆိုင်းရေ ၇၀၀၀ (ခုနစ်ထောင်) ကျော် ရေစက်သွန်းချရာ ရေမြေသို့ရောက်လျှင် မြေငလျင်ပြင်းစွာလှုပ်လေ၏။ ပညာရှိတို့က အသီးအသီး မင်္ဂလာစကား လျှောက်ထား သံတော်ဦးတင်ကြသည်။

### ရေစကြိုပတူးဆရာတော်ပင့် တရားနာ

၁၂၁၇-ခုနှစ်၊ တပို့တွဲလဆန်း ၁-ရက်နေ့တွင် ပခန်းကြီးမြို့၊ ရေစကြိုရွာကျောင်းနေ ပတူးဆရာတော်ကို အမရပူရနန်းမြို့တော်သို့ပင့်၍ တရားနာယူတော်မူသည်။ ရွှေနန်းတော်တွင်းသို့ ဆရာတော်ဘုရား ဆွမ်းခံဝင်တော်မူရာ မင်းမိဖုရားနှင့်တကွ နန်းတော်သူ နန်းတော်သား သဒ္ဓါတရား ထက်သန်စွာ ဆွမ်းလောင်းလှူ ပူဇော်ကြသည်။

### သာသနာရေး အမိန့်တော်ပြန်တမ်း

ပဥ္စမသံဂါယနာတင် ဘဝရှင် မင်းတုန်းမင်းတရားကြီးသည် ဘုရားမြတ်စွာ သာသနာတော်ကို လွန်စွာကြည်ညိုတော်မူသည်။ သာသနာတော်ကိုလည်း လွန်စွာသန့်ရှင်း စင်ကြယ်စေလိုတော်မူသည်။ သို့ဖြစ်၍ အောက်ဖော်ပြပါ

အလဇ္ဇီ၊ ဒုဿီလ နှိပ်နင်းမှုအတွက် သာသနာရေး အမိန့်တော်ပြန်တမ်းကို ဥဇ္ဈယမ္မောဘိမုနိဝရဉာဏကိတ္တိ သီရိသဒ္ဓမ္မဇောတိကဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိ ရာဇဂုရု ဘွဲ့တံဆိပ်တော်ရ သာသနာပိုင် မောင်းထောင်ဆရာတော်ဘုရားကြီး အရှင်ဥဇ္ဈယမ္မ၏ ခွင့်ပြုချက်အရ သက္ကရာဇ် ၁၂၁၇–ခုနှစ်က နာခံတော်မင်းထင်ရာဇသီဟသူကို ထုတ်ပြန်စေတော်မူသည်။

ဘုန်းတော်အလွန်ကြီးမြတ်တော်မူလှသော ရေမြေ့အရှင် ဆဒ္ဒန်ဆင်မင်းသခင် ဆင်ဖြူများရှင် လက်နက်စကြာသခင် အရှင်ဘဝရှင်မင်းတရားကြီးဘုရား အမိန့်တော်ရှိသည်။

ငါအရှင် ကေရာဇ်မင်းမြတ်သည် ကိုယ်ကျိုးကိုယ်စီးပွားကိုသာငဲ့၍ မင်းအဖြစ်ကို ယူတော်မူသည် မဟုတ်။ ဘေးလောင်းတော် အဇာတသတ်မင်း၊ ကာလာသောကမင်း၊ သီရိဓမ္မာသောကမင်းစသော သာသနာပြုမင်းတို့ကဲ့သို့ ရှေးရှေးသော ကိုယ်တော်၏အဖြစ်၌ မပြတ်လေ့လာကျင့်ဆောင်တော်မူခဲ့ဘူးသော သမ္မာဆန္ဒတော်အရင်းရှိသဖြင့် သာသနာတော်ကို ချီးမြှင့် ပြုစုတော်မူလိုသည်နှင့်အညီ ကျင့်ဆောင်နိုင်ခဲသော ရာဇဓမ္မအပေါင်းတို့ကို မတိမ်းမယိမ်း မလစ်မလပ်စေရ ကျင့်ဆောင်တော်မူ၍ မြတ်သောတရားတို့၌ တည်တော်မူလျက် မှူးတော် မတ်တော် အမှုထမ်း အရာထမ်းတို့ကိုလည်း အလောင်းတော် မဟောသဓာ၊ ဝိဓူရ၊ နန္ဒိသေနစသော ရှေးမှူးကောင်း မတ်ကောင်းတို့ကဲ့သို့ ရာဇဓမ္မလောကအကြောင်းသုံးပါးတို့၌ တည်စေခြင်း၊ မင်းမိဖုရား မင်းညီမင်းသားမှစ၍ ပြည်သူလူအပေါင်းတို့ကိုလည်း ဒါနသီလစသော သူတော်ကောင်းတရားတို့၌ တည်စေခြင်း၊ ရဟန်းတော်တို့ကိုလည်း ပါတိမောက်ပြခြင်း၊ ဥဘတောဝိဘင်းဆောင်ခြင်း စသော သာသနာတော်မြတ်၏ မူလဘူတတရား ထင်ရှားရှိလျက် မေ့မေ့လျော့လျော့ပြုကြသောကြောင့် ယိုယွင်းတိမ်မြုပ်ရှိသည်ကို ဝိနည်းပညတ်တော်နှင့်ညီအောင် အားထုတ်ဆောင်ရွက်စေခြင်း၊ အနုဂ္ဂဟနှစ်ပါးဖြင့် သာသနာတော်ကို အလွန်အကျူးချီးမြှင့်တော်မူခြင်းစသော သာသနာတော် စည်ပင်အံ့သည်ကိုသာ ရည်ရွယ်တော်မူလျက် သာသနာနုဂ္ဂဟခမ္မရာဇာဖြစ်သော မြတ်သောမင်းအဖြစ်ကို ယူတော်မူသည်။

သာသနာတော်ဆိုသည့်အရာသည် ဝိနည်းတရား ထင်ရှားရှိသည့်အတိုင်း ရဟန်းတော်တို့ ကောင်းမွန်အောင် မကျင့်ဆောင်က သာသနာဟော် ညှိုးနွမ်းသည်။ တရားတော်ကို မကျင့်ဆောင်သော တယောက်သော အလဇ္ဇီသည် အလဇ္ဇီအထောင်ကိုဖြစ်စေ၍ သာသနာတော်ကိုဖျက်ဆီးနိုင်သည်။ သို့သာသနာတော်ကို ညှိုးနွမ်းပျက်စေကြောင်းဖြစ်သော အလဇ္ဇီတို့ အမူအကျင့်ဟု ဆိုအပ်သော ဍွေ၊ ငွေ၊မာသက၊ ကဟာပဏ–ဟူသော လေးပါးသော နိဿဂ္ဂိယဝတ္ထု

ပုလဲ၊ ပတ္တမြား၊ ကျောက်မျက်ရွဲ၊ ခရုသင်း၊ ကျောက်သလင်း၊ သန္တာ၊ ပတ္တမြားနီ၊ ပတ္တမြားပြောက်၊ စပါးမျိုး ခုနစ်ပါး၊ ကျွန်မိန်းမ၊ ကျွန်ယောကျ်ား၊ ကျွဲနွား၊ ခွေး၊ ကြက်၊ ဝက်၊ လယ်၊ ယာ၊ ပန်းအရံ၊ သစ်သီးအရံစသော ဒုက္ကဋ်ဝတ္ထုတို့ကို ရှာမှီးခြင်း၊ ခံခြင်း၊ အနီး၌ထားသည်ကို သာယာခြင်း သိုမှီးသိမ်းဆည်းခြင်းဟူသော အလဇ္ဇီဓမ္မ။

၁။ နိဿဂ္ဂိယဝတ္ထုချင်းချင်း လဲလှယ်ရောင်းဝယ်ခြင်း၊ နိဿဂ္ဂိယဝတ္ထုဖြင့် ဒုက္ကဋ ဝတ္ထုကို လဲလှယ်ရောင်းဝယ်ခြင်း၊ နိဿဂ္ဂိယဝတ္ထုဖြင့် ဆွမ်းဆန် ဖျင် စသော ကပ္ပိယဝတ္ထုကို လဲလှယ်ရောင်းဝယ်ခြင်း၊ ဒုက္ကဋ်ဝတ္ထုချင်းချင်း၊ လဲလှယ် ရောင်းဝယ်ခြင်း၊ ဒုက္ကဋ်ဝတ္ထုဖြင့် နိဿဂ္ဂိယဝတ္ထု ကပ္ပိယဝတ္ထုတို့ကို လဲလှယ် ရောင်းဝယ်ခြင်းဟူသော အလဇ္ဇီဓမ္မ။

၂။ ရဟန်းတို့ ပရိက္ခရာကို ရောင်းချ၍ ရသောရွှေငွေစသော နိဿဂ္ဂိယ ဝတ္ထုတို့ကို ခံခြင်းဟူသော အလဇ္ဇီဓမ္မ။

၃။ ရဟန်းတို့ ကပ္ပိယပရိက္ခရာဖြင့် ကဝါသည်စသောလူတို့ထံ ကွမ်းအစ်၊ ထုံးဘူး၊ ကံ့ကူ၊ ပုရပိုက်စသော ကပ္ပိယဝတ္ထုတို့ကို လဲလှယ် ရောင်းဝယ်ခြင်း ဟူသော အလဇ္ဇီဓမ္မ။

၄။ ပန်းပေးခြင်း၊ သစ်သီးပေးခြင်း၊ ကသယ်မှုန့်ပေးခြင်း၊ မြေညက် ပေးခြင်း၊ ဒန်ပူပေးခြင်း၊ ဝါးပေးခြင်း၊ ဆေးပေးခြင်း၊ သလုံးမြင်းခေါင်းဖြင့် ဒါယကာတို့၏ အစေအပါးကို ခံခြင်း၊ ဤရှစ်ပါးသော ကုလဒူသကတို့ကို ပြု ခြင်းဟူသော အလဇ္ဇီဓမ္မ။

၅။ ဝါးပေးခြင်းစသော နှစ်ဆဲ့တပါးသော အနေသနတို့၌ အကျုံးဝင် သော လူတို့ကို ထမင်းကျွေးခြင်း၊ မုန့်ပေးခြင်း၊ ကွမ်းဆေးတည်ခြင်း၊ နေရာ ခင်း၍အရိုအသေပြုခြင်း၊ ဗေဒင်ဟောခြင်း၊ ဆေးကုခြင်း-စသော အလဇ္ဇီဓမ္မ။

၆။ အသက်မွေးခြင်းဟူသော အကြောင်းကြောင့် ပညတ်တော်မူအပ်သော ခြောက်ပါးသော သိက္ခာပုဒ်ကိုလွန်ကျူးခြင်း၊ အံ့ဩဘွယ်ကိုဖြစ်စေ၍ လာဘ်ကို ရှာမှီးခြင်း၊ ပစ္စည်းရခြင်း၏ အကြောင်းကို ပြောဆို၍ လာဘ်ကို ရှာမှီးခြင်း၊ ရအပ်ပြီးသော အနည်းငယ်သော လာဘ်ကို ပေးသဖြင့် မရသေးသော များ စွာသောလာဘ်တို့ကို တောင့်တရှာမှီးခြင်းစသော ယုတ်မာသောသဘော၏ အစွမ်းဖြင့် ဖြစ်သော မိစ္ဆာဇီဝဟူသော အလဇ္ဇီဓမ္မ။

၇။ ဆင်စီး၊ မြင်းစီး၊ ရထားစီး စသော မင်္ဂဖိုလ်တို့မှ ဖီလာဖြစ်သော တိရစ္ဆာနဝိဇ္ဇာအတတ်၌ အကျုံးဝင်သော ပြဒါးကို သေအောင်ပြုခြင်း၊ ပြာချ

ခြင်း၊ ခဲစေခြင်း စသည်ကိုဆိုသော တိရစ္ဆာနဝိဇ္ဇာ လောကာယတကျမ်းကို ရဟန်းတို့ သင်လည်းမသင်အပ်၊ သူတပါးကိုလည်း မပြောအပ်၊ ပြုလည်း မပြုအပ်၊ ကြေးငွေမပါ သစ်မြစ် သစ်ရွက် စသော ဆေးတို့ဖြင့်သာ ပြဒါးသေခြင်း၊ ပြဒါးပြာကျခြင်း၊ ပြဒါးခဲခြင်း စသော အတတ်တို့ကို လေ့လည်း မလေ့ကျက်အပ်၊ သူတပါးကိုလည်း မပြအပ်၊ လုပ်လည်း မလုပ်အပ်၊ လေ့ကျက် ပြသပြုလုပ်သော ရဟန်းတို့သည် ခွန်းတိုင်း ခွန်းတိုင်း၊ ပယောဂတိုင်း ပယောဂတိုင်း ဒုက္ကဋ်အာပတ်သင့်ခြင်းဟူသော အလဇ္ဇီမမှု။

၈။ ငွေနှင့် ကြေးကိုစပ်၍ စပ်တူ အင်္ဂရုတ်လုပ်သူတို့သည် လုပ်ဆောင်ရန် ငွေကို ခံကာတည်းကပင် နိဿဂ္ဂိယပါစိတ် အာပတ်သင့်သည်။ ခဲကြေးနီကို ငွေနှင့်စပ်၍ သုံးဆောင်သောအခါ ခိုးခြင်းနှစ်ဆယ့်ငါးပါးတွင် ထေယျာဝဟာရ၌ အကျုံးဝင်သော ကူဋကဟာပဏာဝဟာရဖြင့် ဆုံးဖြတ်အပ်သည်။ ကြေးနီငါးကျပ်ကို ငွေမွေးတင်စေ၍ သုံးဆောင်လျှင် ပါရာဇိကဖြင့် ဆုံးဖြတ်အပ်သည်ဟု လာသည်ကို ပြုကျင့် ကျူးလွန်ခြင်းဟူသော အလဇ္ဇီမမှု။

၉။ ထိုးကွင်း လက်ဖွဲ့ ခါးလည့် အင်းအိုင် ဓားပြီး လှံပြီး စသော အတတ်မျိုးတို့သည် မင်္ဂဖိုလ်၏ဖီလာ တိရစ္ဆာနဝိဇ္ဇာ လောကာယတကျမ်း၌ အကျုံးဝင်သောကြောင့် ရဟန်းတို့ မကျင့်အပ်သည်ကို ကျင့်ခြင်းဟူသော အလဇ္ဇီမမှု။

၁၀။ ထိုအတတ်ကိုမှီ၍ ရသောပစ္စည်းတို့ကိုလည်း ရဟန်းတို့ မသုံးဆောင်ထိုက်ပဲ သုံးဆောင်ခြင်းဟူသော အလဇ္ဇီမမှု။

၁၁။ အနာမရှိပဲ ရထားပေါင်းချုပ်လှည်း၊ ထမ်းစင်၊ သန်လျင်း စသော ယာဉ်တို့ကို ရဟန်းတို့ မစီးအပ်သည်ဖြစ်လျက် စီးခြင်းဟူသော အလဇ္ဇီမမှု။

၁၂။ ခြေကွဲခြင်း၊ ခြေအသားစွန်းထွက်ခြင်း၊ အလွန် မြေကြမ်းခြင်း၊ အလွန်ပူခြင်းဟူသော အကြောင်းမရှိပဲ ဖိနပ်စီး၍ ရွာတွင်းသို့ မဝင်အပ်ပဲလျက် ဝင်ခြင်းဟူသော အလဇ္ဇီမမှု။

၁၃။ အလုံးစုံ ဖုံးသော ဖိနပ်၊ လူတို့အသုံးအဆောင်နှင့်တူသော သမဏသာရုပ္ပမဖြစ်သော နီသောသည်းကြိုး၊ မဲသောသည်းကြိုးတပ်သော ဖိနပ်တို့ကို ရဟန်းတို့ အချင်းခပ်သိမ်း မစီးအပ်ပဲ စီးခြင်းဟူသော အလဇ္ဇီမမှု။

၁၄။ ပြောက်ကျားသော သင်္ကန်းကော်ဇော၊ တရုတ်ကော်ဇောတို့သည် တရားဟောပလ္လင် ဆွမ်းစားဇရပ် အိမ်၌ လူတို့ခင်းသည်ကိုကြဉ်၍ ဘုမ္မတ္ထရဏပြုလျက် ကပ္ပိယ အခင်းဖြင့် မခင်းပဲ အိပ်ခြင်း ထိုင်ခြင်းငှာ မအပ်မထိုက်သည်ကို လွန်ကျူး ကျော်နင်းခြင်းဟူသော အလဇ္ဇီမမှု။

၁၅။ ကိုယ်ပူနာ၊ မျက်စိနာ၊ သည်းခြေနာ စသော အနာတည်းဟူသော အကြောင်းမရှိပဲ ရဟန်းတို့ ထီးမဆောင်းအပ်ပဲလျက် ဆောင်းခြင်းဟူသော အလဇ္ဇီဓမ္မ။

၁၆။ ကခြင်း သီခြင်း တီးမှုတ်ခြင်းနှင့် စပ်သော ဆိုင်း၊ ကချေသည်၊ ရုပ်စုံ ဇာတ် ပုံရှည်စသော အလုံးစုံသော သဘင်မျိုးတို့ကို မိမိပယောဂဖြင့်လည်း မယှဉ်စေအပ်။ မိမိပယောဂမဟုတ်သော ကခြင်း သီခြင်း တီးမှုတ်ခြင်းတို့ ကိုလည်း ကြည့်ရှုနားထောင်ခြင်းကို မပြုအပ်။ ရာဂစသော ကိလေသာဖြစ် ကြောင်းဖြစ်သော ကုသိုလ်အဖို့ကို ဖျက်ဆီးတတ်သော သာသနာတော်၏ ဆန့်ကျင်ဘက် ဆူးငြောင့်သဘွယ်ဖြစ်သော သဘင်ခံခြင်း၊ ဘာရတ ရာမ စသည် ကို ပြောဟောနာခံခြင်း၊ လက်ခုပ်တီးခြင်း၊ စည်ပုတ်တီးခြင်း၊ အိုးစည်တီး ခြင်း၊ ကချေသည်တို့ကို ကစေခြင်း၊ သံချောင်းကစားခြင်း၊ အရိုးဆေးကစား ခြင်း၊ ဝါးထောင်ကစားခြင်း၊ ဖဲရိုက် အန်ခတ် စစ်တုရင် ဆင်တိုက် မြင်းတိုက် ကျွဲတိုက် နွားတိုက် ဆိတ်တိုက် သိုးတိုက် ကြက်တိုက် ခါတိုက် ကျည်းသားရိုက် တုန်ပေါက် လက်ဝှေ့သတ်ကစားခြင်း စစ်ထိုးခြင်း ဗိုလ်ရေတွက်ခြင်း စစ်သည် စုခြင်း ဆင် မြင်း ရထား ခြေသည်တို့ကို ကြည့်ရှုခြင်း၊ မီးဖြူ မီးဝါ စသော မီးမျိုး၊ မီးပိတုန်း စသော ရှို့မီးမျိုး၊ မီးအိမ်ပျံ ဒုံးရှို့ ပြောက်ခွဲ စသော အလုံးစုံသော အမှုတို့သည် ဝိသုကဖြစ်၍ ရဟန်းတို့ မအပ်သောအမှုတို့ဖြစ်လျက် လွန်ကျူး ကျောင်းနင်း ပြုလုပ်စီရင် ကြည့်ရှု နားထောင်ခြင်းဟူသော အလဇ္ဇီဓမ္မ။

၁၇။ မြစ်နား ရဟန်းတို့သည် လှော်လှေပြုပြင်၍ ကစားလိုသောစိတ်ဖြင့် ထိုမှ ဤမှ မသွားမလာအပ်သည်ကို သွားလာခြင်းဟူသော အလဇ္ဇီဓမ္မ။

၁၈။ ယာဝဇီဝက ဖြစ်သော ထိုနေ့ အကပ်ခံအပ်သော ကွမ်းဆေးတို့ကို နေလွဲအခါ အနာတည်းဟူသော အကြောင်းမရှိပဲ သုံးဆောင်ခြင်းငှာ အကပ် ခံခြင်း၌ရင်း၊ မျိုတိုင်းမျိုတိုင်း၌ရင်း ဝိကာလဘောဇနသိက္ခာပုဒ်၏ အန္တရာယ် ဖြစ်၍ ဒုက္ကဋ်အာပတ်သင့်သည်။ ယမန်နေ့၌ အကပ်ခံပြီးသော ကွမ်းဆေးတို့ကို နံနက်အခါ၌ အနာတည်းဟူသော အကြောင်းမရှိပဲ အာဟာရအလို့ငှာ အကပ်ခံခြင်း၊ မျိုခြင်းတို့၌ သန္နိဓိကာရကသိက္ခာပုဒ်၏ အန္တရာယ်ဖြင့် ဒုက္ကဋ် အာပတ်သင့်သည်။ ထိုကွမ်းဖတ်၊ ဆေးဖတ်၊ ကွမ်းသီးဖတ် မကင်းသော ခံတွင်းဖြင့် ဆွမ်း စသော အာမိသကို စားသောအခါ မျိုတိုင်း မျိုတိုင်း သန္နိဓိပါစိတ် အာပတ်သင့်သည်။ ဆွမ်းစားပြီးသော အာမိသ မကင်းသော ခံတွင်းဖြင့် ကွမ်းဆေးတို့ကို သုံးဆောင်သောအခါတို့၌လည်း မျိုတိုင်း မျိုတိုင်း သန္နိဓိပါစိတ် အာပတ်သင့်သည်။ နေလွဲအခါ ယမန်နေ့က အကပ်ခံပြီးသော ကွမ်း ဆေးတို့ကို အနာတည်းဟူသော အကြောင်းမရှိပဲ သုံးဆောင်ခြင်းငှာ

အကပ်ခံခြင်း မျိုခြင်းတို့၌ ဝိကာလဘောဇန သိက္ခာပုဒ် သန္နိဓိသိက္ခာပုဒ် နှစ်ပါးဖြင့် ဒုက္ကဋ်အာပတ်နှစ်ချက်စီ သင့်သည်ဖြစ်၍ ယမန်နေ့က အကပ်ခံအပ်သော ကွမ်းဆေးတို့ကို အကြောင်းမဲ့ အချင်းခပ်သိမ်း မသုံးဆောင်အပ်။ ထိုနေ့ အကပ်ခံသော ကွမ်းဆေးတို့ကို နေလွဲအခါ အကြောင်းမဲ့ မသုံးဆောင်အပ်သည်ကို သုံးဆောင်ခြင်းဟူသော အလဇ္ဇီဓမ္မ။

၁၉။ ဦးခေါင်းမူးနာ ကုတ်ပိုးချောင်းဆိုးကြီးနာ ထိပ်ကပ်နာဟူသော အကြောင်းမရှိပဲ အခိုးတံဆေးလိပ်တို့ကို မသောက်မှုအပ်၊ ယမန်နေ့က အကပ်ခံသော အခိုးတံ ဆေးလိပ်၊ ထိုနေ့ အကပ်ခံသော အခိုးတံဆေးလိပ်တို့ကို သောက်သော ရဟန်းအား ကွမ်း-ဆေး၌ ဆိုခဲ့ပြီးသည့်အတိုင်း အာပတ်သင့်သည်ကို မရှောင်မကြဉ်ပဲ ပြုကျင့် ကျူးလွန်ခြင်းဟူသော အလဇ္ဇီဓမ္မ။

၂၀။ ထင်ရှားရှိသော ရဟန်းကို မပန်မကြားမူ၍ ရှောင်တခင် ပြုအပ်သော ကိစ္စမရှိပဲ နေလွဲအခါ ရွာတွင်းသို့ မဝင်အပ်သည်ကို ပင်ခြင်းဟူသော အလဇ္ဇီဓမ္မ။

၂၁။ စသော အလဇ္ဇီအဖြစ်ကို ပြုတတ်သော သိက္ခာပုဒ်တို့ကို လေးစားမမူ သဗ္ဗညု မြတ်စွာဘုရား ရွှေမျက်နှာတော်ကို မထောက်မကြောက် တသက်လျာမျှ လာဘ်ပူဇော် သက္ကာရကိုငဲ့၍ ရဟန်းကောင်းတို့ အသွင်အပြင် အဝတ်ကား အရဟတ္တဓဇ မြတ်သောအဝတ်၊ အကျင့်ကား သာသနာတော်ဆူးငြောင့် ယုတ်မာလှသော အကျင့်ဖြစ်၍ သာသနာတော်ကို ဖျက်ဆီးတတ်သော အလဇ္ဇီပုဂ္ဂိုလ်တို့ကို အားပေး အားမြှောက် ပူဇော်လှူဒါန်းသူတို့လည်း အလဇ္ဇီနှင့်ပေါင်းဖက်၍ သာသနာတော်ကို ဖျက်ဆီးသည် မည်လေသောကြောင့် အမိန့်တော်တွင် ပါရှိသည့် အလဇ္ဇီဓမ္မကို လွန်ကျူးကျော်နင်း၍ ကျင့်သော အလဇ္ဇီပုဂ္ဂိုလ်တို့ကို ရွှေမြို့တော်မှစ၍ နိုင်ငံတော်အတွင်း အရပ်ရပ် မြို့ကျေးရွာနေလူတို့ မကိုးကွယ် မလှူဒါန်းကြစေနှင့်၊ မြို့ရှင် ရွာရှင်တို့က မြို့ရွာနေ လူတို့ကို နိုင်နင်းအောင် တားမြစ်စေ၊ ကိုးကွယ်ရင်းဖြစ်၍ ကိုးကွယ်လိုလျှင် အလဇ္ဇီဓမ္မကို စွန့်စေ၍ အပြစ်အားလျော်သော ဝိနည်းကံဖြင့် ကုစားစေပြီးမှ ကိုးကွယ်လှူဒါန်းမြဲ လှူဒါန်းစေ။ အလဇ္ဇီပုဂ္ဂိုလ်မှန်းသိလျက် အမိန့်တော်အာဏာတော်ကို မတည် ကိုးကွယ်လှူဒါန်း အားပေးအားမြှောက်ပြု၍ သာသနာတော်ကို ဖျက်ဆီးသော သူတို့ကို အများကြောက်ရွံ့၍ သာသနာတော် ဘေးရန်ကင်းငြိမ်းအောင် တင်းတင်းကြပ်ကြပ် ပန်တိုက စီရင်၊ ယိုးရုံ၊ နန်းရုံ၊ စော်ဘွား၊ မြို့စား၊ မြို့ဝန်၊ မြို့သူကြီးတို့ကို စေ့ရှံ့အောင် ပြန်ဆိုမှာထားစေ။

ပေါင်း ၂၁။

၁၂၁၇-ခု တပို့တွဲလဆန်း ၁၀-ရက်နေ့
နားခံတော် မင်းထင်ရာဇာသီဟသူပြန် အမိန့်တော်။

## မန်းစက်တော်ရာသို့ ရွှေပုစွန်ထီး ၂-လက် လှူစေခြင်း

၁၂၁၇-ခုနှစ် တပို့တွဲလဆုတ် ၁၂-ရက်နေ့တွင် မန်းစက်တော်ရာ ဘုရားသို့ လှူဒါန်းရန် ငွေပုစွန်ဆီ ထီးဖြူတော် ၂-လက်ကို မှန်နန်းတော်ဦးတွင် ရေစက်သွန်းချတော်မူ၍ ဘုရားအရောက် အကြီးအကြပ်နှင့်တကွ တင်လှူစေတော်မူသည်။

## ပိဋကတ်တော်များ ကူးရေးခြင်း
## သာသနာတော်သန့်ရှင်းရေး လျှောက်ခြင်း

သက္ကရာဇ် ၁၂၁၈-ခု၊ တန်ခူးလအတွင်း ဘုရားရှင် ဟောကြားတော်မူအပ်သော သုတ္တန်၊ဝိနည်း၊အဘိဓမ္မာဟူသော ပိဋကတ် ၃-ပုံကို မင်းအဆက်ဆက်ရေးကူးပြုစုကြသည်များမှာ ကာလကြာရှည်စွာက အဆင့်ဆင့်ကူးဖန်များ၍ ပုဒ်ပါဠိအက္ခရာ ချွတ်ယွင်းတိမ်းယိမ်းသည်များကို မတိမ်းမယိမ်းစေရ၊ မှန်ကန်သေချာအောင် ရှေးသာသနာပြုမင်းတို့ သင်္ဂါယနာ ၃-တန်တင်ပြီးနောက် ပေါတ္ထကာရုဠ ပေထက်အက္ခရာတင်သည်များနှင့် သင်္ဂါယနာ ၄-တန်ဖြစ်သကဲ့သို့ ရွှေနန်းတော်အတွင်း ကိုယ်တော်တိုင်ကြည့်ရှု၍ ပြင်ဆင်ရေးသားလိုကြောင်းများနှင့် ဆရာတော် သံဃာတော်များအား လျှောက်ထားလေရာ သင့်မြတ်ကြောင်း ဆရာတော်တို့ မိန့်ဆိုချက်အရ ထိုသည့် ၁၂၁၈-ခု၊ တန်ခူးလဆန်း ၁၀-ရက်၊ တနင်းလာနေ့နံနက် ၄-ချက်တီးကျော် ၅-မောင်း ၂-ပါဒ် အချိန် မြေနန်းတော်မြောက် ၃-ထပ်တန်ဆောင်း ၃-ဆောင်မဏ္ဍပ် ကန္နားကြီးစွာနှင့် ရပ်နေတော်မူရန် စံနန်းတော်ပါ ဆောက်လုပ်စေပြီးလျှင် ပိတ်၊ ရွှေဖျင်၊ ဖဲ၊ ကတ္တီပါ၊ ခါသာ၊ မျက်နှာကြက်၊ ကြာယပ်လှဇရွဲ မွမ်းမံခြယ်လှယ်၍ ပွဲသဘင်စည်ပင်သာယာအောင် ခံလေသည်။

ပဌမတန်ဆောင်းတွင် ဘုရားရှင် ရုပ်ပွားတော်နှင့် ပိဋကတ် ၃-ပုံရေးရန် ပေတင်ရန်နှင့် ပိတ်ဖြူ၊ ရွှေဇာ၊ ငွေဇာကွပ်ပြီးလျှင် စာထောက်များကို အသင့်ရှိစေရ၏။

ရေးမည့်သူ ပိဋကတ်တိုက်စိုး သွေးသောက်ကြီး၊ တိုက်ခေါင်း၊ အကြပ်အစုရေး၊ ပိဋကတ်ရေး အမှုထမ်းတို့မှာ ဖဲမောင်းသနထော် ၃-ပွင့်၊ ဒူးဝတ်လုံရွှေရေး၊ မင်ရေး၊ ကညစ်ရေး လူတရာကျော်တို့မှာ ပြစ်ခြမ်း၊ ဗောင်း၊ ဇာဖျင် ဝတ်လိုဝတ်ဆင်စေ၍ စာပေဗဟုသုတ တတ်ကျွမ်းသည့် မှူးမတ်လူပညာရှိတို့ အသင့်စောင့်နေရ၏။

သာသနာပြု သံဃာ့ဦးကိုင် သာသနာပိုင်ဆရာတော်ကြီး အရှင်ဥေယျနှင့် တံဆိပ်တော်ရ ပိဋကတ်မ ဆရာတော် ၄-ပါး၊ စာကြည့်ဆရာတော် ၃၀၊ စာတည်းဆရာတော် ၅၀၊ ပရိယတ်ကျွမ်းသည့် သံဃာတော်အပါး ၅၀-တို့ ကိုလည်း ပိဋကတ်တန်ဆောင်းတော်သို့ မဟာဒါန်စာရေးတို့ကို လျှောက်ထား ပင့်စေတော်မူသည်။

ပိဋကတ်တော်ရေးရန် အခါတော် နီးကပ်လေလျှင် ဆဒ္ဒန်ဆင်မင်းသခင် ဘဝရှင် မင်းတရားကြီးဘုရားမှာ မကိုဋ်တော်၊ ဒုယင်တော် ဝတ်ဆင်တော်မူ၍၊ အရှင်မိဖုရားခေါင်ကြီး ဘုရားကမူ မဟာလ္လတာတန်ဆာဆင်ယင်တော်မူ၍၊မိဖုရား တို့မှာလည်း အသီးအသီး အထိုက်အလျောက် သနားတော်မြတ်ခံရသည့် အဆင်တန်ဆာ၊ အိမ်ရှေ့မင်းမှစ၍ မင်းညီမင်းသား မှူးတော် မတ်တော် ကတော်မယားတို့မှာလည်း သနားတော်မြတ်ခံရသည့် ဗောင်းဝတ်လုံ အဝတ် တန်ဆာများကို ဆင်ယင်ဝတ်စား ခြံရံတင့်နှိုင်းတော်မူ၍ ပိဋကတ်တော်ရေး တန်ဆောင်းသို့ ထွက်တော်မူပြီးလျှင် ပိဋကတ်တော်များကို မှန်ကန်သေချာ အောင် အမြဲမပြတ် ကြပ်မပြင်ဆင် ကြည့်ရှုတော်မူမည့်—

ဒက္ခိဏာရာမ ဆရာတော်ကို "ဇာဂရာဘိဝံသတိပိဋကဓရ မဟာဓမ္မ ရာဇာဓိရာဇဂုရု"

စီးတော်မြင်းဝန်တိုက် ဆရာတော်ကို "သုမင်္ဂလသာမိ သီရိပဝရ မဏိဇေ မဟာဓမ္မရာဇာဓိရာဇဂုရု"

ဆီးပန်းနီဆရာတော်ကို "နန္ဒိဓ္ဓဇာဘိသီရိသဒ္ဓမ္မဇောတိပါလဓဇမဟာ ဓမ္မရာဇာဓိရာဇဂုရု"—

ဟူသော ဘွဲ့တံဆိပ်တော်ကို လှူတော်မူပြီးလျှင် ဆရာတော်၊ သံဃာတော်တို့ အား လှူဖွယ်ဝတ္ထုများကို လှူဒါန်းတော်မူ၍ တရားတော်နာယူတော်မူသည်။

အခါတော်ရောက်သည့်ကာလ အမြောက်သံကြားတော်မူသည်နှင့် တပြိုင် နက် ရွှေခရေး၊ မင်ရေး၊ ကညစ်ရေးတို့ကို စ၍ ရေးစေတော်မူသည်။

အခါတော်မရောက်မီ ၃-ရက်ကမူ မြို့တွင်းမြို့ပြင် ရပ်စု ရပ်ကွက်စုများမှ လည်း ပိဋကတ်တော်ရေး တန်ဆောင်းသို့ အဖူးအမြော် ထွက်ကြရမည်ဟု အမိန့်တော်ဖတ်ပြန် စည်လည်စေသဖြင့် ပြည်သူပြည်သားတို့ အဖူးအမြော် ဝင်ထွက် ကြကုန်၏။ ဒုတိယ တန်ဆောင်းတော်၊ တတိယ တန်ဆောင်းတော် မှာလည်း ဤနည်းနှင်နှင် ထွက်တော်မူ၍ ရေးသားရ၏၊

အခါတော်အတိုင်း ရေးပြီးစာများကို လွတ်စာရေး၊ ရုံးစာရေးတို့ ဒီဃ၊ ရဿ၊ ဋ္ဌဝဏ်၊ ဥဝဏ်၊ နိဂ္ဂဟိတ် အကျအန မှုပျက် မှုပို အကျအပေါက် အမှားအယွင်း မရှိစေရအောင် တည်းဖြတ်ပြင်ဆင်စေတော်မူသည်။

ထို့နောက် တံဆိပ်တော်ရ စာတည်းဆရာတော်၊ စာကြည့်ဆရာတော်တို့ အသီးအသီး ကြည့်ရှုတည်းဖြတ်ပြင်ဆင်ကြရသည်။ ပိဋကတ် ၃-ပုံကို ပိဋကတ် တော်တန်ဆောင်းတွင် ရေးသည့်အပြင် ရေးပြီး တိုက်ပြီး တည်းဖြတ်ပြီး စာများကို မှုများစွာရရှိအောင် မင်းတရားကြီးက သုတ္တန်ပိဋကတ်၊ အရှင် နန်းမတော် မိဖုရားကြီးက အဘိဓမ္မာပိဋကတ်၊ အိမ်ရှေ့မင်းက ဝိနည်းပိဋကတ် တော်များကို ဦးစီး၍ ရေးကူးစေတော်မူသည်။

ယင်းသည့် ၁၂၁၈-ခု၊ တန်ခူးလဆန်း မင်းတရားသည် သာသနာပြု ဆရာ တော်နှင့် တံဆိပ်တော်ရ ဆရာတော်တို့ကို ရွှေနန်းတော်သို့ ပင့်တော်မူ၍ သာသနာတော်ရေး၊ သာသနာတော်မှုနှင့် စပ်သည်များကို လျှောက်ထား တော်မူပြီးလျှင် မင်းညီမင်းသား မှူးတော်မတ်တော်တို့ အစုံအညီတွင် သာသနာ တော်အညစ်အကြေး မရှိစေရ၊ဝိနည်းပညတ်တော်အတိုင်းကျင့်သုံးဆောက်တည် စေခြင်းငှာ နိုင်ငံတော်အတွင်း ရဟန်းတို့ ဝိနည်းသိက္ခာပုဒ်နှင့်ညီ၊ အလဇ္ဇီ ကျင့်ကြံ၍ ရဟန်းကောင်းအသွင်နေသည်ကို အရပ်ရပ်မြို့ရွာနေ လူတို့က အား ပေးအားမြှောက် ပြုဘိသကဲ့သို့ မကိုးကွယ်ကြစေနှင့်ဟု ပညတ်တော်မူ၍ ဝိနည်းပညတ်တော်နှင့်ညီအောင် ကျင့်ဆောင်ကြရ၏[၁]။

### ပြည်တိုက်အတွင်း သိမ်အုတ်ပြာသာဒ်ရေစက်ချခြင်း၊ ရာဇဂုရုဆရာတော် ၁၀-ပါးတို့၏ မိဘဆွေမျိုး မင်းမှုရေးရာမှ လွတ်ခွင့်ပေးခြင်း

ယင်းသည့် ၁၂၁၈-ခုနှစ်၊ဝါဆိုလဆန်း ၅-ရက်နေ့တွင် မြောက်နန်းတော် မိဖုရား သီရိမဟာရတနာ မင်္ဂလာဒေဝီက မြို့တော်အရှေ့ ပြည်တိုက်အတွင်း သိမ်အုတ်ပြာသာဒ် ဆောက်လုပ်ပြီး ပြေသည်ကို ဆဒ္ဒန်ဆင်မင်းသခင် ဘဝရှင် မင်းတရားကြီးဘုရား အရှင် မိဖုရားခေါင်ကြီးဘုရား ထွက်တော်မူ၍ ဆရာတော် သံဃာတော်တို့အား လှူဒါန်းရန် အဖွယ်အရာများကို ရေစက်သွန်းချ လှူဒါန်းတော်မူပြီးလျှင် အကျဉ်းခံရသူ ယောကျ်ား၊ မိန်းမ လူပေါင်း ၅၀- ကျော်ကို ဘေးမဲ့ပေးတော်မူ၍ ဥပုသ်တော်စောင့် ယောကျ်ား၊ မိန်းမတို့ကို ပုဆိုး၊ ခေါင်းပေါင်း၊ အင်္ကျီ၊ ထဘီ၊ ပဝါ သနားတော်မူသည်။

---

၁။ ကုန်းဘောင်ဆက်၊ ၃။ ၂၃၃-၅၊

ယင်းသည့် ဝါဆိုလအတွင်းတွင် မောင်းထောင်ဆရာတော် အရှင်ပညာသာမိနှင့် တံဆိပ်တော်ရ ဆရာတော်တကျိပ်တို့၏ မိဘအစ်ကို ညီသား ပေါက်ဖော်တို့ကို စုရှင် ငန်းရှင်တို့က တိုင်းသူရင်း မင်းမှုမှစ၍ အခန့်အထားမရှိစေရဟု မိန့်တော်မူ၍ ဆရာတော်တို့ကို လုပ်ကျွေးပြုစုတော်မူ၏။ ထိုကဲ့သို့ သတ္တိဗျတ္တိရှိသည့် ဆရာတော်တို့၏ မိဘအစ်ကို ညီသားတို့ကိုလည်း မေတ္တာရပ်ခံလျှင် လုပ်ကျွေးပြုစုစေ၏။

## သာသနာပိုင်ဆရာတော်ကြီး အမှူးပြုသည့် တံဆိပ်တော်ရ ဆရာတော်ကြီး ၄၄-ပါးတို့အား ဆွမ်းကပ်တရားနာခြင်းစသည်

ယင်းသည့် သက္ကရာဇ် ၁၂၁၈-ခုနှစ်၊ သီတင်းကျွတ်လတွင် သံဃာ့ဦးကိုင် သာသနာပိုင် ဆရာတော်ကြီး အမှူးရှိသည့် တံဆိပ်တော်ရ ဆရာတော်ကြီး ၄၄-ပါးတို့ကို နန်းတော်သို့ပင့်၍ မှန်နန်းတော်ဦးတွင် ဆွမ်းလုပ်ကျွေးတော်မူပြီးလျှင် တရားနာတော်မူသည်။

ဌင်းပြင် ယင်းသည့် သီတင်းကျွတ်လမှာပင် မန်းစက်တော်ရာ ၂-ဆူ ဝတ်မိုးဝတ်မြေနယ်အတွင်း မှီခိုနေသည့် ရေပိုးရေမွှား သားငါးတိရစ္ဆာန်တို့ကို ဘေးမဲ့ပေးတော်မူသည်။ ဝတ္ထုကံ မိုးမြေကထွက်သည့် ဆယ်ဖို့တဖို့ မြေဆီရေခွန်များကိုလည်း အရံစောင့်အကြီးက ကောက်ခံ၍ မန်းစက်တော်ရာဘုရားဟောင်းနွမ်းပျက်စီးရှိသည်များကို ပြင်ဆင်လေသည်။ ဌင်းပြင် ထိုနှစ် သီတင်းကျွတ်လတွင်ပင် မယ်တော်ဘုရားက ရွှေနန်းတော်မှသည် ခမည်းတော်မင်းတရားကြီးဘုရား ကုသိုလ်တော် ဇောင်းကလေးကန်ဦး လောကမာရ်ဇိ စူဠာစေတီတော်ရောက် မီးစောင်းတန်း ထွန်းညှိပူဇော်တော်မူသည် [၁]။

## စေတီတော်များ မီးစောင်းတန်း ထွန်းညှိပူဇော်ကြခြင်း

၁၂၁၈-ခု သီတင်းကျွတ်လပြည့်ကျော်တွင် တောင်ဆောင်တော်၊ မြောက်ဆောင်တော်၊ တောင်ရွှေရေးဆောင်၊ မြောက်ရွှေရေးဆောင် ခုနစ်ရွာတိုက်စား၊ စားပွဲတော်တိုက်စား၊ တံတိုင်းရှည်ရွာစား၊ လင်ပန်းတိုက်စားတို့က ရွှေနန်းတော်မှသည် ရွှေမြို့တော် ၄-ထောင့် ရွှေကွမ်းအုပ်ဘုရား၊ ရွှေစံကားဘုရား၊ ရွှေလင်းပင်ဘုရား၊ ဆံကြိုးရွှေကူဘုရားရောက် အသီးသီး မီးစောင်းတန်းများ ထွန်းညှိပူဇော်ကြ၏။ ဌင်းပြင် ရွှေမြို့တော် ရပ်ကွက်များက ကထိန်ဥတ်သက်န်းအလှူကို အသီးသီးသွင်းပြကြရာ အရှင် ၂-ပါး မြောက်

---

၁။ ကုန်းဘောင်ဆက်၊ ၃။ ၂၃၈-ကြည့်။

စမုတ်ဆောင်တော်သို့ ထွက်တော်မူ၍ တရပ်လျှင် ငွေအသပြာ ၅၀-စီ အလှူ ဝင်တော်မူသည် [၂]။

## ရဇ္ဇာဘိသေက မုဒ္ဓါဘိသိက်ခံတော်မူခြင်း

၁၂၁၉-ခုနှစ်၊ ကဆုန်လဆုတ် ၇-ရက်၊ ကြာသပတေးနေ့သို့အဝင် ညဥ့် ၃-ချက်တီးကျော် ၆-နာရီ ၂-ပါဒ်၊ ဂ-ဗီဇနာ၊ ပြန်ပြည့်၊ ၅-ခရာအချိန်တွင် သိကြားရေစင်ခံပြီးလျှင် အခါတော်စောင့် နန်းတွင် အခါကို ငံ့လင့်စံတော်မူ၍ အခါနီးလျှင် ရဇ္ဇာဘိသေက မုဒ္ဓါဘိသိက်နန်းသို့ ထွက်စံတော်မူပြီးလျှင် ယင်းသည့် လဆုတ် ၇-ရက် ကြာသပတေးနေ့ နေ့တချက်တီးကျော် ၁-နာရီ ၂-ပါဒ်၊ ၁၃-ဗီဇနာ၊ ပြန်ပြည့်၊ ၅-ခရာ အချိန် ကောင်းမြတ်သော မင်္ဂလာအခါတော်တွင် ရေသဖန်းမဏ္ဍပ်အတွင်း မြတ်သောပလ္လင်ထက် ခင်းထားအပ်သော ဘဒ္ဒပီဌမည်သော ရေသဖန်းအင်းပျဉ်၌ စံပယ်တော်မူ၍ မင်းသမီးဇစ်၊ ဗြာဟ္မဏမျိုးရိုးစပ် ပုဏ္ဏားသင့်ကြီးတို့ကို လက်ယာရစ်ခရုသင်း ၃-လုံးရေတို့ဖြင့် အစဉ်ထုံးစံရှိသည့်အတိုင်း ဦးထိပ်၌ စိုက်၍သွန်းအပ်သော ရဇ္ဇာဘိသေက မုဒ္ဓါဘိသိက်ကို ခံတော်မူပြီးလျှင် ဘဝရှင်မင်းတရားကြီးက "သီရိပဝရဝိဇယာနန္တယသပဏ္ဍိတ မဟာဓမ္မရာဇာဓိရာဇာ" မိဖုရားခေါင်ကြီးက "သီရိပဝရမဟာရာဇိန္ဒာဓိပတိရတနာဒေဝီ"ဟူသော တံဆိပ်နာမံ အဆက်အသခံတော်မူသည်။

## မဟာဝိသုတာရာမတိုက်တော်၊ ကျောင်းတော် စတင်ပန္နက်ချတိုင်ထူ

သက္ကရာဇ် ၁၂၁၉-ခုနှစ်၊ တော်သလင်းလပြည့်ကျော် ၁၅-ရက်၊ ကြာသပတေးနေ့ တချက်တီးကျော် နာရီပြည့်အချိန် မြို့တော်ရှေ့ ကျုံးထိပ်အရှေ့တွင် သာသနာပြု သံဃာ့ဦးကိုင် သာသနာပိုင်ဆရာတော်ဘုရားကြီး "ဥေယျဓမ္မာလင်္ကာရမဟာဓမ္မရာဇာဓိရာဇဂုရု" "ဥေယျဓမ္မာဘိဝံသ သီရိပဝရာလင်္ကာရဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု" "ဥေယျဓမ္မာဘိမုနိဝရဉာဏကိတ္တိသီရိသဒ္ဓမ္မဓဇ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု"ဟူသော တံဆိပ်တော်အားဖြင့် ဘွဲ့တံဆိပ်တော် ၃-ထပ်ရ ဆရာတော် အရှင် ဥေယျဓမ္မအား တင်လှူရန် ကျောင်းတော်ပန္နက်ချ တွင်းဝန်းတိုင် ထူစေတော်မူသည်။

---

၁။ ကုန်းဘောင်ဆက်၊ ၃။ ၂၃၉-ကြည့်။

## ကတိုးတိုက်အုပ်ဆရာတော်အလောင်း လှူပစ္စည်းသင်္ဂြိုဟ်

၁၂၁၉-ခုနှစ်နတ်တော်လတွင် "သာသနဇောတဘိကဝိဇဲ မဟာဓမ္မရာဇာ ဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ ကတိုးတိုက်အုပ် ကြံခင်းဆရာတော် ဘဝပြောင်း တော်မူသည်ကို တံဆိပ်တော်ရ ဆရာတော်ကြီးတို့ ဘဝပြောင်း၍ သင်္ဂြိုဟ် သည့် နည်းအတိုင်း လှူပ္ပကောင်းမွန်အောင် လုပ်ဆောင်သင်္ဂြိုဟ်တော်မူသည်[၁]။

## ယိုးဒယားနိုင်ငံမှ လက်ဆောင်များ ရောက်ခြင်း

ဗန်းမော်အတွင်းဝန် မင်းကြီးမင်းလှစည်သူက ဘဝရှပ်မင်းတရားကြီးဘုရား အား လျှောက်ထားပြီးလျှင် အယုဒ္ဓယဘိုင်း ယိုးဒယားနိုင်ငံ ယိုးဒယားမင်း ယိုးဒယားသာသနာပိုင်ဆရာတော်ထံ လှူဒါန်းရန် ပရိက္ခရာ၊ ပယင်းပုတီးကုံးရေ ၄၀-ကျော်များနှင့် စေလွှတ်လိုက်သူ ကျွန်တော်မျိုး ယိုးဒယားအမတ် မင်းလှစောစံရိန်နှင့် ကိုရွှေသီး၊ ကိုကာလူ၊ ကိုထွေးတို့ ယိုးဒယားမင်းက ဘုန်း တော်အလွန်တရာကြီးမြတ်တော်မူသော မြန်မာအရှင် နေထွက်ဘုရင်မင်းမြတ် ၏ သာသနာပိုင်ဆရာတော်ဘုရားကြီးသို့ လှူဒါန်းရန် ယိုးဒယားပြည်ဖြစ် အသုံးအဆောင် ပရိက္ခရာများနှင့် ရေးသားပေးအပ်လိုက်သည့် သန္ဒေသကထာ များကို ယူဆောင်ပြန်လာရာ တပေါင်းလတွင် ရွှေဘုံဝါးတော်အောက် ရောက် ရှိကြသည်[၂]။

## မဟာဝိသုတာရာမတိုက်တော်အတွင်း သီဟိုဠ်ရဟန်းတော်များ သီတင်းသုံးရန် ကျောင်းဆောက်လုပ်လှူဒါန်းခြင်း

ယင်းသည့် ၁၂၁၉-ခုနှစ် တပေါင်းလတွင် သီဟိုဠ်ကျွန်း(သီရိလင်္ကာ)မှ ရဟန်းသိက္ခာ ၇-ဝါရ ရဟန်းတော် အရှင်ဓမ္မက္ခန္ဓ၊ ရဟန်းသိက္ခာ ၄-ဝါရ ရဟန်းတော် အရှင်ဝဏ္ဏာယတနတို့ ရောက်ရှိလာရာ သာသနာပြု သာသနာပိုင် ဆရာတော် ဘုရားကြီးတိုက် (မဟာဝိသုတာရာမတိုက်တော်)မှာ သီတင်းသုံး နေတော်မူသည်။

ငင်းပြင် ဖော်ပြပါ သီဟိုဠ်ရဟန်းတော်များက သိက္ခာအသစ် တင်လို ကြောင်း သာသနာပိုင်ဆရာတော်ကြီးအား လျှောက်ထားသဖြင့် သာသနာ ပိုင် ဆရာတော်ကြီးက မင်းတရားထံ စာဆက်သွင်းသဖြင့် တပေါင်းလဆုတ် ၁၅-ရက်နေ့တွင် ဝန်ကြီး၊ အတွင်းဝန်၊ မှူးတော်၊ မတ်တော်တို့ကို ပရိက္ခရာ

---

၁။ ကုန်းဘောင်ဆက်၊ ၂။ ၂၅၀။

ရှစ်ပါးအလှူအတန်းများနှင့် စေလွှတ်တော်မူ၍ သိက္ခာအသစ်ထပ်ရာ သိမ် အထွက် စည်တော်ရွှမ်းပြီးလျှင် ရေစက်သွန်းချလှူဒါန်းတော်မူသည်။ မဟာ ဝိသုဘာရာမတိုက်တော်အတွင်း၌ သီဟိုဠ်ရဟန်းတော်များ သီတင်းသုံးရန် ကျောင်းဆောက်လှူဒါန်းတော်မူသည်။

## ရှမ်းကလေးကျွန်းဆရာတော် ဦးနန္ဒပျံလွန် ကောင်းစွာသင်္ဂြိုဟ်

သက္ကရာဇ် ၁၂၂၀-ခုနှစ်၊ တော်သလင်းလတွင် ရှမ်းကလေးကျွန်း ဆရာ တော် ဦးနန္ဒ ဘဝနတ်ထံ ပျံလွန်တော်မူသည်။ ဦးနန္ဒ၏ ရုပ်အလောင်းကို လှပ ကောင်းမွန်စွာ သင်္ဂြိုဟ်စေတော်မူသည်။

## စွယ်တော်ပွား ၁-ဆူ ရောက်ခြင်းနှင့် ဗောဓိပင်စိုက်ခြင်း

သက္ကရာဇ် ၁၂၂၁-ခုနှစ်အတွင်းမှာပင် မူလဆောက်ရှိရင်းဖြစ်သော သီဟိုဠ် ကျွန်း ကဏ္ဍတိတ္ထမြို့နေ ရဟန်းတော် အရှင်ဓမ္မက္ခန္ဓ၊ အရှင်ဝဏ္ဏာယတနတို့ သီဟိုဠ်ရဟန်းများ သိမ်အယူဝါဒ ကွဲပြားသည့်အပူနှင့် မန္တလေးရတနာပုံ ရွှေမြို့တော်သို့လာရောက်ပြန်၍ သာသနာပြု သံဃာ့ဦးကိုင် သာသနာပိုင် ဆရာ တော်ဘုရားကြီးထံ လျှောက်ထားရာ သိမာပ်နိစ္ဆယ အဆုံးအဖြတ်ကို ပေးအပ် ဆောင်ယူပြန်သွားမည်ရှိသည်တွင် သီဟိုဠ်ကျွန်းရှိ စွယ်တော်မြတ်ကို ပင့်ဆောင် ကိုးကွယ်လိုသည့်အကြောင်းကို သန္ဒေသကထာစကား ရေးသား၍ သီဟိုဠ် ကျွန်းရှိ ထေရ်ကြီး၊ ဝါကြီးရဟန်းတို့ကို လှူဒါန်းရန် ပရိက္ခရာ၊သီဟိုဠ်ကျွန်းကို အုပ်ချုပ်သော အကြီးအကဲတို့အား ပေးကမ်းရန်နှင့် သန္ဒေသကထာများကို ကျွန်တော်ရင်း အတွင်းတော်မြဲ ဦးကြီး၊ သီလ သမာဓိရှိသူ ဥပုသ်တော်ခေါင်း ဦးမွေး၊ ဦးအောင်ထွန်းတို့ကို ပေးအပ်ပြီးလျှင် အရှင်ဓမ္မက္ခန္ဓ၊ အရှင်ဝဏ္ဏာ ယတနတို့နှင့်တကွ စေလွှတ်တော်မူသည်။

စေလွှတ်လိုက်သူ ဦးကြီး၊ ဦးမွေး၊ ဦးအောင်ထွန်းတို့ သီဟိုဠ်ကျွန်းသို့ ဘေးမခ ရန်မသန်း ချမ်းသာစွာရောက်ကြ၍ သီဟိုဠ်ကျွန်း ထေရ်ကြီး၊ ဝါကြီး ရဟန်းတော်တို့အား ပရိက္ခရာများကို လှူဒါန်း သန္ဒေသကထာများကို ဆက် ကပ် ပြသကြကုန်၏။ သီဟိုဠ်ကျွန်း အုပ်ချုပ်သူတို့အားလည်း လက်ဆောင်ပဏ္ဏာ ပစ္စည်းများ ပေးကြကုန်၏။

ထိုအခါ သီဟိုဠ်ကျွန်း ထေရ်ကြီး ဝါကြီး ရဟန်းတော်တို့က သီဟိုဠ်ကျွန်း၌ ရှေးယခင်ကကဲ့သို့ သာသနာတော် စည်ပင်ပွင့်လင်းသည်မဟုတ်၊ မန္တလေး ရတနာပုံ နေပြည်တော်ကြီးမှာ သာသနာတော် အတိုင်းထက်အလွန် စည်ပင်

ပွင့်လင်း ထွန်းတောက်ပသည်ဖြစ်သောကြောင့် ငါတို့ သီဟိုဠ် ရဟန်းတို့က အဆုံးအမ ဩဝါဒ အဆုံးအဖြတ်များကို စေလွှတ် တောင်းယူရသည်။ သို့ဖြစ်၍ ဘုရားဇိနေ၁် သာသနာတော် စည်ပင်ပွင့်လင်းရာ မန္တလေး ရတနာပုံ နေပြည်တော်ကြီးမှာ စွယ်တော်မြတ် ကိန်းဝပ်တော်မူအောင် တောင်းပန်ပင့်ဆောင်ကြမည်ဟု မိန့်ကြားတော်မူကြပြီးလျှင် စေလွှတ်ဆည့်လိုက်သူတို့နှင့် ထေရ်ကြီး ဝါကြီး ရဟန်းတော် ၅၀–တို့ စွယ်တော်မြတ် ကိန်းဝပ်ရာ (ကန္ဒီမြို့) စွယ်တော်တိုက်သို့ ကြွတော်မူကြ၍ ပူဇော်သကာ ကြီးစွာပြုလုပ်ကြပြီးလျှင် ဥပုသ်တော်ခေါင်း ဦးမွေး၊ ဦးအောင်ထွန်းတို့နှင့်တကွ လျှောက်ထားတောင်းပန်ကြကုန်၏။ ထိုအခါ မူလ စွယ်တော်မြတ်ကြီးမှ လက္ခဏာတော်ကြီးငယ်၊ ရောင်ခြည်တော်ခြောက်သွယ် အစရှိသော တန်ခိုးပြာဋိဟာတို့ဖြင့် စွယ်တော်ပွားတဆူ ကောင်းကင်ထက်၌ စံပယ်တော်မူ၏။ ယင်းစွယ်တော်ကို နဝရတ်ကိုးပါးဖြင့် ပြီးသော ပန်းတောင်းဖြင့် ပင့်ဆောင်ကြကုန်၏။ သီဟိုဠ်ကျွန်းမှ ထေရ်ကြီး ဝါကြီး ဆရာတော်ကြီးတို့က ဖော်ပြပါ စွယ်တော်ပွား တဆူနှင့် အတူ ဓာတ်တော်၊ ရုပ်ပွားဆင်းတုတော်၊ ဗောဓိပင်တော်၊ ဗောဓိဒက္ခိဏာသာခါ ဘုရား၊ ဂူ၊ ကျောင်း၊ တန်ဆောင်း၊ သိမ်ပုံများကို ပေးအပ်လိုက်ကြသဖြင့် ကောင်းမွန်စွာ ယူဆောင်၍ ပြန်လာကြရာ ဘေးမသီရန်မခ မြန်မာပြည် မလှိုင်မြို့သို့ ဆိုက်ရောက်ကြသည်။ မလှိုင်မြို့မှတဆင့် စစ်ကိုင်းမြို့သို့ အခမ်းအနားဖြင့် ပင့်ဆောင်ကြပြီး ကိန်းဝပ်တော်မူရန် အသင့် ဆောက်လုပ်ထားသည့် ဘုံဆောင်ထက်သို့ ပင့်ဆောင်၍ သဘင်ကြီးစွာခံ၍ ပူဇော်ကြသည်။ စစ်ကိုင်းမြို့ အင်းဝမြို့များမှစ၍ ပြည်သူပြည်သားတို့ ရက်ပေါင်း ၃၀–ခန့် ဖူးမြော်ပူဇော်စေပြီးမှ ပင့်ဆောင်စေ၍ အမရပူရမြို့ ရှမ်းကလေးကျွန်းထိပ်၌ ဆောက်လုပ်ထားရှိသည့် တန်ဆောင်းတော်တွင် ကိန်းဝပ်စေတော်မူ၍ ပြည်သူပြည်သားတို့ ၄–ရက် တိုင်တိုင် မြတ်လေးကော်ရော် ဖူးမြော် ပူဇော်ကြကုန်၏။

### ဆက်လက်၍ ခမ်းနားစွာ ပင့်ဆောင်ခြင်း

တဖန် ရတနာပုံ နန်းမြို့တော်သို့ ပင့်ဆောင်ခဲ့ရာ မန္တလေးမြို့တော် ဖောင်တော်ဆိပ်သို့ရောက်လျှင် သက္ကရာဇ် ၁၂၂၁–ခုနှစ်၊ နယုန်လဆန်း ၁၄–ရက်နေ့ တပ်ဝင်းအခင်းအကျင်း ပွဲသဘင်စုံများနှင့် ဖောင်တော်ဆိပ်မှ စွယ်တော်မြတ် ကိန်းဝပ်သည့် ရတနာ ပန်းတောင်း၊ ဓာတ်တော်ကိန်းဝပ်သည့် မြတပ်ကွမ်းရွက်တော်များကို ရတနာထမ်းစင်ဘော်ထက် တင်ဆောင်၍ “စန္ဒီမာဘိသီရိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု” ဘွဲ့တံဆိပ်တော်ရ စံကျောင်းဆရာတော်က ပိုက်ပွေ့တော်မူလျက်ရှင်း၊ စိန်ဆင်းတုတော်နှင့် အခြားဆင်းတုတော်များကို ရတနာဝေါယာဉ်တော်ထက် တင်ဆောင်၍ “ဝီရိယာရမ္ဘဓဇမမ္

သီရိမဟာဓမ္မရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ လူထွေဆရာတော်က ပိုက်ပွေ့တော် မူလျက်ရှင်း ဗောဓိညောင်တော်ကို မောရိယပစ္စယနာဂရာဇာ ဆင်မင်းထက် တွင် တင်လျက်ရှင်း၊ ဗောဓိဒက္ခိဏသာခါနှင့် ဘုရား ဂူ ကျောင်း တန်ဆောင်း သိမ်ပုံများကို လင်းဇင်းတော်ပေါ်တင်လျက်ရှင်း အသီးအသီး တင်ဆောင်၍ ပင့်ခဲ့ကြကုန်၏။

## မင်းတရားကြီးကိုယ်တိုင် စွယ်တော် ဓာတ်တော်တို့ကို ပင့်ဆောင်ခြင်း

စွယ်တော်၊ ဓာတ်တော်၊ ဆင်းတုတော်များ ရွှေတော်ယူတံခါးသို့ရောက် လျှင် ဆဒ္ဒန်ဆင်မင်းသခင် ဘဝရှင်မင်းတရားကြီးဘုရား၊ အရှင်မိဖုရားခေါင် ကြီးဘုရား၊ မင်းမိဖုရား မင်းညီမင်းသားများနှင့် စွယ်တော်ကျောင်းမနီးမဝေး ကွန်းထောက်နန်းတော်တွင် စောင့်နေတော်မူ၍ ပင့်ဆောင်တော်မူခဲ့သည့် စွယ်တော်ဝေယာဉ်တော်သို့ ရောက်တော်မူသည့်အခါ ဆဒ္ဒန်ဆင်မင်းသခင် ဘဝရှင်မင်းတရားကြီးကိုယ်တော်တိုင် စွယ်တော်မြတ်ကို ပဟိုရ်စင်အနောက် ကောင်းမှုန်ကြီးကျယ်စွာ ဆောက်လုပ်မွမ်းမံခြယ်လှယ်အပ်သော ကန္နားပြင် ပတ်လည် အာလိန် ၅-ဆင့်ခံ ဘုံ ၇-ဆင့်ရှိ ပြာသာဒ်ကျောင်းတော်သို့ ပင့် ဆောင်တော်မူပြီးနောက် ဓာတ်တော်ကိုလည်း တခေါက်ပင့်ဆောင်တော်မူ သည်။ ကျန် ရုပ်ပွားတော်၊ ဆင်းတုတော်၊ ဗောဓိညောင်တော်များကို မင်းညီ မင်းသား အတွင်းဝန်တို့ ပင့်ဆောင်ကြရ၏။

## မိုးသေးမိုးဖွဲများ ရွာသွန်းခြင်းစသည်

စွယ်တော် ဓာတ်တော် ရုပ်ပွားတော်များကို ဘဝရှင်မင်းတရားကြီး ကြည် ညိုပူဇော်တော်မူသည့် အချိန်ကာလအတွင်းတွင် ပေါက္ခရဝဿမိုးကဲ့သို့သော မိုးသေးမိုးဖွဲများ ဖြည်းညှင်းစွာ ရွာ၏။ မင်းတရားကြီးသည် စွယ်တော်၊ ဓာတ်တော်၊ ဆင်းတုတော်၊ ဗောဓိတို့ကို ပူဇော်တော်မူပြီးနောက် ဆရာတော် သံဃာတော်များနှင့် အလ္လာပ သလ္လာပစကား ပြောကြားတော်မူပြီး ဆရာ တော် သံဃာတော်များ ကြွသွားတော်မူလျှင် ဓာတ်တော်၊ စိန်ဆင်းတုတော်၊ ဒက္ခိဏသာခါဗောဓိဆင်းတုတော်များကို သားတော်များအား အသီးအသီး ရွှေတော်သို့ ပင့်ဆောင်စေတော်မူ၍ ရွှေနန်းတော်ဦး ဘုရားကျောင်း၌ ပင့်တင် သွင်းထား ပူဇော် ကိုးကွယ်တော်မူခဲ့လေသည်။

## မဏ္ဍလာရာမတိုက်၌ စွယ်တော်မြတ်ကိုန်းဝပ်

ၚင်းနောက် စွယ်တော်မြတ်ကို ပြည်ဆရာတော်ဘုရားကြီး သီတင်းသုံးတော်မူရာ မဏ္ဍလာရာမတိုက်အတွင်း အရွှေတောင်ထောင့် သိမ်ပြာသာဒ်သို့ ပင့်ဆောင်ကိန်းဝပ်စေတော်မူစေ၍ ပြည်သူပြည်သားအများတို့ကို အလိုရှိတိုင်း ကြည်ညို ဖူးမြော်စေတော်မူခဲ့လေသည်။

## လောကမာရဇိန်စေတီတော်၌ ဌာပနာခြင်း

ၚင်းနောက် စွယ်တော်မြတ်ကို ရွှေနန်းတော်သို့ ပင့်ဆောင်စေတော်မူ၍ ရွှေမြို့တော် ခုနစ်ဌာနအပါအဝင်ဖြစ်သော မဟာလောကမာရဇိန်စေတီတော် ဒုတိယဌာပနာတိုက်တွင် သက္ကရာဇ် ၁၂၂၃-ခု၊ တပေါင်းလဆုတ် ၁-ရက်နေ့တွင် ဌာပနာစေတော်မူခဲ့လေသည်။

မဟာဗောဓိညောင်တော်ကို ဘဝရှင်မင်းတရားကြီး နံတော်ဖြစ်သော မူလပရိဝါရအရပ်မှ အာယုအရပ်ဖြစ်သော တောင်စူးစူးအရပ်၌ စိုက်ပျိုးပြုစုတော်မူသည်။

ယင်းသို့ဖြင့် မြန်မာဘုရင်၏ဘုန်းကံ၊ မြန်မာပြည်သူပြည်သားတို့၏ ဘုန်းကံကြောင့်သီဟိုဠ်ကျွန်းမှ ကိုးကွယ်ရာ ပုညတိတ္ထ၊ပုညပတ္တမျာ းဖြစ်သည့်စွယ်တော်၊ ဓာတ်တော်၊ ဆင်းတုတော်၊ ဗောဓိတော်တို့ ရောက်ရှိခြင်းဖြစ်လေသည်။

ရညော စ ရဋ္ဌဝါသီနံ၊ ဝိသိဋ္ဌပုညကမ္မုနာ။
သမ္ဗုဒ္ဓဒါဌာအာဒယော၊ အာဂတာ မြန်မာ့ဘူတလေ။

## သီဟိုဠ်ရဟန်းတော်အရှင်ဉာဏအား ရာဇဂုရုတံဆိပ်လှူ

သက္ကရာဇ် ၁၂၂၁-ခုနှစ်၊တပေါင်းလဆန်း ၁၃-ရက်နေ့တွင် သီဟိုဠ်ကျွန်းမှ ရောက်ရှိလာသော သာမဏေ ရှင်ဉာဏနှင့် ရှင်ဂုဏာလင်္ကာရတို့ကို ရဟန်းအဖြစ်ဖြင့် ချီးမြှင့်တော်မူရာ အတွင်းဝန်၊ မှူးတော်မတ်တော်၊ သဌေး သူကြွယ်တို့ လှူဒါန်းရန် အသုံးအဆောင်ပရိက္ခရာများကို ကုသိုလ်တော်ပွား အတွင်းဝန် လောင်းရှည်မြို့စား မင်းကြီးမဟာစည်သူက ရွှေကရားဖြင့် ရေစက်သွန်းချ၍ လှူသည်။ မင်းတရားသည် ရဟန်းသစ် အရှင်ဉာဏကို "ဉာဏာလင်္ကာရသီရိမဇ္ဈိမရာဇဂုရု" ဘွဲ့တံဆိပ်တော်ကို ချီးမြှောက်လှူဒါန်းတော်မူသည်။

သီဟဠဇာတိဘူတဿ၊ ဉာဏဿ ဉာဏသံယုတော။
ဥပါဓိနာဘိပ္ပူဇေသိ၊ ရာဇာ ရာဇဓမ္မေ ယုတော။

## ညီဘွားလိမ္မာ အာနန္ဒာ လျှောက်ထားပုံ၊ ဗျာဒိတ်စကား မိန့်ကြား တော်မူပုံ ဆင်းတုတော်များထုလုပ်စေခြင်းစသည်

၁၂၂၁-ခု နှောင်းတန်ခူးလတွင် မန္တလေးတောင်ပေါ်၌ ဘုရားရှင်အရုပ်တော် ပမာဏအတိုင်းအထွာ စနစ်နှင့်တကွ မြတောင်မြို့စား သေနတ်ဝန်ကြီးသို့ လက်တတ်ပန်းပုအကျော်တို့ကို ပေးအပ်ပြီးလျှင် ညီဘွားလိမ္မာ ရှင်အာနန္ဒာ လျှောက်ထားတောင်းပန်ပုံ၊ ဘုရားရှင် ဗျာဒိတ်စကား မြွက်ကြားတော်မူပုံ၊ ရွှေမြို့တော်သို့ ရှေးရှုမျက်နှာတော်မူလျက် မတ်ရပ်တော် ဗျာဒိတ်ညွှန်ဘုရား ရုပ်တုတော်သဏ္ဌာန်၊ ညီတော်အာနန္ဒာ လျှောက်ထားတောင်းပန်သည့် ရုပ်တုတော်သဏ္ဌာန် ထုလုပ်တော်မူ၍ သစ္စေးသားရိုး ရွှေမွမ်းမံပြီးလျှင် သမံတလင်း အရံအုတ်ရိုး စိန်တောင်နှင့်တကွ ပြေပြစ်ကောင်းမွန်စွာ ရွှေတန်ဆောင်းကြီးကို ကြီးကျယ်ခမ်းနားစွာ ဆောက်လုပ်စေတော်မူခဲ့လေသည်။ ၎င်းတန်ဆောင်းက တောင်သို့အဆင်း စံကျောင်းတော် မဟာရံမြောက်ထောင့်အနီးရောက် စောင်းတန်း တန်ဆောင်းများကိုလည်း မကွေးမြို့စားဝန်ကြီး၊ မြတောင်မြို့စား သေနတ်ဝန်ကြီး၊ ပခန်းကြီးမြို့စား ဝန်ကြီးတို့က ကြီးကြပ်ဆောက်လုပ်ရသည်။

## သားတော်မင်းသားများ သာသနာတွင်း သွတ်သွင်းရန် ဦးဇာဂရထံ သာမဏေကျင့်ဝတ် စသည်များ သင်ကြားစေတော်မူခြင်း စသည်

သက္ကရာဇ် ၁၂၂၂-ခုနှစ် ကဆုန်လတွင် သားတော် စကုခင်းသား၊ မက္ခရာမင်းသား၊ ညောင်ရမ်းမင်းသား၊ မိုးညှင်းမင်းသား၊ မြင်ခုံတိုင်မင်းသား၊ ရေနံမင်းသားတို့ကို သာသနာတော်တွင်းသို့ သွတ်သွင်းချီးမြှင့်တော်မူမည် ဖြစ်သဖြင့် ဆရာတော် ဦးဇာဂရကို နန်းမြို့တော် တောင်ဥယျာဉ်တော်တွင် ကျောင်းတော် ဆောက်လုပ်လှူဒါန်း သီတင်းသုံးနေစေတော်မူ၍ သက်န်းတောင်း၊ သာမဏေကျင့်ဝတ် စသည်များကို သင်ကြားဆုံးမစေတော်မူသည်။³

၁၂၂၂-ခု နယုန်လဆန်း ၁-ရက်နေ့တွင် ရတနသိဃ် (ရွှေဘို) စီရင်စု သီးလုံးတောရ ဆရာတော် အရှင်စန္ဒိမာ မဟာထေရ် သီတင်းသုံးရင်းစွဲ ကျေးရွာတွင် ဘဝနတ်ထံ ပျံလွန်တော်မူရာ အမိန့်တော်နှင့် လှပကောင်းမွန်အောင် သင်္ဂြိုဟ်တော်မူသည်။

---

၃။ ကုန်းဘောင်ဆက်၊ ၃။ ၂၀၇။

## မြေနန်းတော် ဝိနည်းပြန်ပွဲ စာနာတော်မူခြင်း

၁၂၂၂-ခု ဝါဆိုလတွင် မြေနန်းတော် လက်ဝဲ လက်ယာဆောင်တွင် သတ္တိ၊ ဗျတ္တိ စွယ်စုံရှိတော်မူသည့် ဥဘတော ဝိဘင်းကုန်ပြန် အင်္ဂါ ၃၀-ရ သံဃာတော် ၅-ပါး၊ ပါရာဇိကဏ်-ပါစိတ်-မဟာဝါ-မဟာခန္ဓကကုန်ပြန် ၂၉-အင်္ဂါ ၄-ချပ်ရ သံဃာတော် ၁-ပါး၊ ပါရာဇိကဏ်ပါဠိတော်-ဘိက္ခု ဝိဘင်း ၂၅-အင်္ဂါရ သံဃာတော် ၁-ပါး၊ ပါရာဇိကဏ် ဘိက္ခုနီ ဝိဘင်းပြန် ၁၀-အင်္ဂါရ သံဃာတော် ၁-ပါး၊ ဥဘတောဝိဘင်း ငွေမပါရာဇိကပြန် ၃-အင်္ဂါရ သံဃာတော် ၅၂၊ စုစုပေါင်း သံဃာ ၆၀-တို့ ပြန်ဆိုတော်မူကြ သည်။ စာဥပကျွမ်းကျင်သူ မှူးတော် မက်တော်များက ကြပ်မကြည့်ရှုကြရ သည်။ တနေ့လျှင် ၃-အင်္ဂါကျ ပြန်ဆိုကြရသည်။ ယင်း ဝိနည်းပြန်ပွဲကို သာသနာပိုင် ဆရာတော်ဘုရားကြီး ဦးဇေယျ၊ ပြည်ဆရာတော်ဘုရားကြီး အရှင်မေဓာဘိဝံသ၊ ပုသိမ်ဆရာတော်၊ စံကျောင်းဆရာတော်တို့က စာကြပ်မ ကြရသည်။ ယင်း စာပြန်ပွဲသို့ မင်းတရားကြီး ထွက်တော်မူ၍ မိဖုရားခေါင်ကြီး၊ မယ်တော်ဘုရား၊ မင်းမိဖုရားအလောင်းတို့နှင့်အတူ စာနာတော်မူလေသည်။

## ရှင်ပြုရဟန်းခံ ကုသိုလ်တော်

မင်းတရားသည် ၁၂၂၂-ခု၊ ဝါဆိုလဆန်း ၁၄-ရက်နေ့တွင် သားတော် စကုမင်းသား သတိုးမင်းညွန့်၊ မက္ခရာမင်းသား သတိုးမင်းထင်၊ ညောင်ရမ်း မင်းသား သတိုးမင်းခေါင်၊ မိုးညှင်းမင်းသား သတိုးမင်းလှသိမ်သူ၊ မြင်းခုံတိုင် မင်းသား သတိုးမင်းလှဇေယျာသူ၊ ရေနံမင်းသား သတိုးမင်းလှစည်သူတို့ကို မင်းသားကြီးတို့နည်းတူ မြေနန်းတော်တွင် အရှင်နှစ်ပါး ထွက်တော်မူ၍ နားထွင်း သျှောင်ထုံးပြီးလျှင် သာသနာတော်မြတ် အမွေခံဖြစ်စေခြင်း အကျိုး ငှာ သားတော် ၆-ပါးတို့နှင့် ကျွန်တော်မျိုး ၆၀-တို့ကို မြေနန်းတော် ရွှေ မဏ္ဍပ်ကြီး ဆောက်လုပ်စေတော်မူပြီးလျှင် ပွဲသဘင် ကြီးစွာခံတော်မူ၍ တံဆိပ် တော်ရ-မရ ဆရာတော် သံဃာတော်တို့အား ပဒေသာပင်ရေ ၁၀၀-လှူဒါန်း တော်မူပြီး ဘုရားမြတ်စွာ သာသနာတော်တွင်းသို့ ရှင်သာမဏေအဖြစ်ဖြင့် သွတ်သွင်း ချီးမြှင့်တော်မူသည်။ ယခင်က သာမဏေအဖြစ်ဖြင့် ချီးမြှင့်ခဲ့သည့် သာမဏေပေါင်း ၂၄၅-ပါးတို့ကို ပဉ္စင်းအဖြစ် ချီးမြှင့်တော်မူသည်။

## ဗားကရာဆရာတော် အရှင်ဇောတ ပျံလွန်သင်္ဂြိုဟ်

သက္ကရာဇ် ၁၂၂၂-ခု တန်ဆောင်မုန်းလပြည့်နေ့တွင် နောင်တော် ပုဂံ မင်းတရားလက်ထက်က သာသနာပြု သံဃာ့ဦးကိုင် သာသနာပိုင်ဖြစ်တော်မူ

သော "ပညာဇောတဓမ္မသီရိ ကဝိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" စသည် ဘွဲ့တံဆိပ်တော် ၅-ထပ်ရ ဒုတိယ ဗားကရာဆရာတော် အရှင်ပညာဇောတ မဟာထေရ် ပျံလွန်တော်မူရာ ဘကြီးတော် မင်းတရားလက်ထက် သာသနာပြု စလင်း သာသနာပိုင် ဆရာတော် ပျံလွန်တော်မူ၍ သင်္ဂြိုဟ်သည့်နည်းတူ လှုပခမ်းနား စွာ သင်္ဂြိုဟ်တော်မူသည်။

## ဝိနည်းအဘိဓမ္မာပြန်ဆိုပွဲ မင်းတရားကြီး နာယူ

၁၂၂၂-ခု တန်ဆောင်မုန်းလတွင် ရတနာပုံမြို့တော် အမရပူရမြို့၊ စစ်ကိုင်းမြို့၊ အင်းဝမြို့များမှ သံဃာတော် ၃၅၀-တို့ ဝိနည်း ၅-ကျမ်း၊ အဘိဓမ္မာ ဝိဘင်းကျမ်းကို အထက်မြေနန်းတော်တွင် ပြန်ဆိုသည့်နည်း ပြန်ဆိုတော်မူကြသည်ကို ဘဝရှင် မင်းတရားကြီးဘုရား၊ အရှင် မိဖုရားခေါင်ကြီးဘုရား၊ မယ်တော်ဘုရား ၃-ပါးတို့ စာနာမြဲ နာယူတော်မူကြသည်။

ဝိနယာဘိဓမ္မဋ္ဌာပိ၊ ဓမ္မံ သောတရသာယနံ။
သဒေဝိရာဇာ သုဏိတ္တ၊ ဓမ္မသောဏ္ဍော နရာဘိဘူ။

## ဗောဓိပင် စိုက်ပျိုးတော်မူခြင်း

၁၂၂၂-ခုနှစ်၊ ပြာသိုလဆုတ် ၆-ရက်၊ တနင်းလာနေ့ တချက်တီးကျော် ၃-နာရီ၊ ၂-ပါဒ်၊ ၅-ဗီဇနာ၊ ၂-ပြန် ၁-ခရာအချိန်တွင် အခါတော်အတိုင်း သီဟိုဠ်ကျွန်းမှ ပင့်ဆောင်ခဲ့သည့် စွယ်တော်၊ ဓာတ်တော်၊ ရုပ်ပွားတော်များနှင့်အတူပါသည့် ဗောဓိပင်တော်ကို ဘေးတော်မင်းတရားလက်ထက် မဟာမုနိဘုရားကြီး တံတိုင်းအတွင်း စိုက်ပျိုးသည့်အခမ်းအနားနည်းတူ ရွှေမြို့တော် တောင်အရပ်၌ ဝန်ထောက်အသည်ဝန် တိုင်တားမြို့စားကျောင်းတိုက်အတွင်း မဟာရံမုခ်ပေါင်းကူး ၃-ထပ်လုပ်ဆောင်ပြီးလျှင် သာသနာပြု သံဃာ့ဦးကိုင် သာသနာပိုင်ဆရာတော်၊ မင်းညီမင်းသား မှူးတော် မတ်တော်တို့နှင့်တကွ စိုက်ပျိုးတော်မူသည်။

## သာသနာပိုင်ဆရာတော်ကြီးကို ဖူးမြင်

၁၂၂၂-ခုနှစ်၊ တပေါင်းလဆုတ် ၁၁-ရက်နေ့ နံနက်လေးချက်တီးကျော် အချိန်တွင် မြို့ရှေ့ မဟာဝိသုတာရာမတိုက်တော်သို့ အရှင်မိဖုရားခေါင်ကြီးနှင့် အတူ ထွက်တော်မူ၍ ဘွဲ့တံဆိပ်တော် ၃-ထပ်ရ သံဃာ့ဦးကိုင် သာသနာပိုင် ဆရာတော်ဘုရားကြီး အရှင်ဥေယျဓမ္မကို ဖူးမြော်တော်မူသည်။

## သိမ်သုဓမ္မာဇရပ်တော် ရေစက်သွန်းချလှူဒါန်း

သက္ကရာဇ် ၁၂၁၃-ခု၊ ဒုတိယဝါဆိုလဆန်း ၁၃-ရက်နေ့ နံနက်တွင် မြောက်နန်းတော် မိဖုရားက ရွှေမြို့တော်မြောက်မျက်နှာ မန္တလေးတောင်ခြေ အနီးတွင် ရွှေမြို့တော်ကြီး ခုနစ်ဌာနအဝင် သိမ်တော်နှင့် သုဓမ္မာဇရပ်ဆောက် လုပ်ပြီးပြေသည်ကို ဘဝရှင်မင်းတရားကြီးဘုရား၊ အရှင်မိဖုရားခေါင်ကြီး ဘုရား ၂-ပါးထွက်တော်မူ၍ ရေစက်သွန်းချ လှူဒါန်းတော်မူသည်။ ယင်း သုဓမ္မာဇရပ်အနီးတွင် သုဓမ္မာဇရပ်တန်းကြီးလည်း ရှိသည်။ ယင်း သုဓမ္မာ ဇရပ်၌ ယခင်က နယုန်လ မေထုန်ရာသီမှာ စာပြန်ပွဲများ ကျင်းပလေ့ရှိသည်။ ယင်းနှင့်စပ်၍ စလေဦးပုညက အောက်ပါအတိုင်း ရေးစပ်ဖွဲ့ဆိုခဲ့လေသည်—

### သုဓမ္မာဇရပ်စာတော်ပြန်ပွဲဘွဲ့ တေးထပ်

သည်မေထုန် နယုန်ရက်မှာ၊ ကုန်စက်ရ သာကီ၊
ဘုံကနက် ဌာနီမှာ၊ ခါအရှည် စံတုန်း။
သာလာဃ နုမဟာမှာ၊ သုဓမ္မာ ပွဲပလ္လင်နှုန်း။
ပိဋကတ် မြတ်ဓမ္မာကို၊ ပြဿနာ ပြုတုန်း။'
နတ်ရွာလို ရှုမဆုံးသာပ၊ ခြိမ့်အုံး၍ ကြွေငြာ၊
ပြည်တော်သူ ဘူမြေမန်းတွင်မှ၊ လှူရွှေဆွမ်း သသည့်ချိန်ခါ။
အမတ ပြည်ခေမာကို၊ ရည်ဝေကာ ကြည်ဇောနှင့်၊
မြတ်ဘောဇဉ် အတည်တည်၊ သွင်းဆက်ခဲ့သည်။
တွေးမိတိုင်း ဖိုလှိုက်ကြည်တယ်၊ ငိုလိုက်မည် ကြံဆဲပလေး[၁]။

### ရွှေနန်းတော်သို့ တက်တော်မူခြင်း

သက္ကရာဇ် ၁၂၂၁-ခုနှစ်၊ သီတင်းကျွတ်လဆန်း ၁-ရက်နေ့တွင် ရွှေနန်း တော် အဆောင်တော်များ၌ သံဃာတော် ၈-ပါးစီပင့်၍ ပရိတ်ရွတ်ဖတ်တော် မူပြီးလျှင် သီတင်းကျွတ်လဆန်း ၃-ရက်နေ့တွင် ရွှေနန်းတော်သို့ တက်တော် မူသည်။

ဘဏာပေတွာန ပရိတ္တ—သမ္ဗုဒ္ဓမန္တမုတ္တမံ။
ရာဇာ ရာဇနိကေတနံ၊ သမာရုဟိ သပါရိသော။

---

၁။ ဦးပုည လက်ရွေးစင်စာများ။ ၃၉၇-နှာ။

## လောကမာရဇိန် စေတီတော်ကြီး ပဌမ ဌာပနာသွင်း

၁၂၂၃ – ခုနှစ်၊ သီတင်းကျွတ်လဆန်း ၁၀ – ရက်နေ့တွင် ရွှေမြို့တော် အရှေ့မြောက်ယွန်း မြို့တော် ၇ – ဌာနအဝင် တည်လုပ်တော်မူသည့် မဟာ လောကမာရဇိန် ကုသိုလ်တော် စေတီတော်ကြီးကို ပဌမ ဌာပနာသွင်းရန် ဓာတ်တော် မွေ့တော်၊ ရုပ်ပွားဆင်းတုတော် ကျောက်အဂ္ဂရာရေး ဓမ္မစေတီ တော်၊ ရဟန္တာရုပ်တုတော်၊ သတ္တဌာနမှစ၍ မင်းရုပ်တုတော် အခမ်းအနား ပါသည်များကို မင်းညီ၊ မင်းသား၊ ဝန်ကြီး၊ အတွင်းဝန်၊ မှူးတော်၊ မတ်တော်၊ သင္ဘေး၊ သူကြွယ်တို့ ဗောင်း ဝတ်လုံ စလွယ် ဘွဲ့ဖြူးဆင်ယင်၍ ပွဲသဘင်စုံများနှင့် မြောက်စမုတ်တော်သို့ သွင်းကြရာ ဘဝရှင်မင်းတရားကြီး ဘုရား၊ မိဖုရားခေါင်ကြီးဘုရား နှစ်ပါး ကြည့်ရှုတော်မူသည်။ ၎င်းနောက် ဘကြီးတော်မင်းတရား၊ ခမည်းတော်မင်းတရားတို့ လက်ထက် မဟာဝိဇယရံသီ စေတီတော်၊ လောကမဏိစူဠာ စေတီတော်များ ဌာပနာသွင်းသည့် အခမ်း အနားနည်းတူ ၁၂၂၃-ခု၊ သီတင်းကျွတ်လဆန်း ၁၄-ရက်၊ ကြာသပတေးနေ့ နေ့ ၂-ချက်တီးကျော်အချိန် အမြောက်သံကြား အခါတော်နှင့် ပဌမဌာပနာ သွင်းတော်မူသည်[၁]။

## ရာဇာဓိ ရာဇဂုရု ဆရာတော်ကြီး ၂—ပါးပျံလွန်သင်္ဂြိုဟ်

၁၂၂၃—ခုနှစ်၊ တန်ဆောင်မုန်းလတွင် "ဉာဏိန္ဒာဘိပဏ္ဍိတပရမ မဟာဓမ္မ ရာဇာဓိ ရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ ညောင်ကန်ဆရာတော် ဘဝနတ်ထံ ပျံလွန် တော်မူသည်။ ကျန်ရစ်သော ဥတုဇရုပ်ကလာပ်တော်ကို အခြားတံဆိပ်တော်ရ ဆရာတော်ကြီးတို့ သင်္ဂြိုဟ်သည့် နည်းအတိုင်း သင်္ဂြိုဟ်တော်မူသည်။ တဖန် နတ်တော်လတွင် "ဥတ္တမာဘိသီလာလင်္ကာရကဝိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ ပတူးဆရာတော် အရှင်ဥတ္တမထေရ် ပခန်းကြီးမြို့ ပတူးရွာတွင် ပျံလွန်တော်မူသည်။ ဥတုဇရုပ်ကလာပ်တော်ကို စလင်းဆရာတော်၏ ရုပ်ကလာပ် နည်းအတိုင်း ပခန်းကြီးမြို့စား ဝန်ကြီးသတိုးမင်းကြီး မဟာမင်းလှစည်သူ သွား ရောက်၍ ကောင်းမွန်စွာ သင်္ဂြိုဟ်သည်။

## မဟာကုသိုလ်တော် ဒုတိယဌာပနာသွင်းတော်မူခြင်း

၁၂၂၃—ခုနှစ် အတွင်းမှာပင် ရွှေမြို့တော် ၇–ဌာနအဝင် မဟာလောက မာရဇိန်ကုသိုလ်တော်စေတီကြီး ဒုတိယဌာပနာတိုက် ပြီးပြေသည်ကို ရွှေသား

---

၁။ ကုန်းဘောင်ဆက်၊ ၃။ ၂၉၇–၈။

ကျောက်စီစေတီတော် ၁၄—ဆူ၊ ရွှေသားစေတီတော် ၆—ဆူ၊ မိုးကြိုးစေတီတော် ၁—ဆူ၊ ငွေစေတီတော် ၄—ဆူ၊ ပုလဲအဆင်းဓာတ်တော် ၆—ဆူ၊ ချယားစေ့အဆင်းဓာတ်တော် ၂၆—ဆူ၊ ကနကမာကြုတ်၌ထည့်ထားသည့် သိဟိုဠ်စွယ်တော်ပွား ၂—ဆူ၊ ဗောဓိရွက်ထည့်ထားသည့် ငွေသေတ္တာများကို ရွှေနန်းတော်က မင်းညီ၊ မင်းသား၊ မှူးတော်၊ မတ်တော်၊ သဌေး၊ သူကြွယ် စုရေးစုကိုင်တို့ သနားတော်မြတ်ခံယူရသည့် ဗောင်း၊ နားတောင်း၊ ဝတ်လုံဆင်ယင်၍ စေတီတော်ရောက် ပင့်ဆောင်ပြီးလျှင် ယင်းသည့် ၁၂၂၃—ခုနှစ် တပေါင်းလဆုတ် ၁—ရက် စနေနေ့ တချက်တီးကျော် အချိန်အခါတော်ရောက်သည့်ကာလ အမြောက်သံကြားသည်နှင့်တပြိုင်နက် ဒုတိယဌာပနာ သွင်းတော်မူသည်။

## စစ်ကူးမြို့ ရွှေမာလဲစေတီရွှေချ

ယင်းသည့်၁၂၂၃=ခုနှစ်၊ တပေါင်းလတွင်ပင် စစ်ကူးမြို့ ရွှေမာလဲစေတီတော် ရွှေပျက်စီးယိုယွင်းသည်ကို ရွှေမာလဲကျောင်းတိုက်အတွင်း ဆယ်ဖို့ဘဖို့အခွန်တော်စပါး ၅၀၀-ကျော်ဖိုးကို ရွှေဆိုင်းဝယ်ယူ၍ စစ်ကူးမြို့ဝန်၊ မြို့သူကြီး ရွှေမာလဲဘုရား အရံစောင့်အကြီးတို့ကို ကောင်းမွန်စွာ မွမ်းမံချလုပ်စေတော်မူသည်။

## သာသနာပိုင်အောက် သုဓမ္မာဆရာတော်ရှစ်ပါး ထားခြင်း

သက္ကရာဇ် ၁၂၂၄-ခုနှစ်၊ ဝါဆိုလတွင် ဘုရားမြတ်စွာ သာသနာရောင်တောက်ပြောင်ထိန်ဝင်း လင်းလက်စေခြင်းအကျိုးငှာ ပရိယတ် ပဋိပတ်အရာ၌ သတ္တိဗျတ္တိစွယ်စုံရှိသည့် စာကြည့်တံဆိပ်တော်ရ ပိဋကတ်မ ဆရာတော် ရှစ်ပါးကို သာသနာပြု သာသနာပိုင် ဆရာတော်ဘုရားကြီး အဆုံးအမကို ခံစေ၍ သံဃာကိစ္စ ကံကြီး ကံငယ် ဆုံးမစီရင်ရန် ရှိသည်များကို သုဓမ္မာဇရပ်တော်မှာ စည်းဝေးပြီးလျှင် စီရင်ရမည့် အကြောင်းအရာ အမိန့်တော်ကို ရတနာပုံ ရွှေမြို့တော်၊ အမရပူရမြို့တော်ရှိ တိုက်အုပ်ဆရာတော်ဘို့ကိုပင့်၍ သုဓမ္မာဇရပ်တွင် ဖတ်နာစေ၍ တပါးလျှင် ပိတ်အုပ်၊ ဖယောင်းတိုင်၊ သင်ဓုန်း၊ မျက်မှန် တစုံစီ လှူဒါန်းတော်မူသည်။

## ကုသိုလ်တော်စေတီကြီး မဟာလောကမာရဇိန်ကမ္ဘည်းတပ်

ရွှေမြို့တော်ကြီး ၇-ဌာနအဝင် မဟာရံတံတိုင်း ၃-ထပ်နှင့်တကွ ဖိနပ်အခင်း အချင်းပမာဏ သံတောင် ၆၅-တောင်၊ အရပ်တော်ပမာဏ သံတောင်

၅၁-တောင် ၁-မိုက် လက် ၄-သစ်ရှိသော စေတီတော်အုတ်ရိုးအင်္ဂတေ ပြီးပြေသည်ကို ၁၂၂၄-ခုနှစ် ဝါဆိုလဆုတ် ၉-ရက်နေ့ နေ့တချက်တီးကျော် ၅-မောင်းအချိန်တွင် ဝန်ကြီး၊ အတွင်းဝန်၊ မှူးတော် မတ်တော်၊ စုရှင် ငန်းရှင်ဝန်စု ဗိုလ်စုတို့ အခါတော်အတိုင်း အမြောက်သံကြား၍ ပွဲသဘင်စုံနှင့် ရွှေထီးအထွတ်တင်လှူတော်မူပြီးလျှင် မဟာလောကမာရဇိန်ဟု ဂုဏ်မှည့်တော်မူသည်။

သုဆတ္တံ ဗန္ဓာပေတွာန၊ ကုသိုလ်တော်အဝှဲစေတိယံ။
မဟာလောကမာရဇိန်တိ၊ အနွတ္ထနာမ-မဂ္ဂဟိ။

ရင်းပြင် မဟာလောကမာရဇိန် စေတီတော်ကြီး၏ တောင်မျက်နှာ၊ အနောက်မျက်နှာ၊ မြောက်မျက်နှာ မဟာရံတံတိုင်း ၃-ထပ်ပြင်၌ မှူးတော် မတ်တော်တို့ကို ငွေတော်ထုတ်ပေး၍ အုတ်ဇရပ်ပေါင်း ၃၆-ဆောင်ကိုလည်း အသီးအသီး ကြီးကြပ်လုပ်ဆောင်စေတော်မူသည်။

### စလင်းတိုက်အတွင်း ကျောင်းအလှူပွဲ ရေစက်ချ

၁၂၂၄-ခုနှစ်၊ ဝါဆိုလတွင် သနဇရစ်ရွာစား သီရိစိတ္တာဝတီက စလင်းတိုက်အတွင်း ကုသိုလ်တော်ပွား ကျောင်းဆောက်တင်လှူမည် ဖြစ်သဖြင့် ပဒေသာပင် လှူဖွယ်ဝတ္ထုများကို အတွင်းတော်သို့ သွင်းပြရာ အရှင် ၂-ပါး မြောက်စမုတ်တော်သို့ထွက်၍ ရေစက်သွန်းချတော်မူသည်[၁]။

### စံကျောင်းဆရာတော် အရှင်စန္ဒိမာ ပျံလွန်၍ မင်းမိဖုရားသင်္ဂြိုဟ်

သက္ကရာဇ် ၁၂၂၄-ခုနှစ်၊ တပေါင်းလတွင် မန္တလေးမြို့တော် မြောက်မျက်နှာ မန်းဦး တံခါးအထွက် လမ်းအရှေ့ဘက် မဟာဇောတိကာရာမတိုက် ရတနာဘုံစံ စံကျောင်း၌ သီတင်းသုံးတော်မူသော "စန္ဒိမာဘိသီရိဓဇမဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ ဆရာတော် အရှင်စန္ဒိမာ ဘဝနတ်ထံ ပျံလွန်တော်မူလေရာ မင်းတုန်းမင်းတရားသည် မင်္ဂလာအိမ်တော်စံတော်မူစဉ် သဲအင်း သာသနာပိုင် ဆရာတော်ကြီးထံ အပ်တော်မူ၍ စာသင်တော်မူရာ လက်ဆောင်ဆရာပြုပြီးလျှင် ဆုံးမသင်ကြားတော်မူသည့် ဆရာ ဖြစ်သည်။ အသူ့သဖြင့် အခမ်းအနားကြီးကျယ်စွာ လုပ်ဆောင်သင်္ဂြိုဟ်တော်မူမည်— အမိန့်တော်နှင့် သင်္ဂြိုဟ်ရပ်မှာ စံကျောင်းတော်အရှေ့တောင်ယွန်း

---

၁ ကုန်းဘောင်ဆက် ၃။ ၃၀၃။

မဟာရံတံတိုင်းအတွင်း အထူးအဆန်းအကြီးအကျယ် အာလိန် ၅-ဆင့် လောင်တိုက်လုပ်ပြီးလျှင် နန်းမြေဘုံသာစံ စံနန်းတော်က စံကျောင်းတော်သို့ အရှင် ၂-ပါးထွက်တော်မူ၍ နှောင်းတန်ခူးလပြည့်ကျော် ၁-ရက်နေ့တွင် သင်္ဂြိုဟ်တော်မူသည်။ ပြာသာဒ်ရထား အလှူအတန်း ပွဲသဘင်များကိုလည်း အထူးအဆန်း အကြီးအကျယ် လုပ်ဆောင်တော်မူသည်။

ယင်းသည့် နောက်ဆုံးဈာပနနေ့တွင် ရတနာပုံမြို့တော်၊ အမရပူရ၊အင်းဝ၊ စစ်ကိုင်းမြို့ရှိ ဂါမဝါသီ၊ အရညဝါသီ တံဆိပ်တော်ရ မရ ရဟန်းသာမဏေ ၁-သောင်းကျော်တို့အား ဆွမ်းသင်္ကန်း လှူဒါန်းတော်မူသည်။ ထိုတွင် သံဃာတော်တပါးလျှင် သင်္ကန်းတိစီဝရိက်၊ ခါးပန်းကြိုးကွင်းစုံ၊ သင်ဓုန်း၊ ကြေးရေစစ်၊ အပ်ထုပ်၊ ကွမ်းအစ်၊ ထုံးဗူးတဗူးကျစီနှင့်တကွ ဆွမ်းဟင်းလျာ အပြည့်အစုံ လှူတော်မူသည်။ သာမဏေတပါးလျှင် သင်္ကန်း ဒွိစုံနှင့်တကွ ဆွမ်းဟင်းလျာအစုံ ကွမ်း၊ဆေး၊ လက်ဖက်ပါ လှူဒါန်းတော်မူသည်။

## ရတနာဘုံစံ စံကျောင်းတော် ပြည်ဆရာတော်ဘုရားကြီး အရှင်မေဓာဘိဝံသအား တင်လှူ

၁၂၂၅-ခုနှစ်၊ တန်ဆောင်မုန်းလတွင် "မေဓာဘိဝံသ သဒ္ဓမ္မဓဇ မဟာဓမ္မရာဇာဓိရာဇဓိဂုရု" ဘွဲ့တံဆိပ်တော်ရ ပြည်ဆရာတော်ဘုရားကြီး အရှင်မေဓာဘိဝံသအား မဟာဇောတိကာရာမတိုက် ရတနာဘုံစံ စံကျောင်းတော်ကို တင်လှူတော်မူသည်။

## အမရပူရမြို့မှ ပိဋကတ်တော်များကို မန္တလေးမြို့ ပိဋကတ်တိုက်သို့ ပို့သွင်းခြင်း

၁၂၂၅-ခုနှစ်၊ တပို့တွဲလတွင် အမရပူရမြို့ ပိဋကတ်တိုက်ရှိ ပိဋကတ်တော်များကို အမြောက်သံကြားအခါတော်နှင့် ဘေးတော်မင်းတရားလက်ထက်၊ ဘကြီးတော် မင်းတရားလက်ထက်၊ ခမည်းတော်မင်းတရားလက်ထက် ဆောင်ယူသည့်နည်းတူ ဝေါတော်၊ ဆင်တော်၊ ထမ်းစင်တော်များနှင့် စီစဉ်ခင်းကျင်းပြီးလျှင် ဝန်ကြီး၊ အတွင်းဝန်၊ မှူးတော်၊ မတ်တော်တို့ ကြီးကြပ်ဆောင်ယူ၍ ရတနာပုံ ရွှေမြို့တော်ကြီးမြောက် ရွှေမြို့တော်ကြီးနှင့် သတ္တဌာနအပါအဝင်ဖြစ်သော မန္တလေးတောင်ခြေ ပိဋကတ်တိုက်တော်တွင် သွင်းထားရ၏။

## ပြည်ဆရာတော်ဘုရားကြီး အရှင် မေဓာဘိဝံသ ပျံလွန်

၁၂၂၅-ခုနှစ်၊ နှောင်းတန်ခူးလတွင် မဟာဇေတဝိကာရာမတိုက် ရတနာဘုံစံ စံကျောင်းတော်တွင် သီတင်းသုံးတော်မူသည့် "မေဓာဘိဝံသသဒ္ဓမ္မဇောတိကမဟာဓမ္မရာဇာဓိရာဇဂုရု"ဘွဲ့တံဆိပ်တော်ရ ပြည်ဆရာတော်ဘုရားကြီး အရှင်မေဓာဘိဝံသ ပျံလွန်တော်မူသည်။ ကြွင်းကျန်ရစ်သော ဥတုဇရုပ်ကလာပ်တော်ကို ဗားကရာဆရာတော်ကြီး၏ ဥတုဇရုပ်ကလာပ်နည်းတူ လှပကောင်းမွန်စွာ လုပ်ဆောင်သင်္ဂြိုဟ်တော်မူသည်။

## သမီးတော် စလင်းမင်းသမီး၏ ကုသိုလ်ဒါနများ
## မင်းမိဖုရား ရေစက်ချလှူ

၁၂၂၆-ခု၊ ပဌမဝါဆိုလပြည့်နေ့၊ သို့မဟုတ် ယင်းဝါဆိုလပြည့်နေ့ ပတ်ဝန်းကျင်တွင် သမီးတော် စလင်းမြို့စား မင်းသမီး သုသီရိမြတ်စွာရတနာဒေဝီက ကုသိုလ်တော်ပွား မန္တလေးတောင်ထိပ်ဘုရားဦးတွင် ဆောက်လုပ်သည့် ဇရပ် ၁-ဆောင်၊ ပဒ္ဒုင်းလောင်း ၁၆-ပါး၊ သာမဏေလောင်း ၁၆-ပါးနှင့် လှူဒါန်းရန် ပဒေသာပင် ၁၆-ပင်၊ စွန့်ကြဲရန် ပဒေသာပင် ၁၆-ပင်၊ ထည်မျိုးအုပ်မျိုး ပဒေသာပင် ၈-ပင်တို့ကို အတွင်းတော်သို့ သွင်းပြရာ မြေနန်းတော်သို့ အရှင် ၂-ပါး ထွက်တော်မူ၍ ရေစက်သွန်းချလှူဒါန်းတော်မူသည်[၁]။

## ရုပ်ပွားတော်ထုရန် စကျင်ကျောက်မြုတော်
## ပင့်ဆောင်ခြင်း

သက္ကရာဇ် ၁၂၂၆-ခုနှစ်၊ ဝါခေါင်လတွင် စကျင် တောင်တော်တွင် ကျောက်တော်ကြီး တူးဖော်ရသည်ကို ပင့်ဆောင်နိုင်အောင် ရုပ်ပွားတော်သဏ္ဍာန် အကြမ်းအချော ဆက်လက်၍ ပြုလုပ်စေရန် လက်မှုအတတ်သည် ကျောက်ဆစ်(ဆတ်)သမားတို့နှင့် မကွေးမြို့စား ဝန်ကြီး၊ မြို့တောင်မြို့စား သေနတ်ဝန်ကြီးတို့ကို စေလွှတ်တော်မူ၍ ထုလောင်းပြီးပြေသည်ကို သမ္မန်တော်ကြီး ၂-စင်းတွဲပြီး ပင့်ဆောင်စေရာ အတင်အလျှောက် နေရာမကျသဖြင့် ဝန်ကြီး ၂-ယောက်တို့ကို ခေါ်တော်မူပြီးလျှင် လောင်းရှည်မြို့စားဝန်ကြီး၊ ဝန်ထောက်ခန်းပတ်မြို့စား ပန်းဘဲဝန်၊ ပန်းတဉ်းဝန်၊ သံတော်ဆင့်၊ တောင်ဒဝယ်မိုလ်တို့ကို စေလွှတ်တော်မူ၍ သမ္မန်တော်ကြီး ၂-စင်းပေါ်၌ တင်

---

၁။ ကုန်းဘောင်ဆက်၊ ၃။ ၃၁၇။

ဆောင်အသင့်ရှိစေပြီးလျှင် နောက်ရေကြီးသည့်ကာလတွင် ပင့်ဆောင်ရမည့် အမိန့်တော်အတိုင်း ထုလောင်းပြီး ရုပ်တုတော်ကို ပင့်ဆောင်တင်ထားရာ မျှားမကြာမီ ရေကြီးသဖြင့် စကျင်တံတား အနောက်ရေနက်ရာသို့ ရောက် ကြောင်း ၎င်းမှ တာဘထောင်ကျော် မြွေရွာမြစ်ဝသို့ ရောက်ကြောင်းများကို လျှောက်ထားလေရာ သုဓမ္မာဆရာတော်တို့နှင့် သံဃာတော်တို့ကို ခတ်လှေ တော်နှင့် ရှေးဦးရွှေဖျား အကြိုအယူ အပင့်အဆောင် လိုက်တော်မူကြ ရသည်။

ခရီးတလျှောက် ကျောက်တော်ကြီးတင် သမ္ဗန်တော်တွင် ပွဲသဘင် အတီး အမှုတ် အကများနှင့် စုံဆင်းခဲ့ရာ အထွက်တွင် ချောထောက်အမြောက်သံ၊ ရွှေးတော်ယူတံခါးရောက် ကြားစေပြီးလျှင် ၎င်းလပြည့်ကျော် ၂-ရက်နေ့၌ မြန်နန်းစကြာ မီးသတော်ဖြင့် ဆွဲဆောင်ခဲ့ရာ မင်းညီမင်းသား မှူးတော် မတ်တော်တို့ကို ခတ်လှေ လှော်လှေချားဖြင့် ကြိုဆိုစေ၍ အနောက်ပြင် အိကပ်း ရွာဆိပ်သို့ ရောက်လေသည်။

ရုပ်ပွားတော် ကျောက်တော်ကြီးကို ဖောင်ပေါ်မှ ကုန်းသို့တင်ရန် ခံကုန်း ရွာ မြောင်းတွင်းသို့သွင်းပြီးလျှင် ရုပ်တုတော်တင် စွပ်ဖားကို ချဆောင်သည်။ စွပ်ဖားလမ်း တလိမ့်ကြိုးလွန်များ ပြင်ဆင်ပြီးလျှင် မန္တလေးတောင်ခြေရင်း သုဓမ္မာဇရပ်အနီး ကျောက်တော်ကြီး ဘုရားရုပ်တုတော်ထားရာအရပ်ရောက် အစုံ အမှုထမ်း လူ ၁-သောင်း ၂-ထောင်ကျော်တို့ကို အိမ်ရှေ့မင်း၊ ဝန်ကြီး၊ အတွင်းဝန်၊ ဗိုလ်၊ သေနတ်စာရေး၊ သွေးသောက်ကြီးတို့ကို ကြပ်မ ဆွဲဆောင် စေရာ ဆွဲရက်ပေါင်း ၁၃-ရက်ဖြင့် တန်ဆောင်မုန်းလဆန်း ၂-ရက်နေ့တွင် ထားရာ ပလ္လင်ပေါ်သို့ ရောက်တော်မူသည်။

ရုပ်ပွားတော် ကျောက်တော်ကြီးထားရာ ပလ္လင်ပေါ်သို့မရောက်မီ ခံကုန်း ရွာမြောက်သို့ရောက်လျှင် တော်သလင်းလဆန်း ၃-ရက်နေ့ နံနက် နန်းမြေဘုံ သာ စံနန်းတော်သို့ ဆဒ္ဒန်ဆင်မင်းသခင် ဘဝရှင်မင်းတရားကြီးဘုရား၊ အရှင် နန်းမတော်ဘုရား ၂-ပါး၊ ရှေ့ ၆-တပ်၊ နောက် ၆-တပ်ဖြင့် ထွက်တော်မူကြီး ထွက်စံတော်မူသည်။

ကျောက်တော်ကြီးရုပ်တုတော် ကြိုယူပင့်ဆောင် ကြွရောက်တော်မူမည့် အခမ်းအနားတွင် အစုအမှုထမ်းတို့က ယောက်ျားကပွဲ၊ ရွှေမြို့တော်ရပ်ကွက် များက ယောက်ျားမိန်းမ ကပွဲများကို သွင်းပြကြရသည်။ စံနန်းတော်တွင် လည်း နေ့ည ပွဲသဘင်မပြတ် ခံတော်မူသည်။ ကျောက်တော်ကြီးရုပ်တုတော် ဆွဲဆောင်သည့်အတွင်း ရုပ်တုတော်တင်ထားရန် ကျောက်ဖြူပလ္လင်လုပ်ရာသို့

အရှင် ၂–ပါး မပြတ်ထွက်တော်မူ၍ အလုပ်အဆောင် အကြီးအကြပ် ကျောက်ဆစ် (ဆတ်) ပန်းရန်ကဲ့ကျွေးတို့ကို ဒင်္ဂါးအဝတ်အစား ပေးတော်မူသည်။

၎င်းပြင် ကျောက်တော်ကြီးဘုရားပြင်၊ မဟာရံတောင်ဘက်၊အနောက်ဘက် စံကျောင်းတော်တိုက် မဟာရံပြင်အရှေ့ဘက် တောင်ဘက်များ၌ အုတ်ပလ္လင်ခံ၍ အမိုးဘုံ ၂-ဆင့် လည်ပေါ်ယွန်းဆက် စုလစ်မွန်းချွန်နှင့်တကွ ဇရပ်ပေါင်း ၃၃-ဆောင်တို့ကို အသီးအသီး မှူးတော်မတ်တော်တို့အား ငွေတော်ထုတ်ပေး၍ တဆောင်စီ ကြီးကြပ်ဆောက်လုပ်တော်မူသည်[၁]။

## ဗောဓိပင်များ စိုက်ပျိုးခြင်း

သက္ကရာဇ် ၁၂၂၇-ခုနှစ်၊ ကဆုန်လဆန်း ၁၅-ရက်နေ့နံနက် ၁-ချက်တီးကျော်အချိန်တွင် မဇ္ဈိမဒေသ မဟာဗောဓိပင်တော်အရပ်က ဆောင်ယူဆက်သသည့် ဗောဓိပင်တော်ကို ရှေ့မဟာဗောဓိပင်စိုက် အခမ်းအနားထွက်အတိုင်း ပွဲသဘင်ကြီးစွာ ခံတော်မူ၍ ထွက်တော်မူပြီးလျှင် ကျောက်တော်ကြီးဘုရား မဟာရံတံတိုင်းပြင် တံတိုင်းအတွင်း အရှေ့မြောက်ထောင့်အရပ်တွင် အခါတော်ရောက်သည့်ကာလ အမြောက်သံ ၃-ချက်ကြား၍ ဗောဓိပင်တော်ကို ဘဝရှင်မင်းတရားကြီးဘုရား ကိုယ်တော်တိုင် စိုက်ပျိုးတော်မူသည်။ မင်းမိဖုရား မင်းညီမင်းသား မှူးတော်မတ်တော်တို့က မြေဖို့ညှိကြရသည်။

၎င်းနောက် ဝါဆိုလဆုတ် ၄-ရက်၊ အင်္ဂါနေ့တွင်လည်း အခါတော်အတိုင်း ကျောက်တော်ကြီးမဟာရံတံတိုင်းအတွင်း အနောက်မြောက်ထောင့်အရပ်တွင် အထက်အရှေ့မြောက်ထောင့်အရပ်တွင် ဗောဓိပင်စိုက်ပျိုးသည့်နည်းအတိုင်း ဘဝရှင်မင်းတရားကြီးဘုရား ထွက်တော်မူ၍ ကိုယ်တော်တိုင်စိုက်ပျိုးတော်မူသည်၊

## ကျောက်တော်ကြီးဘုရား မျက်နှာတော်ဖွင့်ပွဲ

သက္ကရာဇ် ၁၂၂၇-ခု၊ ကဆုန်လဆုတ် ၇-ရက်နေ့နံနက် တချက်တီးကျော်အချိန်တွင် ကောင်းမှုတော် မဟာသကျမာရဇိန် ကျောက်တော်ကြီးဘုရား မျက်နှာတော်ဖွင့်ရန်ရှိသည်ကို နမန္တာဖက်၊ ခေတ်ဖက်၊ ဆင်၊ မြင်း၊ ရထား၊ ခြေသည်စစ်အင်္ဂါ ၄-ပါး၊ တပ်ဝင်းအခမ်းအနား အကြီးအကျယ် စီရင်ခင်းကျင်းတော်မူ၍ ဆဒ္ဒန်ဆင်မင်းသခင် ဘဝရှင်မင်းတရားကြီးဘုရား၊ အရှင်

---

[၁]။ ကုန်းဘောင်ဆက်၊ ၃။ ၃၁၀–၉။

မိဖုရားခေါင်ကြီးနှင့်အတူ စံနေတော်မူရင်း နန်းမြေဘုံသာစံနန်းတော်မှ ထွက်တော်မူ၍ ဘုရားအနီး ကွန်းထောက်စံနန်းတော်တွင် စံတော်မူသည်။ တပ်ဝင်းအခင်းအကျင်းများကိုလည်း ဘုရားမဟာရိတံတိုင်းပတ်လည် ခင်းထားပြီးလျှင်ကြီးကျယ်လှစွာသော ပွဲလမ်းသဘင် ပဉ္စင်တူရိယာမျိုးတို့ဖြင့် ရေမြေငိုမ့်မျှတီးမှုတ်ကခုန်စေလျက် ညီတော်အိမ်ရှေ့မင်းနှင့်အကွ မင်းညီမင်းသား မှူးတော်မတ်တော်တို့ကို သနားတော်မြတ်ခံရသည့် ဗောင်းဝတ်လုံစလွယ် ဘွဲ့ဖြူဆင်ယင်စေ၍ ခြံရံစေလျက် ရတနာ ၃-ပါး၊ သိကြား၊ ဗြဟ္မာ၊ စတုလောကပါလသာသနာတော်စောင့်နတ်၊ သမ္မာဒေဝနတ်ကောင်းနတ်မြတ် အပေါင်းတို့အားတင်ကြားပသရန် အဖွယ်အရာများကို တင်ကြားပသပူဇော်စေပြီး သာသနာပြုဆရာတော် အမှူးရှိသော သံဃာတော်တို့အား သက်န်းလျာ ပိတ်အုပ်စသောအလှူဝတ္ထု အဖွယ်အရာတို့ကို လှူဒါန်းတော်မူ၍ အခါနေပးအမြောက်သံအချက် ၅၀-ကျော် ကြားသည်နှင့်တပြိုင်နက် ဆဒ္ဒန်ဆင်မင်းသခင် ဘဝရှင်မင်းတရားကြီးဘုရား ရုပ်ပွားတော်မြတ်၏ မျက်နှာနှင့်တည့်တည့် စီမံခင်းကျင်းပြီး နတ်လမ်းစောင်းဘန်း လှေကားတော်ထက်သို့ တက်စံတော်မူပြီးလျှင် ရုပ်ပွားတော်မြတ်၏ မျက်နှာတော်တွင် မျက်ခုံးဘော်၊ မျက်ရေးတော်စသော လက္ခဏာတော်များကို နဝရတ် ၉-ပါး ခြယ်စီသော ရွှေစုတ်ကို စွဲကိုင်တော်မူ၍ ရွှေမင်ဖြင့် ကိုယ်တော်တိုင်စ၍ရေးသား မျက်နှာတော်ဖွင့်လှစ်တော်မူပြီးမှ တမော့ကျော်ဆစ်(ဆတ်) ပညာသည်အကြီးတို့က ဆက်လက်၍ ပြီးပြေအောင် မျက်နှာတော်ကို ဖွင့်လှစ်ကြရသည်။

ပြီးလျှင် မျက်နှာဖွင့်အခမ်းအနားတွင် ပါဝင်သူ အကြီးအကြပ် မှူးတော်မတ်တော် အရာရှိတို့နှင့် ကျောက်ဆတ်သမား၊ ဗိသုကာ၊ လက်မှုအတတ်သည်၊ အလုပ်သည်၊ ပညာသည် လူ ၃၀-ကျော်တို့ကို အထိုက်အလျောက် ဘွဲ့မည်အရည်ပုဆိုး၊ ခေါင်းပေါင်း၊ ပိတ်အုပ်၊ ပုဝါအုပ်၊ဆုသနားတော်မူပြီးမှ နန်းမြေဘုံသာ စံနန်းဘော်သို့ ဝင်တော်မူသည်။

### ကျောက်တော်ကြီး ဆင်းတုတော်ပမာဏ

ကျောက်တော်ကြီး ဆင်းတုတော်၏ အတိုင်းအတာ ပမာဏကား အောက်ပါအတိုင်း ဖြစ်သည်—

ထက်ဝယ်တော် လက်ဝဲအပြန့် ၁၂-တောင်။
အဝန်း ၂၈-တောင်၊ ၂-မိုက်၊ ၄-သစ်။
ခါးတော်အဝန်း ၁၉-တောင်၊ ၂-မိုက်၊ ၄-သစ်။

ရင်ဖွင့်တော် ပခုံးစွန်းဝဲယာအကျယ် ၈-တောင်။ အဝန်း ၂၀၊ ဦးခေါင်းတော်အဝန်း ၁၃-တောင်၊ စမ္မခဏ်မှသည် ရောင်လျှံတော်ဖျားအထိ အမြင့် ၁၇-တောင်၊ ၁-မိုက် ၄-သစ်[၁]။

ခင်မကန်ဆရာတော်ကြီး ပျံလွန် ကောင်းစွာသင်္ဂြိုဟ်

၁၂၂၇-ခုနှစ် ကဆုန်လဆုတ် ၈-ရက်နေ့တွင် "မဏိဇောတာဘိသိရိ သဒ္ဓမ္မဓဇ မဟာဓမ္မ ရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ ခင်မကန်ဆရာတော် ဘုရားကြီး အရှင်မဏိဇောတ ဘဝနတ်ထံ ပျံလွန်တော်မူသည်။ ရုပ်ကလာပ် တော်ကို "မေဓာဘိဝံသ သဒ္ဓမ္မဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ ပြည်ဆရာတော်ကြီး၏ ရုပ်အလောင်းတော်ကို သင်္ဂြိုဟ်သည့် နည်းအတိုင်း လှပ ကောင်းမွန်စွာ လုပ်ဆောင် သင်္ဂြိုဟ်တော်မူသည်။

ရှင်လောင်းတော် ၅၃-ပါး သာသနာတွင်း သွတ်သွင်းချီးမြှင့်

၁၂၂၇-ခုနှစ် ဝါဆိုလဆုတ် ၄-ရက်နေ့တွင် စံနန်းတော်ဦးတွင် ရှင်လောင်း ၅၃-ပါးကို ပရိက္ခရာစုံ လှူဒါန်းရန် အဖွယ်အဆာများနှင့် ဆရာ တော် ၁၂-ပါးတို့ကို ပင့်၍ အရှင် ၂-ပါး လှူဒါန်းတော်မူပြီးလျှင် ရှင် သာမဏေအဖြစ်ဖြင့် ချီးမြှင့်တော်မူသည်။ ပုဏ္ဏား ၂၁၆-ယောက်တို့အား တယောက်လျှင် ဒင်္ဂါး ၅-ပြား ပိတ်ပုဆိုး ပိတ်အင်္ကျီ ခေါင်းပေါင်းများ ပေး လှူတော်မူသည်။ သက်ကြီးသူအို ယောကျ်ား မိန်းမ ၃၀၀-တို့အားလည်း ထမင်းကျွေးမွေးပြီးလျှင် အဝတ်အစား ပေးသနားတော်မူသည်။

ရတနာဘုံစံကျောင်းတော်ကို အရှင်သုဒဿနအား တင်လှူ

၁၂၂၇-ခုနှစ် တန်ဆောင်မုန်းလဆန်း ၅-ရက်နေ့တွင် ရွှေမြို့တော် မြောက်ပြင် မဟာဇောတိကာရာမတိုက် ရတနာဘုံစံ စံကျောင်းတော်ကို ပခန်း ကြီးမြို့ ဆရာတော် "သုဒဿနဝရ မေဓာသာမိ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ အရှင်သုဒဿနအား အရိုသ်ဃာတော် ၅၀-နှင့်တကွ မြတောင်မြို့စား၊ သေနတ်ဝန်ကြီး၊ လောင်းရှည်မြို့စားဝန်ကြီး၊ ရွှေတိုက် အတွင်းဝန်၊ ဘောလင်းမြို့စားတို့ အလှူအတန်းများနှင့် စံကျောင်းတော်သို့ သွား၍ တင်လှူရသည်။

---

၁။ ကုန်းဘောင်ဆက်၊ ၃။ ၃၂၅။

## သာသနာပိုင်ဆရာတော် အရှင်ဥေ့ယျဓမ္မ ပျံလွန်

၁၂၂၇-ခုနှစ် တပို့တွဲလဆန်း ၁၂-ရက်နေ့တွင် သံဃာ့ဦးကိုင် သာသနာပိုင် ဆရာတော်ဘုရားကြီး "ဥေ့ယျဓမ္မာဘိ မုနိဝရ ဉာဏာကိတ္တိသိရိ သဒ္ဓမ္မဓဇ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ အရှင်ဥေ့ယျဓမ္မ ပျံလွန်တော်မူသည်။

## တပေါင်းလဆုတ် ၅ ရက်နေ့ ခမ်းနားစွာ သင်္ဂြိုဟ်

၁၂၂၇-ခုနှစ် တပေါင်းလဆုတ် ၄-ရက်နေ့တွင် ဘုရားရှင်အား လှူဒါန်းရန် ပဒေသာပင် ၁-ပင်၊ ဆရာတော် သံဃာတော် အရှင်မြတ်တို့အား လှူဒါန်းရန် သီးမျိုးစုံ ပဒေသာပင် ၇၁-ပင်၊ မန္တလေးမြို့တော်နှင့် အမရပူရမြို့ရှိ ရဟန်း သာမဏေ ၇၈၉၂-ပါးတို့အား လှူဒါန်းရန် ဆိုးပြီးပိတ် ကေစီ ရေ ၇၈၉၂-ထည်[၁]၊ သင်းပိုင်လျှာပိတ်ထည်ရေ ၇၈၉၂-ထည်၊ ရှံခါးပန်းကြိုးလွင်စုံ ၈၀၀၀၊ ရေစစ် ၃၈၆၀-တို့ကို မိဖုရားခေါင်ကြီးနှင့် အလယ်နန်းတော် မိဖုရားတို့ သာသနာပြု သာသနာပိုင် ဆရာတော်ဘုရားကြီး သီတင်းသုံးတော်မူရာ မဟာဝိသုတာရာမကိုက်တော်သို့ ထွက်၍ ရေစက်သွန်းချ လှူဒါန်းတော်မူသည်။ ၎င်းလဆုတ် ၅-ရက်နေ့တွင် ခံကုန်းလုပ်တိုင်းရောက် တလားကြီး တလားငယ် ပြာသာဒ်များကို စီရင်ခင်းကျင်း ဆောင်ယူသည်။ ၎င်းနောက် သန်လျင်းထီးဖြူအုပ်မိုး၍ ချဆောင်သည်။နန်းမြေဘုံသာ စံနန်းတော် အနောက် တောင်ထောင့်သို့ ရောက်လျှင် ဆောက်လုပ်ထားရှိသည့် စံနန်းတော်သို့ ထွက်၍ အရှင် ၂-ပါး ဖူးမြော်တော်မူသည်။ ခံကုန်းသင်္ချိုင်းသို့လည်း အိမ်ရှေ့မင်း မင်းညီမင်းသား မင်းမိဖုရားတို့ လိုက်ပို့ သင်္ဂြိုဟ်ကြရသည်။

## အိမ်ရှေ့မင်း ကုသိုလ်တော်များ

သီရိပဝရ မဟာဓမ္မရာဇာ အမည်ရှိသော မဟာရာဇာ အိမ်ရှေ့ကနောင် မင်းသားကြီး၏ ကောင်းမှုတော်တို့မှာ အမရပူရမြို့ ဘုံကျော်ကျောင်းတိုက် ကျောင်းကြီးအနီး ဘုံကျော်ဆရာတော် သီတင်းသုံးရန် ဆောက်လုပ်တော်မူသည့် ကျောင်းတော်၊ ရတနာပုံရွှေမြို့တော် နန္ဒာကန်တော် အရှေ့မြောက် ရင်ခတ်တောင်တွင် ဆောက်လုပ်သည့် ကျောင်းတော် ၅-ကျောင်း၊ ၎င်း တောင်တွင် စက်တော်ရာနှင့် အုတ်တန်ဆောင်း ၂-ဆောင်၊ ရွှေမြို့တော် မြောက်မျက်နှာရှိ လောကမှန်ကင်းတိုက်တွင် လောကမှန်ကင်းဆရာတော်

---

၁။ ၂၄၀၀-ဟုလည်း ရှိသည်။

သီတင်းသုံးရန် ဆောက်သည့် ကျောင်းတော်၊ စစ်ကိုင်းမြို့ ဆင်မချောင်တွင် ဆောက်လုပ်သည့် စကြာကျောင်းဆောင်၊ မင်းကွန်း ရွှေမြင်တင်တောင်တွင် ထွတ်ခေါင်ဆရာတော် သီတင်းသုံးရန် ဆောက်လုပ်သည့် တောရကျောင်းတော်။ အောက်မန်းစက်တော်ရာအနီး ဆောက်လုပ်တော်မူသည့် ၁၀-ခန်း အုတ်ဇရပ်ကြီး စသည်တို့ ဖြစ်ကုန်၏[၁]။

## သီဟိုဠ်ကျွန်းမှ ရွှေစေတီ၊ ငွေစေတီ၊ ဓာတ်တော် စသည်တို့ ရောက်ရှိခြင်း

၁၂၂၉-ခုနှစ် ပြာသိုလတွင် သီဟိုဠ်ကျွန်းမှ ရဟန်းတော် အရှင်ပညာဇောတိ၊ တပည့် အရှင်ပညာတိဿ၊ ကပ္ပိယဒါယကာ အပ္ပုဟာမိတို့ ရွှေစေတီတော် ၁-ဆူ၊ ငွေစေတီတော် ၂-ဆူ၊ ရွှေအဆင်းရှိသော ဘုရားရှင်၏ ဓာတ်တော် ၆-ဆူ၊ သီဟိုဠ်ကျွန်း၌ ထင်ရှားသည့် ၁၆-ဌာန တည်ထားသည့် စေတီတော် ပုံစံရေးထားသည့်ကား၊ ၂-မိုက်ခန့်ရှိ ဗောဓိပင် ၄-ပင်တို့ကို ဘဝရှင်မင်းတရားကြီး ကိုးကွယ်တော်မူရန် နေပြည်တော်သို့ ဆောင်ယူ ရောက်ရှိလာကြသည်။

## ပိဋက ၃-ပုံ နိကာယ် ၅-ရပ်ကို ကျောက်ထက်အက္ခရာ တင်တော်မူခြင်း

ဘဝရှင်မင်းတရားကြီးသည် စကျင်တောင်တော်မှဖြစ်သော သလင်းကျောက်ဖြူတော်များကို ချဆောင်ချောမောစေ၍ သက္ကရာဇ် ၁၂၂၂-ခုနှစ် တန်ဆောင်မုန်းလဆန်း ၁-ရက်နေ့ကစ၍ ရွှေနန်းတော်အတွင်း ခမ်းနားကြီးကျယ်စွာ ဆောက်လုပ်အပ်သော တန်ဆောင်းတော်ကြီး၌ တိပိဋကဓရ သီလဝိသုဒ္ဓိ ဒက္ခိဏေယျန္တယ်စဉ် ဓမ္မဓြရ ဓမ္မရုစိ ရှိန်းရှိန်းညီသော တောင်ဆောင်တော်မိဖုရားဆရာ "ဇာဂရာဘိဝံသ တိပိဋကဓရ မဟာဓမ္မရာဇာဓိရာဇဂုရု၊ မြတောင်မြို့စား သေနတ်ဝန်ကြီး ဆရာ "နရိန္ဒာဘိသိရိသဒ္ဓမ္မ ဇောတိပါလဇမဟာဓမ္မရာဇာဓိရာဇဂုရု၊ စီးတော်မြင်းဝန်တိုက်ဆရာတော် သုမင်္ဂလသာမိသိရိပဝရ မဏိဇ မဟာဓမ္မရာဇာဓိရာဇဂုရု" တံဆိပ်တော်ရ ဆရာတော် ၃-ပါးတို့ကို ပုဒ်ပါဠိအက္ခရာ ကျောက်စာအရေးအသား မချွတ်ယွင်းစေရအောင် သန့်ရှင်းပြင်ဆင်ရန်လျှောက်ထားအပ်နှံတော်မူ၍ အတွင်းဝန် ခန်းပတ်မြို့စား မင်းကြီး မဟာသီရိဥဇနာ၊ အတွင်းဝန် ယောမြို့စားမင်းကြီး မဟာမင်းလှစည်သူ၊ ခင်မ

၁။ အပြည့်အစုံ။ ကုန်းဘောင်ဆက် ၃။ ၃၅၆-၇-ကြည့်။

မင်းဝန်မိုင်းကိုင်မြို့စား မဟာသီရိဇေယျသူ၊ သံတော်ဆင့် နေမျိုးဆုဇစည်သူ၊ အမိန့်တော်ရေး မင်းထင်ဇေယျသူ၊ အသုံးစာရေး နေမျိုးသီရိကျော်သူတို့ကို ကြီးမှူးကြပ်မစေပြီးလျှင် မင်းရေးတမော့၊ ကျောက်ပြူဆတ် လက်ဘက် လက်ကောင်းတို့နှင့် ရေးသားထုလုပ်စေရာ—

ဝိနည်း ၅-ကျမ်း ပါဠိတော် ကျောက်ချပ်ရေ ၁၁၁၊
အဘိဓမ္မာ ၇-ကျမ်း ပါဠိတော် ကျောက်ချပ်ရေ ၂၀၈၊
နိကာယ် ၅-ကျမ်း သုတ်ပါဠိတော် ကျောက်ချပ်ရေ ၄၁၀—

များကို သက္ကရာဇ် ၁၂၃၀-ပြည့်နှစ် ကဆုန်လဆန်း ၁၄-ရက်နေ့တွင် ပြီးပြည့်စုံရကား ကုသိုလ်တော် မဟာလောကမာရဇိန်ဘုရား ပဌမမဟာရံအတွင်း တံတိုင်းနားပတ်လည် အုတ်ပြာသာဒ်ဂူတည်လုပ်၍ ကျောက်ချပ်ရေ ၄၂၊ ဒုတိယမဟာရံအတွင်း အုတ်ပြာသာဒ်ဂူဘည်လုပ်၍ ကျောက်ချပ်ရေ ၁၆၈၊ တတိယမဟာရံအတွင်း အုတ်ပြာသာဒ်ဂူဘည်လုပ်၍ ကျောက်ချပ်ရေ ၅၁၉-များကို အုတ်ပြာသာဒ် ၁-ဂူလျှင် ကျောက်ချပ် ၁-ချပ် စိုက်ဆောက်ထွင်းထား ကိုးကွယ်တော်မူသည်။ "ကျောက်ချပ်များ၏ထိပ်တွင် သက္ကရာဇ် ၁၂၀၄-ခု၊ တပေါင်းလဆန်း ၁၁-ရက်၊ ၅-တေးနေ့ မင်းအဖြစ်သို့ ရောက်တော်မူသော မန္တလေးမြို့ ရတနာပုံမြို့တည် နန်းတည် မင်းတရားကြီးဘုရား ကုသိုလ်တော်" ဟုသည်း ပါရှိလေသည်။

## မဟာမြတ်မုနိအာရုံခံပြာသာဒ် ရေစက်ချလှူ

သက္ကရာဇ် ၁၂၃၀-ခု၊ တပို့တွဲလတွင် မြောက်နန်းမတော်မိဖုရားက မဟာမြတ်မုနိ ဂန္ဓကုဋီတိုက် မြောက်ဘက်အာရုံခံပြာသာဒ် စောင်းတန်းလုပ်ဆောက်ပြီးပြေသည်ကို အရှေ့နန်းမတော်မိဖုရား၊ မြောက်နန်းတော်မိဖုရားတို့ မဟာမြတ်မုနိဘုရားအနီး စံနန်းတော်သို့ ထွက်တော်မူ၍ ရေစက်သွန်းချ လှူဒါန်းတော်မူသည်။

## မောင်းထောင်ဆရာတော် အရှင်ပညာသာမိ ပျံလွန်ကောင်းမှုသင်္ဂြိုဟ်

၁၂၃၀-ပြည့် တပို့တွဲလတွင် "ပညာသာမိသီရိကာဝိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ မောင်းထောင်ဆရာတော် အရှင်ပညာသာမိ ဘဝနတ်ထံ ပျံလွန်တော်မူသည်။ ကြွင်းကျန်ရစ်သော ခုတင်ရုပ်ကလာပ်ကို အရှင်နန်းမတော်မိဖုရားခေါင်ကြီးဘုရား တပ်ဝန်းအခင်းအကျင်းနှင့် ကျောင်းတော်သို့

ထွက်တော်မူ၍ "မဏိဇောတာဘိ သီရိသဒ္ဓမ္မဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" တံဆိပ်တော်ရ ခင်မကန်ဆရာတော်၏ မှုပ်က လာပ်သင်္ဂြိုဟ်နည်းအတိုင်း လှပကောင်းမွန်စွာ လုပ်ဆောင်သင်္ဂြိုဟ်တော်မူသည်။

## ရွှေကြက်ယက်စေတီ ပြင်ဆင်ရေစက်ချလှူ

သက္ကရာဇ် ၁၂၃၀-ပြည့်နှစ်၊တပေါင်းလဆန်း၁၁-ရက်နေ့တွင် ရွှေကြက်ယက်ဘုရားအောက်ခြေ ရေကာနှင့်တကွ ပျက်စီးယိုယွင်းသည်ကို မြောက်နန်းတော်မိဖုရားက ကုသိုလ်တော်ပွား ပတ္တမြားစေတီ၊ စိန်စေတီ၊ မြစေတီ၊ ရွှေစေတီ၊ ငွေစေတီ ဥက္ကတ်တော် အဆင်တန်ဆာများပါ ဌာပနာ၍ လုပ်ဆောင်ပြင်ဆင်တော်မူရာ ပြီးပြေသောကြောင့် မြောက်နန်းတော်ဘုရား မီးသဘော်တော်၊ သမွန်တော်၊ ခတ်လှေတော်၊ လှော်လှေများနှင့် ကြက်ယက်တောင်သို့ ထွက်၍ ရေစက်သွန်းချလှူဒါန်းတော်မူသည်။ ဆုတောင်းစာကိုလည်း နာခံတော်တို့က ဖတ်မြဲဖတ်ရသည်။

## တိုက်တော် ၂-တိုက်ရှိ သံဃာတော်များ သင်္ကန်း ဆွမ်း သပိတ် လှူ

၁၂၃၀-ပြည့်နှစ် တပေါင်းလတွင် မန္တလေးမြို့တော် တိုက်တော်ရှိ ရဟန်းသာမဏေ၊ အမရပူရမြို့ တိုက်တော်ရှိ ရဟန်း သာမဏေ ၂-ရပ်ပေါင်း ရဟန်းတော်ပေါင်း ၂၄၃-ပါး၊ သာမဏေပေါင်း ၂၃၉-ပါး၊ စုစုပေါင်း ရဟန်းသာမဏေ ၄၇၂-ပါးတို့ကို မြေနန်းတော်သို့ အရှင် ၂-ပါးထွက်တော်မူ၍ ရဟန်းတပါးလျှင် တိစီဝရိက်သင်္ကန်း ခါးပန်းကွင်းစုံ ပဝါနှင့်ထုပ၍ တထုပ်စီ၊ သာမဏေတပါးလျှင် ကေသီ၊ သင်းပိုင်ဆိုးပြီး ခါးပန်းကွင်းစုံ ပဝါနှင့် ထုပ်၍ တထုပ်စီ ဆွမ်းဟင်းလျာအပြည့်အစုံ သပိတ်နှင့်တကွ လှူဒါန်းတော်မူသည်။

## ပြည်ဆရာတော်ဘုရားကြီး အရှင်မေဓာဘိဝံသ ပျံလွန် ခမ်းနားစွာသင်္ဂြိုဟ်

၁၂၃၀-ပြည့် တပေါင်းလတွင် "မေဓာဘိဝံသ သဒ္ဓမ္မဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု"ဘွဲ့တံဆိပ်တော်ရ ပြည်ဆရာတော်ဘုရားကြီး အရှင်မေဓာဘိဝံသ ဘဝနတ်ထံ ပျံလွန်တော်မူသည်။ ဥတုဇရုပ်ကလာပ်ကို ခမ်းနားစွာ မီးသင်္ဂြိုဟ်ပြီး အရိုးနှင့်တကွ ရွှေဆင်းတု၊ ငွေဆင်းတု၊ ရွှေစေတီ၊ ငွေစေတီ များစွာ ဌာပနာပြီးလျှင် တည်လုပ်သည့် စေတီတော်ကြီး ပြီးပြေသည်ကို မြောက်နန်းတော်မိဖုရား ထွက်တော်မူ၍ သံဃာတော် ၄၆-ပါးတို့အား ပဒေသာပင် ၄၆

ပင် လှူတော်မူ၍ မဏ္ဍလာရာမတိုက်၊ စလင်းတိုက်၊ ရွှေကူတိုက်ရှိ သံဃာတော် ၂၇၅-ပါးတို့အား တိစီဝရိက်သင်္ကန်း ဆွမ်း ဟင်းလျာစုံ သပိတ်နှင့်တကွ လှူတော်မူသည်။ ဆုတောင်းစာကို နာခံတော်ပြောကြီးမှူးက ဖတ်မြဲအတိုင်း ဖတ်ရသည်။

## မုခါရှင္ဌ ပဥ္စမသံဂါယနာတင်ခြင်း

သက္ကရာဇ် ၁၂၃၃-ခုနှစ်၊ တန်ခူးလဆုတ် ၁၁-ရက်၊ နှစ်ဆန်း ၁-ရက်၊ စနေနေ့ ကောင်းမြတ်သော မင်္ဂလာအခါတော်၌ အမြောက်သံကြားစေပြီးမှ ဆဒ္ဒန်ဆင်မင်းသခင် ဘဝရှင်မင်းတရားကြီးဘုရား၊ နန်းမတော် မိဖုရားခေါင်ကြီးနှင့်တကွ မင်းညီ မင်းသား မှူးတော် မတ်တော် အပေါင်းတို့ ခြံရံလျက် ထွက်တော်မူ၍ ရွှေနန်းပြာသာဒ်တော်ဦး မြေနန်းဘော်တွင် ခမ်းနားကြီးကျယ်စွာ စီမံခင်းကျင်းပြီးလျှင် သာသနာပြု သုဓမ္မာဆရာတော်၊ တံဆိပ်တော်ရမရ ဆရာတော် သံဃာတော်တို့ကို လျှောက်ထားတောင်းပန်၍ ပဥ္စမ သံဂါယနာတင် မင်္ဂလာသဘင် ဆင်ယင်တော်မူသည်။

မင်းတရားသည် သာသနာပြု သုဓမ္မာဆရာတော် ရှစ်ပါးအား လျှောက်ထားပြီးလျှင် တိပိဋကဓရ သိက္ခာကာမ သီလဝိသုဒ္ဓိဖြစ်သော တံဆိပ်တော်ရမရ ဆရာတော် သံဃာတော် ၂၄၀၀-တို့ ရွှေနန်းတော် ပြာသာဒ်တော်ကြီး သီဟာသနပလ္လင်တော်ရှေ့တွင် ဝိနည်း ပိဋကတ်တော်ကို အဦးထား၍ ၂၂၃၃-ခု၊ တန်ခူးလဆုတ် ၁၁-ရက်နေ့ကစ၍ ပိဋကတ် ၃ – ပုံကို အစဉ်အားဖြင့် စုပေါင်းသရဇ္ဈာယ်တော်မူကြရာ ၅-လနှင့် ၃-ရက်ပြည့်ရာ သက္ကရာဇ် ၁၂၃၃-ခု၊ တော်သလင်းလဆုတ် ၁၄-ရက်နေ့တွင် ပဥ္စမသံဂါယနာတင် မဟာဓမ္မသဘင် မင်္ဂလာပွဲကြီး ပြီးစီးအောင်မြင်မည်ဖြစ်၍ ထိုနေ့မတိုင်မီ တော်သလင်းလဆုတ် ၁၂-ရက်နေ့တွင် အောက်ပါ အမိန့်တော် ထုတ်ပြန်တော်မူသည် —

### ပဥ္စမသံဂါယနာတင်ပြီး အမိန့်တော်

ဘုန်းတော် အလွန်ကြီးမြတ်တော်မူလှသော ရေမြေ့အရှင် ဆဒ္ဒန်ဆင်မင်းသခင် ဆင်ဖြူများရှင် လက်နက်စကြာသခင် ပဉ္စမ သံဂါယနာတင် အရှင်ဘဝရှင်မင်းတရားကြီးဘုရား အမိန့်တော်ရှိသည်။ ငါ အရှင် ကေရာဇ်မင်းမြတ်သည် ရှေး ပဌမ သံဂါယနာတင် အဇာတသတ်မင်း၊ ဒုတိယ သံဂါယနာတင် ကာဠာသောကမင်း၊ တတိယ သံဂါ ယနာတင် သီရိဓမ္မာသောကမင်း၊ စတုတ္ထ ပေထက်အက္ခရာတင် ဝဋ္ဋ

ဂါမဏိမင်းတို့ကဲ့သို့ ဘုရားရှင် ပညတ်တော်မူသည့်အတိုင်း သာသနာတော်မြတ်ကို အထူးသဖြင့် စည်ပင် ပွင့်လင်းအောင် အားထားစက်၊ ဓမ္မစေက် နှစ်ချက်ဖြင့် ချီးမြှင့်ပြုစုတော်မူ၍ ဗောဓိသမ္ဘာရပုညဝိသေသ လောကုတ္တရိယ ပါရမီကို ဖြည့်ကျင့် ရွက်ဆောင်တော်မူသည်နှင့်အညီ လေးသင်္ချေနှင့် ကမ္ဘာတသိန်း ပါရမီဖြည့်၍ လူသုံးပါးတို့၏ အထွတ်အထိပ်သို့ ရောက်တော်မူသော သဗ္ဗညု မြတ်စွာဘုရားသည် ၄၅-ဝါ ပတ်လုံး လူ နတ် ဗြဟ္မာ ဒ တ္တဝါ အပေါင်းတို့အား တရားအမြိုက် တိုက်ကျွေး ဆုံးမတော်မူသော ဝိနည်း၊ သုတ္တန်၊ အဘိဓမ္မာ တည်းဟူသော ပဋိပတ်သုံးပုံကို အာဂုံနှုတ်တက် ဆောင်ရွက်နိုင်သည့် သုဓမ္မာ ဆရာတော် ရှစ်ပါး အမှူးရှိသော တံဆိပ်တော်ရ- မရ ဆရာတော် သံဃာတော် ၂၄၀၀ - တို့ကို လျှောက်ထား တောပန်ပြီးလျှင် သက္ကရာဇ် ၁၂၃၃-ခု၊ တန်ခူးလဆုတ် ၁၁-ရက်၊ နှစ်ဆန်း ၁-ရက် နေ့ကစ၍ ရွှေနန်းပြာသာဒ်တော်ဦး မြေနန်းတော်တွင် ပဉ္စမသံဂါယနာ တင် မင်္ဂလာသဘင် ဆင်ယင်တော်မူ၍ တော်သလင်း လပြည့်ကျော် ၁၄-ရက်နေ့တွင် ပြီးစီး အောင်မြင်တော်မူမည်ဖြစ်သည်။ ပဉ္စမသံဂါယနာတင် မင်္ဂလာသဘင် ဆင်ယင်တော်မူ၍ ပြီးစီး အောင်မြင်တော်မူသည်ကို တိုင်းနေပြည်သူ ရှင်လူ သတ္တဝါ အပေါင်းတို့ ကောင်းချီးအနုမောဒနာ ခေါ်ရာဖြစ်စေခြင်းငှာ ရွှေပြည်တော် မြို့တွင်း မြို့ပြင်စေ့နှံ့အောင် မောင်းခတ်စေ၍ အမြောက်သံကြားစေ၊ ထီးရုံ၊ နန်းရုံ၊ စော်ဘွားမြို့စား၊ အဝေးမြို့ဝန်၊ စစ်ကဲတို့ကိုလည်း ဝန်တို့က စေ့နှံ့အောင်မှာ နာခံတော် နေမျိုးရာဇကျော်သူ ပြန် အမိန့်တော်။

### ရွှေတိဂုံဘုရား ရွှေသက်န်းကပ်ရန် ရွှေဆိုင်းမျှားနှင့် တင်လှူရန် ထီးတော်ကြီး ရေစက်ချလှူ

ရန်ကုန်မြို့ ရွှေတိဂုံစေတီတော်ကြီးအား တင်လှူရန် ရွှေသားချိန် ၂- သောင်း ၂-ရာ ၂၉-ကျပ် ၄-မူး ရှိ၍ ကျောက်နီကြီး၊ ကျောက်နီလတ်၊ ကျောက်နီသေး၊ မြကြီး၊ မြလတ်၊ မြသေး၊ စိန်ကြီး၊ စိန်လတ်၊ စိန်သေး၊ ကြောင်၊ နီလာ၊ ပုလဲ၊ ဥဿဖယား၊ ဂေါမိတ်၊ သန္တာ လုံးရေပေါင်း ၃- သောင်း ၆-ထောင် ၄-ရာ ၁၁-လုံးတို့ဖြင့် မွမ်းမံအပ်သော ထီးတော်ကြီး စေတီတော်ကြီး ချရားသိမ်မှ ဖိနပ်တော်အထိ မွမ်းမံရန် ရွှေဆိုင်းရေ ၂၇၆၈၄- တို့ကို ၁၂၃၃-ခုနှစ်၊ သီတင်းကျွတ်လဆုတ် ၄-ရက်နေ့တွင် မင်းတရားကြီး ကိုယ်တော်တိုင် ရတနာကရားနှင့် ရေစက်သွန်းချတော်မူ၍ ရတနာအတိပြီးသော ထီးတော်ကို ရန်ကုန်မြို့ ရွှေတိဂုံဘုရားသို့ တင်လှူရန် ဝန်ထောက်

ပုပ္ပားမြို့စား မင်းကြီး မဟာမင်းကျော်မင်းထင်ကို အကြီးအကြပ်ခန့်၍ စေလွှတ်တော်မူသည်။

## စာတော်ပြန်ပွဲသဘင် ကျင်းပခြင်း

၁၂၃၆-ခုနှစ်၊ နယုန်လဆန်း ၇-ရက်နေ့မှ စ၍ ဝါဆိုလဆန်း ၇-ရက်နေ့တိုင်အောင် မန္တလေးတောင်အနီး သုဓမ္မာဇရပ်တော်နှင့် စန္ဒာမုနိဘုရားရင်ပြင်ယံရှိ ဇရပ်တော်များတွင် ဝိယာခွဲ၍ တံဆိပ်တော်ရ ဆရာတော် သံဃာတော်တို့ ကြပ်မလျက် ပဌမကျော် ၁-ပါး၊ ပဌမကြီး ၁၉-ပါး၊ ပဌမလတ်၊ ပဌမငယ် အစရှိသော အတန်းအဆင့်ဆင့်ရှိသည့် ပဌမ စာတော်ပြန်ပွဲ ပဌွင်းလောင်းတော် ရှင်လောင်းတော် ဦးရေ တထောင်တို့ တလတိုင် ပဌမစာတော်ပြန်ဆိုမြဲ ပြန်ဆိုကြရသည်။

ပဌမစာတော်ပြန်ဆိုသူများအနက် ပဌမကျော်ပြန်ဆိုမည့်သူနှင့် ပဌမကြီးပြန်ဆိုမည့်သူများမှာ ပတ္တမြားနားတောင်း၊ ပတ္တမြားလက်ကောက်၊ ပုတီးလက်စွပ်၊ စလွယ်ဆင်ယင်၍ ရွှေထီး ၄—ချက်ဆောင်းမိုးပြီးလျှင် လှူဆွဲရွှေရထားတော်ကို စီးကြရသည်။ ၎င်းပြင် အဆောင်အရွက်စုံကိုင် နောက်လိုက်နောက်ပါလူ ၂—ကျိပ်တို့က ဝတ်ကောင်းဝတ်သန့်နှင့် လိုက်ကြရသည်။

ပဌမလတ်ပြန်ဆိုမည့်သူတို့မှာ မြနားတောင်း၊ မြလက်ကောက်၊ ပုတီး၊ လက်စွပ် စလွယ်ဆင်ယင်၍ ရွှေထီး ၂—ချက်ဆောင် မိုးရသည်။ ရွှေကာ၊ ရွှေကတောင်၊ ရွှေဦးခက်တို့ဖြင့် လှပစွာ ဆင်ယင်သော မြင်းတော်ကို စီးရသည်။

ပဌမငယ်ပြန်ဆိုမည့်သူတို့မှာလည်း ပဌမလတ်ပြန်ဆိုမည့်သူတို့ကဲ့သို့ ဆင်ယင်၍ ရွှေထီးတချက် ဆောင်းမိုးရသည်။ ရွှေကာ၊ ရွှေကတောင်၊ ရွှေဦးခက်တို့ဖြင့် လှပစွာ ဆင်ယင်သောမြင်းတော်ကို စီးရသည်။ အဆောင်အရွက်စုံကိုင် နောက်လိုက် နောက်ပါလူတကျိပ်တို့ကလည်းဝတ်ကောင်းဝတ်သန့်နှင့်လိုက်ကြရသည်။

ပဌမစာတော်ပြန်မည့်သူတို့ကို ရွှေတော်သို့သွင်း၍ ဝတ်ဆင်ရန် ရွှေကျင်ခပ်ခေါင်းပေါင်း၊ လွန်းများပုဆိုး၊ ဖဲပုဆိုး၊ ပိုးပုဆိုး၊ အင်္ကျီ၊ ပဝါများကို တယောက်လျှင် ၅—ထည်ကျစီနှင့် မုန့်ဖိုး ငွေ ၁၀၀ ပ (တရာ)စီ အနည်းဆုံးထားရာ အထက်ကို စာဝါ နိမ့်မြင့်အလျောက် တိုးတက်ချီးမြှင့်သနားတော်မြတ်ခံရသည်။

ပဌမကျော်ပြန်ဆိုသူမှာ မဟာဝိသုတာရာမတိုက်တော်မှ ဗန့်ကျီတိုက်စီရင်စုဘီတင်းကန်ရွာသစ်ရွာလျှင်ဖွားရာဇာတိရှိသော အသက် ၂၁—နှစ်ရှိသူ လူမည်မောင်မြ၊ ရှင်မည် တိသာသန ဖြစ်သည်။

ထိုစဉ်က ရွှေမြို့တော် ၄–ပြင် ၄–ရပ်ရှိ ကျောင်းတိုက်တော်ဟူသမျှမှ ပဋ္ဌမစာတော်ပြန်ပွဲ အသီးသီးသို့ ဝင်ရောက်ပြန်ဆိုကြလေရာ ရွှေထီးရောင် ရွှေရထားရောင်တို့ ထိန်ဝင်းလက်ပြီး ရှုဖွယ်မငြီး ဖြစ်လေသည်။

**သီပေါမင်းသားစသောသားတော်များ**

**သာသနာ့တွင်း သွတ်သွင်း**

သက္ကရာဇ် ၁၂၃၆–ခုနှစ် ဝါဆိုလတွင် ဘဝရှင်မင်းတရားကြီးသည် မြေနန်းတော်တွင် သဘင်ပွဲလမ်း ကြီးကျယ်စွာခံလျက် ထွက်တော်မူပြီးလျှင် သားတော် ခေါ်သန္တိမင်းသား သတိုးမင်းရဲမင်းထင်၊ ဝန်းသိုမင်းသား သကိုးမင်းရဲသီဟသူ၊ သာဂရမင်းသားသတိုးမင်းရဲကျော်ထင်၊ မိုးလှိုင်မင်းသား မဟာဓမ္မရာဇာ၊ သီပေါမင်းသား သုသီရိ မဟာဓမ္မရာဇာတို့ကို သာမဏေရ ပဗ္ဗဇ္ဇာအဖြစ်ဖြင့် သာသနာ့တွင်းသို့ သွတ်သွင်းချီးမြှင့်တော်မူ၍ တံဆိပ်တော်ရ ဆရာတော်သံဃာတော် ၆၃-ပါးတို့အား သီးမျိုးစုံပဒေသာပင် ၆၃-ပင် လှူဒါန်းတော်မူသည်။ သားတော်များကို ''မာလာလင်္ကာရသီရိဓမ္မမဟာဓမ္မရာဇဂုရု''ဘွဲ့တံဆိပ်တော်ရ တောင်တော်ဆရာတော်ထံ အပ်နှံတော်မူ၍ ရွှေနန်းတော်အတွင်း လွှတ်တော်ရှေ့တွင် ကျောင်းတော်ဆောက်လုပ် တင်လှူတော်မူပြီးလျှင်သီတင်းသုံးနေစေ၍ သားတော်များကို စာပေသင်ကြားပြသတော်မူရသည်။

**သီပေါမင်းသား ပဋ္ဌမပြန်စာမေးပွဲ ပဋ္ဌမတန်း ပြန်ဆိုခြင်း**

၁၂၃၇–ခုနှစ်၊ နယုန်လဆန်း ၈-ရက်နေ့ကစ၍ ဝါဆိုလဆန်း ၈–ရက်နေ့တိုင် သားတော် သီပေါမင်းသား သုသီရိမဟာဓမ္မရာဇာသည် ရထား၊ ဆင်၊ မြင်း တပ်ဝင်းအခင်းအကျင်းတို့နှင့် စည်တော်စုံ တီးရွမ်း၍ မှူးတော် မတ်တော် အပေါင်း ခြံရံလျက် သုဓမ္မာဇရပ်တော်သို့ ထွက်တော်မူပြီးလျှင် တိပိဋကစရေ တိပိဋကဆေက၊ ဗျတ္တိဗလ၊ သတ္တိဗလ ဝိသေသလဇ္ဇီပေသလ သိက္ခာကာမ ဖြစ်တော်မူသော တံဆိပ်တော်ရ ဆရာတော် သံဃာတော် စသော ရဟန်းပရိသတ်၊ မင်းပရိသတ် စသော ပရိသတ်အလယ်၌ ရက်ပေါင်း ၃၀–တိုင်တိုင် အောက်စာရင်းပါ စာဝါများကို ကောင်းမွန်စွာ ပြန်ဆိုတော်မူပြီးလျှင် ပိဋကတ္တယ ကောသလ္လ ဉာဏစုံမြောက် ဘက်ကမ်းရောက်တော်မူသော တံဆိပ်တော်ရ ဆရာတော် မထေရ်မြတ်တို့ မေးမြန်းအပ်သော သရုပ်အဓိပ္ပာယ် မေးခွန်းပုစ္ဆာ အမျိုးမျိုးကိုလည်း ဖြေစွမ်းနိုင်သဖြင့် ပရိသတ်အားလုံးတို့ ရင်သပ်ရှုမော အံ့သြကြသည်။ သုဓမ္မာဇရပ်တော်အတွင်း မြတ်စွာဘုရား ရုပ်ပွားတော်ရှိရာသို့ မျက်နှာမူလျက် ရှိသေစွာ ပြန်ဆိုရသည်။ ပြန်ဆိုတော်မူသည့် ကျမ်းစာများမှာ–

သဒ္ဒါကြီးရှစ်စောင်ပါဌ်အနက်၊ ရုပ်၊ သဂြိုဟ်ကိုးပိုင်း၊ ဆန်း၊ အလင်္ကာ၊ အဘိဓာန်ပါဌ်အနက်၊ မာတိကာ၊ ဓာတုကထာ၊ ယမိုက် ၅-ကျမ်း ပါဌ် အနက် အရကောက်တို့ ဖြစ်သည်။

ယင်းသို့ ရက်ပေါင်း ၃၀-တိုင်တိုင် ပဌမ စာဘော်ပြန်ပွဲသဘင် ဆင်ယင်တော်မူပြီးနောက် အသက်အပ်နှံတော်မူရင်း တောင်တော်ဆရာတော်ထံမှာပင် ရှင်သာမဏေအဖြစ်ဖြင့် ပိဋကတ်ကျမ်းဂန်များကို ဆက်လက် သင်ကြားတော်မူသည်။

## သီပေါမင်းသား ပဌမလတ်တန်း ဆက်လက်ပြန်ဆိုခြင်း

တဖန် ဆက်လက်၍ ၁၂၃၈-ခုနှစ်တွင်လည်း နယုန်လဆန်း ၈-ရက်နေ့မှ စ၍ ဝါဆိုလဆန်း ၈-ရက်နေ့အထိ တလတိုင်တိုင် သုဓမ္မာသို့ အခမ်းအနားဖြင့် ထွက်တော်မူ၍ ပဌမလတ်အဖြစ် သဒ္ဒါရှစ်စောင် ပါဌ်အနက်၊ ရုပ်၊ ဆန်း ပါဌ် အနက်၊ အလင်္ကာ ပါဌ် အနက်၊ အဘိဓာန် ပါဌ် အနက်၊ သဂြိုဟ် ကိုးပိုင်း ပါဌ် အနက်၊ မာတိကာ ပါဌ်အနက် အရကောက်၊ ဓာတုကထာအနက် ပါဌ်အရကောက်၊ယမိုက်ဆယ်ကျမ်းပါဌ်အနက် အရကောက်များကိုပြန်ဆိုတော်မူသည်။ ယင်းသို့ ပြန်ဆိုပြီးနောက် တောင်တော် ဆရာတော်ဘုရားထံမှာပင် ရှင်သာမဏေအဖြစ်ဖြင့် ပိဋကတ် ကျမ်းစာများကို ဆက်လက် သင်ကြားတော်မူသည်။

## သီပေါမင်းသား ပဌမကြီးတန်း ဆက်လက်ပြန်ဆိုခြင်း

တဖန် ဆက်လက်၍ ၁၂၃၉-ခုနှစ်၊ နယုန်လဆန်း ၈-ရက်နေ့မှစ၍ ဝါဆိုလဆန်း ၈-ရက်နေ့အထိ တလတိုင်တိုင် ပဌမကြီးအဖြစ် သဒ္ဒါရှစ်စောင် ပါဌ် အနက်၊ ရုပ်၊ ဆန်းပါဌ်အနက်၊ အလင်္ကာပါဌ်အနက်၊ အဘိဓာန် ပါဌ်အနက်၊ သဂြိုဟ်ကိုးပိုင်း ပါဌ်အနက်၊မာတိကာ ပါဌ်အနက် အရကောက်၊ ဓာတုကထာ ပါဌ်အနက် အရကောက်၊ ယမိုက်ဆယ်ကျမ်း ပါဌ်အနက်အရကောက်များနှင့် ပဌာန်းကုသလတိက်ကုန်အောင် ပြန်ဆိုတော်မူသည်။ ၎င်းနောက် လူဝတ်နှင့်ပင် ရွှေနန်းတော်အတွင်း လွှတ်တော်မြောက်ဘက် မင်္ဂလာထိမ်တော်တွင် စံနေတော်မူ၍ ခမည်းတော် ဘဝရှင်မင်းတရားကြီးဘုရား အပါးတော်သို့ ဝင်ထွက်ခစား နေရသည်။

## သိမ်ပေါ်မင်းသား ပဋ္ဌာန်းမပြန်စာမေးပွဲ ပြန်ဆိုသည့်အကြောင်း တေးထပ်

ပရိယတ် ပဋိပတ်၊ ပိဋကတ် သုံးပုံ၊
သိအမှတ် လုံးစုံ၊ ရွှေနှုတ်ငုံ ဆင်ခြင်း။
အာဒိစ္စ ရင်သွေးရည်ကို၊ သိမ်ပေါ်ပြည် စိုးခွင့်ဆက်သွင်း။
မနောမြတ် ရတနာကို၊ သဒ္ဓါတော် မူရင်း။
ဥပရာ ဆောင်နှင်းလို့၊ ရောင်လင်းမြ မျက်ရှင်။
တပ်တော်ကို နတ်ဆော်သသည်သို့၊ ဇာတ်ဆော်က ပေါင်းနေမိသွင်။
မြရထား ခြေတော်တင်သည်၊ ဘယ်ရာဝင် မကြုံဘူးပြီဘု၊
ငုံဖူးစ ကမ္ဘုကာ၊ နန်းပြဒ္ဒသွာ။
မန်းဇေယု သုမ္မာမှာ၊ ဥပရာ စာပွဲဗျလေး[၁]။

## မဟာအတုလဝေယန်ကျောင်းတော်ကြီး ကြည့်ရှု မံဆင်းတုတော်ကြီးနှင့် မဟာဗောဓိရုပ်ပွားတော်ကြီး တင်ထားကိုးကွယ်

၁၂၃၉-ခုနှစ် တန်ဆောင်းမုန်းလဆုတ် ၁၀-ရက်နေ့တွင် အတွင်းဝန် ရွှေပြည်ဝန် ဝက်မစွတ်မြို့စား မင်းကြီးမင်းလှ မဟာစည်သူ မှူးကြီး ကြပ်မလုပ်ဆောင်သော ရွှေမြို့တော် အရှေ့ပြင် မဟာအတုလ ဝိဇိတာရာမတိုက်အတွင်း မဟာအတုလဝေယန် ကျောင်းတော်ကြီး အပြောက်အမွှမ်းနှင့်တကွ ပြီးပြေလျှင် ဆဒ္ဒန်ဆင်မင်းသခင် ဘဝရှင်မင်းတရားကြီးဘုရား ရွှေနန်းတော်က သမ္ပန်တော်တွင် ရွှေစက်တော် တင်တော်မူပြီး တပ်ဝင်းအခင်းအကျင်းနှင့် ရေကြောင်းထွက်တော်မူ၍ ကြည့်ရှုတော်မူသည်။ ထိုကျောင်းတော်ကြီးထက်တွင် ရတီစိန် ၃၂-ရတီရှိသော မဟာစိန်တော်ကလေးကို ဥဏ္ဏာလုံ မွေးရှင်တော်ပြု၍ တင်လှူတော်မူသည်။ မံဆင်းတုတော်ကြီးနှင့် မဟာဗောဓိသားဖြင့် ထုလုပ်အပ်သော ရုပ်ပွားတော်ကြီးများကို တင်ထားကိုးကွယ်တော်မူသည်။

ဖော်ပြပါ မဟာအတုလဝေယန် အတုမရှိ ကျောင်းတော်ကြီး၏ ခမ်းနားကြီးကျယ်ပုံကို အောက်ပါအတိုင်း ဝက်မစွတ်ဝန်ထောက်မင်းက ဖွဲ့ဆိုခဲ့သည်—

---

၁။ မန္တလေးမြို့တည် နန်းတည်စာတမ်း။ ၃၂၉။

## အတုမရှိကျောင်းတော်ကြီးဘွဲ့

မင်းစံရောင်ရှိန်၊ ဝင်းဝင်းထိန်သား၊ မာရဇိန်ထွတ်၊ စေတီမြတ်မှ၊ လျောက်ပတ်သင့်စွာ၊ မြေလက်ယာဝယ်၊ ဝေဟာတိမ်ဦး၊ ထိမူးမူးတည့်၊ မြင့်ဖြူးဆန်းကြယ်၊ လွန်ကြီးကျယ်လျက်၊ ပေါယယ်ရှင်လူ၊ မြင်သသူတို့၊ ဆောက်ဦခမ်းဝါ၊ ဤဝိဟာကား၊ လူသာစင်စစ်၊ ပြုဖန်လစ်၍၊ မဖြစ်ရာပင်၊ နတ်နှင်နှင်လည်း၊ စီရင်လက်တွေ့ မတတ်ချေတည့်၊ မဟေသက်ဖျား၊ မြတ်သိကြားလျှင်၊ ကိုးပါးမျက်ဝှန်၊ ဇေတဝန်ကို၊ ကေန် ဤရပ်၊ နှင်းလာအပ်ဟု၊ ရင်သပ်ဝှဲချီး၊ စံမပြီးလျှင်၊ ရံသီးဆိုင်းဆိုင်း၊ ပရိုင်းသစ်သစ်၊ စုလစ်ကြွားကြွား၊ တံခါးလုလု၊ ဇမ္ဗုရွှေရည်၊ ဝင်းဝင်းကြည်လျက်၊ အကျည့်မြောက်တင်၊ ဇဂ်ပြင်နှင့်၊ ရှုအင်တင့်အပ်၊ ဝန်းကျင်ရပ်တုန်၊ မဝပ်မစွင့်၊ မမြင့်မဝှဲ၊ မျှော်မရဲလျှင်၊ စဲစဲရောင်ရိပ်၊ မှောင်နှိပ်ပယ်ခွါ၊ ခြူးလွှာစိန်ခက်၊ ဝန်းလည်ယှက်ပြီး၊ သားငှက်ပြောထူ၊ မရှုနရာ၊ ဗြဟ္မာဣန္ဒ၊ နေလကြယ်ဂြိုဟ်၊ ထိုထိုပြောက်စုံ၊ မျက်မျိုးပုံသား၊ နိကုံလျှံမောင်း၊ ဤသည့်ကျောင်းကို၊ ပြီးကြောင်းပြန်လျှင်၊ ဖန်စီရင်ပြီး၊ မျို့မင်္လာ၊ ဝှဲချီးသာလျက်၊ “မဟာအတုလဝေယန်”ကမ္ဗည်းကန်သည်။ ။နောင်ဖန်တည်ရှည်ဝေး၊ တည်ကြောင်းရေး[၁]။

## တိုက်တော်မှ ပိဋကတ်တော်များ အတုမရှိကျောင်းတော်သို့ ပင့်တင်ကိုးကွယ်

မဟာဝိသုံတာရာမတိုက်တော်မှ ပိဋကတ်တော်များကို မဟာအတုလဝေယန် အတုမရှိကျောင်းတော်ကြီးသို့ ၁၂၄၀-ခုနှစ်၊ ကဆုန်လတွင် ရေကြောင်းဖြင့် ခမ်းနားစွာ ပင့်တင်ကိုးကွယ်တော်မူသည်။ မင်းတရားသည် ပိဋကတ်တော်များကို ရေကြောင်းပင့်တော်မူရန် ဖောင်တော်၊ သမ္ဗန်တော်၊ လှေတော်မှစ၍ ရေတပ်အခင်းအကျင်း အခမ်းအနားများကို ပိဋကတ်တော်များ မပင့်ဆောင်မီ ကဆုန်လဆန်း ၁၀-ရက်နေ့ ရွှေမြို့တော် အရှေ့မျက်နှာ ကျုံးထိပ်စံနန်းတော်သို့ ထွက်တော်မူ၍ ကြည့်ရှုတော်မူသည်။

---

၁။ ဝက်မစွတ်ဝန်ထောက်မင်းရေး မဟာအတုလဝေယန် အတုမရှိကျောင်းတော်ကြီးဘွဲ့ မင်္ဂလာချေင်း။

## နတ်ရွာစံ ကံတော်ကုန်ခြင်း

ယင်းသို့စသည်ဖြင့် ဖော်ပြခဲ့သည့်အတိုင်း သာသနာရေးရာ၌ အလွန်လျှင် ထက်သန်တော်မူသော ပဋ္ဌမသံဂါယနာတင် ဘဝရှင်မင်းတရားကြီးသည် လေနာ ရောဂါဝေဒနာဖြင့် သက္ကရာဇ် ၁၂၄၀-ခုနှစ်၊ သီတင်းကျွတ်လဆန်း ၆ ရက်၊ အင်္ဂါနေ့၊ နေ့ ၂-ချက်တီးကျော် ၆-မောင်းခန့်အချိန် နတ်ရွာစံ ကံတော်ကုန်ခဲ့လေသည်။

ရွှေအိမ်နန်းနှင့်၊ ကြငှန်းလည်းခံ၊ မတ်ပေါင်းရံ၍၊ ပျော်စံရိပ်ငြိမ်၊
စည်းစိမ်မကွာ၊ ပင်းချမ်းသာကား၊ သမုဒ္ဒရာ၊ ရေမျက်နှာထက်၊
ခဏဘက်သည့်၊ ရေပွက်ပမာ၊ တသက်လျှာတည်း။ (အနန္တသူရိယ)

### မင်းတုန်းမင်းတရား၏ သာသနာရေးကိစ္စများ လုပ်ဆောင်ချက်တို့ကို ပြဆိုရာအခန်း အပြီးသတ်ခြင်း

ဤမျှ ထုတ်ပြအပ်ခဲ့ပြီးသော စကားအစဉ်ဖြင့် ရတနာပုံ မြို့တည် နန်းတည် ပဋ္ဌမသံဂါယနာတင် မင်းတုန်းမင်းတရားကြီး၏ သာသနာရေးလုပ်ဆောင်ချက်တို့ကို ပြဆိုရာ အပိုင်းအခန်းကို ဤတွင် လက်စသတ်လိုက်ပါပြီ။

သုဇနာနံ ပသာဒါယ၊ သံဝေဂတ္ထာယ မေ ကတော။
ရညော သာသနကတ္တော ဟိ၊ သမတ္တော သာဓုဝဏ္ဏိတော။

# အခြေခံ အင်္ဂမပိုင်း

## ပဥ္စမသံဂါယနာတင် မင်းတုန်းမင်းတရားကြီး၏ ကုသိုလ်တော် ကောင်းမှုတော်များကို ချုပ်ပြရာအခန်း

ပဥ္စမသံဂါယနာတင် ဘဝရှင် မင်းတုန်းမင်းတရားကြီးသည် သတ္တဝါများကို ရင်ဝယ်သားပမာ လွန်စွာ သနားကြင်နာတော်မူသည်။ လဆန်း ၅-ရက်နေ့တိုင်း ပြည်သူပြည်သားတို့အား ဂရုဓမ္မတရား ၅-ပါးကို အပြီးကျင့်ဆောင်ကြရမည်ဟု ၁၂-ရာသီ လစဉ်မပြတ် ပြည်တွင်းပြည်ပ အမိန့်တော်ဖတ်ပြန်၍ စည်လည်စေတော်မူခဲ့သည်။ ပြုစုတော်မူခဲ့သော ကောင်းမှုကုသိုလ်တော်တို့မှာလည်း လွန်စွာ များပြားလှကုန်၏။ စင်စစ်တမူကား ဒုတိယ သီရိဓမ္မာသောကမင်းဟု သမုတ်ထိုက်သော မင်းကောရာဇ် ဖြစ်တော်မူသည်။ ဤမန္တလေးသာသနာဝင်ကျမ်းကြီး၌ မင်းတရားကြီး၏ ကုသိုလ်ကောင်းမှုစာရင်းကို မပြခဲ့လျှင် ဟာကွက်တခု ဖြစ်နေရာ၏။ သို့ဖြစ်၍ သမိုင်းရာဇဝင်များမှရှာ၍ ရသမျှ ဤကျမ်း၌ အောက်ပါအတိုင်း မင်းတရားကြီး၏ ကုသိုလ်တော်အချုပ်ကို ထုတ်ပြအပ်ပါသည်—

ဒိန္နာနိ တေန ရာဇေန၊ ဒါနာနိ ဟိ အနေကဓာ။
ဣမမှိ ဝံသဂန္ထမှိ၊ မုခမတ္တံ ဒဿိယတေ။

၁။ ရတနာပုံရွှေမြို့တော်ကြီး ၇-၄ာနအဝင် မဟာလောကမာရဇိန် စေတီတော်ကြီး၊

၂။ မန္တလေးတောင်ထိပ်၌ တန်ဆောင်းပြာသာဒ်ဆောင်နှင့်တကွ ဘုရားမြတ်စွာ ရပ်တော်ပမာဏအတိုင်း စနစ်နှင့်အတူ ထုလုပ်ကိုးကွယ်တော်မူသည့် ဗျာဒိတ်ညွှန်း ရပ်တုတော်ကြီး၊

၃။ ကိန်းဝပ်တော်မူရာ အုဘ်ဂူပြာသာဒ်တော်နှင့်တကွ ဘုရားရှင်၏ လက်ယာတော်ရံ၊လက်ဝဲတော်ရံ ဘေဒင်ရ အသီတိရဟန္တာ ရုပ်ပွားတော်ဆူရေ ၈၀၊

၄။ စကျင်တောင်မှ ကောင်းမွန်ထူးမြတ်သော သလင်းဇာတိကျောက်ကို ထုလုပ်ကိုးကွယ်တော်မူသည့် ထက်ဝယ်တော် အချင်း ၁၂-တောင်ရှိ မဟာသကျမာရဇိန် ရုပ်ပွားတော်၊

၅။ အမရပူရမြို့၊စန္ဒာမုနိဘုရားကို ပင့်ဆောင်တော်မူ၍ မန္တလေးတောင်အနီး နန်းမြေဘုံသာ, စံနန်းတော်ရာတွင် ကိန်းဝပ်ရာ အာရုံခံ အုတ်ပြာသာဒ် မဟာရံတံတိုင်းနှင့်တကွ တည်လုပ်သွင်းထား ကိုးကွယ်တော်မူသည့် စန္ဒာမုနိစေတီတော်၊

၆။ ဗျာဒိတ်ညွှန်း ရုပ်တုတော်ကြီးမှ တောင်ခြေရောက် စောင်းတန်းတော်၊

၇။ ရန်ကင်းတောင်အနီးတွင် တည်လုပ်တော်မူသည့် ကျောက်စေတီတော်၊

၈။ မဇ္ဈိမဒေသ မဟာဗောဓိပင်မှရရှိသော ဗောဓိသားကို ကိုယ်တော်တိုင် ကြပ်မထုလုပ်တော်မူပြီးလျှင် ရွှေနန်းတော် မြောက်ဥယျာဉ်တော်အတွင်း အုတ်ပြာသာဒ် တည်လုပ်သွင်းထား ကိုးကွယ်တော်မူသည့် မဟာဗောဓိရုပ်ပွားတော်၊

၁၉။ ရတနသိင်္ဃမြို့တွင် ဘုရားရှင် ဟောကြားတော်မူသော ပိဋကသုံးပုံကို ရေးသား ပြုစုတော်မူ၍ ပိဋကတ်တိုက်တော် တည်လုပ်သွင်းထားသည့် ကုသိုလ်တော်၊

၂၀။ အမရပူရမြို့တွင် စံနေတော်မူစဉ် ဘုရားရှင် ဟောကြားတော်မူအပ်သော ပိဋကသုံးပုံကို ရွှေရေး၊ မင်ရေး၊ ကညစ်ရေး သုံးရပ်တို့ဖြင့် ရေးသား ပြုစုတော်မူပြီးလျှင် ပိဋကတ်တိုက် တည်လုပ်သွင်းထားတော်မူသည့် ကုသိုလ်တော်၊

၂၁။ ဘုရားရှင် ဟောကြားတော်မူသော ရှစ်သောင်းလေးထောင် အရေအတွက်ရှိသော ဓမ္မက္ခန္ဓာပါဠိတော်များနှင့်တကွ အဋ္ဌကထာ၊ ဋီကာများပါ ရွှေရေး၊ မင်ရေး၊ ကညစ်ရေး ၃-ရပ်ဖြင့် ရေးသား ပြုစုတော်မူသည့် ကုသိုလ်တော်၊

၂၂။ ပိဋကတ်သုံးပုံ ဓမ္မက္ခန္ဓာပါဠိတော်များကို ရတနာကျောက်သလင်း အပြင်၌ ရေးတင်ထုလုပ်တော်မူ၍ မဟာလောကမာရဇိန် စေတီတော် မဟာရံတံတိုင်း ၃-ထပ်အတွင်း အုတ်ဂူပြာသာဒ်ဆူရေ ၇၂၉-အတွင်း သွင်းထားကိုးကွယ်တော်မူအပ်သည့် ကုသိုလ်တော်၊

၂၃။ ရတနာသိင်္ဃမြို့တော် ၄-မျက်နှာတွင် သမုတ်တော်မူသော သိမ်တော် ၄-လုံး၊

၂၄။ ရတနာပုံရွှေမြို့တော်ကြီး ၇-ဌာနအဝင် ပဋ္ဌာန်းဟော ရွှေသိမ်တော်၊

၂၅။ ၇-ဌာနအဝင် မန္တလေးတောင်ခြေ၌ တည်လုပ်တော်မူသည့် ပိဋကတ်တိုက်တော်၊

၂၆။ ၇-ဌာနအဝင် မဟာရံတံတိုင်း ၂-ထပ်နှင့်တကွ မဟာအတုလဝိဇယာရာမတိုက်တော်အတွင်း ဆောက်လုပ်တော်မူသည့် မဟာအတုလဝေယန် ကျောင်းတော်ကြီး၊

၂၇။ ရွှေမြို့တော် အရှေ့မျက်နှာတွင် ကျောင်းရံ ၂၀-ကျော်နှင့်တကွ "ဥဒယျဓမ္မာဘိမုနိဝရ ဉာဏကိတ္တိ သီရိသဒ္ဓမ္မဓဇ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ သာသနာပြု ဆရာတော် သီတင်းသုံးသည့် မဟာဝိသုတာရာမတိုက်တော်အတွင်း ဆောက်လုပ်တော်မူသည့် မဟာတုလွတ်ဘုံစံ ရွှေကျောင်းတော်၊

၂၈။ မတ္တရာမြစ် တူးဖောက်သည့် ရွှေလောင်းမြောင်းဟောင်းရာတွင် ရေလာ ရေသွား မပေါက်ရောက်သည်ကို ထပ်မံတူးဖောက်တော်မူသည့် ရတနာနဒီ မြစ်တော်၊

၂၉။ တောင်ပြုံးကြီး မြို့နယ်အတွင်းတွင် ဆည်ဖို့လုပ်ဆောင်တော်မူသည့် မဟာအဓိကရ ကန်တော်၊

၃၀။ မိတ္ထီလာမြို့ရှိ နတ်မောက်ဆည်၊ မထောင့်တာဆည်၊ လင်းဇင်းဆည်နှင့်တကွ ပျက်ပြားရှိသည့် မိတ္ထီလာကန်တော်ကို အသစ်ထပ်မံ ပြင်ဆင်သည့် ကုသိုလ်တော်များ၊

၃၁။ မြေဒူးမြို့နယ် မြင်းခွာတောင် အောက်ကစ၍ ရတနာသိင်္ဃမြို့ မဟာနန္ဒာကန်တော်ရောက် မူးမြစ်တိမ်ကောက် ကျိုးပေါက် ပျက်စီးယိုယွင်း ရှိသည်များကို အသစ်ထပ်မံ တူးဖောက်လုပ်ဆောင်တော်မူသည့် ကုသိုလ်တော်၊

၃၂။ ရတနာပုံ ရွှေမြို့တော် ၄-ပြင် ၄-ရပ်ရှိ ကျောင်းတိုက်များတွင် ရဟန်းသံဃာတော်တို့ ဥပုသ်ပဝါရဏာ ကံကြီး၊ ကံငယ် ဆောင်ရွက်ရန် စတုရန်း ၇-တာစီမြေကို ဝိသုံဂါမမြေစား သနားတော်မြတ်ခံစေ၍ ကုသိုလ်တော်ပွား ခဏ္ဍသိမ်သမုတ် လှူဒါန်းသည့် များစွာသော သိမ်တော်၊

၃၃။ သီဟိုဠ်ကျွန်းရှိ စွယ်တော်မြတ်နှင့် အနုရာဓမြို့ရှိ ဒုဋ္ဌဂါမဏိမင်းကြီး၏ ကုသိုလ်တော် မဟာစေတီများအား လှူဒါန်း ပူဇော်တော်မူသည့် စိန်မြ ပတ္တမြား စီခြယ်သော ရွှေသားဆီမီးခွက်တော်၊ ရွှေသား ပန်းခိုင်တော်၊

၃၄။ ရွှေမြို့တော် မြောက်ပြင်တွင် ကျောင်းရံ ၂၀-ကျော်နှင့်တကွ မဟာရံတံတိုင်း ၂-ထပ်တို့ဖြင့် ဆန်းကြယ်တင့်တယ်စွာ ဆောက်လုပ်ရာ "စန္ဒိမာဘိသိရီဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ ဆရာတော် အရှင်စန္ဒိမာအား တင်လှူတော်မူသည့် မဟာဇောတိကာရာမတိုက် ရတနာဘုံစံ စံကျောင်းတော်၊

၃၅။ ရှမ်းကလေးကျွန်းတွင် ဆောက်လုပ်၍ ခေါတောဆရာတော် အရှင်နန္ဒအား တင်လှူသည့် ကျောင်းတော်၊

၃၆။ ကုသိုလ်တော် မဟာလောကမာရဇိန်ဘုရား ပတ်လည်တွင် အရှေ့မျက်နှာကိုချန်၍ ကျန် ၃-မျက်နှာ၌ ဆောက်လုပ်တော်မူသည့် အုတ်စရပ်တော် ၃၆-ဆောင်၊

၃၇။ မဟာသကျမာရဇိန် ကျောက်တော်ကြီးဘုရား တောင်မျက်နှာ၊ အနောက်မျက်နှာ၊ စံကျောင်းတော် အရှေ့မျက်နှာ၊ တောင်မျက်နှာများတွင် အုတ်ခုံစိန်တောင် သမန်တလင်းနှင့်တကွ ဆောက်လုပ်တော်မူသည့် လည်ပေါ်ဇရပ်တော်ကြီး ၃၃-ဆောင်၊

၃၈။ ရွှေမြို့တော် မြို့တွင်းမြို့ပြင်များတွင် ရပ်ကွက်နေ ပြည်သူတို့ နေ့စဉ်၊ ညစဉ် ဝတ်တက်ဝတ်ကပ်ပြု၍ ဥပုသ်ဆောက်တည် စောင့်သုံးရန် ဆောက်လုပ်တော်မူသည့် ဓမ္မာရုံဇရပ်တော် ၁၁-ဆောင်၊ ထိုဇရပ်တော်များတွင် ကြည်ညိုဖူးမြော် ပူဇော်ကြရန် ပင့်ဆောင်ကိုးကွယ်တော်မူသည့် ဘုရားရှင် ရုပ်ပွားတော်ဆူရေ ၁၁-ဆူ၊

၃၉။ ရွှေမြို့တော်တံခါး ၁၂-ရပ်တို့၌ ဆောက်လုပ်တော်မူသည့် တရားတင်းကုပ် (ဓမ္မသာလာ ဓမ္မာရုံ) ၁၂-ဆောင်၊

၄၀။ ရွှေမြို့တော် ၄-ပြင်၊ ၄-ရပ်မြေ မြို့ရိုးကြီးတံခါး ၅၇-ရပ်တို့တွင် ရဟန်းရှင်လူတို့ အသွားအလာ များပြားသည့် အရှေ့အရပ်မျက်နှာ ဌာန ၃-ရပ်၊ တောင်မျက်နှာဌာန ၄-ရပ်၊ မြောက်မျက်နှာဌာန ၁-ရပ်တို့၌ ဆောက်လုပ်တော်မူသည့် အုတ်ဇရပ်တော်ကြီး ၈-ဆောင်၊

၄၁။ ထိုမှတပါး ရာဇဂုရုဆရာတော်များ ပဌမစာချ၊ ဒုတိယစာချ၊ တတိယစာချတို့အား လစဉ်လှူဒါန်းသည့် အကပ္ပိယ ဝတ္ထု၊ ဆွမ်းဆန်စသော ကုသိုလ်တော်များ၊

၄၂။ နန်းတော်အနောက်တောင်ထောင့် တောရဘုရား မဟာရံအတွင်း နန်းမတော် မိဖုရားခေါင်ကြီးက တည်ထားသည့် လောကဆီမီး ဘုရား စေတီတော်၊

၄၃။ ရွှေမြို့တော် အရှေ့မျက်နှာ မင်္ဂလာရာမတိုက်အတွင်း ကျောင်းရံ ၂၀-နှင့်တကွ ဆောက်လုပ်တော်မူ၍ မောင်းထောင်ဆရာတော် အရှင်ပညာသာမိအား တင်လှူတော်မူသည့် ဘုံ ၄-ဆင့် စမြင်ခံ ကျောင်းတော်၊

၄၄။ မင်္ဂလာရာမတိုက်တော် သဒ္ဒမ္မဇောတိကာရာမတိုက် အတွင်း တကောင်းဆရာတော်အား တင်လှူတော်မူသည့် ကျောင်းရံ ၂၀-နှင့်တကွဘုံ ၃-ဆင့် စမြင်ခံကျောင်းတော်၊

၄၅။ မဟာဓမ္မိကာရာမ စလင်းတိုက်အတွင်း စလင်းဆရာတော် အရှင် ကလျာဏအား တင်လှူတော်မူသည့် ဘုံ ၃-ဆင့် ကျောင်းတော် ကြီး၊

၄၆။ မဟာဓမ္မိကာရာမ စလင်းတိုက်တောင် မဟာဝိဇိတာရာမတောင် စလင်းတိုက်အတွင်း တောင်စလင်းဆရာတော် အရှင်ကေတုအား တင်လှူတော်မူသည့် မဟာရံမီးတားထောင့် မုခ်ပြာသာဒ်၊ ရွှေချ တံခါးတိုင်၊ တံခါးရွက်စုံ၊ အရံကျောင်း ၂၀-ကျော်နှင့်တကွ ဆောက်လုပ်တော်မူသည့် မဟာအောင်မြေ ဗိမာန်ကျောင်းတော် ကြီး၊

၄၇။ ရွှေမြို့တော်မြောက်ပြင် မကုဋာရာမတိုက်အတွင်း နိသျည်းဆရာ တော်အား တင်လှူသည့် ၃-ထပ် စမြင်ခံ ဘုံ ၄-ဆင့် ကျောင်း တော်ကြီး၊

၄၈။ ဆင်ဖြူမရှင်မိဖုရားကြီးက ရွှေမြို့တော်အရှေ့ပြင် မဟာဝိသုတာရာမ တိုက်အတွင်း ဆောက်လုပ်တော်မူသည့် ၃-ထပ် စမြင်ခံ ကျောင်း တော်ကြီး၊

၄၉။ မန္တလေးတောင် အနောက်စောင်းတန်း အလယ်လက်ယာဘက် တွင် ပလ္လင်ခံ ရုပ်ပွားတော်ကြီးနှင့်တကွ ကိန်းဝပ်တော်မူသည့် မှန်စီ ပြာသာဒ်တော်ကြီး၊

၅၀။ ရတနာပူရအဝမြို့တွင် မယ်တော်မိဖုရားခေါင်ကြီးကောင်းမှု ပျက်စီး ယိုယွင်းသည်ကို ကောင်းမွန်အောင် အသစ်တည်လုပ်တော်မူသည့် မဟာအောင်မြေဘုံစံ ကျောင်းတော်ကြီး၊

၅၁။ အမရပူရမြို့တွင် ခမည်းတော် ရတနာပုရ စတုတ္ထမြို့တည် မင်းတရားကြီး တည်လုပ်တော်မူခဲ့ရင်း ပျက်စီးယိုယွင်းသည့် မဟာဝိဇယရံသီ ပုထိုးတော်ကြီးဘုရားကို ကောင်းမွန်အောင် ပြင်ဆင်၍ တင်လှူတော်မူသည့် ထီးတော်၊

၅၂။ စစ်ကိုင်းမြို့ ဓမ္မိကချောင်တွင် ရတနာထွဋ်ခေါင် ဆရာတော်အား တင်လှူတော်မူသည့် ကျောင်းဦးပြာသာဒ်၊ ဘောဂ၊ စနုများနှင့်တကွ မှန်စီရွှေချကျောင်းတော်၊

၅၃။ စစ်ကိုင်းမြို့၊မင်းကွန်းရွာတွင် ခမည်းတော်မင်းတရားကြီးကောင်းမှု ပျက်စီးယိုယွင်းသည်ကို ပြင်ဆင် လုပ်ဆောင်တော်မူသည့် ရှင်ဖြူဘုရား စေတီတော်၊

၅၄။ သမီးတော် ပုဂံ၊ မိုင်းနောင် ၂-မြို့စား စုဘုရားကြီးက ရွှေမြို့တော် အရှေ့ပြင် ဝိစိတ္တာရာမမာရ်အောင်တိုက်တွင် ကျောင်းဦးပြာသာဒ်၊ ဘောဂ၊ စနုနှင့်တကွ ဆောက်လုပ်၍ ဝိစိတ္တာရာမဆရာတော် အရှင်တိလောကအား တင်လှူသည့် ဘုံ ၅-ဆင့် စမြင်ခံကျောင်းတော်ကြီး၊

၅၅။ မြောက်နန်းမိဖုရားက ရွှေမြို့တော်မြောက်ပြင် မန္တလေးတောင်ခြေ မင်္ဂလာရာမပြည်တိုက်အတွင်း ဆောက်လုပ်၍ "မေဓာဘိဝံသသီရိ သဒ္ဓမ္မဓဇပရမ မဟာဓမ္မရာဇာဓိရာဇဂုရု" တံဆိပ်တော်ရ ပြည်ဆရာတော်အား တင်လှူတော်မူသည့် ကျောင်းရံ ၂၀-နှင့်တကွ ၄-ထပ် စမြင်ခံကျောင်းတော်ကြီး၊ သိမ်ပြာသာဒ်တော်ကြီး၊

၅၆။ သမီးတော် စလင်းမြို့စား စုဘုရား သုသီရိမြတ်စွာ ရာဇာဒေဝီက ဆောက်လုပ်၍ မြောက်စလင်းဆရာတော် တံဆိပ်တော်ရ ငယ်မည် ဦးမော်အား တင်လှူတော်မူသည့် ရွှေမြို့တော် မြောက်ပြင် စံကျောင်းတော်နှင့် စနစ်ပုံစံထပ်ဘူတည်လုပ်တော်မူသည့် ကောင်းမှုတော်၊

၅၇။ အမရပူရ ဒုတိယမြို့တည်နန်းတည်မင်းတရားကြီး မိဖုရားခေါင်ကြီးက ကုသိုလ်တော်ပွား ရွှေမြို့တော်တောင်ပြင် သီရိမဟာမနောရမ္မ

ဉယျာဉ်တော်မြောက်ဘက်တွင် ဆောက်လုပ်တော်မူ၍ "ဝိရိယာရမ္ဘဓဇသာသနပါလ မဟာဓမ္မရာဇာဓိရာဇဂုရု" တံဆိပ်တော်ရ လှဒယ္ဟဆရာတော်အား တင်လှူတော်မူသည့် ပြာသာဒ်၊ ဘောဂ၊ စနုနှင့်တကွ ဘုံ ၅-ဆင့် စမြင်ခံ မဟာတုလွတ်ဘုံကျော်ကျောင်းတော်ကြီး၊

၅၈။ ရွှေမြို့တော် မြောက်ပြင် မန္တလေးတောင် အနောက်ဘက် မဟာခေမိကာရာမသစ်ဆိမ့်ကျောင်းတိုက်အတွင်း ဆောက်လုပ်တော်မူ၍ သစ်ဆိမ့်ဆရာတော် "ပညာသီဟသာသနဓဇမဟာဓမ္မရာဇာဓိရာဇဂုရု" တံဆိပ်တော်ရ ဆရာတော်အား တင်လှူတော်မူသည့် ၄-ထပ် စမြင်ခံအုတ်ကျောင်းတော်ကြီး၊

၅၉။ အနောက်နန်းမတော်မိဖုရားက ရွှေမြို့တော်အရှေ့မျက်နှာ မဟာဝိဇယာရာမ ခင်မကန်ကျောင်းတိုက်အတွင်း ဆောက်လုပ်တော်မူသည့် ၄-ထပ် စမြင်ခံကျောင်းတော်ကြီး၊ ထိုကျောင်းတိုက်အတွင်း သိမ်ပြာသာဒ်တော်ကြီး၊ ဇရပ်တော်ကြီး ၂-ဆောင်နှင့် ရေတွင်း ၂-တွင်း ပြင်ဆင်ဆောက်လုပ်သည့် ကျောင်းရံ ၁၀-ကျောင်း၊

၆၀။ ရွှေမြို့တော် အနောက်ပြင် ခင်မကန်ကျောင်းတိုက်အတွင်း ဆောက်လုပ်တော်မူသည့် ကျောင်း ၃-ကျောင်းနှင့် သိမ်ပြာသာဒ် ၁-ဆောင်၊

၆၁။ ရွှေမြို့တော်မြောက်ပြင် မဟာဇေတဝနာရာမ စံကျောင်းတိုက်အတွင်း ဆောက်လုပ်တော်မူသည့် ကျောင်း ၁-ဆောင်၊

၆၂။ အမရပူရမြို့ ဆင်ကြီးရွှေဂူဘုရားတွင် ဆောက်လုပ်တော်မူသည့် အာရုံခံ အုတ်ပြာသာဒ်တော်၊

၆၃။ စစ်ကိုင်းတောင်ရိုး ရတနာထွတ်ခေါင်တောရ၌ တည်ထားကိုးကွယ်သည့် စေတီတော် ၁-ဆူ၊ ရတနာမောဉ္ဇူဋ္ဌစေတီတော် ၁-ဆူ၊ စောင်းတန်းတော် ၁၊ အာရုံခံပြာသာဒ် ၁-ဆောင်၊ သိမ်အုတ်ပြာသာဒ် ၁-ဆောင်၊ အုတ်ကျောင်းတော် ၁-ကျောင်း၊ ပျဉ်ကျောင်းတော် ၂-ကျောင်း၊ စကြံတော် ၁-ခု၊ ဇရပ်တော် ၂-ဆောင်၊ ရေကန် ၂-ကန်၊ စတုမခုံကန်တော် ၄-ကန်၊

၆၄။ စိန်တုန်းမိဖုရားက ရွှေမြို့တော် အရှေ့ပြင် ဝဇီရာရာမတိုက်အတွင်း ဆောက်လုပ်သည့် ဘုံ ၃-ဆင့် စမြင်ခံ ကျောင်းတော်ကြီး။

၆၅။ လောင်းရှည်မိဖုရားက ရွှေတောင်အရှေ့ပြင် မတ္တရာတိုက်အတွင်း ဆောက်လုပ်သည့် ဘုံ ၃-ဆင့် စမြင်ခံ ကျောင်းတော်ကြီး၊

၆၆။ သက်ပန်း မိဖုရားက ရွှေမြို့တော်အရှေ့ပြင် သက်ပန်းတိုက်အတွင်း ဆောက်လုပ်သည့် ဘုံ ၃-ဆင့် စမြင်ခံ ကျောင်းတော်ကြီး၊

၆၇။ လင်ပန်းမိဖုရားက ရွှေမြို့တော် မြောက်ပြင် မန္တလေးတောင် မြောက်ဘက် ရွှေကျင်တိုက်အတွင်း ဆောက်လုပ်သည့် ၃-ထပ် စမြင်ခံ ကျောင်းတော်ကြီး၊

၆၈။ တောင်ဆောင်တော် မိဖုရားက ရွှေမြို့တော် တောင်ပြင် ဒက္ခိဏာရာမတိုက်အတွင်း ဆောက်လုပ်သည့် ဘုံ ၃-ဆင့် စမြင်ခံ ကျောင်းတော်ကြီး၊

၆၉။ လက်ပံစဉ်မိဖုရားက ရွှေမြို့တော် တောင်ပြင် မဟာမြတ်မုနိဘုရား မြောက်ဘက် မြင်းဝန်မင်းကြီးတိုက်ဟောင်းအတွင်း ဆောက်လုပ်သည့် ဘုံ ၃-ဆင့် စမြင်ခံ ကျောင်းတော်ကြီး၊

၇၀။ ထိုမှတပါး မင်း မိဖုရား သမီးတော်တို့ကို ဆောက်လုပ်လှူဒါန်းစေသည့် ကျောင်းကြီး ကျောင်းငယ်ပေါင်းများစွာ၊

၇၁။ သားတော် ၂၁-ယောက်၊ တူတော် ၂-ယောက်တို့နှင့်တကွ သာမဏေရ ပဗ္ဗဇ္ဇာအဖြစ် ချီးမြှင့်တော်မူသည့် သာမဏေပေါင်း-၁၆၃၆ (တထောင်ခြောက်ရာသုံးဆယ့်ခြောက်)ပါး၊ ရဟန်းတော်ပေါင်း-၅၀၄ (ငါးရာ့လေး)ပါး၊

၇၂။ ၎င်း ပဌမ စာတော်ပြန် ရဟန်းသာမဏေတို့ကို တနှစ်လျှင် ၅၀-ကျော်၊ ၆၀-ကျ နှစ်စဉ်ချီးမြှင့်သည့် ကုသိုလ်တော်၊

၇၃။ ရတနာပုံရွှေမြို့တော် ၄-ပြင် ၄-ရပ်နှင့် အမရပူရပါ ကျောင်းတိုက်ပေါင်း ၂၁၇-တိုက်၊ ကျောင်းပေါင်း ၁၄၄၂-ကျောင်းတို့၌ သီတင်းသုံးတော်မူသည့် တံဆိပ်တော်ရ မရ ဆရာတော် သံဃာတော် ၈၇၁၈-ပါး၊ သာမဏေ ၆၆၄၈-ပါး၊ ၂-ရပ်ပေါင်း ရဟန်း သာမဏေ ၁၅၃၆၆-ပါးတို့အား တလလျှင် ဆွမ်းဆန်တော် ၂၀၄၉၂-တင်းကျ လစဉ် နှစ်စဉ် လှူဒါန်းတော်မူသည့် ကုသိုလ်တော်၊

၇၄။ နိုင်ငံတော်အတွင်း အဝေးမြို့ရွာများရှိ ဂိုဏ်းအုပ် ၁၆၀-ပါး၊ ဂိုဏ်းထောက် ၂၀၄-ပါး၊ ၂-ရပ်ပေါင်း ဂိုဏ်းအုပ်၊ ဂိုဏ်းထောက်

ဆရာတော် ၁၆၄-ပါးတို့အား ရှစ်နှစ်အတွင်း လှူဒါန်းတော်မူသည့် ကျောက်ဖဲယောင်းတိုင် သေတ္တာပေါင်း ၁၀၄၁၂-လုံး၊ ကွမ်းသီးချိန် ၂၅၁၅၀-ပိဿာ၊

၇၅။ သပိဘ် သက်န်း စသော အထူးထူးသော အလှူတော်၊

၇၆။ ဂိုဏ်းအုပ်၊ ဂိုဏ်းထောက်ဆရာတော်၊ ဂိုဏ်းဝင် သံဃာတော်တို့အား တလလျှင် တတင်းကျစီ လစဉ် နှစ်စဉ် လှူဒါန်းတော်မူသည့် အတိုင်းမသိ မခရေတွက်နိုင်သော ဆွမ်းဆန်အလှူတော်၊

၇၇။ စစ်ကိုင်းတောင်တန်း၊ မင်းဝံတောင်တန်းတလျှောက် ပိဋကတ်ချောင်၊ ဓမ္မိကချောင် စသော ချောင်ပေါင်း ခြောက်ဆယ်ကျော်၊ ရွှေကျင်တောရ၊ တိလောကဂုရု၊ ထူပါရုံ၊ တောင်ဖီလာ စသော တောရတိုက်ပေါင်း လေးဆယ်ကျော်များနှင့် ချောက် မြောင်တောင်ရိုးတို့၌ သီတင်းသုံးနေသည့် အရညဝါသီ ပုဂ္ဂိုလ်သူမြတ် ၆၀၀ (ခြောက်ရာ)ကျော်၊ ရဟန်း သာမဏေ သူတော်၊ သီလရှင်ရသေ့တို့အား လစဉ်လှူဒါန်းသည့် ဆန်၊ ဆီ၊ ငါးပိ၊ ငရုတ်၊ ကြက်သွန် စသော မရေမတွက်နိုင်သော ၅-ဒွါနအလှူတော်၊

၇၈။ ပဋ္ဌာန်း သိမ်ဇရပ်တော်တွင် တလလျှင် လေးသီတင်းကျ ပဋ္ဌာန်းတရားတော်များကို ရွတ်ဖတ်သရဇ္ဈာယ်ကြသည့် ဆရာတော် ၈-ပါးတို့ကို တပါးလျှင် တပင်ကျ လစဉ် နှစ်စဉ် လှူဒါန်းတော်မူသည့် သင်္ကန်း သပိတ် ပရိက္ခရာ စသော အသုံးအဆောင်မျိုးစုံ ပဒေသာပင်ပေါင်း ၃၉၆၂-ပင်၊

၇၉။ ရွှေမြို့တော် ၄-ပြင် ၄-ရပ် (အစုမရှိ) ဥပုသ်တော်စောင့် လူပေါင်း ၂၄၀၀-ကျော်တို့အား အဝတ်ပုဆိုး ခေါင်းပေါင်း လစာငွေတော် အစဉ် သနားတော်မူသည့် ကုသိုလ်တော်၊

၈၀။ ရွှေမြို့တော် မြို့တွင်းမြို့ပြင် ဓမ္မာရုံများတွင် ဥပုသ်ဆောက်တည်သူတို့နှင့် အဆုရှိ မှူးတော် မတ်တော် နန်းတော်သား အစုအမှုထမ်းတို့ကို ကလျာဏ၊ အနွှဲခွဲ၍ ဥပုသ်စောင့်သုံးသည့်အခါ ကလျာဏအား တဦးလျှင် ငါးမူး၊ အနွှအား တဦးလျှင် နှစ်မူးတပဲကျ တသီတင်းလျှင် ငွေ ငါးဆောင်ကျော်၊ ခြောက်ထောင်ကုပ် လစဉ် နှစ်စဉ် ပေးစေ လှူဒါန်းတော်မူ သည့် ကုသိုလ်တော်၊

၈၁။ သက်ကြီးရွယ်ရင့် ယောကျ်ား မိန်းမတို့ကို ငွေဒင်္ဂါး အဝတ် ပုဆိုး မပြတ်ပေးကမ်း ချီးမြှင့်တော်မူသည့် ကုသိုလ်တော်၊

၁၂။ သူအို သူနာ ယောကျ်ား မိန်းမတို့ကို ရှိဆောက်လုပ်၍ စရိတ်ငွေ အဝတ်အထည်မှ စ၍ သမားတော် အနှိပ်တော်တို့နှင့်တကွ ပြုစု ကုသတော်မူသည့် ကုသိုလ်တော်၊

၁၃။ ရှစ်ဌာန အုတ်ဇရပ်တော်များသို့ လာရောက်သည့် ရဟန်းရှင်လူ ပြည်သူ ပရိသတ်အပေါင်းတို့ကို လဘက်ရည်၊ အချို၊ ကွမ်း၊ ဆေး၊ လဘက် မှစ၍ တည်းခိုချက်ပြုတ်ရန် ကိရိယာ၊ ဂိလာန ပုဂ္ဂိုလ်တို့ကို ပြုစုရန် သမားတော်၊ အနှိပ်တော်တို့နှင့်တကွ ပြုစု ကျွေးမွေးတော်မူသည့် ကုသိုလ်တော်၊

၁၄။ နိုင်ငံတော်အတွင်း မြို့ရွာဦးရေ ၅၂-ဌာနတို့၌ အင်းအိုင်ဦးရေ ၄၇ ခု၊ ကိုင်းကျွန်းကုန်းဌာန ဦးရေ-၁၉၊ ၂-ရပ်ပေါင်း ဌာနဦးရေ ၁၁၆-ဌာနတို့၌ ခိုမှီးကျက်စား ပျော်ပါးကြကုန်သော ကြည်း သတ္တဝါ၊ ရေသတ္တဝါ အပေါင်းတို့ကို အဖမ်းအဆီး အနှောင်အဖွဲ့ အပစ်အခတ်၊ အသတ်အညှစ် မရှိစေရ၊ အဘယဒါန၊ ဇီဝိတဒါန ဘေးမဲ့ချမ်းသာပေးတော်မူသည့် ကုသိုလ်တော်၊

၁၅။ အသျှင်တော်အခမ်းအနား၊ ဘိသိက်မင်္ဂလာ မဟာဥကင်တော်ဖွင့် အခမ်းအနား၊ ရှင်ပြုနားထွင်းအခမ်းအနားမှစ၍ အခမ်းအနား ကြီးများတွင် ထောင်ပါန်း အကျဉ်းအမြောင်း ခံနေရသည့် ယောကျ်ား မိန်းမ အနှောင်အဖွဲ့၊ အလှောင်အထားခံနေရသည့် ငှက်တိရစ္ဆာန်အပေါင်းတို့ကို မရေမတွက်နိုင်အောင် များစွာဘေးမဲ့ ချမ်းသာပေးတော်မူသည့် ကုသိုလ်တော်၊

၁၆။ သေအံ့ဆဲဆဲ ဘေးရောက်သောအခါ အဖိုးငွေ ပေးချေဝယ်ယူတော် မူ၍ ၇-ရက်တကြိမ်၊ နောက် နေ့စဉ်မပြတ် ဘေးမဲ့ချမ်းသာပေး တော်မူသည့် ကြက်ကောင်ရေ တသန်း ငါးသိန်း တသောင်း နှစ်ထောင်၊ ဆိတ်ကောင်ရေ နှစ်ထောင်၊ ဝက်ကောင်ရေ များ ပြားလှစွာ ဘေးမဲ့ချမ်းသာ ပေးတော်မူသည့် ကုသိုလ်တော်၊

၁၇။ ရွှေမြို့တော် မြို့တွင်းမြို့ပြင်ရှိ ခွေးများစွာတို့ကို ကောင်းစွာချက် ကျိုရှဲ့ တံခါးတော် ၁၂-ရပ်၏ပြင်တွင် ကျွေးမွေးတော်မူသည့် ကုသိုလ်တော်၊

၁၈။ ကံဆိပ်တော်ရ-မရ ဆရာတော် သံဃာတော်တို့ ပျံလွန်တော်မူသည့် အခါ ကောင်းမွန်လှပတင့်တယ်စွာ သင်္ဂြိုဟ်ချီးမြှောက်တော်မူသည့် ကုသိုလ်တော်၊

➡ ၉။ မဇ္ဈိမဒေသ မဟာဗောဓိပင်တော်၌ မဟာရံအုတ်ရိုးတံတိုင်း မီးတားတည်လုပ်ပြီးလျှင် အဖိုးများစွာထိုက်တန်သော စိန်မြပတ္တမြားတို့ဖြင့် စီခြယ်လုပ်ဆောင်သည့် ရွှေတန်ဆောင်း၊ ငွေတန်ဆောင်း၊ ရွှေပန်းခိုင်၊ ငွေပန်းခိုင် စသော အထူးထူးသော အလှူတော်များကို ကျောက်စာထိုးမှတ် တင်လှူတော်မူသည့် ကုသိုလ်တော်၊

၁၀။ ရာမညတိုင်း ရန်ကုန်မြို့ရှိ ဘုရားလေးဆူတို့၏ ဓမ္မတော်စာတ်မြတ်ကိန်းဝပ်ရာ ဆံတော်ရှင်ဘုရားကို တင်လှူရန် အရပ် ၂၂-တောင်တမိုက်ရှိသော ရွှေစေတီအတွက် လုပ်ဆောင်တော်မူ၍ ရွှေပုဏ္ဏန်ခံ့ခတ်လုပ်ပြီးလျှင် ရွှေဆည်းလည်း၊ ငွေဆည်းလည်းတို့နှင့်တကွ အဖိုးအနဂ္ဃထိုက်တန်သော စိန်၊ မြ၊ ပတ္တမြား စသော နဝရတ် ၉-ပါးတို့ဖြင့် ခြယ်လှယ်မွမ်းမံ၍ တင်လှူတော်မူသည့် ကုသိုလ်တော်၊

၁၁။ မဟာမြတ်မုနိဘုရားကြီးတွင် ငွေသားသပိတ်တော် စသော ငွေထည်ပရိဘောဂ အသုံးအဆောင်များကို တင်လှူတော်မူသည့် ကုသိုလ်တော်၊

၁၂။ အိန္ဒိယနိုင်ငံ မဇ္ဈိမဒေသ၌ ဘုရားရှင်ပွင့်တော်မူရာ မဟာဗောဓိပင် အနောက်မြောက်ဘက် မဟာရံပြင်တွင် ဆောက်လုပ်တော်မူသည့် ခြောက်ခန်း အုတ်ဇရပ်တော်ကြီး၊

၁၃။ မာရ်ငါးပါးကို အောင်မြင်တော်မူရာဖြစ်သော အပ္ပရာဇိတပလ္လင်တော်မြေကို ဌပနာသွင်း၍ရဟန်းရှင်လူ ပြည်သူအပေါင်းတို့ ကိုးကွယ်စေရန် အသီးအသီး ပေးဝေတော်မူသည့် စေတီဆူရေ ရှစ်သောင်းလေးထောင်၊

၁၄။ တရုတ်နိုင်ငံ မက္ကာမြို့ရှိ ပသီလူမျိုးဘို့ ကိုးကွယ်သည့် ပသီကျောင်းကြီးအနီး စတုဒိသာ တည်းခိုရန် ဆောက်လုပ်တော်မူသည့် အုတ်ဇရပ်တော်ကြီး၊

၁၅။ ရတနာသိင်္ခမြို့တွင် စံတော်မူသော အလောင်းမင်းတရားကြီး စံတော်မူသည့် မြေနန်းပြာသာဒ်တော် တိုင်သစ်များကို ဘုရားရုပ်တုဆူရေ ၁၀၅၊ ရဟန္တာရုပ်တု ဆူရေ ၉၀၊ ၂-ရုပ်ပေါင်း ဆူရေ ၂၀၃-ထုလုပ်တော်မူပြီးလျှင် လောကမာရဇိန် ကမ္ဘည်းတပ်တော်

---

➡ အမှတ်စဉ် ၉-မှ-၁၈ အထိ ကုသိုလ်တော်စာရင်းများကို စာမျက်နှာ ၁၂၀-ရှိ အမှတ်စဉ် ၈-နှင့် တဆက်တည်း ကြည့်ရှုရန်။

မူရာ ရတနာသိင်္ဃမြို့ စီရင်စု ၄၆-ခေါင်း မြင်းမြေကျေးရွာများတွင် ပင့်ဆောင် ကိုးကွယ်စေသည်။

၁၆။ ရတနာသိင်္ဃမြို့ရှိ ပျက်စီးယိုယွင်းသည့် စေတီတော် ၇၅-ဆူ၊ ဂူ-၅၊ ပြာသာဒ်-၄၊ အုတ်ဇရပ် ၁၀-များကို ပြင်ဆင်တော်မူ၍ ၎င်းမြို့ရှိ ရွှေတန်ဆာဘုရား၊ အင်ကြင်းတောဘုရား ၂-ဆူကို ရွှေလုံးတော် ပြည့် မွမ်းမံတင်လှူတော်မူသည်။

၁၇။ သုနာပရန္တတိုင်းအဝင် စကုမြို့နယ်အတွင်းရှိ မန်းစက်တော်ရ ၂-ဆူ အနက် အောက်စက်တော်ရာတန်ဆောင်းကို အသစ်ထပ်မံလုပ်ဆောင် ၍ ရွှေဆိုင်းရေ ၇၀၀၀-ကျော် မွမ်းမံကပ်လှူတော်မူသည်။ ငွေ ပုဏ္ဏ ဆီထီးဖြူတော်ကြီး ၂-လက်ကိုလည်း လှူတော်မူသည်။

၁၈။ ရွှေမြို့တော်တောင်ပြင် မဟာနွယ်စဉ်ရပ်တွင် သီဟိုဠ်ကျွန်းမှ ပင့် ဆောင်ခဲ့သည့် ဗောဓိပင်တော်များကို စိုက်ပျိုးပြုစုတော်မူပြီးလျှင် မဟာရံမီးတားနှင့်တကွ တည်ထားဆောက်လုပ်တော်မူသည့် အုတ် ဇရပ်တော်ကြီး ရှစ်ဆောင်၊

၁၉။ ထိုမှတပါး မင်းတရားသည် ရှေးမင်းတို့တည်ထားပြုစုခဲ့ရင်း ဆင်း တုတော် စေတီဘုရားပုထိုးတို့ ပျက်စီးယိုယွင်း ရှိသည်များကိုလည်း မရေမတွက်နိုင်အောင် ပြင်ဆင်တည်လုပ်တော်မူ၍ ရွှေထီးအထွတ် တင်လှူတော်မူသည့် အရာမှစ၍ ဆည်၊ မြောင်း၊ ကန်၊ ချောင်း၊ အသစ်တူးလုပ်တော်မူသည့်အရာ၊ ရေတွင်း ရေကန် ပျက်ပြား ယိုယွင်းသည်ကို ကောင်းမွန်ခိုင်ခံ့အောင် လုပ်ဆောင်တော်မူသည်။ တံတားနင်းကြမ်းစသော ထာဝရကုသိုလ်တော်များကို ဆည်းပူး ပြုစုတော်မူသည့် အရာစသည်တို့ကိုလည်း အတိုင်းမသိ မရေမတွက် နိုင်အောင် များပြားလှစွာ အားထုတ်ပြုစုလုပ်ဆောင်တော်မူခဲ့လေ သည်။ သိဝစ္ဆရာအလှူတော်စာရင်း အစုစုငွေပေါင်းမှာ ၂၂-ကုဋေ ၆-သန်း ပမာဏရှိသောဟူ၏။

### သံဃာတော်များအပေါ် အပြစ်မမြင် ကြည်ညိုစိတ် အမြဲဝင်

ပဥ္စမသံဂါယနာတင် မင်းတရားကြီးသည် ရဟန်းသံဃာများအပေါ် အလွန် လျှင် ကြည်ညိုတော်မူသည်။ အခြားသိက္ခာပုဒ်တွေ ကျင့်ကြံတာ ထားလိုက်ဦး၊ ပရိယတ် ပဋိပတ် အားထုတ်တာ ထားလိုက်ဦး၊ မိန်းမမယူပဲ နေနိုင်တာကိုပင် ကြည်ညိုလှပြီဟု နှုတ်က မြွက်ဖော်၍ ချီးမွမ်းတော်မူသတတ်။

ကြားဘူးပါသည်။ ရံခါ မြို့လုံးကျွတ်သံဃာတော်များကို ဆွမ်းလောင်းလှူရာ အခါတွင် အချို့ကိုယ်တော်တွေက ကြားကဝင်၍ ဆွမ်းခံတတ်သဖြင့် ဘေးကမဝင်နိုင်အောင် ယာဝဲဆင်များ တန်းစီဝိုင်းညှပ်၍ ဆွမ်းလောင်းစေရာ ရဟန်းဘော်တပါးက ကြေးသပိတ်ဖုံးနှင့် သပိတ်ကို ခေါက်လိုက်ရာ ဆင်များ အတန်းမှ ဆုတ်ခွာကာ မိမိတို့ဆင်တင်းကုပ်များသို့ ပြေးဝင်ကုန်သတတ်။ ထိုအခြင်းအရာကို မြင်ရသော မင်းတရားမှာ ဒေါသဖြစ်ရန် မဆိုထားဘိ အပြုံးတောင် ပျက်တော်မမူဟု ဆို၏။

စေဥ္ဇိ မင်းတုန်းရာဇာ သော၊ ရတနေ ပသန္နော သုခီ။
ဒါနသီလာဘိရတော ဒါနေ ရတော၊ ဗုဒ္ဓကိုရော ဝ သော ဘဝိ။

မင်းတုန်းမင်းကြီး၏ ကောင်းမှုတော်ပြဆိုရာအခန်း
အပြီးသတ်ခြင်း

ဤသည်လျှင် ပဥ္စမသံဂါယနာတင် ရတနာပုံမြို့တည်နန်းတည် မင်းတုန်းမင်းတရားကြီး၏ ကောင်းမှုတော်အကျဉ်းချုပ် အမြွက်ထုတ်ပြချက်တည်း။

သုဇနာနံ ပသာဒါယ၊ သံဝေဂတ္ထာယ မေ ကတော။
ရညော ပုညပကာသန-သုကဏ္ဍော သမတ္တော ဟိ ခေါ။

# အခြေခံ နဝမပိုင်း

## ရတနာပုံ ဒုတိယနန်းစံ သီပေါမင်းတရားကြီး၏ သာသနာရေး ဆောင်ရွက်ချက်တို့ကို ပြဆိုရာအခန်း

ပဉ္စမသံဂါယနာတင် ဘဝရှင်မင်းတရားကြီး နတ်ရွာစံတော်မူသဖြင့် မာရ်အောင်ရတနာစေတီတော်ဒါယကာ သားတော်သီပေါမင်းတရားသည် ၁၂၄ဝ ပြည့်နှစ်မှစ၍ "သီရိပဝရဝိဇယာနန္တယသ တိလောကာဓိပတိပဏ္ဍိတ မဟာဓမ္မရာဇာဓိရာဇာ"ဘွဲ့နာမံခံတော်မူလျက် မင်းအဖြစ်သို့ ရောက်တော်မူသည်။

ဖော်ပြပါ သီပေါမင်းတရားသည်လည်း ဖခင်ပဉ္စမသံဂါယနာတင် မင်းတုန်းမင်းတရားကဲ့သို့ပင် ဘုရားရှင်သာသနာတော်ကို ယုံကြည်လေးမြတ်စွာ ပြုစုစောင့်ရှောက် ထောက်ပံ့ဆောင်ရွက်တော်မူခဲ့ရာ ဤမန္တလေးသာသနာဝင်ကျမ်း ပဌမတွဲ၌ တပိုင်းတကဏ္ဍ ဖွင့်လှစ်၍ ဖော်ပြအပ်သည်။

### သာသနာတော်တိုးတက်ရန် ဆောင်ရွက်ရန် လျှောက်ထားခြင်း

ရတနာပုံ ဒုတိယနန်းစံ သီပေါမင်းတရားသည် သက္ကရာဇ် ၁၂၄ဝ-ပြည့်နှစ်၊ သီတင်းကျွတ်လပြည့်နေ့တွင်—

၁။ ပရက္ကမဆရာတော်၊

၂။ စံကျောင်းဆရာတော်၊

၃။ မင်္ဂလာရာမဆရာတော်၊

၄။ တောင်တော်ဆရာတော်၊

၅။ လှုထွေဆရာတော်၊

၆။ ဝိစိတ္တာရာမဆရာတော်—



ရတနာပုံ ဒုတိယ နန်းစံ သီပေါမင်းတရားကြီး

တို့ကို ရွှေနန်းတော်သို့ ပင့်လျှောက်၍ သာသနာရေးကိစ္စများ တိုးတက်ကောင်းမွန်အောင် ဘုရားမြတ်စွာသာသနာ စည်ပင်ရန် ဆောင်ရွက်တော်မူပါရန်နှင့် ဘုရားတပည့်တော်အားလည်း သာသနာရေးကိစ္စများ မည်သို့မည်ပုံ ဆောင်ရွက်ရမည်ကို ညွှန်ကြားပြသ ဩဝါဒပေးတော်မူကြပါရန် လျှောက်ထားတော်မူသည်။ ယင်းသည့် ၁၂၄၀-ပြည့်နှစ်၊ သီတင်းကျွတ်လပြည့်နေ့တွင် သီပေါမင်းတရားသည် အင်္ဂါရှစ်ပါးနှင့်ပြည့်စုံသော အဋ္ဌင်္ဂသီလကို ခံယူစောင့်သုံးတော်မူသည်။

## ပိဋကတ်တော်များ ရေးသားပူဇော်ခြင်း

၁၂၄၀-ပြည့်နှစ်၊ သီတင်းကျွတ်လဆုတ် ၆-ရက်နေ့တွင် သာသနာတော် ၃-ရပ်၏ အရင်းမူလဖြစ်သော ပရိယတ္တိသာသနာတော် အထူးသဖြင့် ပြန့်ပွားစည်ပင်ရန် ပိဋကတ်တော်များကို ရွှေစာ၊ မင်စာ၊ ကညစ်ရေးစာများကို ကူးယူရေးသားပူဇော်တော်မူသည်။

## သာသနာ့ဒါယကာအဖြစ်ခံယူ ဆရာတော်များက ဩဝါဒပေး

၁၂၄၀-ပြည့်နှစ်၊ သီတင်းကျွတ်လဆုတ် ၁၃-ရက်နေ့တွင်—

၁။ ပရက္ကမဆရာတော်၊
၂။ တောင်တော်ဆရာတော်၊
၃။ ပခန်းဆရာတော်၊
၄။ ဆရာတော် ဦးစန္ဒာလင်္ကာရ၊
၅။ ဆရာတော် ဦးလက္ခဏ၊
၆။ ငါးစီးတိုက် ဦးအာစာရရမ္မ၊
၇။ ဆရာတော် ဦးဉာဏိန္ဒ၊
၈။ ရမည်းသင်းဆရာတော်၊
၉။ မြတောင်ဆရာတော်၊
၁၀။ တကောင်းဆရာတော်၊
၁၁။ မင်္ဂလာရာမဆရာတော်၊
၁၂။ ငါးကျွမ်းဆရာဘော်၊
၁၃။ ဆူးခါးဆရာတော်၊
၁၄။ မြောက်စလင်းတိုက်ဆရာတော်၊
၁၅။ ရွှေကျင်တိုက်အုပ်ဆရာတော်၊

၁၆။ ဆရာတော် ဦးဉာဏဝံသ၊
၁၇။ ဆရာတော် ဦးပဏ္ဍိတ၊
၁၈။ မင်းခင်းဆရာတော်—

တို့ကို နန်းတော်သို့ ပင့်၍ ထွက်တော်မူပြီးလျှင် နံနက်ဆွမ်း၊ အချိုပွဲတော်၊ ကွမ်း၊ ဆေး၊ လဘက်တော်စုံ ဆက်ကပ်လှူဒါန်းတော်မူပြီးနောက် ဆရာများ တိစီဝရိက်သက်န်းတစုံစီ လှူဒါန်းတော်မူ၍ ပစ္စည်းလေးပါးဒါယကာ အဖြစ် ဖိတ်ကြားလျှောက်ထားတော်မူသည်။

ရင်းနောက် ဆရာတော်များက—

ရေခမြွရှင် ဒကာတော်မင်းမြတ်၊ ဒကာတော်မင်းမြတ်မှာ ရှေးဘုရား ပစ္စေကဗုဒ္ဓါ အရိယာသူတော်ကောင်းတို့ထံ ပန်ယူတော်မူခဲ့ဘူးသော ပုညသမ္ဘာရ မဟာကုသိုလ်တော်ကြောင့် အလွန်တရာ ခဲခက်လှစွာသော ခမည်းတော်မင်းတရားအရိုက်အရာ ရွှေနန်းစည်းစိမ်တော်ကို တစုံတရာ အညစ်အကြေး ဘေးရန်မရှိ လွယ်ကူစွာ အောင်မြင်တော်မူ၍ စံတော်မူရသည့်အရာ ဖြစ်သည်။

သို့ဖြစ်၍ လောကီ လောကုတ္တရာ အကျိုးတရားနှစ်ပါး ပွားများစေရန် ဘုရားရှင် ဟောကြားတော်မူအပ်သော ရှေးမင်းကောင်း မင်းမြတ်တို့ ကျင့်ရိုးလမ်းကို မှီသဖြင့် ရာဇဓမ္မ၊ အပရိဟာနိယ၊ သင်္ဂဟစသော ကိုင်းပြည်မြို့ရွာ သာယာစည်ပင်ခြင်း၏ အကြောင်းရင်းဖြစ်သော မင်းတို့ကျင့်ဝတ်တရားများကို မပြတ်ဖြည့်ကျင့်တော်မူပြီးလျှင် သာသနာတော်မြတ်အကျိုး တိုင်းနေပြည်သူ ၊ သတ္တဝါအပေါင်းတို့ အကျိုး ပွားစီးရာ ပွားစီးကြောင်းများကို မပြတ်အားထုတ် ရွက်ဆောင်ရန် အခွင့်များကို သတိပညာတော်ရှိရင်းအတိုင်း မပြတ်နှလုံးထားတော်မူသင့်သည်—

ဟု မိန့်မြွက်တော်မူကြသည်။

ထိုအခါ ဘဝရှင် သီပေါမင်းတရားကြီးကလည်း—

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ ဘုရားတပည့်တော်သည် မင်းအဖြစ်ကို ယူတော်မူစဉ်ကပင် ကိုယ်၏ချမ်းသာရာ ချမ်းသာကြောင်းကို မြော်ခေါ်ထောက်ရှု၍ ယူတော်မူသည်မဟုတ်ပါ၊ ဘုရားဇိနေ်သာသနာတော် အတိုင်းထက်အလွန် စည်ပင်ပွင့်လင်းစေခြင်း၊ တိုင်းနေပြည်သူ ရှင်လူသတ္တဝါအပေါင်းတို့ ဘေးအန္တရာယ်

ကင်းငြိမ်းသဖြင့် ချမ်းသာစီးပွား များစေခြင်းအကျိုးကို ရည်ရွယ်၍ မင်းအဖြစ်ကို ယူတော်မူခြင်းဖြစ်ပါသည်။

ယင်းသို့ သာသနာတော်မြတ်အကျိုး၊ တိုင်းပြည်အကျိုးများကို မြဲမြံစွာ ဖြည့်ကျင့်ရွက်ဆောင်မည်ဟု မပြတ်နှလုံးသွင်းရင်းတွင် ဆရာတော်များက ကျမ်းဂန် ဇာတ်နိပါတ်အထွက်ရှိများနှင့် ထပ်မံ အဆုံးအမ ဩဝါဒပေးပြန်တော်မူသည်မှာ အလွန်ပင် ကျေးဇူးကြီးလှပါသည်—

ဟု ချောင်သာယာစွာ မြွက်ဆိုလျှောက်ထား၍ အဆုံးအမကို ခံတော်မူလေသည်။

သာသနံဒါယကတ္တံ ဟိ၊ သီပေါရာဇာ ပဝေဒယိ။
ဩဝါဒမ္ပိ စ အဒံသု၊ ထေရာ ထိရဂုဏာ ရတာ။

### ပဋ္ဌာန်းပဒေသာ အလှူတော်များ လှူဒါန်း

၁၂၄၀-ပြည့်နှစ်၊ သီတင်းကျွတ်လဆုတ် ၁၄-ရက်နေ့တွင် လစဉ်လှူဒါန်းမြဲဖြစ်သော ပဋ္ဌာန်းပဒေသာ အလှူတော်များကို မြောက်စမုတ် ရေစက်သွန်းပြာသာဒ်တော်သို့ ဘဝရှင် သီပေါမင်းတရားကြီး ထွက်စံတော်မူ၍ ကိုယ်တော်တိုင် ရေစက်သွန်းချ လှူဒါန်းတော်မူသည်။

### ရှစ်ပါးသီလ စောင့်သုံး

၁၂၄၀-ပြည့်နှစ်၊ သီတင်းကျွတ်လဆုတ် ၁၄-ရက်နေ့မှစ၍ တလပတ်လုံး ရှစ်ပါးသီလ စောင့်သုံးမည်ဟု မိန့်တော်မူရာ လေနာရောဂါ စိုးရိမ်ရသဖြင့် တလလျှင် ရှစ်သီတင်းကျ လေးလနှင့် ရက်ပေါင်း ၃၀-ပြည့် စောင့်သုံးတော်မူပါရန် ဝန်ကြီး၊ အတွင်းဝန်၊ မှူးတော်၊ မတ်တော်တို့ လျှောက်ထားသဖြင့် ယင်းသည့်လကစ၍ တလလျှင် ရှစ်သီတင်းကျ စောင့်သုံးတော်မူသည်။

### ပရိတ်တော် ဂုဏ်တော်များ ရွတ်မွမ်းစေတော်မူခြင်း

၁၂၄၀-ပြည့်နှစ်၊ တန်ဆောင်မုန်းလဆန်း ၁-ရက်နေ့တွင် စံတော်မူသည့် တောင်နန်းတော်ဆောင် လက်ဝဲ လက်ယာဆောင်များ၌ တံဆိပ်တော်ရ ဆရာတော် သံဃာတော် ရှစ်ပါးစီပင့်၍ ပရိတ်တော် ဂုဏ်တော်များတို့ ရွတ်မွမ်းစေတော်မူသည်။

## ပစ္စည်းလေးပါးဒါယကာအဖြစ် ဖိတ်မန်ခြင်း

၁၂၄၀-ပြည့်နှစ်၊ တန်ဆောင်မုန်းလဆန်း ၁၅-ရက်နေ့တွင်—

၁။ မင်္ဂလာရာမ ဆရာတော်၊
၂။ တောင်တော် ဆရာတော်၊
၃။ သဒ္ဓမ္မဇောတိကာရာမ ဆရာတော်၊
၄။ မစိုးရိမ်တိုက် ဆရာတော်၊
၅။ ဝေဠုဝန် ဆရာတော်၊
၆။ ဝိစိတ္တာရာမ ဆရာတော်၊
၇။ သောဘိတာရာမ ဆရာတော်၊
၈။ ဆီးပန်းနီ ဆရာတော်၊
၉။ အဝဝန်တိုက် ဆရာတော်၊
၁၀။ ကောင်းတုံတိုက်နာယက ဆရာတော်၊
၁၁။ ကောင်းတုံတိုက်အုပ် ဆရာတော်၊
၁၂။ စံကျောင်း ဆရာတော်၊
၁၃။ မကုဋာရာမ ဆရာတော်၊
၁၄။ ကုသိနာရုံ ဆရာတော်၊
၁၅။ အင်းနားထီးလင်း ဆရာတော်၊
၁၆။ ညောင်ကန် ဆရာတော်၊
၁၇။ ဘုံကျော် ဆရာတော်၊
၁၈။ အောင်မြေရွှေဘုံ ဆရာတော်၊
၁၉။ ကျီဝန်တိုက် ဆရာတော်—

တို့ကို မှန်နန်းတော်သို့ပင့်၍ နံနက်ဆွမ်း အချိုပွဲတော်၊ ကွမ်းဆေးလဘက် အစုံ ကပ်လှူတော်မူပြီးလျှင် တိစီဝရိတ် သင်္ကန်းဘစုံစီ လှူတော်မူ၍ ပစ္စည်းလေးပါး ဒါယကာအဖြစ် ဖိတ်မန်လျှောက်ထားတော်မူသည်။

## ပဋ္ဌာန်းပဒေသာတော် အလှူများ လှူဒါန်းခြင်း

လစဉ် လှူဒါန်းမြဲဖြစ်သည့် ပဋ္ဌာန်းပဒေသာ အလှူတော်များကိုလည်း မြောက်စမုတ် ရေစက်သွန်း ပြာသာဒ်တော်သို့ ထွက်စံတော်မူ၍ ရေစက်သွန်းချ လှူဒါန်းတော်မူသည်။

## ဆရာတော် ၁၂-ပါး သာသနာပြုသုဓမ္မာဝင် ခန့်အပ်ခြင်း

၁၂၄၀-ပြည့်နှစ်၊ တန်ဆောင်မုန်းလဆုတ် ၆-ရက်နေ့တွင် သီပေါမင်းတရားသည် ပရိယတ္တိ၊ ပဋိပတ္တိ ဝိသာရဒ ဖြစ်တော်မူသော တံဆိပ်တော်ရဆရာတော် ၁၂-ပါးကို အောက်ပါအတိုင်း သာသနာပြု သုဓမ္မာဝင်အဖြစ် ခန့်အပ်တော်မူသည်—

ငါအရှင် ကောင်းဆောင်ခံမင်းမြတ်သည်လည်း သာသနာပြု မင်းကောင်းမင်းမြတ်တို့ ဖြည့်ကျင့်ရွက်ဆောင်မြဲ ရာဇပြကာတော့ ဓလေ့ထုံးစံနှင့်ညီစွာ သာသနာတော်မြတ် ၃-ပါး ပြန့်ပွားစည်ပင်ကြောင်းများကို အထူးသဖြင့် ရွက်ဆောင်တော်မူလိုသော မနောပဏီဓိ ရှိတော်မူသည်နှင့်အညီ ခမည်းတော် ပဌမသံဂါယနာတင် မင်းတရားကြီးဘုရား ရွေးချယ်ခန့်အပ်တော်မူသော—

၁။ မဟာဝိသုတာရာမ ဆရာတော်၊
၂။ မဏ္ဍလာရာမ ဆရာတော်၊
၃။ မင်္ဂလာရာမ ဆရာတော်၊
၄။ စံကျောင်းဆရာတော်ကြီး ၄-ပါးတို့တွင်—
၅။ မဟာခေမိကာရာမ ဆရာတော်၊
၆။ တောင်တော် ဆရာတော် (၂-ပါးသွင်း၍ ဆရာတော်ကြီး ၆-ပါး)
၇။ သက်ပန်းဆရာတော်၊
၈။ လှထွေဆရာတော်၊
၉။ ပခန်းဆရာတော်၊
၁၀။ ဝိစိတ္တာရာမ ဆရာတော်၊
၁၁။ မဟာဝိဇိတာရာမ ဆရာတော်၊
၁၂။ မဟာဓမ္မဇောတိကာရာမ ဆရာတော်၊

(ခြောက်ပါး ၂-ရပ်ပေါင်း) တံဆိပ်တော်ရဆရာတော်—

တကျိပ်နှစ်ပါးတို့ကို သာသနာပြု သုဓမ္မာဝင် အပ်တော်မူသည်။ရွှေပြည်တော်မှစ၍ နိုင်ငံတော်အတွင်း သီတင်းသုံးနေသည့် ရဟန်းသံဃာတော်တို့တွင် ဓမ္မကံကြောင်းအလျောက် ဆုံးဖြတ်စီရင်ရန် ရှိသည်များကို သာသနာပြု သုဓမ္မာဝင်ဆရာတော် တကျိပ်နှစ်ပါးတို့က ဆုံးဖြတ်စီရင်မြဲ ဆုံးဖြတ်စီရင်စေ။

"ဘုဝရှင် မင်းတရားကြီးဘုရား အမိန့်တော်ရှိသည်"

အမိန့်တော်ပြန်တမ်းကိုလည်း ထုံးစံရှိရာ သုဓမ္မာတွင် နံ့ခံတော် နေမျိုး မင်းထင်ကျော်ခေါင်ကို ပြန်ဆိုစေသည်[၁]။

## ဓာတ်တော်၊ စေတီတော်၊ ဆင်းတုတော်များ ရောက်ရှိတော်မူခြင်း

၁၂၄၀-ပြည့်နှစ် နတ်တော်လဆန်း ၅-ရက်နေ့တွင် သီဟိုဠ်ကျွန်းမှ ဆက်သလိုက်သော ဓာတ်တော်၊ စေတီတော်၊ ဆင်းတုတော် စသည်များ ရောက်ရှိတော်မူရာ ခမ်းနားစွာ ပင့်တော်မူစေ၍ ရွှေနန်းတော်ဦး ဘုရားဆောင်တွင် ပင့်ဆောင်သွင်းထား ကိုးကွယ်တော်မူသည်။

## မြို့လုံးကျွတ် သံဃာတော်အား ၁၀-ရက် ဆွမ်း သပိတ် သင်္ကန်း လှူဒါန်းခြင်း

၁၂၄၀-ပြည့်နှစ် နတ်တော်လဆုတ် ၄-ရက်နေ့ နံနက်မှစ၍ လဆုတ် ၁၃-ရက်နေ့တိုင်အောင် ရွှေမြို့တော် အရှေ့ပြင် မဟာဝိသုတာရာမတိုက် ပရက္ကမ ဆရာတော်အမှူးရှိသော ၄-ပြင် ၄-ရပ် သီတင်းသုံးတော်မူသည့် တံဆိပ်တော်ရ-မရ ဆရာတော် သံဃာတော် ရဟန်းသာမဏေတို့ကို ရွှေနန်းတော် ပြာသာဒ် သီဟာသန ရာဇပလ္လင်တော်ဦး မြေနန်းဆောင်တော်သို့ ပင့်တော်မူပြီးလျှင် မင်းညီမင်းသား မှူးတော်မတ်တော်အပေါင်းတို့နှင့် သီပေါ မင်းတရားကြီးဘုရား၊ နန်းမတော် အရှင်မိဖုရားခေါင်ကြီး ၂-ပါးနှင့် နေ့စဉ် ထွက်စံတော်မူ၍ သပိတ်သင်္ကန်းနှင့်တကွ ကိုယ်တော်တိုင် ဆွမ်းကြီးလောင်း လှူတော်မူသည်။

## အရိုးအိုး သိမ် ပြာသာဒ် ရေစက်သွန်းချ လှူဒါန်းစေခြင်း

၁၂၄၀-ပြည့်နှစ် ပြာသိုလဆန်း ၆-ရက်နေ့တွင် ပဌမသံဂါယနာတင် မင်းတရားကြီးဘုရား ကြည်ညိုရင်းစွဲ ရှိတော်မူသည့် "စန္ဒိမာဘိ သီရိဓဇ မဟာ ဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ စံကျောင်းဆရာတော် အရိုးသိုန်းထားရာ မဟာဇောတိကာရာမတိုက် အရှေ့ထောင့် အလယ်မဟာရံအတွင်း အရိုးအိုး စေတီကိုမျို၍ တောင်ဆောင်တော် မိဖုရားဟောင်းက အုတ်ရိုးသိမ်ပြာသာဒ် ဆောက်လုပ်ပြီးပြေသည်ကို ရေစက်သွန်းချပါမည့်အကြောင်း လျှောက်ထား ရာ အမိန့်တော်နှင့် တောင်ဆောင်တော် မိဖုရားဟောင်း သမီးတော် မိုးညှင်း

---

၁။ ကုန်းဘောင်ဆက် ၃။ ၄၉၀။

မြို့စား မင်းသမီးတို့ကို အရှိုးအိုး သိမ်ပြာသာဒ်သို့ထွက်၍ ရေစက်သွန်းချလှူဒါန်း စေတော်မူသည်။

## မင်းတုန်းမင်းကြီး အလောင်းတော် မြှုပ်နှံရာ ပြာသာဒ်တွင် ဆွမ်းလုပ်ကျွေး လှူဒါန်း

၁၂၄၀-ပြည့်နှစ် တပို့တွဲလဆန်း ၆-ရက်နေ့တွင် ခမည်းတော် ပဥ္စမ သံဂါယနာတင် မင်းတရားကြီးဘုရား အလောင်းတော် မြှုပ်နှံသွင်းထားရာ ဖြစ်သည့် အုတ်နန်းပြာသာဒ်တော်တွင် တံဆိပ်တော်ရ ဆရာတော် သံဃာတော် တရာ ပင့်ဖိတ်ပြီးလျှင် မှူးတော်မတ်တော်တို့ ကြီးကြပ်၍ ဆွမ်းလုပ်ကျွေးလှူဒါန်း တော်မူသည်။

## ရှမ်းပြည်မှ ဂိုဏ်းအုပ် ဂိုဏ်းထောက် ဆရာတော်များနှင့် နောက်ပါ သံဃာတို့အား သင်္ကန်း စသည်လှူ

၁၂၄၀-ပြည့်နှစ် တပို့တွဲလဆုတ် ၁၂-ရက်နေ့တွင် ရှမ်းပြည်ထောင် အပါ အဝင် ကိုင်းမားမြို့၊ မိုင်းမိုင်း (ခိုင်း)မြို့၊ မိုင်းဟိန်မြို့မှ ဘုရားပုထိုးများ ဖူးမြော် ရန် ရောက်ရှိလာသော ဂိုဏ်းအုပ်ဆရာတော် ၆-ပါး၊ ဂိုဏ်းထောက် ဆရာ တော် ၂-ပါးနှင့် နောက်ပါရဟန်း ၃၉-ပါး၊ သာမဏေ ၄၇-ပါး အလုပ် အကျွေး ယောကျ်ား မိန်းမ ၂၅၄-ယောက်တို့ ရောက်ရှိလာရာ သာသနာပြု ဆရာတော် မေတ္တာစာသွင်းချက်အရ ရွှေနန်းတော်သို့ ပင့်ဆောင်စေ၍ ဂိုဏ်း အုပ် ဆရာတော် ဦးဇေယ၊ ဦးဓမ္မ၊ ဦးသီရိ၊ ဦးကုလ္လပညာ စသူတို့အား တိစီ ဝရိက် သင်္ကန်းရှစ်စုံ၊ ဖယောင်းတိုင် သေတ္တာရှစ်လုံး၊ ဆွမ်းပန်း ကပ်လှူရန် စရိတ်ငွေဒင်္ဂါး ၈၀-ကျပ် လှူဒါန်းတော်မူသည်။ ၎င်းပြင် မေတ္တာရပ်ခံချက် အရ စရိတ်ကြေးငွေ မကုန်မကျစေရန် သဘောတော်ဖြင့် ပြန်ပို့စေတော်မူ သည်။

## မိုးကောင်းတိုက်ဆရာတော် ဦးမာလာအား တင်လှူ

၁၂၄၀-ပြည့်နှစ်၊ တပေါင်းလဆန်း ၅-ရက်နေ့တွင် ရွှေမြို့တော် အနောက် ပြင် မိုးကောင်းကျောင်းတိုက်ကို အမိန့်တော်နှင့် မာလာလင်္ကာရ သီရိဇ မဟာဓမ္မရာဇဂုရု တံဆိပ်တော်ရ တောင်တော် ဦးမာလာအား ကျောင်းအပ် တင်လှူမည်ကို လှူဒါန်းရန် အဖွယ်အရာ ဆွမ်း ဟင်းလျာစုံ အချိုပွဲစုံများနှင့် လွှာတ်တော်အရာရှိ၊ ရွှေရှိုးအရာရှိ၊ ဝန်စု မှူးစု ဗိုလ်စုဘို့သွား၍ ကြည့်ရှုကြပ်မ

လှူဒါန်းကျွေးမွေးပြီးလျှင် " မာလာလင်္ကာရ သိရိဓဇ မဟာဓမ္မ ရာဇဂုရု " ဘွဲ့ တံဆိပ်တော်ရ တောင်တော်ဆရာတော် ဦးမာလာအား တင်လှူရသည်။

## ဆင်းတုတော်များ ရေသပ္ပာယ်တော်မူခြင်း

ဆဒ္ဒန်ဆင်မင်းသခင် သီပေါမင်းတရားသည် ၁၂၄၁-ခုနှစ်၊ တန်ခူးလဆုတ် ၉-ရက် နှစ်သစ်နေ့တွင် နန်းတော်ဦး၌ ကိန်းဝပ်တော်မူသည့် ပခန်းစည်သူ့ ရှင်ဘုရား၊ ရှင်မတောင် မြတ်ပေါင်းမဥ္ဇူဘုရား၊ ဒက္ခိဏသာခါဘုရား၊ သီဟတောဘုရား၊ ရှင်ဖြူဘုရား၊ နဂါးရုံဘုရား၊ ဆုတောင်းပြည့်ဘုရားရှင်တို့အား မွှန်မြတ်သော ရေမွှေးရည်တို့ဖြင့် ကိုယ်တော်တိုင် ရေသပ္ပာယ်တော်မူသည်[၁]။

## မဟာဗောဓိ ရုပ်ပွားတော်မြတ် ထုလုပ်ကိုးကွယ်ခြင်း

၁၂၄၁-ခုနှစ်၊ နယုန်လတွင် မဇ္ဈိမဒေသ မဟာဗောဓိပင်တော်မှ ပင့်ဆောင်ဆက်သသည့် မဟာဗောဓိဒက္ခိဏသာခါကို ထက်ဝယ်တော် လေးတောင်၊ အရပ်တော် ၅-တောင်ရှိ ရုပ်ပွားတော်မြတ် ထုလုပ်တော်မူ၍ ဘုရားရှင် သရီရဓာတ်တော်၊ မွေတော်တို့နှင့် ဓမ္မက္ခန္ဓာ ရွှေလွှာပေရေး ပါဠိတော်များကို သွင်းနှံဌာပနာတော်မူပြီးလျှင် လွှတ်တော်ရှေ့ ငယ်စဉ် သာမဏေအဖြစ်ဖြင့် စံတော်မူခဲ့သော ကျောင်းတော်ရာတွင် ကျောင်းဦးပြာသာဒ်နှင့်တကွ ဘုံ ၃-ဆင့်ရှိသော မှန်ကျောင်းတော်ကို ဆောက်လုပ်တော်မူ၍ မဟာဗောဓိရုပ်ပွားတော်မြတ်ကို ပင့်ဆောင် ကိုးကွယ်တော်မူသည်။

## မာန်အောင်ရတနာစေတီ တည်တော်မူခြင်း

သီပေါမင်းတရားသည် သက္ကရာဇ် ၁၂၄၁-ခုနှစ်၊ ကဆုန်လဆန်း ၄-ရက်၊ အင်္ဂါနေ့တွင် ရတနာပုံရွှေမြို့တော်ကြီး၏ အရှေ့တောင် နံတော်၏ တေဇအရပ်ဖြစ်သော မဟာသီရိဟေမဝန်ဥယျာဉ်တော်တွင် ဖိနပ်တော် ၅၅-တောင်၊ အရပ်တော် ၅၆-တောင်ရှိသော စေတီတော်ကို တံတိုင်း မီးတားနှင့်တကွ တည်လုပ်တော်မူ၍ ရွှေဘုန်းတော်မြတ်ကြောင့် သမ္မာဒေဝနတ်မြတ်တို့ ညွှန်ကြားပြသသည့်အတိုင်း ရတနာသိင်္ဃမြို့ စီရင်စု ရွှာသာယာအရပ် တလည်ချောင်းအနီး ဥမင်လိုဏ်တွင်းမှ တွေ့ရှိသော ရုပ်ရှင်တော်၊ ဓာတ်တော်၊ မွေတော်များ၊ ထိုမှတပါး မြေများဥကင် မြေတွင်တမွှတ် မြေမြတ် ဥသျှောင်မှန်

---

၁။ ကုန်းဘောင်ဆက်၊ ၃။ ၅၁၅-လည်း ကြည့်။

လှသော မဇ္ဈိမဒေသ ဘုရားရှင်ပွင့်တော်မူရာ မဟာဗောဓိပင်တော်အောက် အပရာဇိတရွှေပလ္လင်ပေါ်က်ရာဌာနမှ မြေနှင့်တကွ သတ္တဌာန၊ အင်္ဂဝီသ၊ ရွှေ ငွေ မိုးကြိုး ပဥ္စလောဟာရုပ်တု ဆင်းတုတော်များ၊ ဓမ္မကန္တာ ရွှေလွှာရေး ငွေ လွှာရေး ပါဠိများကို ဌာပနာသွင်းနှံတော်မူပြီးလျှင် သဘင်ပွဲလမ်း အခမ်း အနား ကြီးကျယ်စွာသော အစီအရင်ဖြင့် ရွှေထီးအထွတ် တင်လှူတော်မူ၍ သံဃာတော် အရှင်မြတ်တို့အား အထူ ထူးသော ဒါတဗ္ဗဝတ္ထုအစုစုတို့ကို ပေး လှူတော်မူ၍ စေတီတော်ကို မာရ်ေအာင် စေတီတော်ဟု သမုတ်တော်မူ၍ အပြီး တိုင် တည်ထား ကိုးကွယ်တော်မူခဲ့လေသည်။

မာရ်အောင်ရတနာ ထူပမ္ပိ၊ ပတိဋ္ဌာပေသိ ဗုဒ္ဓိမာ။
သီပေါ်ရာဇာ သုရာဇာ ဟိ၊ သမ္ဗုဒ္ဓေ ပသန္နော ဝိဒ္ဒါ။

## ထိုထိုဒေသသို့ သာသနာပြု စေလွှတ်တော်မူခြင်း

ဘုရားရှင်သည် ဘုရားဖြစ်တော်မူ၍ ပဌမ ဝါကျွတ်တော်မူလေလျှင် ကိုယ်တော်မြတ် သာသနာ စည်ပင် ပြန့်ပွားခြင်းအကျိုးငှာ ရဟန္တာသခင် အရှင် မြတ်တို့အား သက္ကတိုင်း၊ ဘဂ္ဂတိုင်း၊ မဂဓတိုင်း အစရှိသော အနယ်နယ် အစို့စို့ အမြို့မြို့ အရွာရွာတို့သို့ သာသနာပြု စေလွှတ်တော်မူခဲ့လေသည်။ အရှင် မောဂ္ဂလိပုတ္တတိဿထေရ်သည် သီရိဓမ္မာသောကမင်းကြီးနှင့် တိုင်ပင်တော်မူ၍ ဂန္ဓာရတိုင်း၊ မဟိံသက အစရှိသော ကိုးတိုင်း ကိုးဌာနတို့သို့ အရှင်မဇ္ဈန္တိက ထေရ် အစရှိသော ရဟန္တာသခင် အရှင်မြတ်တို့ကို သာသနာပြု စေလွှတ်တော် မူခဲ့လေသည်။

အမရပူရမြို့တည် နန်းတည် ဘိုးတော်မင်းတရားလက်ထက်၌လည်း သာသနာ ပိုင် မောင်းထောင်ဆရာတော် ဓမ္မသေနာပတိ အရှင်ဉာဏာဘိဝံသသည် တံဆိပ် တော်ရ ဆရာတော် ၄၂-ပါးတို့ကို နောက်ပါသံဃာတော် ၁၅၂ - ပါးတို့နှင့် တကွ ၄၂-ဌာန အရပ်တို့သို့ သာသနာပြု စေလွှတ်တော်မူခဲ့လေသည်။

ပဥ္စမ သံဂါယနာတင် မင်းတုန်းမင်းတရားလက်ထက်၌လည်း မဟာဝိဟိက တိုင်း ဇယဝဍ္ဎနတိုင်း၊ ကမ္ဗောဇတိုင်း၊ တမ္ဗဒီပတိုင်း အဝင် တောင်တွင်းကြီး မြို့များသို့ သာသနာပြု စေလွှတ်တော်မူသည်။ မာရ်အောင်ရတနာ စေတီတော် ဒါယကာ သီပေါမင်းတရားသည်လည်း ဘုရားဇိနေ့် သာသနာတော် စည်ပင် ထွန်းကားရေးကို အလွန်လျှင် အလိုရှိတော်မူသဖြင့် ဆရာတော်ကြီးများနှင့် တိုင်ပင်တော်မူ၍ သက္ကရာဇ် ၁၂၄၃-ခုနှစ်၊ တန်ခူးလဆုတ် ၅-ရက်နေ့တွင် ရွှေရေး၊ မင်ရေး၊ ကညစ်ရေး ပိဋကတ်တော်အစုံများ စသည်နှင့်တကွ အောက် ပါအတိုင်း သာသနာပြု စေလွှတ်တော်မူခဲ့လေသည်—

ကမ္ဘောဇတိုင်းအဝင်အပါ ရှမ်းပြည်မြေလတ်အင်းလေးရွာ ညောင်ရွှေမြို့၊ စကားမြို့၊မိုးနဲမြို့၊ တပ်ရုံးအထိ မြို့ရွာများသို့ နန်းဦးဆရာတော် အရှင်ဉာဏိန္ဒနှင့် ဒီပဲယင်းဆရာတော်တို့ကို နောက်ပါရဟန်းတော် ၆-ပါးနှင့်တကွ သာသနာပြု စေလွှတ်တော်မူခဲ့လေသည်။

ကမ္ဘောဇတိုင်းအဝင်အပါ သုံးဆယ်မြို့၊ မိုင်းလုံမြို့၊ သီပေါမြို့၊ စိန္နတိုင်း ဝေပုံပါ မိုးမိတ်မြို့၊ မိုးလှိုင်းမြို့၊ မိုးကုတ်မြို့၊ တောင်ပိုင်မြို့၊ သိဝိရဋ္ဌတိုင်း သိဂိ မြို့များတို့သို့ သုံးဆယ်ဂိုဏ်းအုပ် အရှင်ပရမ၊ရွှေကျောင်ဂိုဏ်း ပဌမစာချ အရှင် ဂန္ဓမာတို့ကို နောက်ပါ ရဟန်းတော် ၃-ပါးနှင့်တကွ သာသနာပြု စေလွှတ် တော်မူသည်။

ကနီ၊ မင်းခင်းမှစ၍ ချင်းတွင်း၊ ဝဲယာ၊ ကလေး၊ ရာဇဂြိုဟ်၊ တိမ်ညင်၊ တမူး၊ ခန်းပတ်၊ သာထွန်း၊ နန်းမြေ၊ သုနာပရန္တတိုင်းတို့သို့ မောရိယတိုင်း သောင်သွပ်မြို့ရောက် တိုက်တော်နေဆရာတော် အရှင်အာလောကနှင့် ရွှေကျောင် တိုက်ဆရာတော် အရှင်ကလျာဏ၊ ကလေးဂိုဏ်းထောက် အရှင်ကဝိန္ဒ၊ မင်းခင်း ဂိုဏ်းထောက် အရှင်အာစိဏ္ဏ၊ ရွှေကျောင်တိုက် စာချ အရှင်သီရိတို့ကို စေလွှတ် တော်မူသည်။

တိုက်ကျန်ဆယ်ရွာ၊ ရတနာသိဿ်၊ အမြင့်၊ ဗန့်ကျီ၊ အလုံ၊ ဒီပဲယင်း၊ မြေဒူး၊ ငရန်၊ ခေါသန္တီ၊ ပဉ္စာလငါးမြို့၊ ကောလင်းမြို့တို့သို့ ဝန်းသိုရောက် မိုင်းလုံဆရာတော်နှင့် ရွှေကျောင်တိုက် ပဌမစာချ အရှင်ဇောတ၊ အရှင်သီရိ၊ တိုက်တော် ပဌမစာချ အရှင်သုန္ဒရ၊ အရှင်စန္ဒ၊ ဒုတိယစာချ အရှင်ကလ္ယာဏဿ ဟူသော ဆရာတော် ၆-ပါးကိုကို စေလွှတ်တော်မူသည်။

လယ်တွင်းကိုးခရိုင်၊ ရွှေပြည်၊ ရန်အောင်အရှေ့လက် ပင်းတလဲမြို့၊ လှိုင်း တက်မြို့၊ ရနောင်မြို့၊ ထရံကာမြို့၊ မိတ္ထီလာမြို့၊ ရင်းတော်မြို့၊ ညောင်ရမ်းမြို့၊ ရမည်းသင်းမြို့တိုက် ထီးလှိုင်ဒေသ၊ ဇေယဝဍ္ဎနတိုင်းတို့သို့ တောင်ငူရောက် မိုးထိဆရာတော်နှင့် ၎င်းတိုက် ပဌမစာချ အရှင်ဝိလာသ၊ ဝိစိတ္တာရာမတိုက် ပဌမစာချ အရှင်သုဇာတ၊ အရှင်သီဟ၊ အရှင်အာဃာ၊ အဘယာရာမတိုက် အရှင်ရာဇိန္ဒ၊ အရှင်စန္ဒိမာ အားဖြင့် ၇-ပါးသော ဆရာတော်တို့ကို စေလွှတ် တော်မူသည်။

အဝမြို့၊ တလုပ်မြို့၊ ပခန်းကြီးမြို့၊ ယောလေးမြို့၊ မြစ်စဉ်ဝဲယာ မလွန်မြို့၊ မင်းလှမြို့၊ ဆင်ပေါင်ဝဲမြို့များတို့သို့ မြေတဲတောင်စဉ် ၇-ခရိုင်ရောက် မဏ္ဍလာ ရာမဆရာတော်နှင့် ၎င်းတိုက် ပဌမစာချ အရှင်ဝိစိတ္တ၊ မြောက်စလင်းတိုက်အုပ် အရှင်မေဓာဝီ၊ တိုက်တော်ပဌမစာချ အရှင်အာဒိစ္စ၊ မဟာဝိဇိတာရာမတိုက်

ပဥ္စမစာချ အရှင်ဇေယျန္တ၊ လယ်ကိုင်းတိုက် ပဥ္စမစာချ အရှင်သုမန၊ အရှင်သောဘိတဟူသော ဆရာတော် ၃-ပါးတို့ကို စေလွှတ်တော်မူသည်။

ရွှေပြည်ရန်အောင် အနောက်သက် ပြင်စည်မြို့၊ ကျောက်ဆောက်မြို့၊ ညောင်အုပ်မြို့၊ တောင်သာမြို့၊ အင်းမြို့၊ နတ်မောက်မြို့၊ ကျောက်ပန်းတောင်းမြို့၊ ပုပ္ပားမြို့များတို့သို့ တောင်တွင်းကြီးမြို့ရောက် သဒ္ဓမ္မဇောတိကာရာမတိုက်ဆရာတော် အရှင်ဉာဏနှင့် တိုက်တော်ပဥ္စမစာချ အရှင်ကေလာသ၊ မဟာဝိဇိတာရာမတိုက် ပဥ္စမစာချ အရှင်နန္ဒ၊ အရှင်ဉာဏိန္ဒ၊ အဘယာရာမတိုက် ဒုတိယစာချ အရှင်အာဒိစ္စ၊ အရှင်သုဇာတဟူသော ဆရာတော် ၆-ပါးတို့ကို စေလွှတ်တော်မူသည်။

ကျောက်မြောင်း စေဥ္စကူးမြို့မှစ၍ အထက်မြစ်စဉ် ဝဲယာမြို့စု ဗန်းမော်မြို့၊ ဇောတိနဂရ ရာဇဂ်လ ဥဒေါဂိရိတိုင်းတို့သို့ မိုးကောင်းမြို့ရောက် အုတ်ကျောင်းဆရာတော်နှင့် ပိဋကတ်တိုက် အရှင်ကောသရ၊ ရွှေကျုပ်တိုက်စာချ အရှင်သောမ၊ ပယင်းတွင်းဆရာတော် အရှင်နရိန္ဒတိက္ခ၊ သက်ပန်းတိုက် ဒုတိယစာချ အရှင်အာဒိစ္စဟူသော ဆရာတော် ၅-ပါးတို့ကို စေလွှတ်တော်မူသည်။

ဤသို့ဖြင့် သီပေါမင်းတရားသည် တံဆိပ်တော်ရ ဆရာတော် ၉-ပါးနှင့် စာချပုဂ္ဂိုလ် ၄၀-တို့ကို ၈-ဌာနခွဲ၍ သာသနာပြု စေလွှတ်တော်မူသည်။ မင်းတရားသည် ဘုရားမြတ်စွာ သာသနာတော် စည်ပင်ပွင့်လင်းရန် အလွန်အလိုရှိတော်မူသည်။

တောသု တောသု ပဒေသေသု၊ တေတေ ထေရေ တဟိံ တဟိံ။
ဝုဒ္ဓိယာ ဇိနစက္ကဿ၊ အပေသယိ သုမိတ္တိမာ။

## ဘုရား ၇-ဆူ ရွှေသင်္ကန်းကပ်တော်မူခြင်း

၁၂၄၃-ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၁၅-ရက်နေ့တွင် ကုသိုလ်တော်မာရ်အောင်ရတနာဘုရား၊ အုံးအင်းဘုရား၊ ချမ်းသာကြီးဘုရား၊ မဟာလောကမာရဇိန်ဘုရား၊ မန္တလေးဘုရား၊ ဆုတောင်းပြည့်ဘုရား၊ မဟာလောကရံသီဘုရားဟူသော ဘုရား ၇-ဆူတို့အား ရွှေသင်္ကန်းကြီးများ ကပ်လှူစေတော်မူသည်။

## မန္တလေး အမရပူရကျောင်းတိုက်များ ကထိန်သင်္ကန်းလှူ

ရင်းပြင် ရွှေမြို့တော် ၄-မြင် ၄-ရပ်ရှိ ကျောင်းတိုက်ရေ ၁၅၄-တိုက်၊ ကျောင်းဦးရေ ၁၂၅၇-ကျောင်း၊ အမရပူရမြို့ လေးမျက်နှာရှိ ကျောင်းတိုက်

ရေ ၄၄-တိုက်၊ ကျောင်းဦးရေ ၁၅၉-ကျောင်း၊ ၂-ရပ်ပေါင်း ကျောင်းတိုက်ရေ ၁၉၈-တိုက်၊ ကျောင်းဦးရေ ၁၄၁၆-ကျောင်းတို့၌ သီတင်းသုံးတော်မူသည့် သံဃာတော် ၂၅၇၇-ပါးတို့အား လှူဒါန်းရန် ဆိုးလုပ်ပြီး ကထိန်သင်္ကန်း ၁၉၈(၂၀၉)အခါနီသင် ပိတ်သင်္ကန်းလျာစုံရေ ၂၅၇၇-စုံချုပ်ဆိုးရန် အပ်ထုပ်၊ ချည်လုံး။ ပိန္နဲချဉ်မှုန့်၊ စဥ့်အိုး၊ ကျီအိုး၊ ခပ်အိုး၊ ရေမှုတ်၊ ဖွပ်ပျဉ်၊ ကြိမ်ခွေ၊ ထင်း၊ ကိရိယာစုံ ၂၅၇၇-စီများအနက် သင်္ကန်းလျာများနှင့် ပိန္နဲချဉ်မှုန့်စသော ကိရိယာများကို ထမ်းလှူဆောင်လှူနှင့် ထင်းများကို လှည်းနှင့် တင်ဆောင်၍ အစီအစဉ်အခမ်းအနား ခင်းကျင်းမြဲအတိုင်း စီစဉ်ခင်းကျင်းပြီးလျှင် တောင်စမုတ်တော်တို့ သွင်းပြရာ အရှင် ဘဝရှင်မင်းတရားကြီးဘုရား၊ အရှင်နန်းမတော်မိဖုရားခေါင်ကြီးဘုရားနှင့် ထွက်တော်မူ၍ ရေစက်သွန်းချတော်မူပြီးလျှင် ကျောင်းတိုက်အစေ့ အရာရှိတို့ ကြီးကြပ်သွားရောက်၍ ကထိန်မြောက်အောင် ကောင်းမွန်စွာ ခင်းကျင်း လှူဒါန်းစေသည်။

## အရှေ့ပြင် မှန်ကျောင်းတော် ရေစက်ချလှူဒါန်းခြင်း

၁၂၄၃-ခု၊ တပေါင်းလဆန်း ၁၀-ရက်နေ့တွင် ရွှေမြို့တော်အရှေ့မျက်နှာ မဟာဂိရိစိတ္တရ ပန်းဥယျာဉ်တော်အတွင်းတွင် ကျောင်းဦး ပြာသာဒ်နှင့် ဘုံ ၄-ဆင့်ရှိ အလွန်ဆန်းကြယ်သော ကျောင်းတော်ကြီးနှင့်တကွ အရံကျောင်းတော်ရှစ်ရပ် တံတိုင်းမီးတား တံခါးမုခ်ပြာသာဒ်စသည်တို့ဖြင့် တန်ဆာဆင်၍ ငွေတော် ၂-သန်းကျော် အကုန်ခံ၍ နန်းမတော် မိဖုရားခေါင်ကြီး ဆောက်လုပ်သည့် ကျောင်းတိုက်ကြီ ကို တံဆိပ်တော်ရ-မရ ဆရာတော် သံဃာတော် တရာတို့အား ရဟန်းတော်တို့နှင့်လျော်သော အဖိုးများစွာ ထိုက်တန်သော အထူးအဆန်း အဖွယ်အရာသီးမျိုးစုံ ပဒေသာပင်တရာတို့ဖြင့် ရေစက်သွန်းချတော်မူပြီးလျှင် "ဉာဏာဘိဝံသာဘိဓဇမဟာဓမ္မရာဇာဓိရာဇဂုရု" တံဆိပ်တော်ရ ဆရာတော်အား တင်လှူတော်မူသည်[၁]။

## ဆရာတော် ၂-ပါး ဘွဲ့တံဆိပ်တော်လှူ သာသနာပြုအပ်

၁၂၄၄-ခုနှစ်၊ တပေါင်းလတွင် "မာလာလင်္ကာရသိရိဓဇမဟာဓမ္မရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ တောင်တော်ဆရာတော် အရှင်မာလာအား "မာလာလင်္ကာရသာသနဓဇဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု" ရွှေကျင်ဆရာတော် အရှင်ဇာဂရအား "ဇာဂရာဘိဓဇသာသနပါလဓမ္မသေနာပတိ မဟာ

---

၁။ ကုန်းဘောင်ဆက်၊ ၃။ ၅၇၀။

ဓမ္မရာဇာဓိရာဇဂုရု''ဘွဲ့တံဆိပ်တော် ဆက်ကပ်လှူဒါန်းတော်မူပြီးလျှင် သာသနာပြုအပ်သည့် အမိန့်တော်ပြန်တမ်းကို ဖတ်ကြားစေ၍ သာသနာပြု အပ်နှင်းတော်မူသည်။

## ပခန်းစည်သူ့ရှင်ဘုရား စသည်တို့ နန်းတော်ဦးပင့်

၁၂၄၅-ခုနှစ်၊ ကဆုန်လဆုတ် ၇-ရက်နေ့တွင် ပခန်းကြီးမြို့မှ ပင့်ဆောင်ဆောက်ရှိလာသည့် စည်သူ့ရှင်ဘုရား၊ ဒက္ခိဏသာခါဘုရား၊ မြက်ပေါင်းမဉ္ဇူဘုရား၊ ရှင်မတောင်ဘုရား ၄-ဆူတို့ကို ပင့်ဆောင်ဆိုက်ရောက်သည့်အတိုင်း မြစ်ဆိပ်မှ ရွှေနန်းတော်ကောင် နန်းဘော်ရွှေဘုရားဆောင်ရောက် တပ်ဝင်းအခင်းအကျင်း အစီအစဉ်နှင့် ပင့်ဆောင်တော်မူသည်။

## ရွှေချိန် ၅ဝ-ကျော်စီရှိသပိတ်၊ ရွှေချိန် ၂၂၅-ကျပ် ပူဇော်လှူဒါန်း

ဖော်ပြပါ စည်သူ့ရှင်ဘုရားစသည့် ဘုရား ၄-ဆူတို့အား ၁၂၄၅-ခု၊ နယုန်လဆန်း ၁၅-ရက်နေ့တွင် လှူဒါန်းရန် ရွှေချိန် ၅ပ-ကျော်စီ ခုတ်လုပ်သည့် ရွှေသားသပိတ်ဖုံးစုံ၊ ခြေစုံလုံးရေလေး ရွှေအချိန် ၂၂၅-ကျပ်သားကို တပ်ဝင်းအစီအစဉ်နှင့် ရွှေနန်းဘော်က မြစ်ဆိပ်ရောက် အသာရှိများ ကြီးကြပ်ဆောင်ယူ၍ ပခန်းကြီးမြို့သို့ ပို့သလှူဒါန်းရလေသည်။

## ဥပဒေ ၃၂-ချက် သာသနာပြုဆရာတော်က မင်းတရားထံ ဆက်သွင်း

၁၂၄၅-ခုနှစ်၊ နယုန်လဆန်း ၁၃-ရက်နေ့တွင် သာသနာပြု ဆရာတော်ထံ၌ တံဆိပ်တော်ရဆရာတော် ၇၄-ပါးတို့ကို ပင့်ဖိတ်၍ သာသနာရေးနှင့်စပ်သည့် တိုင်ပင်ဆွေးနွေးရန်ရှိသည့် စကားများကို ဆွေးနွေးစေတော်မူသည်။ ပညတ်ရန် ဥပဒေ ၃၄-ချက်စုံညီ မိန့်ဆိုမှတ်သားချက်များကို သာသနာပြုဆရာတော်က တိုင်တားမင်းကြီးထံ ပေးအပ်လိုက်၍ ရွှေလက်တော်သို့အရောက် ဆက်သွင်းတော်မူသည်။

သာသနာပိုင်ဆရာတော်သည် မင်းတရားထံ ဆက်သွင်းတော်မူပြီး အောက်ပါအတိုင်း အမိန့်တော်နှင့်တကွ နိုင်ငံတော်အတွင်းရှိ တံဆိပ်တော် ရ-မရ

---

၁။ ကုန်းဘောင်ဆက်၊ ၃။ ၅၀၉၊

တိုက်အုပ် တိုက်ကြပ်တို့နှင့် ဂိုဏ်းအုပ်၊ ဂိုဏ်းထောက်တို့ကို ဆင့်ဆိုပေးအပ်တော်မူလေသည်—

### သီပေါမင်းလက်ထက် သာသနာပိုင်ဆရာတော်ဘုရားကြီး အမိန့်တော်

၁၂၄၅–ခုနှစ်၊ ရွှေမြို့တော်မှစ၍ နိုင်ငံတော်အတွင်းရှိ တံဆိပ်တော်ရ–မရ တိုက်အုပ် တိုက်ကြပ်တို့နှင့် ဂိုဏ်းအုပ် ဂိုဏ်းထောက်တို့ကို ဆင့်ဆိုပေးအပ်ရန် သာသနာပြုဆရာတော်ဘုရားကြီးအမိန့်တော်။

(၁–အမှတ်) ဘုန်းတော်အလွန်ကြီးမြတ်တော်မူလှသော ရေမြေ့အရှင် ဆဒ္ဒန်ဆင်မင်းသခင် ဆင်ဖြူများရှင် အသျှင်ဘဝရှင်မင်းတရားကြီး၊ ဆရာတော်အမိန့်တော်ရှိသည်။ ရွှေမြို့တော် ၄-ပြင် တံဆိပ်တော်ရမရ တိုက်အုပ် တိုက်ကြပ်တို့နှင့် ရွှေပြည်တော်မှစ၍ နိုင်ငံတော်အတွင်းရှိ ဂိုဏ်းအုပ် ဂိုဏ်းထောက်ပုဂ္ဂိုလ်တို့ ကပ်ဦးအစ မဟာသမ္မတ သကျန္တယ်စဉ် အာဒိစ္စဝင် မင်းမျိုး နန်းရိုးအစစ် ဖြစ်တော်မူသော ငါတို့ သာသနာ့ဒါယကာ မဟာဓမ္မရာဇ်တရားမင်းမြတ်သည် လောက ၃-ပါး၌ မင်းဆုံးဓမ္မရာဇ်ဖြစ်တော်မူသော မြတ်စွာဘုရား သာသနာတော်၌ တုန်လှုပ်ခြင်းမရှိသော အစလသဒ္ဓါတော်မြတ်ဖြင့် အလွန်သက်ဝင်ကြည်ညိုတော်မူသည်နှင့်အညီ သာသနာတော် ၃-ပါးတို့တွင် ပရိယတ္တိသာသနာတော်တည်းဟူသော အမြစ်ပင်စည်ဖြစ်ထွန်းကြီးပွားမှ ပဋိပတ္တိသာသနာတော်တည်းဟူသော သီလစူတင် သမထ ဝိပဿနာတည်းဟူသော အပွင့်အသီး ဖြစ်ထွန်းရာသည်။ ပဋိပတ္တိသာသနာတော်တည်းဟူသော အသီးအပွင့်ဖြစ်ထွန်းမှလည်း ပဋိဝေဓသာသနာတော်တည်းဟူသော မဂ်ဉာဏ် ဖိုလ်ဉာဏ် နိဗ္ဗာန်ဟူသော အရသာထူးကိုခံစားသုံးဆောင်ရမည် ဖြစ်သည်။ သာသနာတော်၌လည်း အလဇ္ဇီဒုဿီလ ပါပဓမ္မ သမာစာရပုဂ္ဂိုလ်တို့ ပေါ်ထွက်ကွက်ကြားမရှိ။လဇ္ဇီပေသလသီလဝန္တပုဂ္ဂိုလ်တို့သာ ပေါ်ထွန်းစည်ကားရှိမှလည်း မြတ်စွာဘုရား သာသနာတော်သည် ရောင်ခြည်တထောင် တည်ထွန်းဆောင်သော ဘာနုရာဇာ စကြာဝဠာ လင်းလင်းညီသကဲ့သို့ တိုးတက်စည်ကားပြန့်ပွားခြင်းဟူသော ဝုဍ္ဎိဝေပုလ္လအဖြစ်သို့ ရောက်သဖြင့် ထွန်းလင်းတောက်ပခြင်းဖြစ်၍ အဓွန့်ရှည်စွာ ဖြစ်ထွန်းစည်ကားပြန့်ပွားခြင်း ဖြစ်မည်။ သို့အစရှိသည်ဖြင့် သာသနာတော် ထွန်းပေါ်တောက်ပခြင်းနှင့်စပ်သည့် အရာများကို ကြံရည်တော်မူပြီးလျှင် ဆရာတော်ကို ရွှေနန်းတော်သို့ပင့်ဆောင်တော်မူ၍ (ပွတ်သစ်စဖြစ်သော ခရုသင်းသည် အလွန်

လျှင် ဖြူစင်ခြင်းဖြစ်သကဲ့သို့ သာသနာတော်မြတ်သည်လည်း အလွန်ဖြူစင်သန့်ရှင်းသဖြင့် တနေ့တခြား ပြန့်ပွားစည်ပင်ခြင်းဖြစ်အောင် အားထုတ်တော်မူပါမည့်အကြောင်း)နှင့် လျှောက်ထားတော်မူသည် ဖြစ်သည်။ ရွှေမြို့တော် ၄-ပြင် တံဆိပ်တော် ရ-မရတိုက်အုပ်တို့နှင့် နိုင်ငံတော်အတွင်းရှိ ဂိုဏ်းအုပ်ဂိုဏ်းထောက် ပုဂ္ဂိုလ်တို့လည်း သာသနာတော်မြတ်၏ စည်ပင်ထွန်းလင်းပြန့်ပွားခြင်းဖြစ်မည်များကို ညီညာရိုင်းပင်း၍ ပြုသင့်ပြုထိုက်သည့် ပုဂ္ဂိုလ်များဖြစ်သည့်အတိုင်း မိမိတို့ အုပ်ထိန်းကြည့်ရှုသည့် တိုက်ဘာ ဂိုဏ်းများအတွင်း ခိုမှီး နေထိုင်ကြသည့် ရဟန်းသာမဏေတို့ ဝိနည်းသိက္ခာပုဒ်တော်နှင့်အညီ ကျင့်ဆောင်နေထိုင်စေရန် ယခုပေးအပ်သည့် ကျင့်ဝတ်ဥပဒေကို အပေါ့သက္က ကြောင့်ကြမဲ့မပြုမူ၍ မိမိတို့တိုက်တာဂိုဏ်းအတွင်းများမှာ ပျံ့နှံ့အောင် ဆင့်ဆိုပေးအပ်သည့် ဥပဒေတော်အတိုင်း တင်းတင်းကြပ်ကြပ် ဆုံးမဩဝါဒပေး၍ နေထိုင်ကြစေ။

## ဆရာတော် ၇၄-ပါးတို့ သဘောတူထုတ်ပြန်သည့် ရဟန်းတော်များ လိုက်နာရန် ကျင့်ဝတ်ဥဒေ ၃၄-ချက်

ရွှေမြို့တော်၄-ပြင်ရှိ တံဆိပ်တော် ရ-မရ တိုက်အုပ် တိုက်ကြပ် ရဟန်းသံဃာတို့နှင့် ရွှေကြိုးသတ်မှတ်ပိုင်းခြားထားသည့် ပဉ္စမဌာနဝေပုံပါ မြို့ရွာရှိ ဂိုဏ်းအုပ်ဂိုဏ်းထောက် ဂိုဏ်းသံဃာတို့ ဝိနည်းသိက္ခာပုဒ်တော်နှင့်အညီ ကျင့်ကြံနေထိုင်စေရန် အမိန့်တော်အရ တံဆိပ်တော်ရဆရာတော် ၇၄-ပါးတို့ သဘောညီတူပြဋ္ဌာန်းပိုင်းခြားထားကြသည့် ၃၄-ချက် ကျင့်ဝတ်ဥပဒေ

### (၁) ဥဘတောဝိဘင်းကို လေ့ကျက်ရမည်

ရွှေမြို့တော် ၄-ပြင်ရှိ တံဆိပ်တော် ရ-မရ တိုက်အုပ်တိုက်ချုပ်တို့မှာ မြတ်စွာဘုရားသာသနာတော် အရှည်သဖြင့် တည်ထွန်းပြန့်ပွားစေခြင်းငှါ တပည့်ပရိသတ်တို့ကို သာပတ္တိက အနာပတ္တိကစသော ဝိနည်း အဆုံးအဖြတ်နှင့်တကွ ပြသဆုံးမလောက်အောင် ဥဘတောဝိဘင်းကို လေ့ကျက်ကြရမည်။

### (၂) ဒွေမာတိကာကို နေ့စဉ်ရွတ်ရမည်

တိုက်တွင်းရှိ ရဟန်းတို့မှာ ဝိနည်းတရားတော်သည် သာသနာတော် အရှည်တည်ထွန်းခြင်းအကြောင်းဖြစ်၍ ဒွေမာတိကာများကို ဝါစုဂ္ဂတပြုပြီးလျှင် နေ့စဉ်မပြတ် ဝတ်တက် ဝတ်ကပ်ရာတို့၌ ရွတ်ဖတ်သရဇ္ဈာယ်ခြင်းကို ပြုကြရမည်။

## (၃) သာမဏေများကို ကျင့်ဝတ်များ လေ့ကျက်စေ၍ ဆုံးမကြရမည်

တိုက်တွင်းရှိ သာမဏေတို့မှာ ဆရာဖြစ်သူ တိုက်အုပ် တိုက်ချုပ်တို့က လိင်၊ ဒဏ်၊ သေခိယ၊ ဧဒ္ဒသခန္ဓကဝတ် ပါဠိအနက်များကို သင်အံလေ့ကျက်ဆောင်ရွက်စေခြင်း၊ သီလသိက္ခာပုဒ်၌ ထိန်းသိမ်းစောင့်ရှောက် လိမ်မာယဉ်ကျေးအောင် ဆုံးမခြင်းများကို ပြုစေကြရမည်။

## (၄) ရဟန်းခံထိုက်သည့် သာမဏေများကို အောက်ပါအတိုင်း ပြုစုစေရမည်

မိမိတို့တိုက်တွင်းရှိ ရဟန်းခံထိုက်သည့် သာမဏေတို့ကို ဥပသမ္ပဒကံသို့ တင်ဆောင်ကြသည့် အရာမှာ အစိဋ္ဌာန်လောက်သည့် သပိတ်သင်္ကန်းတို့ကို ရှေးဦးစွာ ပြည့်စုံစေ၍ ဥပသမ္ပဒကံ၏ အင်္ဂါလက္ခဏာတို့နှင့် ညီညွတ်အောင် ပြုလုပ်သဖြင့် ဥပသမ္ပဒကံသို့ တင်ဆောင်ပြီးသော် ဝိနည်းသိက္ခာပုဒ်တော်ကို ထိန်းသိမ်းစောင့်ရှောက်ခြင်း၌ လိမ်မာယဉ်ကျေးစေခြင်းငှာ ဒွေမာတိကာကို သတ္တိဗျတ္တိအားလျော်စွာ သင်ကြားလေ့ကျက်ဆောင်ရွက်စေ၍ နေ့စဉ်မပြတ် ဝတ်တက်ဝတ်ကပ်များတွင် ရွတ်ဖတ်သရဇ္ဈာယ်ခြင်းကို ပြုစေကြရမည်။

## (၅) သာမဏေပြုပေးသင့်သူများကို အောက်ပါအတိုင်းပြုစေရမည်

မိမိတို့တိုက်တွင်းရှိ တပည့်လူငယ်တို့ကို ရှင်သာမဏေပြုကြသည့်အရာမှာ နိဂ္ဂဟိတန္တ မှကား ရန္တ ၂-ပါးတို့တွင် တပါးပါးဖြင့် သရဏဂုံကို ပီပြင်စွာ ရွတ်ဆိုနိုင်အောင် သွန်သင်ပြသပြီး၍ ဥဘတောသုဒ္ဓိဖြစ်အောင် ရှင်သာမဏေပြုပြီးလျှင် ပစ္စဝေက္ခဏာ၊ လိင်၊ ဒဏ်၊ သေခိယ၊ ဧဒ္ဒသခန္ဓကဝတ်ပါဠိအနက်များကို သာမဏေတို့ သတ္တိဗျတ္တိအားလျော်စွာ လရက်နှင့်ရမိအောင် ကျက်စေ၍ နေ့စဉ်မပြတ် ဝတ်တက်ဝတ်ကပ်ရာတွင် ရွတ်ဖတ်သရဇ္ဈာယ်ခြင်းကို ပြုစေကြရမည်။

## (၆) ဥပုသ်ပြု၍ တရားစကား ဆွေးနွေးရမည်

သံဃာအနည်းအများ အနီးအဝေးကိုထောက်၍ ဥပုသ်ခေါင်း ခန့်ထားလျက်ရှိသည့် သံဃာတို့မှာ သံဃာလုံလောက်သည့်အရာဖြစ်လျှင် အညီအညွတ် စည်းဝေး၍ သုတ္တုဒ္ဒေသသံဃဥပုသ်၊ သံဃာမလောက်လျှင် ပါရိသုဒ္ဓိဥပုသ် တို့ကိုပြု၍ မပ္ပသာကစ္ဆာဖြစ်အောင် တရားစကားတို့ကို ဆွေးနွေးမေးမြန်း ပြောဆိုကြရမည်။

## (၇) သေခိယနှင့်ညီအောင်စားစေရမည်

တိုက်တွင်းရှိ ရဟန်းသာမဏေတို့မှာ ဆွမ်းစားသောက်သည့်အခါတို့၌ သက္ကစ္စသော အမူအရာဘို့နှင့် ပြည့်စုံစွာပြု၍ စားသောက်ခြင်းဖြစ်အောင် ဆရာပြုလုပ်သူတို့က သေခိယသိက္ခာပုဒ်တော်နှင့်အညီ သွန်သင်ပြသ အကြိမ်ကြိမ် ဆုံးမကြရမည်။

## (၈) သက်နုန်း ဝတ်တတ် ရုံတတ်အောင် ဆုံးမရမည်

မိမိတို့နေရာတိုက်တွင်းမှာသော်လည်း သင်္ကန်းဝတ်ခြင်း ရုံခြင်း သွားခြင်း လာခြင်းကို ပြုသည့်အရာတို့၌ လိမ်မာသိမြင် ဝတ်ရုံသွားလာခြင်းရှိအောင် နိဝါသနပါရုပန သိက္ခာပုဒ်တော်နှင့်အညီ သွန်သင်ပြသ အကြိမ်ကြိမ် ပြောဆိုဆုံးမကြရမည်။

## (၉) ကြည်ညိုဖွယ်ဖြစ်အောင် ဝင်ထွက်စေရမည်

မိမိတို့နေရာ တိုက်တာအရာမှထွက်၍ မြို့တွင်း ရွာတွင်းသို့ ထွက်ဝင်သွားလာသည့်အခါ၌လည်း ပရိမဏ္ဍလ သုပ္ပဋိစ္ဆန္နသိက္ခာပုဒ်တော်နှင့်အညီ အဝန်းညီစွာ ဝတ်ပြုလျှင် ဝါးပန်းကြိုး ဖွဲ့စည်းခြင်း၊ လည် ယက်ကောက်ဝတ်တို့ကို ဖုံးလွှမ်းခြင်း၊ အဝန်းညီစွာရုံခြင်း၊ ကမ္ဗက်လီးထပ်၍ အောက်သို့ချသော မျက်လွှာကို ဖြစ်စေပြီး ရှင်သာမဏေ သာရုပ္ပပါသာဒိကဖြစ်အောင် ထွက်ဝင်သွားလာခြင်းအမှုတို့ကို ပြုစေကြရမည်။

## (၁၀) ပန်ကြားပြီးမှ သွားလာစေရမည်

နံနက်အခါဖြစ်စေ၊ နေလွဲအခါဖြစ်စေ မြို့တွင်း ရွာတွင်းသို့ ဝင်သွားသည့်အခါ၌လည်း ဆရာကို ပန်ကြားရသော အာစရိယဝတ်နှင့်တကွ ဂါမပဝေသန သိက္ခာပုဒ်ရှိသည် အားလျော်စွာ ပြုသင့်ကြသည့်အတိုင်း အဆောတလျင် ပြုအပ်သော အကြောင်းမရှိလျှင် ဥပဇ္ဈာယ်တို့ကို ပန်ကြား၍ ဝင်သွားစေခြင်း၊ ဆရာဥပဇ္ဈာယ်တို့မရှိလျှင် ထင်ရှားရှိသော ရဟန်းတို့ကို ပန်ကြား၍ ဝင်သွားစေခြင်းတို့ကို ပြုစေကြရမည်။

## (၁၁) မြို့တွင်း ရွာတွင်း၌ သင်္ကန်းကို မြှောက်ပင့်မှု မပြုစေရ

မြို့တွင်း ရွာတွင်းသို့ ဝင်သွားနေထိုင်သည့်အခါလည်း ဝတ်ရုံသည့် သင်္ကန်းကို မြှောက်ပင့်၍ သွားလာနေထိုင် မရှိအောင် ဥက္ခိတ္တကာယ သိက္ခာပုဒ်တော်နှင့်အညီ ပြောဆိုဆုံးမ ဩဝါဒပေးကြရမည်။

## (၁၂) အကြောင်းမလုံလောက်ပဲ ထီးမဆောင်းစေရ

ထီးကိုဆောင်းကြသည့် အရာမှာ စီဝရကုတ္တ စသော အကျိုးကိုပြုရန် အခွင့်နှင့်တကွ သည်းခြေနာ စသော အကြောင်းမရှိပဲလျက် ထီးကိုဆောင်းမိုး၍ သွားလာခြင်းတို့မှ ကြဉ်ရှောင်ခြင်းအမှုတို့ကို ပြုစေကြရမည်။

## (၁၃) မအပ်သည့် သင်္ကန်းရောင်ကို ရှောင်စေရမည်

ဝတ်ရုံသော သင်္ကန်းများမှာလည်း မအပ်သော ဆိုးရည်ဖြင့်ဆိုး၍ မအပ်သော အရောင်အဆင်း ဖြစ်သည်ဟု သိမြင်လျှင် ထိုမအပ်သော ဆိုးရည်နှင့်တကွ မအပ်သော အရောင်အဆင်းတို့မှာ ပျောက်ကင်းစေခြင်းငှာ ဖွပ်လျှော်ပြီးလျှင် အပ်သော ကပ္ပိယဆိုးရည်ဖြင့် တဖန်ဆိုး၍ ဝတ်ရုံသုံးဆောင်ခြင်းကို ပြုစေကြရမည်။

## (၁၄) အောက်ပါတို့ကို နေ့စဉ်ရွတ်ဖတ် သရဇ္ဈာယ်ရမည်

နေ့စဉ်မပြတ် ဝတ်တက်ဝတ်ကပ်ခြင်းတို့ကို ပြုရာ၌လည်း ရဟန်းတို့မှာ ဒွေမာတိကာနှင့်တကွ ဒသမ္မေသုတ် ပရိတ်တော်၊ ဂုဏ်တော်များကို ရွတ်ဖတ်သရဇ္ဈာယ်ခြင်း၊ သာမဏေတို့မှာ ပစ္စဝေက္ခဏာ လိင် ဒဏ် သေခိယ စုဒ္ဒသခဏ္ဍကဝတ် ဒွတ္တိံသကာယ ကမ္မဋ္ဌာန်းများကို ရွတ်ဖတ်သရဇ္ဈာယ်ခြင်းအမှုကို ပြုစေရမည်။

## (၁၅) ရွှေငွေခံယူသုံးဆောင်မှု မပြုရ

ကပ္ပိယကာရကမရှိပဲ သင်္ကန်း သပိတ် ပရိက္ခရာတို့ကို ကိုယ်တိုင် လဲလှယ်ရောင်းဝယ်ခြင်း၊ ရွှေငွေအနာမာသ နိဿဂ္ဂိယဒုက္ကဋ် အကပ္ပိယဝတ္ထုတို့ကို ခံယူသုံးဆောင်ခြင်းအမှုတို့ကို မပြုမကျင့်ရအောင် တားမြစ်ပြောဆိုကြရမည်။

## (၁၆) မအပ်သည့် နိမိတ်စသည် မပြုရ

ပစ္စည်း ၄-ပါးကို အကြောင်းပြု၍ ပြည်သူ ဒါယကာ ဒါယိကာမတို့ထံ မအပ်မရာသော ဝိညတ်၊ ပရိယာယ်၊ ဩဘာ၊ နိမိတ်၊ ကုဟန၊ လပန၊ သာမန္တ ဇပ္ပန၊ ဣရိယာပထ၊ သဏ္ဌာပနစသည်တို့ကိုပြုကျင့်ခြင်း၊ ဗေဒင်ယတြာ၊ ဂါထာ မန္တန်၊ ထိုးကွင်း၊ လက်ဖွဲ့၊ ခါးလှဲ့၊ အင်းအိုင် ရွှေလုပ် ငွေလုပ်စသော သာ သနာတော်မှအပ ဗုဒ္ဓပဋိကုဋ္ဌဖြစ်သော ဗာဟိရအတတ်တို့ကို လေ့ကျင့်လုပ် ဆောင်သောအမှု၊ မဂ်ဉာဏ် ဖိုလ်ဉာဏ်မှ ဖီဆန်ရာ ဖီဆန်ကြောင်းဖြစ်သော တိရစ္ဆာနကထာစသော စကားတို့ကို ပြောဆိုခြင်းအမှုတို့ကို ပြုကျင့်ပြောဆို မရှိရအောင် ဆုံးမတားမြစ်ကြရမည်။

## (၁၇) သီချင်း၊ ဝတ္ထုများကိုရွတ် ဟော လေ့လာမှု မပြုရ

လောကီဖြစ်သော လူဘို့၏ လေ့ကျင့်အပ်သော ရတု၊ ရကန်၊ အဲအန်၊ သီ ချင်းစသည်တို့ကို ရွတ်ဖတ်ပြောဟော သရဇ္ဈာယ်ခြင်း၊ ပုံပြင် အဋ္ဌကထာ စကား ကျမ်းဂန်တို့နှင့် မစပ် မဆိုင် မခိုင် မခံ့သော ဝတ္ထုသက်သေတို့ကို လေ့လာကျက်မှတ်၍ ဇရပ်၊ တန်ဆောင်း၊ ဂူ၊ ကျောင်း၊ ဘုရား၊ ရပ်ကွက် ရပ် ကြားတို့၌ ပြောဟောခြင်းအမှုတို့ကို မပြုမကျင့်ရအောင် ဆင့်ဆို တား မြစ်ကြရမည်။

## (၁၈) ကုလဒူသက၊ အနေသနများ မပြုရ

တိုက်တွင်း ဂိုဏ်းတွင်းရှိ ရဟန်း သာမဏေတို့ကို ဘုရားခွင့်ပြုတော်မူအပ် သော အနုညာတဖြစ်သူတို့မှ တပါးသောသူတို့အား ပစ္စည်း၄-ပါးကို တောင့် တ၍ သစ်သီးပေးခြင်း၊ ပန်းပေးခြင်း၊ ဆေးကုခြင်းစသော ကုလဒူသကရှစ်ပါး၊ အနေသန နှစ်ဆယ့်တပါးတို့ကိုလည်း မပြုမကျင့်စေမူ၍ ရှောင်ကြဉ်ထိန်းသိမ်း အောင် ပြောဆိုဆုံးမကြရမည်။

## (၁၉) ဂိဟိကမ္မများ မပြုရ

အမိအဘစသော ဆွေမျိုးဖြစ်သူတို့မှတပါး အဆွေမတော်သော အညာတိ ကဖြစ်သူတို့၏ အမှုကိစ္စများသည် ရတနာ ၃-ပါးနှင့် စပ်သော အမှုမဟုတ်လျှင် မပြုသင့်သော ဂိဟိကမ္မအမှုကိစ္စဖြစ်၍ ထိုအမှုတို့ကို ရဟန်းသံဃာတို့ မပြုကျင့် ရအောင် တင်းတင်းကြပ်ကြပ် ဆုံးမတားမြစ်ကြရမည်။

## (၂၀) တိုးတွေ့၍ ဆွမ်းမခံရ

ပြည်သူဒါယကာ ဒါယိကာမတို့ ကုသိုလ်ကောင်းမှု ပြုလို၍ သံဃာ့ဒါန ဆွမ်းလောင်းသည့်အရာများမှာ လှူဒါန်းသူ ဒါယကာ ဒါယိကာမတို့ သဒ္ဓါတရား ဆုတ်ယုတ်ပျက်ပြားခြင်းမှ ကင်းလွတ်၍ သဒ္ဓါတရားတိုးပွားခြင်းဖြစ်အောင် အတိုးအတွေ့မရှိစေရ။ ရဟန်းတို့၏ မူရာအသွင်ဖြင့် ပြည့်စုံစွာသွား၍ ခံယူစေခြင်းအမှုတို့ကို ပြုကျင့်ကြအောင် သတိပေး ပြောဆိုဆုံးမကြရမည်။

## (၂၁) ခိုက်ရန်မဖြစ်ပွားရ

မိမိတို့ ထိန်းသိမ်းသည့်တိုက်တွင်း ဂိုဏ်းတွင်းရှိ ရဟန်းသာမဏေတို့အား အမှုအရာမဟုတ် ဘုရားစက်ဆုပ်တော်မူအပ်သော လူတို့ကဲ့သို့ အချင်းချင်း ခိုက်ရန်ဖြစ်ပွား၍ တုတ် လက်နက်စွဲကိုင်ရိုက်နှက်ခြင်း၊ ခက်တင်မောင်းနှင်းနှင်ဟယ်ဆိုခြင်း။ လက်သီးလက်ရုံးတန်းခြင်း အမှုတို့ကို အပြုအကျင့်မရှိရအောင် နိုင်နိုင်နင်းနင်း ဆင့်ဆိုတားမြစ်ကြရမည်။

## (၂၂) မအပ်သောတောင်းခြင်းဖြင့် မတောင်းရ

မိမိတို့မှာ ပြုလုပ်ရန် န၀ကမ္မအမှုရှိလျှင် မိမိတို့အဆွေတော်သော ဉာတိကဖြစ်သူနှင့် အလိုရှိလျှင် တောင်းတော်မူပါဟု ဖိတ်မန်ဘူးသော ပ၀ါရိကဖြစ်သူတို့မှတပါး မင်းမှူးမတ်တို့နှင့်တကွ ပြည်သူစသော အဉာတိက အပ၀ါရိကဖြစ်သူတို့ထံ သွားလာချဉ်းကပ်၍ ရဟန်းတို့နှင့်မအပ်သော ရွှေငွေ အနာမာသနိဿဂ္ဂိယဝတ္ထု၊ ဖျင်ပုဆိုးစသော ကပ္ပိယဝတ္ထု၊ ပုလဲ ပတ္တမြားစသော ဒုက္ကဋ်ဝတ္ထုတို့ကို မအပ်သောတောင်းခြင်းဖြင့် အတောင်းအခံ မရှိရအောင် ဆရာဖြစ်သူတို့က တင်းတင်းကြပ်ကြပ် ဆင့်ဆိုတားမြစ်ကြရမည်။

## (၂၃) သိတင်းကြီးများကို ရိုသေရမည်

အရာမ်တွင်း အရာမ်ပဖြစ်သော အရပ်ခပ်သိမ်းတို့၌ မိမိထက် သိက္ခာ၀ါကြီးသော သိတင်းကြီးပုဂ္ဂိုလ်တို့ကို တွေ့မြင်ရှိလျှင် ရိုသေစွာရှောင်လွှဲ၍ ခရီးပေးခြင်းစသော ရိုသေကျိုးနွံအောင် ကောင်းမွန်သော အခြင်းအရာတို့ကိုပြု၍ သွားလာစေခြင်းအမှုတို့ကို ပြုကျင့်စေရမည်။

## (၂၄) သန္နိဓိ မဖြစ်စေရ

ယမန်နေ့က အကပ်ခံအပ်ပြီးသော ကွမ်း ဆေး စသည်တို့ကို ယနေ့အကပ်ခံသော ယာဝကာလိက၊ ယာမကာလိက ၂-ပါးတို့နှင့် ရောနှော၍ သုံးဆောင်ကြလျှင် သန္နိဓိဖြစ်ရသောကြောင့် ထိုသန္နိဓိအဖြစ်မှ လွတ်ကင်းစေခြင်းငှာ သန္နိဓိဖြစ်သင့်သော ကာလိကတို့နှင့် အရောအနှောမရှိစေရ၊ သန့်ရှင်းစင်ကြယ်စွာပြု၍ သုံးဆောင်ကြရမည်။

## (၂၅) အကျိုးမဲ့ အချိန်မဖြုန်းရ

နေ့ညဉ့်မဆို မြို့တွင်းရွာတွင်းများသို့ လှည့်လည်သွားလာပြီးလျှင် ဝိနည်းသိက္ခာပုဒ်တော်နှင့်မညီလျော်၊ လူတို့နှင့်ရောနှောပြွမ်းတီးလျက် စကားပြောဟောခြင်းစသည်တို့ကို ပြုသဖြင့် နေ့ရက်ကုန်စေခြင်း၊ သင်္ဃကာရာမ ကမ္မာရာမစသော အကြောင်းတို့ဖြင့် ပေါင်းသင်းဆက်ဆံ ပျော်မွေ့လိုသည်ဖြစ်၍ တတိုက်မှသည် တတိုက် တကျောင်းမှသည် တကျောင်းသို့ သွားလာခြင်းအမှုတို့ကို မပြုမကျင့်စေရ။ မြတ်စွာဘုရား အလိုတော်ရှိအပ်သော ဂန္ထဓုရ၊ ဝိပဿနာဓုရ တရား ၂-ပါးတို့ကိုသာ အားထုတ်ကျင့်ကြံ နေတိုင်ကြအောင် တိုက်တွင်း ဂိုဏ်းတွင်းရှိ ရဟန်းသာမဏေတို့ကို ပြောဆို ဆုံးမကြရမည်။

## (၂၆) အာဂန္တုကဝတ်နှင့် ပြည့်စုံစေရမည်

သူတပါးတို့၏ တိုက်တာအာရာမ်များသို့ ဝင်သွားမည့်အခါလည်း ဖိနပ်ရုပ်ခြင်း၊ ထီးရုပ်ခြင်း၊ သင်္ကန်းကို ညီညွတ်ကောင်းမွန်စွာပြုလျက် လက်ကတော့ထိုးခြင်းစသော အာဂန္တုကပုဂ္ဂိုလ်တို့ ပြုရသောဝတ်နှင့် ပြည့်စုံစွာ ပြုလုပ်ပြီးမှ ဝင်သွားရှိကြအောင် ဆရာဖြစ်သူတို့က သွန်သင်ပြသ ပြောဟောကြရမည်။

## (၂၇) ပလ္လာသွားရန် ကျွဲနွားလှည်းများဖြင့် မသွားလာရ

မိမိတို့တိုက်အတွင်း မိမိတို့ကိုယ်နှင့်တကွ တိုက်တွင်းရှိ ကျောင်းနေပုဂ္ဂိုလ်တို့မှာ ကျွဲ နွားများကို မွေးထားပြီးလျှင် ၎င်းမွေးထားသည့် ကျွဲနွားတို့နှင့်တကွ သူတပါးတို့ထံမှ ငှားရမ်းသော ကျွဲနွားတို့ကို လှည်း၌ ကသဖြင့် ဂိလာနအကြောင်းကိုကြည့်လျက် ပျော်ရွှင်မြူးထူး ပလ္လာသွားလိုသော စိတ်ရှိသည်ဖြစ်၍ ထိုမှဤမှ သွားလာခြင်းမရှိစေရ ရှောင်ကြဉ်ကြရမည်။

## (၂၈) လှေလှော်ငင်းများဖြင့် ပလွှားမြူးထူးမှု မပြုရ

မြစ်ချောင်း ကမ်းနားတွင် နေထိုင်ကြသော ရဟန်းသာမဏေတို့မှာလည်း မြူးထူးပျော်ပါး ကစားလိုသောစိတ်ဖြင့် မြစ်ရိုး ချောင်းရိုးများ၌ လှေလှော်ငင်းများကို လူတို့ကဲ့သို့ ပလွှားခြင်းကိုပြု၍ လှော်သွားစုန်ဆန် ကူးသန်းမရှိစေရ၊ ဆရာဖြစ်သူတို့နှင့်တကွ ရှောင်ကြဉ် ထိန်းသိမ်းကြရမည်။

## (၂၉) ပြိုင်ပွဲ၊ ပြပွဲကြည့်ခြင်းနှင့် လောင်းစားခြင်း မပြုရ

သာသနာတော်၏ ပြောင့်တံသင်းသဖွယ်ဖြစ်၍ ရဟန်းသာမဏေတို့နှင့် မလျော်မလျောက်ပတ်သည့် လှေပွဲ ဆင်ပွဲ မြင်းပွဲသဘင် ပျော်ရွှင်မြူးထူး ပြိုင်ဆိုင်ရာအရပ်သို့ သွားလာကြည့်ရှု နေထိုင်ခြင်း၊ ဆိုင်း ဇာတ်ရုပ်စုံပွဲသဘင်မှ စ၍ အငြိမ့်ရုပ်ပွဲသဘင်များကို မိမိတို့က ကာယပယောဂ ဝစီပယောဂပြု၍ အတီးအမှုတ် အကြည့်အရှုမရှိ ဟောင့်ရမ်း သော့သွမ်းသူ လူတို့အလေ့အလာ ဖြစ်သော ကစား လောင်းစားမှုများကိုလည်း မပြုမလုပ်စေရအောင် တင်းတင်း ကြပ်ကြပ် ဆင့်ဆိုတားမြစ်ကြရမည်။

## (၃၀) ပြောက်ဖောက်၊ မီးပန်းလွှတ် စသည်မပြုရ

ဒုံးရှို့ ပြောက်ခွဲ မီးပန်း မီးကျည် မီးအိမ်ပျံ စသည်တို့ကို ပြုလုပ်၍ ရှို့ခြင်း၊ လွှတ်ခြင်း အမှုတို့သည် ရဟန်းသာမဏေတို့နှင့် မလျောက်ပတ်သော အသာရုပ္ပအမှုဖြစ်၍ ထိုအမှုတို့ကို မပြုမကျင့်စေခြင်းငှာ ရဟန်းသာမဏေတို့ကို တင်းတင်းကြပ်ကြပ် ဆင့်ဆိုတားမြစ်ကြရမည်။

## (၃၁) ဈေးများတွင် တိုးဝှေ့ မှု မပြုရ

မြို့တွင်း မြို့ပြင် ရွာတွင်း ရွာပြင်တို့၌ ရောင်းဝယ် ဖောက်ကားရာဖြစ်သော ဈေးပြင်ကန္တားရပ်တို့သည် ယောက်ျား မိန်းမတို့ ပြွမ်းတီးရောနှောရာ အရပ်ဖြစ်၍ ရဟန်းသာမဏေတို့ သွားလာခြင်းငှာ လျောက်ပတ်သော အရပ်မဟုတ်သောကြောင့် ထိုအရပ်သို့ လှည့်လည်သွားလာ ကြည့်ရှုတိုးဝှေ့ခြင်း မရှိရအောင် ရဟန်းသာမဏေတို့ကို တရားလမ်းပြ၍ ဆုံးမဩဝါဒ ပေးကြရမည်။

## (၃၂) ခိုးသူစသည်ကို ရဟန်းပြုမပေးရ

မင်းကျွန်ဖြစ်သူ၊ ခိုးသူဒမြဖြစ်သူ၊ သူပုန်သူကန်ဖြစ်သူ၊ သူဘပါးတို့ ကြွေးမြီတင်ရှိသောသူ၊ အမိအဘတို့ ခွင့်မလွှတ်သော သူတို့သည် ချမ်းသာရာရလို

သည်ဖြစ်၍ ရဟန်းသာမဏေ ပြုလုပ်ခြင်းငှာ မိမိတို့ထံသို့ ခိုဝင်လျက် ထိုသူတို့ကို အစိုးရပြုလုပ်၍ ရဟန်းသာမဏေပြုခြင်းမှ ကြဉ်ရှောင်ခြင်း ပြုလုပ်လိုလျှင် ထိုသူတို့ကို အစိုးရသောသူတို့ထံ စေလွှတ်သဖြင့် အနူးအညွတ် တိုင်ကြားခွင့်ပန်စေ၍ အခွင့်ကိုရမှ ပြုကြရမည်။

## (၃၃) လောလုပ္ပတဏှာဖြင့် ပံသုကူမကောက်ရ

ရဟန်းသာမဏေတို့သည် ကျွဲသေ နွားသေများကို တွေ့မြင်လျှင် ပံသုကူလ သညာဖြင့် ကောက်ယူခြင်း၌ ဝိနည်းအပြစ်မရှိသော်လည်း လျှပ်ပေါ်လော်လည်ခြင်းဟူသော လောလုပ္ပတဏှာဖြင့် ဘဏ္ဍာနကာရကစသည် မဖြစ်စေခြင်းငှာ အကောက်အယူမရှိ ရှောင်ကြဉ်ကြရမည်။

## (၃၄-က) ဓမ္မသာကစ္ဆာအမှု ပြုရမည်

ပဋိပတ္တိဓမ္မကို ကြိုးစားအားထုတ်သည့် ရဟန်းမှတပါး ပရိယတ္တိဓမ္မကို အားထုတ်သည့် ရဟန်းသာမဏေတို့မှာ ဆရာဖြစ်သူတို့က သင်းကြားကာမတ္တ မဖြစ်စေရ။ သဒ္ဒနယ အဋ္ဌနယနှင့်တကွ အနက်အဓိပ္ပာယ်တို့ကို သိမြင်လိမ္မာအောင် ရှက်ဆောင်စေ၍ လျှောက်ပတ်သည့်အခါ၌ ရင်းသင်ကြားသည့် ကျမ်းဂန်များကို ဓမ္မသာကစ္ဆာဖြစ်အောင် အချင်းချင်း ဆွေးနွေးမေးမြန်းစေရမည်။

## (၃၄-ခ) သီလဝိသုဒ္ဓိဖြစ်အောင် ဆုံးမရမည်

ပဋိပတ္တိဓမ္မကို အားထုတ်ကျင့်ဆောင်လိုသော ရဟန်းသာမဏေတို့ကို ဆရာဖြစ်သူ ကျမ်းဂန်အရာ လိမ္မာနားလည်သည့် ပုဂ္ဂိုလ်တို့က သီလဝိသုဒ္ဓိဖြစ်အောင် ပါတိမောက္ခ သံဝရသီလ ပြည့်စုံရသော ကျင့်ဆောင်အပ်သည့်နည်း သဘောအဓိပ္ပာယ် အယူဝါဒများနှင့်တကွ ဣန္ဒြိယသံဝရသီလ၊ အာဇီဝပါရိသုဒ္ဓိသီလ၊ ပစ္စယသန္နိဿိတသီလ ပြည့်စုံရသော ဩဝါဒဓမ္မကထာ စိတ္တသမာဓိဖြစ်အောင် အားထုတ်ရသော နည်းများကို မှတ်သားလေ့လာစေ၍ ယထာဓမ္မ ယထာဝိနယဖြစ်အောင် ပြသဆုံးမ ကျင့်ဆောင်စေရမည်။

## ၃၄-ချက်ကို ထပ်မံတိုးဖြည့်၍ ထုတ်ပြန်သည့်အမိန့်တော်
## (၁၂၄၆-ခုနှစ်တွင် ထုတ်ပြန်သည်)

၁၂၄၅-ခုနှစ် ပေးအပ်ဆင့်ဆိုသည့် ၃၄-ချက် ဥပဒေပါအချက်၊ ၎င်း ၃၄-ချက် ဥပဒေပါအချက်များတွင် တိုးတက်ထပ်လောင်း၍ ဆင့်ဆိုရန် အချက်များနှင့် သာသနာတော် ဆုတ်ယုတ်ညှိုးနွမ်းကြောင်း အမှုများကို ပြုလုပ်မှု မရှိစေခြင်း ရွှေပြည်တော်မှစ၍ နိုင်ငံတော်အတွင်း ဆင့်ဆိုသည့်အမိန့်တော်။

(၂—မှတ်) ရွှေပြည်တော်မှစ၍ နိုင်ငံတော်အတွင်း သီတင်းသုံး နေထိုင်ကြသည့် ရွှေမြို့တော် ၄-ပြင် ဆရာတော် တိုက်အုပ်၊ နိုင်ငံတော်ရှိ ဂိုဏ်းအုပ်၊ ဂိုဏ်းထောက်ပုဂ္ဂိုလ်တို့ ဘုရားသာသနာတော်သည် ပရိယတ္တိမြေ ပွင့်လင်းထွန်းတောက်လျက်ရှိမှ ပဋိပတ္တိဖြစ်သည့် ကျင့်ဝတ်သိက္ခာပုဒ်များကို ပြည့်စုံအောင် ကျင့်သုံးစောင့်ရှောက်နိုင်လိုသဖြင့် နေဝန်း လဝန်းအလား တနေ့တခြား တိုးပွား ထွန်းလင်းတောက်ပလျက် ဆုတ်ယုတ်ပျက်ပြားမရှိ အဓွန့်ရှည်စွာ တည်တံ့ခိုင်ခံ့ ကောင်းမွန်ရာသော အကြောင်းရှိသည့်အတိုင်း သာသနာတော်တွင် ခိုဝင်ထမ်းဆောင်နေထိုင်ကြသော ရဟန်းသာမဏေတို့လည်း ကပ္ပိယ၊ အကပ္ပိယ၊ သာဝဇ္ဇ၊ အနဝဇ္ဇ၊ အာပတ္တိက၊ အနာပတ္တိကစသည့်အရာများကို သိကျွမ်း နားလည်ရှိအောင် သင်ကြားလေ့ကျက် ကြည့်ရှုနိုင်းချိန်၍ ဝိနည်းသဘောလက္ခဏာကို သိမြင်သည့်အတိုင်း စောင့်ရှောက်ကျင့်သုံးမှသာလျှင် ဘုရားရှင် အာဏာတော်ပညတ် ဝိနည်းသိက္ခာပုဒ် မပျက်မပြား သီလသိက္ခာ ပြည့်စုံ သန့်ရှင်း စင်ကြယ် သာသနာတော် ၃-ပါး စည်ကားဖြစ်ထွန်း တိုးတက်အရှည် တည်တံ့ခိုင်ခံ့ရာသည် ဖြစ်သည်။

ဝိနည်း သိက္ခာပုဒ် ဘုရားအာဏာ ပညတ်တော် မပျက်မပြား သီလသိက္ခာ ပြည့်စုံသန့်ရှင်း စင်ကြယ် သာသနာတော် ၃-ပါး စည်ကားဖြစ်ထွန်း တိုးတက် တည်တံ့ခိုင်ခံ့စေရန် ရွှေပြည်တော်မှစ၍ နိုင်ငံတော်အတွင်း သီတင်းသုံး နေထိုင်ကြသည့် ဆရာတော် တိုက်အုပ် တိုက်တွင်းရှိသံဃာ ဂိုဏ်းအုပ် ဂိုဏ်းထောက် ဂိုဏ်းတွင်းရှိ သံဃာတို့မှာ ၁၂၄၅-ခုနှစ် ဆင့်ဆိုပေးအပ်သည့်စာအုပ် ဥပဒေပါဝင်သည့်ဆင့်ဆိုကျင့်ကြံနေထိုင်ရန်အချက်များတွင် ၁၂၄၆-ခုနှစ် တိုးတက်ထည့်လောင်း ဆင့်ဆိုကျင့်ကြံနေထိုင်ရန် ဥပဒေပါအချက် ဝိနည်းသိက္ခာပုဒ်များနှင့် မသင့်မလျော် ရဟန်းတို့မှာ သာရုပ္ပမဖြစ်သည့် သာသနာတော် ဆုတ်ယုတ်ညှိုးနွမ်း ပျက်ပြားကြောင်းဖြစ်သည့် အမှုများကို သိလျက် အပြုအလုပ်မရှိ သီလသိက္ခာပုဒ် ပြည့်စုံသန့်ရှင်း စင်ကြယ်ကြောင်းဖြစ်သည့် ကျင့်ဝတ်သီလများကို မိမိတို့က သာသနာတော် ၃-ပါး စည်ကားဖြစ်ထွန်း တိုးတက်အရှည်တည်တံ့

ခိုင်ခံ့ရှိအောင် ကျင့်ဆောင်ထိန်းသိမ်းကြ၍ အသီးသီး မိမိတို့တိုက်တွင်းရှိ သံဃာ၊ ဂိုဏ်းတွင်းရှိ သံဃာတို့ကို လစ်လပ်ကြွင်းကျန်မရှိစေရ၊ စေ့ရှိအောင် ဆင့်ဆို ကျင့်ဆောင် ထိန်းသိမ်းကြစေ။ ဆင့်ဆိုသည်ကို မတည် ၁၂၄၅-ခုနှစ် ဥပဒေပါ အချက်၊ ၁၂၄၆-ခုနှစ် ဥပဒေပါအချက်များနှင့် ဘုရားသာသနာတော် ဆုတ်ယုတ် ညှိုးနွမ်း ပျက်ပျားကြောင်း ဖြစ်သည့် အမှုများကို သိလျက် လွန်ကျူး ပြုလုပ်လျက်ရှိကြောင်း ပေါ်ပေါက်ကြားသိလျှင် အပြစ်အလျောက် စီရင်မည်။

၁၂၄၅-ခုနှစ် ဆင့်ဆိုပေးအပ်သည့် ဥပဒေစာအုပ်တွင် ပါဝင်ဆင့်ဆို ကျင့်ကြံနေထိုင်ရန် ဥပဒေ ၃၄-ချက်တွင် အကျုံးဝင်သည့်အချက်များနှင့် ၁၂၄၆-ခုနှစ် ထပ်မံတိုးတက် ဆင့်ဆိုပေးအပ်သည့် ဥပဒေ

(၁) ရွှေမြို့တော်မှစ၍ နိုင်ငံတော်အတွင်း သီတင်းသုံး နေထိုင်ကြသည့် ဆရာတော် တိုက်နေသံဃာ ဂိုဏ်းအုပ် ဂိုဏ်းထောက် ဂိုဏ်းသံဃာတို့မှာ ဂိလာန အကြောင်းမရှိပဲ အနည်းငယ် ပမာဏ မပြုလောက်သည်ကို အမြွက်ထောင်ထား၍ လှည်းယာဉ် လှည်းရထားကို စီးနင်း သွားလာခြင်းမရှိ ရှောင်ကြဉ်ကြရမည်။

(၂) ရွှေမြို့တော်မှစ၍ နိုင်ငံတော်အတွင်း သီတင်းသုံး နေထိုင်ကြသည့် သံဃာတို့မှာ သက်န်း သပိတ် ပရိက္ခရာ အစရှိသော ကပ္ပိယဝတ္ထုနှင့်ပင် ဖြစ်သော်လည်း ဘုရားစက်ဆုပ်တော်မူသည့် လယ်ယာသစ်သီးအရာမ် ပန်းအရာမ် စသည်များကို ရဟန်းတို့အား မအပ်မလျော်သော အကပ္ပိယ ဝေါဟာရဖြင့် မိမိတို့ထံ ပေါင်နှံခံယူခြင်း၊ သူကပါတို့ထံ ပေါင်နှံခြင်း၊ လူဘိုကဲ့သို့ မကောင်းသဖြင့် လုပ်ဆောင်ချသားခြင်းမရှိ ရှောင်ကြဉ်ကြရမည်။

(၃) နိုင်ငံတော်အတွင်း သီတင်းသုံး နေထိုင်ကြသည့် သံဃာတို့မှာ ကပ္ပိယ ဝေါဟာရဖြင့် ရသော ရွှေ ငွေ အနာမာသ နိဿဂ္ဂိယ ဒုက္ကဋ်ဝတ္ထုတို့ကို လိမ်မာကျွမ်းကျင်သော ကပ္ပိယကာရကတို့အား ဒုဗ္ဗိစာရမှ ကင်းလွတ်အောင် စီရင် ပြောကြား၍ သုံးဆောင်ခြင်းကို ပြုကြရမည်။

(၄) နိုင်ငံတော်အတွင်း သီတင်းသုံး နေထိုင်ကြသည့် သံဃာတို့မှာ ဘုရားစက်ဆုပ်တော်မူအပ်သော ရွှေ ငွေ အနာမာသ နိဿဂ္ဂိယ ဆန် စပါး အစရှိသော အကပ္ပိယပစ္စည်းများကို လူတို့ကဲ့သို့ ကပ္ပိယကာရကတို့ အလိုအလျောက် မပြုပဲ မိမိတို့၏ မအပ်သော ပယောဂဖြင့် ကြွေးမြီအတိုးအပွား ပေးချမရှိ ရှောင်ကြဉ်ကြရမည်။

(၅) နိုင်ငံတော်အတွင်း သီတင်းသုံးနေထိုင်ကြသည့် သံဃာတို့မှာ မင်္ဂလာ အမင်္ဂလာ အမှုနှင့်စပ်၍ တိုက်တွင်းတိုက်ပများမှ ကာယပယောဂ ဝစီပယောဂ မကင်း ကိုယ်တိုင် ကိုယ်ကြုပ် အားထုတ်လျက် အတီး အက အဆို အပြော စသော သဘင်နှင့်စပ်သော ပွဲလမ်းများကို အပြုအလုပ်မရှိ ရှောင်ကြဉ်ခြင်း၊ လူတို့အလျောက် ပွဲလမ်းခံသည်များကို သွားလာကြည့်ရှု တုတ်ခေါး စွဲကိုင် ပြုလုပ်ခြင်းအမှုများကို ရှောင်ကြဉ်ကြရမည်။

(၆) နိုင်ငံတော်အတွင်း သီတင်းသုံးနေထိုင်ကြသည့် သံဃာတို့မှာ အာပတ် ကြီးငယ်နှင့် စပ်လျဉ်းသည့် အမှုဖြစ်စေ၊ မစပ်လျဉ်းသည့် အမှုဖြစ်စေ သမ္ဘောဂမဖြစ်။ အာပတ်သင့်ခြင်းအကြောင်းမဟုတ်သော ဆွမ်းစဉ် ဆွမ်းစား ပရိတ်ရွတ် အသုဘရှု စသည်တို့၌ ဒါယကာ၊ ဒါယိကာမတို့ သဒ္ဓါတရား ဆုတ်ယုတ်ပျက်စီးခြင်းအကြောင်း တဦးနှင့်တဦး အရှိန်အစော်မဲ့ပြု၍ ကြဉ် ရှောင် တားမြစ်ပိတ်ပင်ခြင်းများသည် သံဃဘေဒ၊ သံဃရာဇီ၊ သံဃအဓိကရဏ ဖြစ်ပွားရန် အကြောင်းရှိသည်ဖြစ်၍ တားမြစ်ပိတ်ပင် ကြဉ်ရှောင်ခြင်း မရှိ စေရ။ အစိုးရဂိုဏ်းအုပ် ဂိုဏ်းထောက်တို့က နိုင်နင်းအောင် ဆုံးမတားမြစ်ကြ ရမည်။

(၇) နိုင်ငံတော်အတွင်း သီတင်းသုံးနေထိုင်ကြသည့် သံဃာတို့မှာ ရန်ငြိုး မုန်းထားခြင်း၊ ငြူစူစောင်းမြောင်းချုပ်ချယ်ခြင်းဟူသော ဒေါသအာဃာတ အစွမ်းဖြင့် တစုံတခုကို အမြွက်ထောင်၍ ဥပုသ်ပဝါရဏာစသော သံဃာ့ကံ များကို ကြဉ်ရှောင်တားမြစ်ပိတ်ပင်ခြင်း အမှုများသည် သံဃာကွဲပြားခြင်း အကြောင်းဖြစ်သောကြောင့် ကြဉ်ရှောင်သင့်သည့်အရာဟုထင်မှတ်ခြင်း ရှိလျှင် သော်လည်း အထက်အစိုးရတို့ထံ တိုင်တန်းလျှောက်ထားမရှိမီ အလိုအလျောက် ကြဉ်ရှောင်တားမြစ်ပိတ်ပင် မရှိစေရ။ အထက်အစိုးရတို့ထံ တိုင်တန်းလျှောက် ထား အမှုအင်ကို ထောက်ရှုဆင့်ဆိုခွင့် ပေးသင့်သည့်အရာဖြစ်၍ ဆင့်ဆိုခွင့်ပေး ရှိမှ ကြဉ်ရှောင်တားမြစ်ကြရမည်။

(၈) နိုင်ငံတော်ရှိ နိဿရည်း မကင်းထိုက်သော ရဟန်းသာမဏေတို့မှာ မိမိတို့ဥပဇ္ဈာယ်ဆရာ နိဿရည်းဆရာတို့သည် အတူနေရာကျောင်းတိုက်မှ အရပ် တပါး ဖဲသွားသော်ငြား၊ သေသော်ငြား၊ လူထွက်သော်ငြား၊ တိတ္ထိဘောင်သို့ ပြေးဝင်သော်ငြား မိမိတို့နေရာ ကျောင်းတိုက်၌ နိဿရည်းပေးသော ဆရာ ရှိလျှင် ထိုဆရာထံ နိဿရည်းယူ၍ နေကြစေရမည်။ နိဿရည်းပေးသောပုဂ္ဂိုလ် မရှိလျှင် တိုက်ချုပ် တိုက်အုပ်တို့က မိမိတို့ ကိုယ်တိုင်ဖြစ်စေ၊ နိဿရည်းပေး ခြင်းငှာ စွမ်းနိုင်သော လဇ္ဇီပေသလ သိက္ခာကာမပုဂ္ဂိုလ်တို့ထံဖြစ်စေ နိဿရည်း ယူ၍ နေကြရမည်။

(၉) နိုင်ငံတော်အတွင်း သီတင်းသုံးနေထိုင်ကြသည့် ရဟန်းသာမဏေတို့အား ဓမ္မမဟုတ်သည်ကို ဓမ္မဟူ၍ ပြဆိုဟောပြောခြင်း၊ ဓမ္မကို ဓမ္မမဟုတ်ဟူ၍ ပြဆိုဟောပြောခြင်း အစရှိသော တဆယ့်ရှစ်ပါးသော သံဃဘေဒကရဝတ္ထုများကို ပြဆိုဟောပြောခြင်းသည် သံဃာကွဲပြားခြင်း အကြောင်းဖြစ်သည်။ တိုက်ချုပ် တိုက်အုပ် ဂိုဏ်းအုပ် ဂိုဏ်းထောက်တို့က မိမိတို့ကိုယ်နှင့်တကွ ချုပ်အုပ်ကြည့်ရှုစုပါတိုက်တာဂိုဏ်းဝင် ရဟန်းသာမဏေတို့ကို ပြဆိုဟောပြောမပြုစေရ။ လွတ်ကင်းအောင် တင်းတင်းကြပ်ကြပ် ဆင့်ဆိုတားမြစ်ကြရမည်။

## ၁၂၄၇-ခုနှစ် ဆင့်ဆိုသည့်အမိန့်တော်

(၃—မှတ်)။ ။နေပြည်တော်မှစ၍ နိုင်ငံတော်အတွင်း သီတင်းသုံးနေထိုင်ကြသည့် ရွှေမြို့တော် ၄—ပြင်ရှိ တံဆိပ်တော် ရ-မရ တိုက်အုပ် တိုက်ကြပ်တို့နှင့် နိုင်ငံတော်ရှိ ဂိုဏ်းချုပ် ဂိုဏ်းအုပ် ဂိုဏ်းထောက်ပုဂ္ဂိုလ်တို့ မြတ်စွာဘုရားသာသနာတော်ဆိုသည့်အရာသည် ပရိယတ္တိ သာသနာတော်ဖြစ်ထွန်းစည်ကားတိုးပွားရှိမှ ပဋိပတ္တိ ကျင့်ဝတ်သိက္ခာပုဒ်များကို ကောင်းမွန် ပြည့်စုံအောင်ကျင့်ဆောင်နိုင်ရာသည်။ ပဋိပတ္တိသာသနာတော်ပြည့်စုံပွင့်လင်း ကောင်းမွန်ရှိမှလည်း ပဋိဝေဓဟူသော မဂ်ဖိုလ်တရားတို့နှင့် ပြည့်စုံရာသည်ဖြစ်သည်။ ငါတို့သာသနာ့ဒါယကာ မဟာဓမ္မရာဇ်တရားမင်းမြတ်သည်လည်း သာသနာပြုမင်းကောင်းမင်းမြတ် ဖြစ်တော်မူသည်နှင့်အညီ သာသနာတော်သုံးပါးပွင့်လင်း စည်ကားတိုးတက်ခြင်းများကို လွန်မင်းစွာ တောင့်တတော်မူသောမနောပဏိဓိရှိတော်မူသည်နှင့်အညီ ရှေးရှေးသော သာသနာပြု မင်းကောင်းမင်းမြတ်တို့ကဲ့သို့ သာသနာတော်မြတ်ကို ပစ္စယာနုဂ္ဂဟ ဓမ္မာနုဂ္ဂဟ နှစ်ပါးတို့ဖြင့် ချီးမြှောက်တော်မူ၍ သာသနာတော်၏ စင်ကြယ်သန့်ရှင်း ထွန်းလင်းတောက်ပခြင်း အရှည်တည်တံ့ခိုင်ခံ့စေခြင်းငှာ သာသနာတော်ကို ဓမ္မစကြ်အာဏာစက် ၂—ပါးတို့ဖြင့် အားထုတ်ကြည့်ရှုပါမည့်အကြောင်းနှင့် မပြတ်နှိုးဆော် တောင်းပန်တော်မူသည့် အရာလည်း ရှိသည်ဖြစ်သည်။ သို့ဖြစ်၍ ရွှေမြို့တော် ၄-ပြင်ရှိ တံဆိပ်တော် ရ-မရ တိုက်အုပ် တိုက်ကြပ်တို့နှင့် နိုင်ငံတော်ရှိ ဂိုဏ်းချုပ် ဂိုဏ်းအုပ် ဂိုဏ်းထောက်တို့မှာ မိမိတို့ စောင့်ထိန်းကျင့်ဆောင်အားထုတ်သင့်သည့် ဥပဒေပါအချက်များနှင့် ဝိနည်းသိက္ခာပုဒ်တော်များကိုပြည့်စုံကောင်းမွန်ရှိအောင် စောင့်ထိန်းကျင့်ဆောင်ကြ၍ အုပ်ထိန်းကြည့်ရှုစုပါတိုက်တွင်းရှိ ရဟန်းသာမဏေ၊ ဂိုဏ်းတွင်းရှိ ရဟန်းသာမဏေတို့ကို ၁၂၄၅—ခုနှစ် တံဆိပ်တော်ရဆရာတော်တို့နှင့် စုံညီညှိနှိုင်း ဝိနည်းကျမ်းဂန်များနှင့်သင့်လျော်အောင် စောင့်ထိန်း ကျင့်ဆောင်ရန် ဖောက်ပြားချွတ်ယွင်းလွယ်သည့် အရာများကို ပိုင်းခြားပေးအပ် ဆင့်ဆိုသည့် ၃၄—ချက် ဥပဒေ၊ ၁၂၄၆

ခုနှစ် ထပ်မံဆင့်ဆို ပေးအပ်သည့် ၉-ချက်ဥပဒေပါ အချက်များနှင့် ၁၂၄၇ ခုနှစ် ထပ်မံဆင့်ဆိုရန် ဥာဒေအရပ်ရပ် ဆင့်ဆိုရှိသည့် အမိန့်တော်ပါ အချက်များကို ရွှေမြို့တော် ၄-ပြင်ရှိ တံဆိပ်တော်ရ-မရ တိုက်အုပ်၊ တိုက်ကြပ်၊ နိုင်ငံတော်ရှိ ဂိုဏ်းချုပ်၊ ဂိုဏ်းအုပ်၊ ဂိုဏ်းထောက်တို့က လစ်လပ်ကြွင်းကျန် မရှိစေရ။ အထူးအာ.ထုတ် စောင့်ထိန်းကျင့်ဆောင်ရှိအောင် တင်းတင်းကြပ်ကြပ် နှိုးဆော်ချီပင့် တားမြစ်ဆင့်ဆိုကြရမည်။ နောင် ဆင့်ဆိုသည်ကို လေးစားမမူ အာပွေါ်သုက္က ကြောင့်ကြမဲ့သာ နေထိုင်၍ အုပ်ထိန်းကြည့်စုပါ တိုက်ဘာ ဂိုဏ်းအတွင်းများက တစုံဘရာမှုခင်းဖြစ်ပွားပေါ်ပေါက် ကြားသိရလျှင် ထင်ရှားအောင် အပြစ်စီရင်မည်။

### ၁၂၄၇-ခု၊ ဒုတိယဝါဆိုလဆန်း ၈-ရက်နေ့ သုဓမ္မာဇရပ်တော်တွင် တံဆိပ်တော်ရ ဆရာတော်ကြီးတို့ စုံညီ ဆင့်ဆိုတော်မူသည့် သာသနာပိုင်ဆရာတော်ဘုရားကြီး အမိန့်တော်

(၁) သာသနာတော်အတွင်း မှီတင်းနေထိုင်ကြသည့် ရဟန်းသာမဏေတို့မှာ ပရိယတ္တိသာသနာတော် ဖြစ်ထွန်းစည်ကားရှိ၍ ပဋိပတ္တိ၊ ပဋိဝေဓဟူသော သာသနာတော် ၂-ပါး ဖြစ်ထွန်းစည်ကားသည်ဖြစ်၍ ပရိယတ္တိသာသနာတော် ဖြစ်ထွန်းစည်ကား တိုးတက်ရှိအောင် တံဆိပ်တော်ရ-မရ တိုက်အုပ်၊ တိုက်ကြပ် ဆရာဖြစ်သူတို့က အထူးအားထုတ်နှိုးဆော်ချီးပင့် ကျမ်းဂန်ပို့ချ သင်ကြားဆောင်ရွက် ပြုလုပ်စေကြရမည်။

(၂) သာသနာတော်အတွင်း မှီတင်းနေထိုင်ကြသည့် ရဟန်း သာမဏေတို့မှာ စာပေပို့ချ သင်ကြားလေ့ကျက် ဆောင်ရွက်ခလှလာခြင်းမရှိ၊ လှည့်လည်သွားလာ နေထိုင်ခြင်းအမှုများသည် သာသနာတော် စည်ပင်ပြန့်ပွားခြင်းမရှိ၊ ၎င်းရဟန်း သာမဏေတို့ကို အတုလိုက်စား သာသနာတော် ဆုတ်ယုတ်ရာသော အကြောင်းရှိသည် ဖြစ်သည်။ ၎င်းစာပေပို့ချ သင်ကြားဆောင်ရွက်ခြင်း မရှိသည့် ရဟန်း သာမဏေတို့ကို လက်ခံမွေးထား မရှိစေရ၊ ကြပ်ကြပ်တည်းတည်း ဆင့်ဆိုတားမြစ်ကြရမည်။

(၃) သာသနာတော်အတွင်း ခိုဝင်မှီတင်း နေထိုင်ကြရသည့် ရဟန်း သာမဏေတို့မှာ မြတ်စွာဘုရား တားမြစ်တော်မူအပ်သော လူမှုများနှင့် စပ်လျဉ်းသည့် အမှုများကို ရှေ့ဆောင်ပြုလုပ် ပြောဆိုခြင်း၊ ဂိုဏ်းချုပ်၊ ဂိုဏ်းအုပ်၊

ဂိုဏ်းထောက်တို့ကို အတွင်းတော် လွှတ်တော်များက မေတ္တာစာ သွင်းပေးရန် တံဆိပ်ခတ် စက္ကူ ပေးအပ်လျှောက်ထား ရှိသည့် ဝိနည်းသိက္ခာ ပုဒ်တော်များနှင့် သင့်လျော်သည့်အချက်များအပြင် သိက္ခာပုဒ် အကျင့်သီလ ညှိုးနွမ်းဆန့်ကျင်ခြင်းအကြောင်းဖြစ်သည့် အမှုများနှင့်စပ်၍ အတွင်းတော်၊ လွှတ်တော်၊ရုံးတော်များသို့ စာသွင်း ပေးပို့ခြင်းအမှုများသည် ရဟန်းတို့နှင့် မလျော်သောအရာဖြစ်သည်။ မပြုအပ်သော လူမှုကိစ္စများကို ရှေ့ဆောင်ပြုလုပ် ပြောဆိုခြင်း၊ သိက္ခာပုဒ်သီလ ညှိုးနွမ်းကြောင်းဖြစ်သည့် အကြောင်းများနှင့် အတွင်းတော်၊ လွှတ်တော်၊ ရုံးတော်များသို့ စာရင်းသွင်း ပေးပို့ခြင်းများကို အပြုအလုပ် မရှိစေနှင့်။ တံဆိပ်ရ-မရ တိုက်အုပ်၊ တိုက်ကြပ်၊ ဂိုဏ်းအုပ်၊ ဂိုဏ်းချုပ်၊ ဂိုဏ်းထောက်တို့က နိုင်နင်းအောင် တားမြစ်ကြရမည်။

(၄) သာသနာတော်အတွင်း ခိုဝင် နေထိုင်ကြသည့် ရဟန်း သာမဏေတို့မှာ ဘုရားရှင် ပညတ်မြစ်ပယ်တော်မူအပ်သော တုတ် ဓားစသော လက်နက်မျိုးကို ဆွဲဆောင်ခြင်း၊ အချင်းချင်း ခိုက်ရန်ဖြစ်ပွားခြင်း၊ လူဒါယကာ တို့နှင့် အချင်းဖြစ်ပွားခြင်း၊ လူတို့နှင့် အချင်းဖြစ်ပွားရာ ရဟန်း သာမဏေတို့ ဝန်းဝိုင်းခြင်းအမှုများသည် ရဟန်း သာမဏေတို့၌ သာရုပ္ပမဖြစ်၊ လူတို့ သဒ္ဓါ တရား ယုတ်လျော့ ကွဲရှဲပြစ်တင်ဖွယ်ရှိသည်ဖြစ်၍ မြစ်ပယ်အပ်သည့် တုတ် ဓားလက်နက်များ စွဲကိုင်ဆောင်ယူ သွားလာခြင်း၊ အချင်းချင်း ခိုက်ရန်ဖြစ် ပွားခြင်း၊ လူဒါယကာတို့နှင့် အချင်းဖြစ်ပွားခြင်း၊ လူတို့နှင့် အချင်းဖြစ်ပွား ရာ ရဟန်း သာမဏေတို့ ပန်းဝိုင်းခြင်းအမှုများကို အပြုအလုပ် မရှိစေနှင့်၊ နိုင်နင်းအောင် ဆင့်ဆိုတားမြစ်ကြရမည်။

(၅) သာသနာတော်အတွင်း ခိုဝင်နေထိုင်ကြသည့် ရဟန်း သာမဏေ တို့မှာ ဂိလာနစသော ပြောပလောက်သည့် အကြောင်းမရှိပဲ နေလွဲသောအခါ ကွမ်းစားခြင်း၊ ဆေးဝါးခြင်း၊ အခိုးတံ၊ အခိုးလိပ် သောက်ရှူခြင်းအမှု များသည် သာရုပ္ပမရှိ၊ လူတို့ သဒ္ဓါတရားဆုတ်ယုတ် ကွဲရှဲပြစ်တင်ရာသော အကြောင်းရှိသည် ဖြစ်သည်။ နေလွဲသောကာလ ကွမ်းစားခြင်း၊ ဆေးဝါး ခြင်း၊ အခိုးတံ၊ အခိုးလိပ် သောက်ရှူခြင်း အမှုများကို ဂိလာနစသော အကြောင်းကင်းလျက် အပြုအလုပ်မရှိစေနှင့်၊ ကြဉ်ရှောင်အောင် တားမြစ် ဆင့်ဆိုကြရမည်။

(၆) သာသနာတော်အတွင်း မှီတင်းနေထိုင်ကြသည့် ရဟန်းသာမဏေ တို့မှာ ဒါယကာ ဒါယိကာမတို့နှင့် အဆွေခင်ပွန်း ချစ်ကျွမ်းဝင်လိုခြင်းများကို စွဲ၍ သွားခြင်းငှာထိုက်သော အကြောင်းမရှိပဲ လူတို့အိမ်များသို့ ကူးသန်း သွားလာ ဝင်ထွက် အဆွေခင်ပွန်း ချစ်ကျွမ်းဖွဲ့ခြင်းအမှု၊ ညဉ့်အခါများတွင်

အိမ်သို့သွားလာ ဒါယကာ ဒါယိကာမတို့နှင့် စကားပြောဆိုပြုခြင်းအမှု၊ ညဉ့်အိပ်နေခြင်းငှာ မထိုက်သော အကြောင်းမရှိပဲ လူတို့အိမ်တွင် ညဉ့်အိပ်နေခြင်း အမှုများသည် ရဟန်းသာမဏေတို့နှင့် မသင့်မလျော်သည့်အရာ ဖြစ်သည်။ ၎င်းအမှုများကို အပြုအလုပ် အကျင့်အကြံ မရှိစေရ၊ နိုင်နင်းအောင် ဆင့်ဆိုတားမြစ်ကြရမည်။

(၇) သာသနာတော်အတွင်း မှီတင်းနေထိုင်ကြသည့် ရဟန်းသာမဏေတို့မှာ ၁၂၄၅-ခုနှစ်၊ ၁၂၄၆-ခုနှစ်များက တံဆိပ်တော်ရ ဆရာတော်တို့နှင့် စုံညီ ဝိနည်းပညတ်ကျမ်းဂန်များနှင့် ညှိနှိုင်း ဝါရိတ္တသီလ ပေါက်ပြားချွတ်ယွင်းတိမ်းယိမ်းလွယ်သည့် အရာများကို အားထုတ်စောင့်ရှောက်ဖြည့်ကျင့်ရန် သာသနာတော် တိုးတက်ဖြစ်ထွန်းစည်ကားရှိအောင် ဥပဒေပညတ်ပိုင်းခြားထားသည် ဖြစ်သည်။ ၁၂၄၅-ခုနှစ်၊ ၁၂၄၆-ခုနှစ် ဥပဒေများနှင့် ၁၂၄၇-ခုနှစ်၊ တပ်မံထည့်သွင်းဆင့်ဆိုပိုင်းခြားထားအပ်သည့် ဥပဒေကျင့်ဝတ် သိက္ခာပုဒ်များကို အပွေါ်သက္က ကြောင့်ကြမဲ့ပြု၍ အနေအထိုင် မရှိစေနှင့်၊ တလတကြိမ်ဖတ်ကြားနာခံစေ၍ အပိုင်းအခြားထားအပ်သည့် ဥပဒေဝိနည်း ပညတ်သိက္ခာပုဒ်များကို အားထုတ်စောင့်ရှောက် နေထိုင်ရှိအောင် တံဆိပ်ရ-မရ တိုက်အုပ်တိုက်ကြပ် ဂိုဏ်းချုပ် ဂိုဏ်းအုပ် ဂိုဏ်းထောက်တို့ တင်းတင်းကြပ်ကြပ် ကျင့်ဆောင်နိုးဆော် ဆင့်ဆိုတားမြစ်ကြရမည်။

### မန္တလေး၊ အမရပူရကျောင်းတိုက် ဘုံကထိန်ခင်း

၁၂၄၅-ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၁၁-ရက်နေ့တွင် နှစ်စဉ်ကျင်းပမြဲဖြစ်သော မန္တလေးမြို့တော်နှင့် အမရပူရမြို့ရှိ ကျောင်းတိုက်ပေါင်း ၂၁၇-တိုက်၊ ကျောင်းဦးရေ ၁၅၀၀-ကျော်တို့၌ တကျောင်းလျှင် သင်္ကန်းလျာ အသုံးအဆောင် ပရိက္ခရာကိရိယာအစုံ လှူဒါန်းစေတော်မူသည်။

### ဘုရား ၃၉-ဆူ မသိုးသင်္ကန်း ကပ်လှူ

၁၂၄၅-ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၁၄-ရက်နေ့တွင် (၁) မာရ်အောင်ရတနာ ဘုရား၊ (၂) မဟာမြတ်မုနိဘုရား၊ (၃) ရွှေကွန်အုပ်ဘုရား၊ (၄) ရွှေစံကားဘုရား၊ (၅) မဟာလောကမာရဇိန်ဘုရား၊ (၆) မန္တလေးဘုရား၊ (၇) ဆုတောင်းပြည့်ဘုရား၊ (၈) မဟာဝိဇယရံသီဘုရား၊ (၉) စွယ်တော်စင်ဘုရား၊ (၁၀) မဟာသကျမာရဇိန်ဘုရား၊ (၁၁) စန္ဒာမုနိဘုရား၊ (၁၂) ဗျာဒိတ်ညွှန် ရွှေရုပ်တော်ကြီးဘုရား၊ (၁၃) အရိပ်မထွက်ဘုရား၊ (၁၄) ရှင်

ပင်ကြီးမြင့်ဘုရား၊ (၁၅) မဟာလောကရံသီဘုရား၊ (၁၆) ချမ်းသာကြီးဘုရား၊ (၁၇) ချမ်းသာရဘုရား၊ (၁၈) ရတနာမဥ္ဇူဘုရား၊ (၁၉) ဖောင်တော်ဦးဘုရား၊ (၂၀) ရွှေလင်းပင်ဘုရား၊ (၂၁) ဆင်ကြိုးရွှေဂူဘုရား၊ (၂၂) လောကမဏိစူဠာဋ္ဌဘုရား၊ (၂၃) ရှုပ်ပင်အုန်းအင်းဘုရား၊ (၂၄) ရွှေယင်းရဘုရား၊ (၂၅) ရွှေကူဘုရား၊ (၂၆) သာရရွှေဂူဘုရား၊ (၂၇) ရွှေကြက်ယက်ဘုရား၊ (၂၈) ရွှေကြက်ကျဘုရား၊ (၂၉) အင်ရှဘုရား၊ (၃၀) ပုထိုးတော်ကြီးဘုရား၊ (၃၁) စက်တော်ရာဘုရား၊ (၃၂) ရှင်ဖြူရှင်လှဘုရား၊ (၃၃) မဟာဗောဓိနှစ်ဆူဘုရား၊ (၃၄) ဆင်မျှားရှင်ဘုရား၊ (၃၅) ထူပါရုံဘုရား၊ (၃၆) အောင်မြေလောကဘုရား၊ (၃၇) ထီးလှိုင်ရှင်ဘုရား၊ (၃၈) မဟာမုနိဘုရား၊ (၃၉) လောကသရဖူဘုရားအားဖြင့် ဘုရားစေတီတော် ၃၉-ဆူတို့အား နှစ်စဉ်လှူဒါန်းမြဲ မသိုးသင်္ကန်း ရက်လုပ်လှူဒါန်းတော်မူရန်ရှိသည်ကို အနောက်စမုတ်ဆောင်တော်ရွှေ ဝဲယာတလျှောက် ဆောက်လုပ်ရှိစေသည့် ယက်ကန်းတဲများတွင် ပွဲတက်နေရာတော်နေ ကတော်မယားတို့ကို သင်္ကန်းရက်လုပ်ရန် ဝါကြိတ်ရစ်မှစ၍ ယက်ကန်းစင် ကိရိယာစုံ ရက်လုပ်မည့်သူ မိန်းမလက်ကောင်း လက်တတ်တို့နှင့်တကွ အရှင်နန်းမတော်ဘုရား ဝန်စာရေးကြီးတို့နှင့် အနောက်ဝန်၊ အနောက်ဝန်စာရေး၊ ကတော်၊ စာရေးတို့က အသီးအသီး နေရာချထား အသင့်ရှိစေပြီးလျှင် အနောက်စမုတ်တော်ဦး ပွဲကြည့်ဆောင်တော်သို့ အရှင်နှစ်ပါး ထွက်စံတော်မူ၍ ဝါကောက်ရန် ညဥ့် ၂-ချက်တီးအချိန်မတိုင်မီအတွင်း ပွဲသဘင်စုံများ ကျင်းပစေပြီးလျှင် ညဥ့် ၂-ချက်တီး ပဟိုရ်ဘော်သံကြားသည်နှင့် တပြိုင်နက် မျိုးစေ့ကြဲ၍မြောက် ပင်ရောက်ပွင့်သီး လုံးကြီးဝါပေါက် ကောက်ယူမဆိတ် အကြိတ်အဖန် ပြန်လှန်တုံ့ပယ် ရှယ်ခြင်း၊ ရက်ခြင်း၊ ဆိုးခြင်းစုံလင် အစီရင်တို့ကို အသံကျူးပြောင်းဟောင်းခြင်း ဆိုးခြင်း မရှိစေရ၊ ကတော်မယားတို့ တဦးထက် ဟဦးသာအောင် ကြိုးပမ်းအားထုတ် ပြိုင်ဆိုင်ရက်လုပ်ကြရသည်။

မသိုးသင်္ကန်းတော်များ ကြိုးကြပ်ရက်လုပ်သည့် ကတော်မယားတို့ကိုလည်း ပဝါအုပ်၊ ပိတ်အုပ်၊ သက္ကလပ်ခြုံထည်များ သနားတော်မူ၍ ဦးစွာပြီးသူကို ရွှေဖလား သနားတော်မူသည်။ မြင်းစုဝန်ကြီး ပယား မှာ ချည်ခင်ကို မိမိအိမ်မှ ဆောင်ယူလာ၍ ထည့်သွင်းရက်လုပ်ရန် ဇုက်ထားသည်ကို တွေ့ရှိသဖြင့် ရွှေနန်းတော်ကို လှည့်၍ ဒိုးပတ်နှင့် ကရသည်။ တန်ဆောင်မုန်းလဆန်း ၁၅-ရက်နေ့ ညနေတွင် ယင်းမသိုးသင်္ကန်း ၃၉-ထည်နှင့် ပူဇော်ဖွယ်များကို အရှင်နှစ်ပါး ထွက်တော်မူ၍ ရေစက်သွန်းချတော်မူ၍ အရာရှိတို့ကို သွားရောက်လှူဒါန်းစေတော်မူသည်။

## ရွှေနန်းတော်ကျောင်းကြီး ရေစက်ချလှူ

သက္ကရာဇ် ၁၂၄၅-ခုနှစ် တန်ဆောင်မုန်းလဆုတ် ၄-ရက်နေ့တွင် ရွှေမြို့တော် အရှေ့ပြင် မဟာအတုလဝိဇယာရာမတိုက်အတွင်း ခမည်းတော် ပဉ္စမသံဂါယနာတင် မင်းတရားကြီး စံတော်မူရင်း ရွှေနန်းဆောင်တော်ကို ပြောင်းရွှေ့ ဆောက်လုပ်တော်မူ၍ ပြီးပြေသဖြင့် ကျောင်းတော်ရေစက်သွန်း အခမ်းအနားတွင် လှူဒါန်းရန် ဘဝရှင်မင်းတရားကြီးဘုရားက တပင်လျှင် ငွေ ၇ဝိ-တန် ပဒေသာပင်ရေ ၇၀-နှင့် မယ်တော် ဆင်ဖြူမရှင်ဘုရားက လှူဒါန်းသည့် အလှူတော်များကို တောင်စမုတ်သို့ ပဋ္ဌမသွင်းပြရာ အရှင် ၂-ပါး ရေစက်သွန်းချပြီးလျှင် မြောက်စမုတ်က မယ်တော်ဆင်ဖြူမရှင်ဘုရား ထပ်မံရေစက်သွန်းချတော်မူသည်။ လဆုတ် ၅-ရက်နေ့တွင် မဟာအတုလဝိဇယာရာမတိုက်အတွင်း ရွှေနန်းတော်ကျောင်းကို မင်းညီမင်းသား မှူးတော်မတ်တော်တို့ ကြီးကြပ် ရေစက်သွန်းချရသည်။ တံဆိပ်တော်ရ ဆရာတော် ၇၀-ကို တပါးလျှင် ၃၀၀ တန် လှူဒါန်းသည်။

## စံကျောင်းဆရာတော် အရှင်သုဒ္ဒသနအား ဓမ္မာရုံစံကျောင်း တင်လှူ

၁၂၄၅-ခုနှစ် နတ်တော်လဆန်း ၁၂-ရက်နေ့တွင် စံကျောင်းဆရာတော် အရှင်သုဒဿန မကျန်းမမာရှိ၍ သက်သာပျောက်ကင်းရန် ရွှေမြို့တော်တောင်ပြင် ဓမ္မာရုံဝင်းအတွင်း ဆောက်လုပ်ပြီးပြေသည့် ကျောင်းတော်ကို ဆရာတော် အား ပင့်၍လှူဒါန်းသည်[၁]။

## သာသနာရေး သာသနာမှုများကို လျှောက်ထားခြင်း

သက္ကရာဇ် ၁၂၄၆-ခုနှစ်၊ နယုန်လဆုတ် ၁၀-ရက်နေ့တွင် ရွှေနန်းတော်ကြီး အရှင်နန်းမတော်ဘုရား အဆောင်တော် ယာဘက် ဝဲဆောင်တော်သို့—

၁။ သာသနာပြု ဆရာတော်၊

၂။ အောင်မြေရွှေဘုံ ဆရာတော်၊

၃။ မဂ္ဂရာ ဆရာတော်၊

---

၁။ ကုန်းဘောင်ဆက်၊ ၃။ ၆၁၉။

၄။ မှန်ကျောင်း ဆရာတော်၊

၅။ နန်းဦး ဆရာတော်၊

၆။ အနောက်တိုက်တော် တိုက်အုပ်ဆရာတော် ဦးဉာဏ–

တို့ကို ပင့်၍ ဝန်ကြီး၊ အတွင်းဝန်၊ ဝန်ထောက်တို့ အစုံအညီဖြင့် သာသနာတော် စည်ပင်တိုးပွားခြင်းအကြောင်း၊ သာသနာတော်ထမ်း ရဟန်းမှန်သမျှကို ဝိနည်း ပညတ်များကို မကျူးမလွန် ထိန်းသိမ်း ကျင့်ဆောင်စေရန်အကြောင်းနှင့် ပတ်သက်၍ သာသနာရေး သာသနာမှုများကို အရှင် ဘုဝရှင်မင်းတရားကြီး ကိုယ်တိုင် လျှောက်ထားတော်မူသည်။

## မဟာမြတ်မုနိဘုရား ရွှေပုဇွန်ခွံသင်္ကန်းတော်ပို့လှူ

၁၂၄၆-ခုနှစ်၊ နယုန်လဆုတ် ၁၃-ရက်နေ့တွင် မဟာမြတ်မုနိ ရုပ်ရှင်တော်မြတ်ကြီးအား ကပ်လှူရန် ရွှေနန်းတော်ကြီးအတွင်း ခတ်လုပ်ပြီးပြေသည့် ရွှေပုဇွန်ခွံ သင်္ကန်းတော်များကို မှန်စီထမ်းစင်တင် တင်၍အတွင်းဝန် လှေသင်းဝန် စလေမြို့စား ကြီးကြပ်၍ တပ်ဝင်း အစီအစဉ် အခင်းအကျင်းနှင့် မဟာမြတ်မုနိဘုရားအရောက် ပို့ရသည်။

## ရွှေသားမကိုဋ်တော်၊ ဖန်သလွန်တော် စသည်တို့ကို လှူဒါန်းခြင်း

၁၂၄၆–ခု၊ ဝါဆိုလဆန်း ၉-ရက်နေ့တွင် စိန် မြ ပတ္တမြား စသော နဝရတ် ၉-ပါးဖြင့်ပြီးသော အဖိုးငွေ ၃-သိန်းကျော်တန် ရွှေသားမကိုဋ်တော်ကြီး၊ အဖိုးငွေ ၂-သောင်း ၃-ထောင်ကျော်တန် အလျား ၅–တောင် အနံ ၂–တောင့်တမိုက် ၄-သစ်ရှိ ဖန်သလွန်တော်ကြီး၊ ရွှေသားသပိတ်ဖုံးစုံ၊ ရွှေသားသန့်သက်ရေစစ်စုံ၊ ပတ္တမြားကျောက်စီ ရွှေသားယပ်တောင်ကြီး ၂–ခု၊ ရွှေသား နားပန်တော် ၂–ခု၊ ရွှေသားဒုယင်စွန်းတော်၊ ရွှေသားစလွယ်တော်များကို အသီးအသီး မှန်ထမ်းစင်တွင် တင်စေ၍ သီးမျိုးစုံ ပဒေသာပင် ၅၇-ပင်နှင့် သာသနာပြုဆရာတော် အမှူးရှိသော တံဆိပ်တော်ရ-မရ ဆရာတော် ၃၃၉– ပါးတို့ ဝန်းရံလျက် မင်းညီမင်းသား မှူးတော် မတ်တော်တို့ ကြပ်မပို့ဆောင်ပြီးလျှင် မကိုဋ်တော်မှတပါး ကျန် အဆင်တန်ဆာများကို မဟာမြတ်မုနိရုပ်ရှင်တော်ကြီးအား နေ့ချင်းပြီး ဆင်ယင်လှူဒါန်းရသည်။

## ပဋ္ဌာန်း ဥဘတော့ဝိဘင်းပြန် ပုဂ္ဂိုလ်တို့အား ကြည်ညိုလှူဒါန်း

၁၂၄၆-ခုနှစ်၊ ဝါဆိုလဆုတ် ၂-ရက်နေ့တွင် ရွှေနန်းတော်ဦး မြေနန်းတော်တွင် သာသနာပြုဆရာတော် အမှူးရှိသော တံဆိပ်တော်ရ ဆရာတော်တို့နှင့် ရွှေမြို့တော် ၄-ပြင် ၄-ရပ် ကျောင်းတိုက်များတွင် သီတင်းသုံးတော်မူသည့် ပဋ္ဌာန်းပါဠိတော် ဥဘတောဝိဘင်း ပါဠိတော်ပြန် ရဟန်းသံဃာတော်တို့ကို နှုတ်ရအာဂုံဆောင်ပြီး ပြန်စာနည်းများအလိုက် သီတင်းသုံးနေစေ၍ အာဂုံနှုတ်ရစာများကို ပြန်ဆိုရန်—

၁။ ထီးဖြူဖွင့် မှန်စီခုံ၊

၂။ ထီးဖြူစိုက် မှန်စီခုံ၊

၃။ ထီးလွတ် မှန်စီခုံ၊

၄။ ရွှေပိန်းချခုံ၊

၅။ ရွှေတခု အနီနှစ်ခု—

အားဖြင့် ၅-မျိုး ၅-ရပ် နိမ့်မြင့်ခွဲဝေနေရာချထားစေ၍ ပြန်ဆိုသည့်ပါဠိတော်များကို အရှင်ဘဝရှင် မင်းတရားကြီးဘုရား၊ အရှင်နန်းမတော် မိဖုရားခေါင်ကြီးဘုရား၊ ညီမတော် ရမည်းသင်းစုဘုရား ၃-ပါး ထွက်စံတော်မူ၍ ကောင်းမွန်ရှိသေစွာ နာခံတော်မူပြီးလျှင် ပြန်စာအင်္ဂါအနည်းအများအလျောက် အဖိုးနိမ့်မြင့် ရံထားသည့် သီးမျိုးစုံပဒေသာပင် ပရိက္ခရာများကို နေ့စဉ်ရက်ဆက် လှူဒါန်းတော်မူသည်[၁]။

## ကျောင်းတော်များ ရေစက်သွန်းချ လှူဒါန်းခြင်း

၁၂၄၆-ခုနှစ်၊ ဝါခေါင်လဆန်း ၁၄-ရက်နေ့တွင် စလင်းမြို့ဇာတိ သက်တော် ၃၇၊ သိက္ခာတော် ၁၇-ဝါရှိ ရဟန်းတော် ဦးပညာသီဟကို လယ်ကိုင်းမြို့စား ဆေးနတ်ဝန်ကြီးက ဆောက်လုပ်သည့် ကျောင်းတိုက်အတွင်း ကျောင်းအပ်ဘင်လှူသည်။

ဝါခေါင်လဆုတ် ၁-ရက်နေ့တွင် ရွှေမြို့တော် တောင်မျက်နှာ သီရိမနော ရမ္မဥယျာဉ်တော်မြောက်ဘက် သီလစန္ဒနာရာမတိုက်၊ မဏိဇောတနာရာမတိုက်များတွင် မှူးတော် မတ်တော်တို့ ဆောက်လုပ်ပြီးပြေသည့် ကျောင်းများကို အတွင်းဝန် ပေါက်မြိုင်မြို့စား မင်းကြီး မင်းလှမဟာဇေယျနန္ဒသင်္ကြံနှင့် ဝန်

---

၁။ ကုန်းဘောင်ဆက်၊ ၃။ ၆၅၃-ကြည့်။

ထောက် ပင်းတလဲဝန် မင်းကြီးမင်းခေါင် မဟာကျော်ထင်တို့ ကြပ်မ ရေစက်ချ တင်လှူကြရသည်။

ရွှေမြို့တော်မြောက်မျက်နှာ ကုသိုလ်တော် မဟာလောကမာရဇိန်ဘုရား မြောက်တွင်ရှိရင်း အနောက်ဘက် သောဘိတာရာမ ဒီပဲရင်းတိုက်၊ အရှေ့ဘက် စိဘ္ဘရာရာမ ခုံညင်းဆိုပ်တိုက်အတွင်း လှေသင်းအတွင်းဝန် ကျောင်းနှင့်တကွ ကြည့်စုပါလေးမျက်နှာ မှူးတော် မတ်တော်တို့ ဆောက်လုပ်သည့် ကျောင်းတော်စု၊ ခုံညင်းဆိပ်အရှေ့ဘက် တိုက်သစ်အတွင်း မြို့ဝန် အက္ကပတ်မြင်းဝန် ပင်လယ်မြို့စား ဆောက်လုပ်သည့်ကျောင်းနှင့်တကွ ကြည့်စုပါ မှူးတော် မတ်တော်တို့ ဆောက်လုပ်ပြီး ကျောင်းတော်စုများကို အတွင်းဝန် ပင်းမြို့စား မင်းကြီးမင်းခေါင် မဟာမင်းကျော်သူရိန်၊ မြို့ဝန် အက္ကပတ်မြင်းဝန် ပင်လယ်မြို့စားမင်းကြီး မဟာမင်းထင်ရာဇာ၊ ဝန်ထောက် ဝက်မစွတ်မြို့စား မင်းကြီးမင်းထင် မဟာစည်သူတို့ ကြပ်မပြီးလျှင် ရေစက်ချ၍ ကျောင်းအပ်တင်လှူကြရသည်။

## ကျောင်းအသုံးအဆောင်ပစ္စည်းများ လှူဒါန်းခြင်း

၁၂၄၆-ခု၊ ဝါခေါင်လမှာပင် မန္တလေးတောင်တော်အရှေ့ဘက် မိဖုရားခေါင်ကြီး တည်ထားသည့် မဟာအတုလဝိဇယပုညတိုက်၊ ဇေယမင်္ဂလာရာမတိုက်၊ တောင်ပြင် သီလစန္ဒနာရာမတိုက်၊ မဏိဇောတနာရာမတိုက်မှစ၍ ကျောင်းတိုက်တော်များတွင် ရဟန်းတော်များ သုံးဆောင်ကောင်းသည့် ဖန်ထည်၊ မှန်ထည်၊ ကြွေထည်၊ ကြေးထည်စသော ကျောင်းသုံးပရိဘောဂပစ္စည်းများ လှူဒါန်းစေတော်မူသည်။

## ဆရာတော် သံဃာတော် ၈၁-ပါးတို့အား အဆင့်၅-မျိုးခွဲ၍ တံဆိပ်တော်များ ဆက်ကပ်လှူဒါန်းခြင်း

မာရ်အောင်ရတနာစေတီဘော်ဒါယကာ သီပေါမင်းတရားသည် သက္ကရာဇ် ၁၂၄၆-ခုနှစ်၊ တော်သလင်းလတွင် ဆရာတော်များ၏ အရည်အချင်းအလိုက် အဆင့် ၅-ဆင့်ခွဲ၍ အောက်ဖော်ပြပါအတိုင်း ဘွဲ့တံဆိပ်တော်များကို ဆက်ကပ်လှူဒါန်းတော်မူသည်—

သာသနာပြုဆရာတော် ဦးမာလာအား "မာလာလင်္ကာရဓဇမဟာ သေနာပတိအတုလဓိပတိသီရိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု" တံဆိပ်တော်ကို လှူဒါန်းတော်မူသည်။

## ပဌမတံဆိပ်တော်ရ ဆရာတော်များ

၁။ သက်တော် ၆၉-နှစ်ရှိ စံကျောင်းဆရာတော် ဦးသုဒဿနအား "သုဒဿနဓဇအတုလဓိပတိသိရိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၂။ သက်တော် ၆၂-နှစ်ရှိ မြတောင်ဆရာတော် ဦးအာလောကအား "အာလောကာဘိဓဇအတုလဓိပတိ သိရိပဝရမဟာဓမ္မရာဇာဓိရာဇ ဂုရု"၊

၃။ သက်တော် ၇၇-နှစ်ရှိ အောင်မြေရွှေဘုံဆရာတော် ဦးကေတုအား "ကေတုဓမ္မာဘိဓဇအတုလဓိပတိ သိရိပဝရ မဟာဓမ္မရာဇာဓိရာဇ ဂုရု"၊

၄။ သက်တော် ၇၂-နှစ်ရှိ ဆီးပန်းနီဆရာတော် ဦးနရိန္ဒအား "နရိန္ဒာဘိဓဇအတုလဓိပတိသိရိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၅။ သက်တော် ၇၄-နှစ်ရှိ ဆင်တဲဆရာတော် ဦးသာဂရအား "သာဂရဝံသဓဇအတုလဓိပတိသိရိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၆။ သက်တော် ၅၇-နှစ်ရှိ မဟာဝိဇိတာရာမ ဆရာတော် ဦးကေတုအား "ကေတုမာလာဘိဓဇအတုလဓိပတိသိရိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၇။ သက်တော်၄၇-နှစ်ရှိ မွန်ကျောင်းဆရာတော် ဦးဉာဏဝံသအား "ဉာဏဝံသာဘိဓဇအတုလဓိပတိ သိရိပဝရ မဟာဓမ္မရာဇာဓိရာဇ ဂုရု"—

တံဆိပ်တော်တို့ကို အသီးသီး ဆက်ကပ်လှူဒါန်းတော်မူသည်။

## ဒုတိယတံဆိပ်တော်ရ ဆရာတော်များ

၁။ သက်တော် ၅၆-နှစ်ရှိ ဒက္ခိဏာရာမဆရာတော် ဦးပဏ္ဍိတအား "ပဏ္ဍိတဓဇအတုလဓိပတိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၂။ သက်တော် ၇၉-နှစ်ရှိ မင်္ဂလာရာမဆရာတော် ဦးဝိစိတ္တအား "ဝိစိတ္တာဘိဓဇဓိပတိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၃။ သက်တော် ၆၉-နှစ်ရှိ စိတ္တရာရာမဆရာတော် ဦးသုဇာတအား "သုဇာတာဘိဓဇဓိပတိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၄။ သက်တော် ၈၇-နှစ်ရှိ ဘုံကျော်ဆရာတော် ဦးဝိမလအား"ဝိမလာစာရဓဇဓိပတိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၅။ သက်တော် ၅၄-နှစ်ရှိ မိုးထားဆရာတော် ဦးသုဇာတအား"သုဇာတာဘိသီရိဓဇဓိပတိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၆။ သက်တော် ၄၇-နှစ်ရှိ မဟာဝိသုဒ္ဓါရာမဆရာတော် ဦးဝိသုဒ္ဓအား "ဝိသုဒ္ဓါဘိဓဇဓိပတိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၇။ သက်တော် ၆၈-နှစ်ရှိ မေဃဝတီဆရာတော် ဦးဇနိန္ဒအား"ဇနိန္ဒာဘိဓဇဓိပတိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၈။ သက်တော် ၆၄-နှစ်ရှိ လှထွေဆရာတော် ဦးဝီရိယအား "ဝီရိယာရမ္ဘဓဇဓိပတိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၉။ သက်တော် ၆၄-နှစ်ရှိ ပခန်းဆရာတော် ဦးနန္ဒအား "နန္ဒာဘိဓဇဓိပတိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၁၀။ သက်တော် ၃၉-နှစ်ရှိ နန်းဦးဆရာတော် ဦးဉာဏိန္ဒအား"ဉာဏိန္ဒာဘိဓဇဓိပတိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၁၁။ သက်တော် ၅၄-နှစ်ရှိ တပယင်းဆရာတော် ဦးဓမ္မသာမိအား "ဓမ္မသာမိဓဇဓိပတိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၁၂။ သက်တော် ၆၆-နှစ်ရှိ မက္ခရာဆရာတော် ဦးအာစာရအား "အာစာရာရမ္ဘဓဇဓိပတိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"—

ဘွဲ့တံဆိပ်တော်ကို အသီးသီး ဆက်ကပ်လှူဒါန်းတော်မူသည်။

## ဒုတိယတံဆိပ်တော်ရ ဆရာတော်များ

၁။ သက်တော် ၇၄-နှစ်ရှိ ငါးကျွမ်းဆရာတော် ဦးသဒ္ဓမ္မအား"သဒ္ဓမ္မဓဇသီရိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၂။ သက်တော် ၄၂-နှစ်ရှိ အနောက်တိုက်တော် တိုက်အုပ်ဆရာတော် ဦးဉာဏအား "ဉာဏာဘိဓဇသီရိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၃။ သက်တော် ၆၈-နှစ်ရှိ ရွှေရေးဆောင်ဆရာတော် ဦးအာစာရအား "အာစာရဝံသဓဇသီရိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၄။ သက်တော် ၃၉-နှစ်ရှိ ထရံကာဆရာတော် ဦးဣန္ဒကအား "ဣန္ဒကာဘိဓဇသီရိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၅။ သက်တော် ၄၆-နှစ်ရှိ သောဘိတာရာမဆရာတော် ဦးသဒ္ဓမ္မအား "သဒ္ဓမ္မပါလဓဇသီရိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၆။ သက်တော် ၄၃-နှစ်ရှိ အရှေ့ပြင် ငါးစိုးတိုက်ဆရာတော် ဦးအာစာရမ္ဘအား "အာစာရမ္ဘဓဇသီရိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၇။ သက်တော် ၅၂-နှစ်ရှိ လယ်ကိုင်းတိုက်ဆရာတော် ဦးသုမနအား "သုမနာဘိဓဇသီရိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၈။ သက်တော် ၅၅-နှစ်ရှိ မင်္ဂလာရာမဆရာတော် ဦးဉာဏအား "ဉာဏဝံသဓဇသီရိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၉။ သက်တော် ၅၇-နှစ်ရှိ ဆူးခါးဆရာတော် ဦးသုမနအား "သုမနဝံသဓဇသီရိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၁၀။ သက်တော် ၅၉-နှစ်ရှိ ရမည်းသင်းဆရာတော် ဦးဝါယာမအား "ဝါယာမဓမ္မသီရိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၁၁။ သက်တော် ၃၇-နှစ်ရှိ လက်ာရာမဆရာတော် ဦးနန္ဒမဥ္ဇူအား "နန္ဒမဥ္ဇူသာဘိဓမ္မသီရိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၁၂။ သက်တော် ၆၉-နှစ်ရှိ သက်ပန်းဆရာတော် ဦးဥေယျအား "ဥေယျဓမ္မာဘိဓမ္မသီရိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၁၃။ သက်တော် ၆၅-နှစ်ရှိ ဝိဇယာရာမဆရာတော် ဦးမုနိန္ဒအား "မုနိန္ဒာဘိဓမ္မသီရိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၁၄။ သက်တော် ၄၁-နှစ်ရှိ တောင်ခွင်ဆရာတော် ဦးဝိသုဒ္ဓအား "ဝိသုဒ္ဓသီလာစာရဓမ္မသီရိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"—

ဘွဲ့တံဆိပ်တော်ကို အသီးသီး ဆက်ကပ်လှူဒါန်းတော်မူသည်။

### စတုတ္ထတံဆိပ်တော်ရ ဆရာတော်များ

၁။ သက်တော် ၃၅-နှစ်ရှိဆရာတော် ဦးကုမာရအား "ကုမာရာဘိဓမ္မမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၂။ သက်တော် ၅၁-နှစ်ရှိဆရာတော် ဦးနာဂိန္ဒအား "နာဂိန္ဒာဘိဓမ္မမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၃။ သက်တော် ၄၅-နှစ်ရှိ ဆရာတော်ဦးပညာအား "ပညာသာမိ ဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု"၊

၄။ သက်တော် ၅၃-နှစ်ရှိ မြို့သာဆရာတော် ဦးသုမနအား "သုမနာ စာရဓဇမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၅။ သက်တော် ၅၃-နှစ်ရှိ မိုးကောင်းဆရာတော် ဦးအာစာရအား "အာစာရဝံသဓဇမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၆။ သက်တော် ၆၆-နှစ်ရှိ သင်္ဂဇာဆရာတော် ဦးဓမ္မစာရီအား "ဓမ္မ စာရိန္ဒာဘိဓဇမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၇။ သက်တော် ၆၂-နှစ်ရှိ ညောင်ကန်ဆရာတော်ဦးဝဇီရအား "ဝဇီရာ ငုဓဓဇမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၈။ သက်တော် ၅၀-နှစ်ရှိ မိုးထိဆရာတော် ဦးသုမနအား "သုမနဝံသ ဓဇမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၉။ သက်တော် ၄၆-နှစ်ရှိ မဟာဓမ္မိကာရာမဆရာတော် ဦးသုဇာတ အား "သုဇာတာဘိဓဇမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၁၀။ သက်တော် ၄၀-နှစ်ရှိ တိုက်တော်နေ ဆရာတော်ဦးသုန္ဒရအား "သုန္ဒရာဘိဓဇမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၁၁။ သက်တော် ၄၀-နှစ်ရှိ ဆရာတော် ဦးဂန္ဓမဥ္ဇူအား "ဂန္ဓမဥ္ဇူသာ ဘိဓဇမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၁၂။ သက်တော် ၇၃-နှစ်ရှိ တိုက်တော်နေ ဆရာတော် ဦးစန္ဒာလင်္ကာရ အား "စန္ဒာလင်္ကာရဓဇမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၁၃။ သက်တော် ၅၄-နှစ်ရှိ မတ္တရာဆရာတော် ဦးသီလအား "သီလာ စာရဓဇမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၁၄။ သက်တော် ၅၆-နှစ်ရှိ မင်းခင်းဆရာတော် ဦးဝိမလအား "ဝိမလာ စာရဓဇမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၁၅။ သက်တော် ၆၀-ရှိ ဝေဠုဝန်ဆရာတော် ဦးနန္ဒမာလာအား "နန္ဒမာလာဘိဓဇမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၁၆။ သက်တော် ၅၅-နှစ်ရှိ ခေါ်တောဆရာတော် ဦးဇယန္တအား "ဇယန္တာဘိဓဇမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၁၇။ သက်တော် ၅၁-နှစ်ရှိ ရွှေပြည်ဆရာတော် ဦးဉာဏအား "ဉာဏ စံသဓဇမဟာဓမ္မရာဇာဓိရာဇဂုရု"—

ဘွဲ့တံဆိပ်တော်များကို အသီးသီး ဆက်ကပ်လှူဒါန်းတော်မူသည်။

### ပဉ္စမတံဆိပ်တော်ရ ဆရာတော်များ

၁။ သက်တော် ၆၈-နှစ်ရှိ ထီးလင်းဆရာတော် ဦးဒီပအား "ဒီပါ လင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု"၊

၂။ သက်တော် ၃၉-နှစ်ရှိ ဆရာတော် ဦးကုမာရအား "ကုမာရလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု"၊

၃။ သက်တော် ၄၂-နှစ်ရှိ ဘေးမဲ့ဆရာတော် ဦးရေဝတအား "ရေဝတာ လင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု"၊

၄။ သက်တော် ၈၆-နှစ်ရှိ ကူကြီးဆရာတော် ဦးကလျာဏအား "ကလျာဏာလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု"၊

၅။ သက်တော် ၈၂-နှစ်ရှိ မိတ္ထီလာဆရာတော် ဦးဩဘာသအား "ဩဘာသာလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု"၊

၆။ သက်တော် ၈၂-နှစ်ရှိ ဆရာတော် ဦးပုညအား "ပုညာလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု"၊

၇။ သက်တော် ၄၇-နှစ်ရှိ ဆရာတော် ဦးအာဒိစ္စအား "အာဒိစ္စာ လင်္ကာရမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၈။ သက်တော် ၄၃-နှစ်ရှိ ဆရာတော် ဦးသုဇာတအား "သုဇာတာ လင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု"၊

၉။ သက်တော် ၄၀-ရှိ လှေထွတိုက်နေ ဆရာတော် ဦးရာဇိန္ဒအား "ရာဇိန္ဒာလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု"၊

၁၀။ သက်တော် ၄၇-နှစ်ရှိ သဒ္ဓမ္မဇောတိကာရာမ ဆရာတော် ဦးဒေဝိန္ဒ အား "ဒေဝိန္ဒာလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု"၊

၁၁။ သက်တော် ၄၄-နှစ်ရှိ မောင်းထောင်ဆရာတော် ဦးဝိမလအား "ဝိမလာလင်္ကာရမဟာဓမ္မရာဇာဓိရာဇဂုရု"၊

၁၂။ သက်တော် ၄၈-နှစ်ရှိ ဝိစိတ္တာရာမတိုက်နေ ဆရာတော် ဦးအာသဘ
အား "အာသဘာလင်္ကာရ' မဟာဓမ္မရာဇာဓိရာဇဂုရု"၊

၁၃။ သက်တော် ၃၈-နှစ်ရှိ ဆရာတော် ဦးဝိစာရအား "ဝိစာရာလင်္ကာ
ရ မဟာဓမ္မရာဇာဓိရာဇဂုရု"၊

၁၄။ သက်တော် ၅၁-နှစ်ရှိ တိုက်တော်နေ ဆရာတော် ဦးအာလောက
အား "အာလောကာလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု"၊

၁၅။ သက်တော် ၅၆-နှစ်ရှိ တိုက်တော်နေ ယောဆရာတော် ဦးကေလာ
သအား "ကေလာသာလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု"

၁၆။ သက်တော် ၅၀-ရှိ ဆရာတော် ဦးသကျဝံသအား "သကျဝံသာ
လင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု"၊

၁၇။ သက်တော် ၄၁-နှစ်ရှိ ဆရာတော် ဦးစန္ဒအား "စန္ဒာလင်္ကာရ
မဟာဓမ္မရာဇာဓိရာဇဂုရု"၊

၁၈။ သက်တော် ၂၄-နှစ်ရှိ ပဌမကျော် ဦးဂန္ဓမာအား "ဂန္ဓမာလင်္ကာရ
မဟာဓမ္မရာဇာဓိရာဇဂုရု"၊

၁၉။ သက်တော် ၄၀-နှစ်ရှိ ဆရာတော် ဦးနန္ဒဝါအား "နန္ဒဝါလင်္ကာရ
မဟာဓမ္မရာဇာဓိရာဇဂုရု"၊

၂၀။ သက်တော် ၃၉-နှစ်ရှိ ဆရာတော် ဦးတေဇဝန္တအား "တေဇဝန္တာ
လင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု"၊

၂၁။ သက်တော် ၃၉-နှစ်ရှိ ဆရာတော် ဦးစန္ဒိမာအား "စန္ဒိမာလင်္ကာရ
မဟာဓမ္မရာဇာဓိရာဇဂုရု"၊

၂၂။ သက်တော် ၄၅-နှစ်ရှိ ဆရာတော် ဦးဝိစိတ္တအား "ဝိစိတ္တာလင်္ကာရ
မဟာဓမ္မရာဇာဓိရာဇဂုရု"၊

၂၃။ သက်တော် ၄၀-ရှိ ဆရာတော် ဦးဂုဏအား "ဂုဏာလင်္ကာရ
မဟာဓမ္မရာဇာဓိရာဇဂုရု"၊

၂၄။ သက်တော် ၂၆-နှစ်ရှိ ပဌမကျော် ဦးဂန္ဓဗ္ဗူရအား "ဂန္ဓဗ္ဗူရာလင်္ကာရ
မဟာဓမ္မရာဇာဓိရာဇဂုရု"၊

၂၅။ သက်တော် ၂၁-နှစ်ရှိ ဆရာတော် ဦးသိရိန္ဒရအား "သိရိန္ဒရာ
လင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု"၊

၂၆။ သက်တော် ၅၇-နှစ်ရှိ တောင်ပိုင်ဆရာတော် ဦးသေီအား "သေီလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု"၊

၂၇။ သက်တော် ၄၃-နှစ်ရှိ ရှိန်းမကားဆရာတော် ဦးကလျာဏအား "ကလျာဏာလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု"၊

၂၈။ သက်တော် ၄၇-နှစ်ရှိ ဆရာတော် ဦးပဒုမအား "ပဒုမာလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု"၊

၂၉။ သက်တော် ၆၅-နှစ်ရှိ ဆရာတော် ဦးမဥ္ဇူအား "မဥ္ဇူသာလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု"၊

၃၀။ သက်တော် ၆၅-နှစ်ရှိ သကျောင်ဆရာတော် ဦးသီလအား "သီလာလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု"—

ဘွဲ့တံဆိပ်တော်ကို အသီးသီး ဆက်ကပ်လှူဒါန်းတော်မူသည်[၁]။

သာသနာပြုဆရာတော် ၁၊ ပဌမတံဆိပ်တော် ၇၊ ဒုတိယတံဆိပ်တော် ၁၂၊ တတိယတံဆိပ်တော် ၁၄၊ စတုတ္ထတံဆိပ်တော် ၁၇၊ ပဥ္စမတံဆိပ်တော် ၃၀၊ စုစုပေါင်း ၈၁-ပါး ဖြစ်သည်။

## မြတောင်တိုက် ကျောင်းတော်လှူဒါန်းခြင်း

သက္ကရာဇ် ၁၂၄၆-ခုနှစ်၊ နှောင်းတန်ခူးလတွင် မန္တလေးမြို့တော် အနောက်ပြင် ဂေါဝိန်တံခါးလမ်းတောင်ဘက် ရတနာဘုမ္မိအရပ်တွင် အရှင်နန်းမတော် မိဖုရားခေါင်ကြီး ဆောက်လုပ်ပြီးပြေသည့် ရွှေရေးကျောင်းရံ ရှစ်ရပ်နှင့်တကွ ဘုံ ၄-ဆင့်ရှိ မှန်ကျောင်းတော်တိုက်ကို မဏိသေလာရာမတိုက်ကျောင်းတော်ကို မဟာရတနာဘုံစံ ကမ္ပည်းတပ်တော်မူပြီးလျှင် "အာလောကာဘိဝရ သာသနရက္ခ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ မြတောင်ဆရာတော် အရှင်အာလောကအား တင်လှူတော်မူသည်[၂]။

---

၁ မန္တလေးရတနာပုံ မဟာရာဇဝင်တော်၊ ၂၀၆-၂၁၂။
ရတနာသီခ ဒုတိယမဟာရာဇဝင်တော်ကြီး၊ ၆။ ၃၈၀-၃၉၂။
ကုန်းဘောင်ဆက်၊ ၃။ ၆၅၇-၆၆၃။

၂။ ရတနာပုံ မဟာရာဇဝင်၊ ၂၁၃။ ကုန်းဘောင်ဆက်၊ ၃။ ၆၈၅။

## အမရပူရမြို့မှ မန္တလေးမြို့တော်သို့ မဟာသကျသီဟရုပ်ရှင်တော်မြတ်ကို ပင့်ခြင်း

မာရ်အောင်ရတနာစေတီတော်ဒါယကာ သီပေါမင်းတရားသည် သက္ကရာဇ် ၁၂၀၉-ခုနှစ်၊ ဝါခေါင်လဆန်း ၂-ရက်နေ့တွင် အမရပူရမြို့သို့ ပင့်ဆောင်ကိန်းဝပ်စေတော်မူခဲ့သည့် မဟာသကျသီဟရုပ်ရှင်တော် မြတ်စွာဘုရားကို ၁၂၄၆-ခုနှစ်၊ နှောင်းတန်ခူးလဆုတ် ၁၂-ရက်နေ့တွင် အမရပူရမြို့မှ မန္တလေးမြို့တော် အောင်နန်းရိပ်သာရပ် ယခုဘုရားရှိရာအရပ်သို့ ပင့်ဆောင်ကိုးကွယ်တော်မူခဲ့လေသည်။ ၁၂၄၆-ခုနှစ်၊ တန်ခူးလဆုတ် ၁၂-ရက်နေ့မှစ၍ ပင့်ဆောင်ရာ ၁၂၄၇-ခုနှစ်၊ ကဆုန်လဆုတ် ၂-ရက်နေ့တွင် ဆိုက်ရောက်တော်မူသည်။

### ဆရာတော် ၄-ပါးအား တံဆိပ်တော်ဆက်ကပ်လှူဒါန်းခြင်း

သက္ကရာဇ် ၁၂၄၇-ခုနှစ်တွင် မြတောင်တိုက် မြတောင်—

၁။ ဆရာတော်ကလေး အရှင်ပဏ္ဍိစ္စအား "ပဏ္ဍိစ္စာဘိလင်္ကာရ ကဝိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်၊

၂။ ဆရာတော်အရှင်သုမနအား "သုမနာဘိလင်္ကာရကဝိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်၊

၃။ ဆရာတော် အရှင်တေဇောသာရအား "တေဇောသာရာဘိလင်္ကာရကဝိဓဇမဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်၊

၄။ ဆရာတော် အရှင်ပုညိန္ဒအား "ပုညိန္ဒာဘိလင်္ကာရကဝိဓဇမဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်—

ကို အသီးသီး ဆက်ကပ်လှူဒါန်းတော်မူသည်[၁]။

### ပါတော်မူခြင်း

ယင်းသို့ ဖော်ပြခဲ့သည့်အတိုင်း သာသနာမှု သာသနာရေး၌ ထာဝစဉ် ညွတ်ကိုင်းသော စိတ်နှလုံးတော်ပိုင်ရှင် မာရ်အောင်ရတနာစေတီတော် ဒါယကာ သီပေါမင်းတရားသည် သက္ကရာဇ် ၁၂၄၇-ခုနှစ်၊ တန်ဆောင်မုန်းလဆုတ် ဂ-ရက် တနင်္ဂနွေနေ့ နေ့ ၃-ချက်တီး မေထုန်တွင် စနေ၊ သိဟ်တွင် စန်းနှင့်

၁။ သာသနာဝင် ဘွဲ့တံဆိပ်တော်များ သမိုင်းကြည့်။

အင်္ဂါ ရာဟု၊ ကန်တွင် ကြာသပတေး၊ ဗြိစ္ဆာတွင် တနင်္ဂနွေ၊ မကာရတွင် သောကြာ၊မိဿတွင် လက်၊ စဉ်နက္ခတ်ဆယ်လုံး တပေါင်း လေးဗီဇနာအချိန်တွင် ရွှေဘုံရွှေနန်းထက်မှ လွဲပြောင်းတော်မူ၍ လောကဓမ္မတာ သင်္ခါရတရား အလျောက် အိန္ဒိယနိုင်ငံသို့ လိုက်ပါတော်မူခဲ့ရလေသည်။

## ပါတော်မူ

ရတနာပုံ နေပြည် မင်းဆယ့်တဆက် (အုပ်စိုးခဲ့သည်) ၂။ ရှေးရှေးတုန်းကတော့ အလွန်သာယာစည်၊ သီပေါရာဇာ နန်းစံ ခုနစ်နှစ်မှာ၊ ဖြစ်ရတဲ့အရေး တွေးမိပါတော့သည်။

မြန်မာပြည် ဇာတ်လမ်းရှုပ်သမျှကို ရွှေကညစ်နဲ့ ရေးကာ စာကိုစီ၊ ရာဇဋ္ဌာနီ အယုဇ္ဈမှာ ဧကရာဇ်နဲ့ဝေးတာကြာလေပြီ၊ တထောင့်နှစ်ရာ လေးဆယ့်ခုနစ်ခုနှစ်မှာအတည်၊ တန်ဆောင်မုန်းလဆုတ် ရှစ်ရက်နေ့ကို တော့ (မမေ့နိုင်ပါသည်၊ ယနေ့တိုင်ကြာရှည်)၂၊ ရေမြွေရှင်ကို ယူငင်ကာသွားတော့ လူရှင်အမျှားတို့ ကြေကွဲကြလို့ ရေနဲငါးပုံအညီ၊သြော်–သီပေါရာဇာ ပါတော်မူရှာပြီ။

သံပြိုင်။ (တို့ဘုရင်ကိုယ့်သခင် မျှော်မှန်းရည်၊ ယနေ့ကိုင် မမေ့နိုင် ပါတော့သည်)၂။ ဗိရိုပေါ်ကို မောင်နှံတင်လို့၊ ဆောင်ပျံရှင်ဇာတာ နွမ်းလို့ မြန်းရရှာလေပြီ၊ ကမ္ဘာအလည် တအားယုတ်စေဘို့ အာ ဋ္ဌဝီတံခါးကထုတ်လို့ ရာဇသမုတ်ကို ဆောင်လေသည်၊ မဟာမြတ်မုနိ ကိုတောပ် ဖူးမြော်ချင်လျက်နဲ့ ဦးတော်မတင်ရရှာလေပြီ။

သံပြိုင်။ (တို့ဘုရင် ကိုယ့်သခင်မျှော်မှန်းရည် ယနေ့တိုင် မမေ့နိုင် ပါတော့သည်၊) ရွှေမှန်ကင်းအစစ်က ထင်းဖြစ်ခဲ့တာကြာပြီ၊ ရေစီး တခါ ရေသာတလှည့်စီ၊ ဇာမိမြန်မာပြည် တိုင်းမြန်မာပြည်၊ ရွှေတိုင် ညွန့်က စာစီ၊ ဘုန်းတန်ခိုးနဲ့ တိုးတက်ကြတော့မည်၊ ရေမြွေရှင်ကို ယူငင်ကာ သွားတော့သည်။

သံပြိုင်။ (တို့ဘုရင် တို့သခင် မျှော်မှန်းရည်၊ ယနေ့တိုင် မမေ့နိုင် ပါတော့သည်။)

## နတ်ရွာစံတော်မူခြင်း

သက္ကရာဇ် ၁၂၄၇-ခုနှစ်၊ တန်ဆောင်မုန်းလတွင် ဗြိတိသျှတို့သည် မြန်မာ နိုင်ငံကို စစ်တိုက်ရန် ချီတက်လာကြသည်။ မြန်မာတို့ဖက်မှ လက်နက်ခြင်း

မမျှသောကြောင့် ကောင်းစွာမခုခံပဲနေရာ ဗြိတိသျှတို့ အခက်အခဲမရှိ မန္တလေးမြို့တော်သို့ ရောက်ရှိလာပြီး ထိုသည့် ၁၂၄၇–ခုနှစ်၊ တန်ဆောင်မုန်းလဆုတ် ၈-ရက်နေ့တွင် တမြို့လုံးသိမ်း၍ မင်းမိဖုရား သားတော် သမီးတော်တို့ကို အိန္ဒိယနိုင်ငံ မဒရပ်မြို့သို့ ရှေးဦးစွာ ခေါ်ဆောင်သွားသည်။ ထို့နောက် ဘုံဘေပြည်နယ် ရတနာဂီရိမြို့တွင် ထားသည်။ သက်တော် ၅၉-နှစ်ရှိရာ ၁၂၇၈-ခုနှစ်၊ နတ်တော်လဆုတ် ၆-ရက်နေ့တွင် ရတနာဂီရိ နေအိမ်တော်၌ နတ်ရွာစံတော်မူသည်။ အလောင်းကို ထိုမြို့မှာပင် သင်္ဂြိုဟ်လေသည်။

## ပြုစုတော်မူခဲ့သော ကောင်းမှုတော်များ

ပြုစုတော်မူခဲ့သော ကောင်းမှုတော်များကား—

၁။ ပဟာသီရိဟေမဝန် ဥယျာဉ်တော်အတွင်း တည်ထား ကိုးကွယ်တော်မူခဲ့သည့် မာရ်အောင်ရတနာ စေတီတော်။

၂။ ရွှေမြို့တော်အရှေ့ပြင် ဇမ္ဗူ့မျက်ရှင်ရပ်၌ တည်ထားခဲ့သောလောကရန်နိုင် စေတီတော်၊

၃။ နိုင်ငံတော်အတွင်း တမြို့လျှင် တဆူကျ တချိန်တည်း တည်ထားတော်မူခဲ့သော ရာဇမုနိစေတီတော်များ၊

၄။ အာရုံခံဥယျာဉ်တော်အတွင်း တည်ထားခဲ့သော ရတနာတန်ဆောင် စေတီတော်၊

၅။ ၎င်းစေတီတော်အနီး တည်ထားခဲ့သော သေလာမုနိ မဟာရာဇ်နိ ကျောက်စေတီတော်၊

၆။ ရွှေမြို့တော်အရှေ့မျက်နှာ မဟာဝိဇယပုညတိုက်အတွင်း ကျောင်းရံ ရှစ်ရပ်နှင့်တကွ ဘုံလေးဆင့်ရှိ မဟာစံလွှတ်ဝေယန် မှန်ကျောင်းတော်၊

၇။ မဟာအတုလဝိဇယာရာမတိုက်အတွင်း ရွှေနန်းကျောင်းတော်၊

၈။ ရွှေမြို့တော် အနောက်တောင် ဂေါဝိန်တံခါးလမ်း လက်ယာဘက်ရှိ မဏိသေလာရာမ (မြတောင်) တိုက်အတွင်း ရွှေရေးကျောင်းရံ ရှစ်ရပ်နှင့်တကွ ဘုံလေးဆင့်ရှိ မဟာရတနာဘုံစံ မှန်ကျောင်းတော်၊

၉။ ထိုမှတပါး ရေကွက်ခြင်းငှာ မစွမ်းနိုင်အောင် သဒ္ဒါရှင်လန်း လှူဒါန်းအပ်သော ဆွမ်း၊ သင်္ကန်း၊ ဆေးပစ္စည်း၊ အသုံးအဆောင် စသော အလှူတော်စသည်တို့ ဖြစ်ကုန်၏။

## သီပေါမင်းတရား သာသနာရေးလုပ်ဆောင်ချက်အခန်း အပြီးသတ်ခြင်း

ဤမန္တလေးသာသနာ့ဝင်ကျမ်း ပဌမတွဲတွင် လိုအပ်လျက်ရှိသော ရတနာပုံ မန္တလေးမြို့တော် ဒုတိယနန်းစံ မာရ်အောင်ရတနာစေတီတော် ဒါယကာ သီပေါမင်းတရား၏ သာသနာရေး လုပ်ဆောင်ချက်အကျဉ်းချုပ် ပြဆိုရာ အခန်း ဤတွင် လက်စသတ်လိုက်ပါပြီ။

သုဇနာနံ ပသာဒါယ၊ သံဝေဂတ္ထာယ မေ ကတော။
ရညော သာသနကာရိယ-ကဏ္ဍော ဟိ သမတ္တော ဘဝေ။



မဟာမြတ်မုနိ အရှေ့မုခ်ဦးပြာသာဒ်

# မဟာမြတ်မုနိဘုရားကြီး

မဟာမြတ်မုနိ ဆင်းတုတော်ကြီးသည် မန္တလေးမြို့တော်သူ၊ မြို့တော်သားများနှင့် မြန်မာပြည်အရပ်ရပ်ရှိ ရဟန်းရှင်လူများ၊ မန္တလေးသို့ ရောက်ရှိလာသော နိုင်ငံခြားသား ဧည့်သည်တော်တို့၏ ဦးတိုက်ရာ ဝတ်ပြုရာ ကုသိုလ်ပုညမျိုးစေ့စိုက်ပျိုးရာ ပုညတိတ္ထ ပုညပတြ ဖြစ်လေသည်။ အရှေ့ အနောက် တောင်မြောက် စောင်းတန်း လေးသွယ်တို့ဖြင့် တန်ဆာဆင်ထားသော ရွှေရောင်တလျှပ်လျှပ် ထိန်လင်းနေသည့် ဂန္ဓကုဋိတိုက်တော်အတွင်း၌ သီတင်းသုံးစံပယ်လျက် ရှိလေသည်။ ဘုရားဝန်းအတွင်း၌ မန္တလေးခေတ် ယဉ်ကျေးမှုပစ္စည်းအမျိုးမျိုးနှင့် အခြားခေတ်ပေါ် ယဉ်ကျေးမှုပစ္စည်းအမျိုးမျိုးကိုလည်း လေ့လာကြည့်ရှု ဗဟုသုတ ဆည်းပူးလေ့လာရယူနိုင်လေသည်။ ဘုရားကြီးစောင်းတန်းလေးသွယ် ဈေးများနှင့် လေးဆယ့်ငါးတာ တိုက်တန်းဈေးတို့မှာလည်း ကြိတ်ကြိတ်တိုး လူစည်ကားလှသည်။ လေးဆယ့်ငါးတာကွင်းကြီး၌ သာသနာသက္ကရာဇ် ၂၅၀၀-ပြည့် အထိမ်းအမှတ် အဆောက်အအုံဗိမာန်တော်နှင့် အခြားအဆောက်အအုံတို့လည်း များစွာတည်ရှိလေသည်။ ဘုရားကြီးအရှေ့ဘက်တွင် ရဟန်းသံဃာတော်များစွာ သီတင်းသုံးလျက်ရှိသော နန္ဒိသေနာရာမကျောင်းတိုက်နှင့် ထီလင်းတိုက် စသည်တို့ တည်ရှိပြီး မြောက်ဘက်တွင် မြင်းဝန်မင်းကြီးကျောင်းတိုက် တည်ရှိသည်။ အနောက်မြောက်ဘက်တွင် ကပ်၍ ရွှေရေးဆောင်ကျောင်းတိုက်ရှိ၍ တောင်ဘက်တွင် အသောကာရာမကျောင်းတိုက်ကြီးရှိပြီး အရှေ့တောင်ဘက်တွင် မြန်မာပြည်တွင် သံဃာအများဆုံး သီတင်းသုံးရာ ဒက္ခိဏာရာမ်ဘုရားကြီး ကျောင်းတိုက်ကြီး တည်ရှိလေသည်။

**အတိုင်းအတာ ပမာဏ**

မဟာမြတ်မုနိရုပ်ရှင်တော်မြတ် ကိန်းဝပ်စံပယ်တော်မူရာ ဂန္ဓကုဋီတိုက်တော်အတွင်း အကျယ်အဝန်းမှာ အရှေ့အနောက်အကျယ် ၁၇-ပေ ၉"

လက်မ။ တောင် မြောက်အကျယ် ၁၈-ပေ ၉-လက်မ ရှိ၍ ပလ္လင်တော်အကျယ် အဝန်းမှာ အောက်ခြေ အရှေ့နှင့်အနောက် အကျယ် ၁၃-ပေ ၅-လက်မ၊ တောင်မြောက် အကျယ် ၁၅-ပေ ၈-လက်မ၊ ပလ္လင်တော်အမြင့် ၆-ပေ ၁၁-လက်မ၊ ပလ္လင်တော်ပေါ်တက်ရန် နောက်တော်မှ အုတ်လှေကား ၈-ဆင့်ရှိလေသည်။ မဟာမုနိဆင်းတုတော်မြတ်ကြီးမှာ ဉာဏ်တော် ၈-တောင် ၁-မိုက်၊ (၁၂-ပေ၊ ၇-လက်မ) ရှိလေသည်။ လက်ဝဲဘက် မောင်းတော်လုံးပတ်မှာ ၅-ပေ ၃-လက်မခွဲ၊ လက်ယာဘက် မောင်းတော်လုံးပတ်မှာ ၅-ပေ ၃-လက်မ၊ ဒူးတော်အစွန်းနှစ်ဘက် အကွာအဝေးမှာ ၈-ပေ ၆-လက်မ ရှိလေသည်။ ပလ္လင်တော်ကြီးမှာ ၁၃၀၉-ခုနှစ် ဝါခေါင်လဆန်း ၃-ရက်နေ့တွင် ပြန်လည်မွမ်းမံ ရွှေချထားလေသည်။ ကျောက်စာ၌ ရွှေပိဿာချိန် ၄၀-ရှိသည် ဟူ၏။

## သမိုင်းအကျဉ်းချုပ်

သက္ကရာဇ် ၁၁၄၆-ခုနှစ် အမရပူရရွှေမြို့ ရွှေနန်းတည် ဘိုးတော်မင်းတရားကြီးလက်ထက် သားတော်ကြီး အိမ်ရှေ့ဥပရာဇာ "သီရိမဟာဓမ္မာဘိဇယသီဟသူရ" ကို ဓညဝတီမည်သော ရခိုင်ပြည်ကို လုပ်ကြံသိမ်းပိုက်စေရာမှ ပင့်ဆောင်ခဲ့ခြင်းဖြစ်လေသည်။ ယင်း မဟာမုနိဆင်းတုတော်ကြီးကို ၁၁၄၆-ခုနှစ်တွင် မြန်မာတို့လက်သို့ ရောက်ရှိခြင်းဖြစ်သည်။ ထိုကိုရည်၍ ဥ-သြ-ရေ-သောက် မုနိရောက်" ဟူသော လင်္ကာကို စပ်ဆိုခဲ့ကြသည်။ မန္တလေးသို့ ရောက်သည်ကား ၁၁၄၇-ခုနှစ်တွင်မှ ဖြစ်သည်။

ထိုရုပ်ရှင်တော်ကား လောကမျက်ရှ သဗ္ဗညုမြတ်စွာဘုရား သက်တော်ထင်ရှားရှိတော်မူစဉ် ဓညဝတီပြည်၏ ထီးဘုရင် စန္ဒာသူရိယမင်းကြီးသည် ဘုရားရှင်၏ ရှေတော်မှောက်တွင် သွန်း ထုလုပ် ဓညဝတီရခိုင်ပြည် မင်းအဆက်ဆက်တို့ အတုမဲ့ကိုးကွယ်လာခဲ့သော ကိုယ်တော်စား ရုပ်ပွားတော်မြတ်ဖြစ်၍ အလွန်တန်ခိုးကြီးမြတ်လေသည်။

ရင်းရုပ်ရှင်တော်မြတ်ဘုရားကို မြန်မာတို့ ကိုးကွယ်လိုကြသဖြင့် ပုဂံပြည်ကြီးရှင် အနော်ရထာမင်းကြီးလက်ထက်တွင် တကြိမ်၊ အလောင်းစည်သူမင်းကြီးလက်ထက်တွင် တကြိမ် ပင့်ဆောင်ဘူးသော်လည်း မရခဲ့ပါချေ။ အမရပူရ ပဋ္ဌမမြို့တည် မင်းတရားကြီး လက်ထက်ကျမှ မဟာသမ္မတ ရာဇာမင်းနှင့်တကွ ဓညဝတီ ရခိုင်ပြည်အလုံးကို သိမ်းကျုံး အောင်မြင်တော်မူ၍ မဟာမုနိ ရုပ်ပွားတော်မြတ်ကို ပင့်ဆောင်လာနိုင်ခြင်း ဖြစ်လေသည်။

အိမ်ရှေ့ဥပရာဇာ သီရိမဟာဓမ္မာဘိဇယသီဟသူရသည် မဟာမုနိ ဆင်းတုတော်မြတ်ကြီးကို တောင်ကုတ်လမ်းမှ ကုန်းကြောင်းခရီးဖြင့် ခဲယဉ်းပင်ပန်းစွာ ပင့်ဆောင်ပြီးမှ ပန်းတောင်းမြို့ ဆိပ်ကမ်းသို့ ဆိုက်ရောက်လာရာ ထိုမှတဖန် ရတနာဖောင် ၂–စင်းတွဲဖြင့် ဧရာဝတီမြစ်ကြောင်းအတိုင်း ပင့်ဆောင်လာခဲ့ရာ ၁၁၄၇–ခုနှစ် ကဆုန်လတွင် နေပြည်တော် အမရပူရသို့ ဆိုက်ရောက်တော်မူလာသည်။၊ အမရပူရမြို့တော်မှ မြောက်ယွန်း တာတထောင်ကွာ၊ သာယာညီညွတ်ပြန့်ပြူးသော မြေအပြင်၌ ဖန် မှန်တို့ဖြင်ပြီးသော အုတ် အင်္ဂတေတို့၏ ပြင်ပ၌ ရတနာမျိုးစုံဘို့ဖြင့် စီခြယ်အပ်သည့် ဘုံကိုးဆင့်ရှိ ပြာသာဒ်တော်ဘွင် သွင်း၍ ကိုးကွယ်တော်မူလေသည်။

၁၁၅၂–ခုနှစ် တော်သလင်းလဆုတ် ၁၁–ရက် စနေနေ့တွင် ရွှေသင်းကျစ်တော်ကို လှူဒါန်းတော်မူသည်။ ၁၁၅၂–ခုနှစ်မှာပင် ကျီဝန်မင်းကြီးက အနောက်မျက်နှာ၌ ရွှေစောင်းတန်းကို ဆောက်လုပ် လှူဒါန်းလေသည်။ ၎င်းစောင်းတန်းကြီးမှာ မီးဘေးသင့်သဖြင့် ပျက်စီးခဲ့ရချေပြီ။ ယခုလက်ရှိ စောင်းတန်းများမှာ ၁၃၂၅–ခုနှစ်မှာ စတင်ဆောက်လုပ်ခဲ့သော စောင်းတန်းဖြစ်လေသည်။ ၁၁၅၃–ခုနှစ်တွင် တရုတ်မြို့စားမိဖုရား သုသီရိမင်္ဂလာဒေဝီက အာရုံခံဇရပ် လှူဒါန်းလေသည်။ ၁၁၆၁–ခုနှစ်တွင် သားတော် တောင်ငူမြို့စား သုသီရိဓမ္မရာဇာက ဂန္ဓကုဋိပြာသာဒ်ဟောင်းနွမ်းသည်ကို ပြင်ဆင်မွမ်းမံ လေသည်။

၁၂၀၄–ခုနှစ်တွင် မြောက်နန်းမတော်မိဖုရား သီရိပဘာနန္ဒာဘိရတနာဒေဝီက ရွှေမြို့တော်မြောက်မျက်နှာ မဟာမုနိဘုရား ကိန်းဝပ်တော်မူသည့် ဂန္ဓကုဋိပြာသာဒ်တော် မဟာရံတံတိုင်း မီးတား အရှေ့မျက်နှာ ရေကန်နှစ်ခုပါ ပျက်စီးသမျှကို ပြန်လည်ပြင်ဆင်ခဲ့လေသည်။ ၎င်းပြင် ပဉ္စမသံဂါယနာတင် ဘဝရှင်မင်းတရားကြီး၏ မြောက်နန်းမိဖုရား "သီရိသုမဟာရတနာဒေဝီ"က ဂန္ဓကုဋိတိုက် ရွှေပြာသာဒ်တော်ကြီး ဟောင်းနွမ်း ချွတ်ယွင်းသည်တို့ကို ထပ်မံပြင်ဆင် လှူဒါန်းဘော်မူသည်။ ၁၂၄၅–ခုနှစ် နယုန်းတန်ခူးလဆန်း ၁၀–ရက်နေ့တွင် သီပေါမင်းတရားသည် ကနက္ကဒဏ်ထီးဖြူဘော်ကို လှူတော်မူသည်။ မဟာမြတ်မုနိရုပ်ပွားတော်မြတ် ရခိုင်ပြည်မှ ပင့်ဆောင်ခဲ့သော နှစ်မှ အနှစ်တရာပြည့်သော ၁၂၄၅–ခုနှစ် နယုန်းတန်ခူးလဆန်း ၁၃–ရက်နေ့တွင် မဟာမြတ်မုနိ စောင်းတန်းတော် ဂန္ဓကုဋိတော်နှင့်တကွ ပတ်ဝန်းကျင် ကျောင်းတိုက်များပါ မီးလောင်လေသည်။ ရုပ်ရှင်တော်မြတ်မှာ ရွှေသားမကိုဋ်တော်၊ နားပန်းတော်၊ စလွယ်တော်များနှင့် လူခပ်သိမ်းတို့ ကပ်လှူချမွမ်းသော ရွှေသက်န်းတော်များတွင်သာ ပျက်ယွင်းလေသည်။ ရုပ်ပွားတော်ရင်းမှာ တစုံတရာပျက်စီးခြင်းမရှိပဲ

ပကတိအတိုင်း တည်တော်မူသည်။ မဟာမုနိ ရုပ်ရှင်တော်မြတ်ကြီးမှ မီးလောင် စီးဆင်းကျလျှော့သည့် ရွှေများကို အရာရှိ မှူးတော် မတ်တော်တို့ ချိန်တွယ် မှတ်သားရာ ရွှေချိန် ၅-ထောင့် ၄-ရာ့ ၅-ဆယ် (၅၄၅၀) ကျော်ရှိလေသည်။

ယာယီဂန္ဓကုဋီဆောက်လုပ်ရန် ငွေထုတ်ပေးခြင်း၊ ရွှေထီးတင်လှူခြင်း၊ ၁၂၄၆-ခု ဦးတန်ခူးလဆုတ် ၇-ရက်နေ့ မဟာမုနိဘုရားကြီးတွင် ယခုတွေ့မြင် ရသော အုတ်ပြာသာဒ်တော်ကြီး မဆောက်လုပ်မီ အားလုံးဖူးမြော်နိုင်ရန် မီး လောင်၍ ကျန်ရှိရင်းဂန္ဓကုဋီတိုက်အထက်တွင် ဘုံသုံးဆင့်အထွတ်ထုပိကာတင် ရွှေထီးစိုက် သွပ်မိုးတန်ဆောင်းဆောက်ရန်ရင်း အောက်အာရုံခံ စမြင်အုတ်ကြွပ် မိုး လုပ်ဆောင်ရန်ရင်း ငွေ(၁၇၃၆၀) ကျပ် ထုတ်ပေးတော်မူသဖြင့် ထိုနှစ် ကဆုန်လဆုတ် ၈-ရက်နေ့တွင် သွပ်မိုး သုံးထပ်တန်ဆောင်း၊ အာရုံခံစောင်း တန်းလေးသွယ်ပါ ဆောက်လုပ်ပြီး ပြေသည်ဖြစ်၍ ရွှေထီးတော်အထွတ်တင်ရန် ဝန်ရှင်တော် တိုင်တားမြို့စားမင်းကြီးနှင့် ပညာဝန်ထောက် ဆရာဝန်ထောက် တို့ သွားရောက် ကြီးကြပ်တင်လှူရပေသည်။

## ရွှေပုဇွန်ခွံသက်န်းတော် ကပ်လှူခြင်းနှင့် မကိုဋ်တော် တင်လှူခြင်း

ရုပ်ရှင်တော်အား မီးခသဖြင့် ကိုယ်တော်မြတ်တွင် အဆင်မပြေရှိနေသည့် နေရာတို့ကို မွမ်းမံရွှေချ ဖုံးလွှမ်းရန် ၁၂၄၆-ခုနယုန်လဆုတ် ၁၃-ရက်၊ ရွှေနန်း တော်အတွင်း ခတ်လုပ်ပြီးပြေသည့် ပိဿာချိန် ၄၀-ရှိ ရွှေပုဇွန်ခွံသင်္ကန်းတော် များကို မှန်စီထမ်းစင်တွင်တင်၍ မဟာမြတ်မုနိဘုရားကြီးအရောက် အတွင်း ဝန်၊ လျှောက်ဝန်၊ စလေမြို့စားတို့ ကြီးကြပ်၍ တပ်ဝင်းအစီအစဉ်နှင့် တီးမှုတ် ကခုန် သဘင်ပွဲ အခမ်းအနား ကြီးကျယ်စွာ မဟာမြတ်မုနိဘုရားအရောက် ပို့ဆောင်လှူဒါန်းလေသည်။ ၁၂၄၆-ခုနှစ်၊ ဝါဆိုလဆန်း ၁၃-ရက်နေ့တွင် ဘဝရှင် သီပေါမင်းတရားကြီးနှင့် မိဖုရားခေါင်ကြီးတို့သည် ပရိသတ်များစွာ ခြံရံလျက် မဟာမြတ်မုနိဘုရားသို့ ဝင်တော်မူကြသည်။ အမြောက်သံ (၃၂) ချက်ကြား၍ ဘဝရှင်မင်းတရားကိုယ်တော်တိုင် မဟာမြတ်မုနိ ရုပ်ရှင်တော် မြတ်ကို မျက်နှာတော်ဖွင့်ပြီး မကိုဋ်ဒုယင် တင်လှူပူဇော်တော်မူပြီး အမြောက် ၃-ချက် ပစ်ဖောက်စေလျက် သံဃာတော်အား လှူဒါန်းဖွယ် လှူဒါန်းပြီး ရေစက်သွန်းချ အမျှပေးဝေလေသည်။ မီးခစဉ်က စီးဆင်းလျှောကျသည့် ရွှေ များကိုလည်း သင်္ကန်းတော်ခတ်လုပ်စေပြီး ၁၂၄၆-ခုနှစ်၊ တပို့တွဲလတွင် မွမ်းမံကပ်လွှမ်းစေလေသည်။ ယင်းရွှေမှာ ခွက်(၆၀)မျှ ရှိသောဟူ၏။



မဟာမြတ်မုနိဂန္ဓကုဋိပြာသာဒ်တော်ကြီး

## လက်ရှိဂန္ဓကုဋီပြာသာဒ်တော်ကြီး

ယခု ရွှေပြာသာဒ်တော်ကြီးမှာ စမြင် ၃-ထပ်၊ စတုရန်းတဖက်နား ၁၀၃ ဖတောင် ရှိလေသည်။ တောင်တော်သာသနာပိုင် ဆရာတော်ဘုရားကြီးသည် မင်းဆွေမင်းမျိုးတို့နှင့် တိုင်ပင်၍ ၁၂၅၄-ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၁၄-ရက်၊ ဗုဒ္ဓဟူးနေ့တွင် ရွှေအုတ် ငွေအုတ်တို့ဖြင့် အုတ်မြစ်ချတော်မူခဲ့သည်။ ၎င်းနောက် ရန်ကုန်မြို့ အင်ဂျင်နီယာမင်းကြီး မစ္စတာအင်နီဖော့ ရေးဆွဲသော ပုံစံစနစ်အတိုင်း လက်ထောက် မစ္စတာဘုနှင့် စာရေးကြီး ဦးယောတို့ ကြီးကြပ်စီမံ၍ ၁၂၅၆-ခု၊ နယုန်လဆန်း ၁၄-ရက်၊ တနင်္ဂနွေနေ့တွင် အလယ်ဗဟို ပြာသာဒ်တော်ကြီး၏ အုတ်မြစ်ချပွဲကို ဒုတိယအကြိမ် ကျင်းပလေသည်။ ပြာသာဒ်တော်ကြီး ဆောက်လုပ်၍ ကုလားကျောင်း ၃၃-တောင် ကျရောက်သောအခါ စီစဉ်သူ မစ္စတာဘုသည် အလုပ်မှထွက်သွား၍ ပေါင်းကူးဌာနခက်ခဲသော အရေးကိစ္စကို ရဟန်းရှင်လူတို့နှင့် တိုင်ပင်၍ စာရေးကြီး ဦးယောနှင့် မစ္စတာဒေါနင်းတို့ကို စီမံပြုလုပ်ရန် အပ်နှင်းထားပြီးလျှင် သက္ကရာဇ် ၁၂၅၉-ခု၊ ဝါဆိုလဆုတ် ၉-ရက်၊ ကြာသပတေးနေ့တွင် ဆက်လက်လုပ်ဆောင်ရာ အုတ်ပြာသာဒ်တော်ကြီး စမြင် ၃-ထပ်၊ စတုရန်းတဖက်နား ၁၀၃ တောင်၊ ရွှေဇဝါတိုင် ၈၄-တိုင်၊ ဂန္ဓကုဋီမြေဝင် ၅-တောင်၊ နံ့သာတဖက်နား အတောင် ၄၀-၂-မိုက်၊ အတွင်းခွင်ကျ အတောင် ၃၀-နှင့် ၂-မိုက်၊ ကုလားကျောင်းအမြင့် ၃၅-တောင် ၂-မိုက်၊ ပဌမဘုံအမြင့် ၇-တောင် ၂-မိုက်၊ ဒုတိယဘုံ ၃-တောင်၊ တတိယဘုံ ၆-တောင် ၂-မိုက်၊ စတုတ္ထဘုံ ၆-တောင် ၁-မိုက်၊ ပဉ္စမဘုံ ၆-တောင် ၄-သစ်၊ ဆဋ္ဌမဘုံ ၇-တောင် ၁-ထွာ၊ သတ္တမဘုံ ၆-တောင် ၁-မိုက်၊ ဘုံ ၇-ဆင့်အမြင့် ၄၇-တောင် ၁-ထွာ၊ ကလပ် ၃-တောင် ၁-ထွာ၊ ထုပိကာ ၁၂-တောင်၊ မြေမှ ထုပိကာအထိ ၉၈-တောင် ၂-မိုက်ရှိ ပြာသာဒ်တော်ကြီး ပြီးပြေ၍ ဘုံ ၇-ဆင့်ရှိသော ထီးအဝ ၄-တောင်ပတ်လည်၊ အဝန်း ၁၂-တောင်၊ အမြင့် ၁၅-တောင် ၁-ထွာရှိ ထီးတော်ကြီးကို ၁၂၆၀-ပြည့်နှစ်၊ တပို့တွဲလဆန်း ၈-ရက်၊ အင်္ဂါနေ့တွင် တင်လှူပူဇော်ကြလေသည်။

### မကိုဋ်တော်

၉-သိန်း ၄-သောင်းကျော်တန် သီပေါမင်း၏ ကောင်းမှုတော် မကိုဋ်တော်ကြီးမှာ မင်းတရားပါတော်မူစဉ်က မသူတော်တို့ ခိုးယူကြသဖြင့် ပျောက်ဆုံးခဲ့ရာ ယခု ဖူးတွေ့ရသော မကိုဋ်တော်မှာ ၁၂၆၃-ခုနှစ်မှာမှ ပြန်လှူထားသော အဆင်တန်ဆာ မကိုဋ်တော်ဖြစ်လေသည်။ ၁၂၆၀-ပြည့်နှစ်က ဂန္ဓကုဋီ

တော်ကြီး ထီးတင်ခဲ့ကြသည်ကို "အောက်ကသွန်း အစွန်းသုည မုနိရှင်ကို ထီးတင်ကြ"ဟူသော ဆောင်ပုဒ်ဖြင့် မှတ်သားခဲ့ကြသည်။ ၁၂၆၃-ခုနှစ်က ရုပ်ရှင်တော်မြတ်ကြီးအား မကိုဋ်တော် ဆင်မြန်းခဲ့သည်ကို "ညံ့သဲခြိမ့်အုံး မုနိဘုန်း ပြည်လုံးမကိုဋ်တင်"ဟူသော လင်္ကာတို့ဖြင့် သညာပြုခဲ့ကြသည်ကို "အစ် ငွေး အင်္ဂ အောင် သုညဆောင် ဝါခေါင်လလဲ ထီးတင်ပွဲ"ဟူသော ကဗျာတို့ဖြင့် မော်ကွန်းထိုးခဲ့ကြသည်။

## ငွေသားမျက်နှာကြက်တော်

မဟာမြတ်မုနိ ရုပ်ရှင်တော်၏ အထက်မျက်နှာကြက်တော်မှာ ရှမ်းပြည်နယ် နန့်ဆန်း ၂-မြို့အပိုင် မဟာရာဇာ စော်ဘွားကြီးနှင့် မဟာဒေဝီ သားသမီး ဆွေမျိုးတစုနှင့် ပြည်သူတို့၏ ကောင်းမှုဖြစ်၍ ၁၂၉၃-ခု၊ ပြာသိုလဆုတ် ၈-ရက်နေ့တွင် ဆွဲတင်လှူဒါန်းခဲ့သည်။ မျက်နှာကြက်တော်မှာ စတုရမ်း ၁၀-ပေ ၁၀-လက်မ ရှိလေသည်။

## မဟာမြတ်မုနိဘုရားရှင် အံ့ဖွယ် ၉-ပါး

၁။ တိရစ္ဆာန်ကြေးငှက် သတ္တဝါအပေါင်းတို့သည် ရုပ်ရှင်တော်မြတ် ကိန်းဝပ်တော်မူရာ ဂန္ဓကုဋိရွှေပြာသာဒ်ပေါ်သို့ လွှားကျော်ပျံသန်း နားနေခြင်း မပြုခြင်း။

၂။ ရုပ်ရှင်တော်မြတ်၏ ရွှေမျက်နှာတော်မြတ်သည် ပေါ်ထွန်းထွက်စဖြစ် သော လမင်းသော်တာကဲ့သို့ နေ့နေ့ညည ဖူးမြော်မဝအောင် အမြဲ နိစ္စ ထွန်းလင်းတောက်ပသော ရောင်တော်မြတ်ကို လွှတ်တော်မူခြင်း။

၃။ အယူလွဲမှား မတရားကျင့်ကြံကြသော ဒုဿီလပုဂ္ဂိုလ်တို့သည် မဟာ မုနိရုပ်ရှင်တော်ကို ဖူးမြင်သည်ရှိသော် သောက်ရှူးပမာ ရွှေမျက်နှာ တော် ညိုပြာမှောင်လျက် အရောင်တော်မထွက်ပဲ မှေးမှိန်ခြင်း။

၄။ ရုပ်တုတော်မြတ်၏ သဏ္ဌာန်တော်ကို ပုံတူကပ်ကူး၍ ရေးသားသွန်း လုပ်သော်လည်း ပင်ပန်းကာမျှ ကျဲ-နှ- ဗီပြင်စွာ မကူးယူနိုင်ခြင်း။

၅။ တရားတွေ့ဆိုင် အမှုပြိုင်ကာ အနိုင်အရှုံး ကျင့်သုံးမှုကား ကျိန်ဆိုငြား သော်လည်း ထင်ရှားလက်ငင်း ပျက်ယွင်းထိရောက်စေနိုင်သော တန်ခိုးတော်ကြီးခြင်း။

၆။ ရဟန်းရှင်လူ ပြည်သူပြည်သား လူအများတို့သည် သဒ္ဓါတရားတိုးပွား တက်ကြွသောကြောင့် ကုဋေသိန်းသောင်း မကသော ရွှေဆိုင်းတို့ဖြင့် နေ့စဉ်လှူဒါန်းပါသော်လည်း ပြေပြစ်သန့်စင် ပြည့်ဖြိုးလှသော ကိုယ်တော် ပကတိရှိတော်မူခြင်း။

၇။ ၁၂-လ မည်သည့်အချိန်ခါသမယမဆို ညဥ့်ပါနေ့ရော သောသော ညံညံ အသံမစဲ ပွဲတော်အသွင် လူရှင်အများ စည်ကားဖူးရောက်စေသော တန်ခိုးအာနုဘော် ကြီးမြတ်ခြင်း။

၈။ တန်ခူးလ၊ ကဆုန်လအစရှိသော အတာသင်္ကြန်ရေသွန်းအခါ၌ ဝဲယာ ရှေ့နောက် မိုးပေါက်မိုးသီးမက အိုးကြီးအိုးငယ်တို့နှင့် ရေသပ္ပာယ်ကြပါသော်လည်း ရွှေတော်အပေါ်၌ ရေမနား မတည်နိုင်သော တန်ခိုး ကြီးမြတ်ခြင်း။

၉။ ဝေနေယျားစွာ သတ္တဝါတို့သည် ဆင်းရဲချမ်းသာ တွေ့ကြုံမည်မှန်က ရုပ်ပွားတော်မြတ်ဘုရားသည် ထင်ရှားစွာ တန်ခိုးတော်မြတ် ထူးခြားစွာ ပြသတော်မူသော ဘုန်းတော်ရှိခြင်း။

ဤသို့ အံ့သြဖွယ်ရာ ကိုးဖြာနှင့် ပြည့်စုံသောကြောင့် မဟာမြတ်မုနိရုပ်ရှင်တော်မြတ်၏ ကျော်စောသံမှာ သုံးဖြာဘဝဂ် ပျံ့နှံ့တက်ခဲ့လေသည်။

ဖော်ပြပါ ဘုန်းတော် တန်ခိုးတော် အံ့ဖွယ်တို့နှင့် ပြည့်စုံတော်မူသော မဟာမုနိရုပ်ရှင်တော်မြတ်ဘုရားကို ဘုန်းသမ္ဘာကြီးရင့်ခြင်းနှင့် သုံးဖြာသော ချမ်းသာကို အလိုရှိသူသည် အောက်ပါ ဝန္ဒနာဂါထာဖြင့် ရှိခိုးဦးချ ဖူးမြော်ကန်တော့ရာသတည်း။

နဝအစ္ဆေရသမ္ပန္နံ၊ ပါကဋံ ဗုဒ္ဓနိမ္မိတံ။
သုသောဘံ ဟေမခန္ဓံဝ၊ နမာမိ သာဒရံ မုနိ[၁]။

နဝအစ္ဆေရသမ္ပန္နံ၊ သနပြောက်ချွန်းငူ ဗေဒဇမ္ဗူဝယ် အတူမရ ယင်းသို့စသား ကိုးပါးကိုးသွယ် အံ့သြဖွယ်နှင့် တကယ်ကုံလုံ ဂိုဏ်ပေါင်းခြုံ၍ ပြည့်စုံတော်မူထသော။ ပါကဋံ၊ သောင်းလောကဓာတ် ဇမ္ဗူရပ်၌ နှံ့ငပ်ကျော်ကြား ထင်ရှားထသော။ ဗုဒ္ဓနိမ္မိတံ၊ အနုတ္တရ ဉာဏဋ္ဌဟု ဗုဒ္ဓထွတ်တင် နိဗ္ဗာန်ခွင်သို့ စျာန်ယာဉ်ပျော်မွေ့ မဝင်ရွေ့မီ ရင်ငွေ့တော်သွင်း ဗျာဒိတ်နှင်း၍ ဖန်ဆင်းတော်မူအပ်ထသော။ ဟေမခန္ဓံဝ၊ သိင်္ဂီဇမ္ဗူရစ် မြူမညစ်သည့် လှော်သစ်ဦးပြီး ရွှေတုံးကြီးကဲ့သို့၊ သုသောဘံ၊ ဖူးသူမြင်သူ များဗိုလ်လူတို့ ကြည်ဖြူတက်ကြွ

---

၁။ နမော တဿ ဂီတိကျမ်းမှ။

အားမရပဲ အနားကပင် မခွာချင်အောင် ထွန်းပြောင်တောက်လျှမ်း ရောင်ခြည်ပန်းတို့ဖြင့် ယှက်သန်းခြယ်လှယ် ဂုဏ်ပေါင်းကြွယ်၍ တင့်တယ်တော်မူထသော။ မုနိ၊ မဟာမုနိ တုမရှိဟု သုတိကျော်ကြား ရှင်တော်ဘုရားကို။ အဟံ၊ သံသရာလမ်း ခန္ဓာထမ်း၍ ပင်ပန်းဟိုက်အော် တပည့်တော်သည်။ သာဒရံ၊ ဉာဏသမ္ပယုတ် တိဟိတ်ဉာဏ်ဖြင့် ဂုဏ်ပုဒ်ဖော်ကာ ရှိသေစွာ။ နမာမိ၊ ကိုယ်နှုတ်နှလုံး သုံးပါးလုံးဖြင့် ရှင်ပြုံးသဒ္ဓါ မင်္ဂလာ ဖိုလ်စခန်း ရက်တိုလှမ်းဘို့ ရည်မှန်းရှိခိုးပါ၏မြတ်စွာဘုရား။

## ရောင်ခြည်တော်လွှတ်ခြင်း

မဟာမြတ်မုနိရုပ်ရှင်တော်ကြီးသည် အလွန်လျှင် တန်ခိုးအာနုဘော်ကြီးတော်မူ၏။ သက္ကရာဇ် ၁၂၄၅-ခုနှစ်၊ နယုန်လဆန်း ၁၃-ရက်၊ အင်္ဂါနေ့၊ ၂-ချက်တီးကျော်မှစ၍ ညနေ ၄-ချက်တီးတိုင်ကိုင် မဟာမြတ်မုနိရုပ်ရှင်တော်မြတ်ကြီး၏ ထက်ဝန်းကျင်မှ ရေမီးအစုံအစုံစသော တန်ခိုးပြာဋိဟာရောင်ခြည်တော်လွှတ်တော်မူသည်။ ယင်းသို့သော မဟာမြတ်မုနိရုပ်ရှင်တော်ကြီး၏ တန်ခိုးပြာဋိဟာကို ရည်မှန်းတော်မူ၍ "နရိန္ဒာဘိသီရိသဒ္ဓမ္မဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု"နှင့် "နရိန္ဒာဘိသီရိသဒ္ဓမ္မဓဇ ဇောတိပါလဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု"ဘွဲ့တံဆိပ်တော်၊ "နရိန္ဒာဘိဓဇ အတုလဓိပတိသီရိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"ဘွဲ့တံဆိပ်တော်ဟူသော ဘွဲ့တံဆိပ်တော် ၃-ထပ်ရ ဆီးပန်းနီဆရာတော် အရှင်နရိန္ဒသည် အောက်ပါ ပူဇော်ရန် ၄-ဂါထာပါဠိနိဿယကို ရေးသားစီရင်တော်မူ၍ ပူဇော်တော်မူခဲ့လေသည်—

### မဟာမြတ်မုနိပူဇော်ရန် ၄-ဂါထာပါဠိနိဿယ

၁။ နေဝါယံ ဘရဂုံ မုဟုံ၊ ပဇ္ဇုန္နေ မေဃဝိဇ္ဇုဝ။
စန္ဒာပိ သူရိယော ယာဘာ။ သမန္တာ စ ဒိသာ အဃာ။

၂။ ဘူကာသံ ဟူဘာသံ ကပ္ပဝ၊ အာဒိစ္စာဘိ ပုနပ္ပုနံ။
အစေတနံ စ စေတနံ၊ ဝသုန္ဒ္ဓရိဝ ကုံဥရံ၊

၃။ နိစ္စလံ စာလာ ဘူဇာဘိ၊ မိတေယော စ န နောကာသာ။
ကျန္တာ နန္တာ ဗုဒ္ဓဂုဏာ၊ အဟစ္စံရာ မဟာမုနိ။
အစိန္တိယာ တေ ပျာဘာဒိ၊ ဝန္ဒာမျဟံ ဥပါဂမိ။

၄။ မကုဋ္ဌာတုသသမ္ဗုဒ္ဓံ၊ မကုဋ္ဌံ ရတနစ္စိတံ။
မကုဋ္ဌော သုရာဇာ အာဒါ၊ မကုဋ္ဌံ ဓမ္မာရဒါ။

၁။ အယံ အာဘာ၊ ဤအရောင်တို့သည်။ ပဇ္ဇုန္နေ၊ ပဇ္ဇုန်ကာလ၌။ မေဃဝိဇ္ဇုဝ၊ မိုးတိမ်မှ ပြက်သော လျှပ်စစ်ရောင်ကဲ့သို့။ သမန္တာ၊ ထက်ဝန်းကျင်ဖြစ်သော။ ဒိသာ စ၊ အရပ်မျက်နှာမှရှင်း။ အဃာ စ၊ ကောင်းကင်မှရှင်း။ မုဟုံ၊ အဖန်တလဲလဲ။ အာဘာ-အာဘာတိ၊ လွန်စွာတောက်ပ၏။ ဘာရဂုံ၊ သောက်ရှူးကြယ်ကဲ့သို့ရှင်း။ စန္ဒာပိ သူရိယောယာဘာ၊ နေရောင် လရောင် ကဲ့သို့ရှင်း။ နေဝ ဟောတိ၊ မဟုတ်။

၂။ ဘူကာသံ၊ မြေတောင် ကောင်းကင်အလုံးသည်။ ဟူတာသံ ဇ္ဇလဝ၊ ပူဇော်အပ်သော ရွှေမီးပန်းကဲ့သို့၊ ပုနပ္ပုနံ၊ အဖန်တလဲလဲ။ အာဒိဗ္ဗတိ၊ လွန်စွာ တောက်ပ၏။ (ရောင်ခြည်တော်အဖွဲ့) အစေတနံ၊ စိတ်စေတနာမရှိသော။ ဝသုန္ဓရံ၊ မြေအပြင်ကို။ စေတနံ၊ စိတ်စေတနာရှိသော။ ကုဥ္စရံ—ကုဥ္စရံ ဣဝ၊ မြေပြင်ရန်အောင် ဆင်ဒွန့်ပြောင်ကဲ့သို့။ နဒါပေတိ၊ ကြည်းဟည်းစေ၏။ (တော်လည်းသံဖွဲ့)

၃။ နိစ္စလံ၊ အမြဲဘည်သော မြေကြီး·မြင်းမိုရ် ယုဂန္ဓိုရ်စသည်ကို။ စာလံ-စာလန္တော၊ တုန်လှုပ်စေလျက်။ အာဘုဇတိ-အာဘုဇာပေတိ၊ ချာချာလည် စေ၏။ မိတေဃာ စ၊ မိတည်းဘုရားသခင်သည်လည်း။ နှ၊ ဖန်ဆင်းတော်မူသည်မဟုတ်။ အနောကာသာ၊ မိတည်းမာရ်နှိမ် ပွင့်ချိန်မတိုင်လေသေး။ (မြေကြီးတုန်လှုပ်ဖွဲ့) ဟေ၊ အို သူတော်ကောင်းအပေါင်းတို့။ ဗုဒ္ဓဂုဏာ၊ ဘုရားကျေးဇူးတော်တို့သည်။ ကျန္တာ-ကိံ အန္တာ၊ အဆုံးရှိကုန်သလော။ အနန္တာ၊ အဆုံးမရှိကုန်။ မဟာမုနိ၊ မြတ်သောမုနိဖြစ်တော်မူသော ရုပ်ရှင်တော်ဘုရား။ ကေပျာဘာဒိ-တေပိ အာဘာဒယော၊ ထိုရောင်ခြည်တောက်ပခြင်း မြေကြီး ကြည်းဟည်းတော်သည်းခြင်း မြေတုန်လှုပ်ခြင်း အစရှိသည်တို့သည်လည်း။ အပဟစ္ဆရာ-အပဟော အစ္ဆရာ- ဩ်ခြင် အံ့ဖွယ်ရှိပေစွ။ အစိန္တိယာ၊ မကြံနိုင်ကုန်ပါဘုရား။ အဟံ၊ အကျွန်ုပ်သည်။ သုခတ္ထာယ၊ ချမ်းသာသုံးဖြာ ရပါစေခြင်း အကျိုးငှာ။ ဝန္ဒာမိ၊ ရှိသေမြတ်နိုး ရှိခိုးပါ၏။ ဥပါဂမိ၊ နေ့ညဥ့်မပြတ် ဆည်းကပ်ပါ၏။

၄။ မကုဋ္ဌံ-မကုဋ္ဌဘူတံ၊ လူသုံးပါးတို့၏ မကိုဋ်သရဖူ ဖြစ်တော်မူသော။ အတုလသမ္ဗုဒ္ဓံ၊ အတုမရှိသော မြတ်စွာဘုရားကို။ မကုဋ္ဌော၊ တိုင်းသားပြည်သူ လူအပေါင်းတို့၏ မကိုဋ်ညွှန့်စစ် ဖြစ်တော်မူသော။ သုရဇာ၊ ပြည်ကြီးသခင် အရှင်မင်းကောင်းသည်။ ရတနစ္စိတံ၊ နဝရတ်ကိုးဖြာ ရတနာတို့ဖြင့် မွမ်းမံ ခြယ်စီအပ်သော။ မကုဋ္ဌံ၊ မကိုဋ်ရတနာ မြတ်တန်ဆာကို။ အဒါ၊ လှူတော်မူလေပြီ။ တေန ပုညေန၊ ထိုကောင်းမှုကြောင့်။ သာမိ၊ ပြည်ထဲသခင် အရှင်

မင်းမြတ်သည်။ မကုဋ္ဌ-မကုဋ္ဌသင်္ခါတံ၊ တရားတကာတို့၏ အထွင့်ဟု ဆိုအပ် သော။ ဓမ္မ-ဓမ္မံ၊ အရဟတ္တဖိုလ်တရားမြတ်ကို။ ခါရဒါ၊ ဆောင်စွမ်းနိုင် ပေး စွမ်းနိုင်သည်။ ဟောတု၊ ဖြစ်ပါစေသတည်း။

## မဟာမြတ်မုနိဘုရားကြီး အံ့ဖွယ်ရှစ်ပါးလင်္ကာ

နိမ္မိတပွား၊ ဤရှင်ဖျား၏၊ ရှစ်ပါးအံ့ဖွယ်၊ အသွယ်သွယ်ကား၊ ဆိုး ရွားငှက်ယုတ်၊ မြည်နှုတ်ကြွေးကြော်၊ ပြာသာဒ်တော်ကို၊ ပျံကျော်ခြင်း ငှာ၊မတတ်ရာတည့်၊မျက်နှာတော်ရောင်၊ အမြဲပြောင်လျက်၊ မိုက်လျက် ယုတ်မာ၊ ဖူးမြော်ခါ၌၊ ရောင်ဝါမထွန်း၊ ပုံသွန်းတူအောင်၊ လုပ် ဆောင်မရ၊ ကျိန်ဆိုကလျှော်၊ အနိဋ္ဌဒဏ်၊ ရောက်မြဲမှန်၏၊ ညပြန်နံနက်၊ နှစ်လရက်၌၊ ဝင်ထွက်ပရိသတ်၊ မပြတ်လေငြား၊ ရွှေပြားရွှေလွှာ၊ ထောင်ရာပူဇော်၊ ချမ္ဘန်းသော်လည်း၊ကိုယ်တော်ပကတိ၊ ရှိမြဲတိုင်းသာ၊ ကဆုန်ခါ၌၊ မျှားစွာထွေထွေ၊ သွန်းသောရေလည်း၊ တည်နေတံစား၊ ရပ်မနားတည့်၊ ရှစ်ပါးဤသို့၊ ကျေးဇူးတို့ကြောင့်၊ မြို့ပြည်နိုင်ငံ၊ ကျော်လျှံသတင်း၊ ဘဝဂ်ချဉ်းသတည်း။

## မဟာမြတ်မုနိရုပ်ရှင်တော်နှင့်စပ်၍ သိမှတ်ဖွယ်လင်္ကာ

ဘုရားစင်စစ်၊ ကိုယ်တော်ဖြစ်က၊ အနန္တသဘ္ဘဝါ၊ ဝေနေယျာကို၊ ရွှေညာအောင်မြို့၊ နိဗ္ဗာန်သို့လျှင်၊ ပို့တော်မူကာ၊ ထိုသူငါလည်း၊ မပါ လွတ်ကင်း၊ ရှောင်ခဲ့ကွင်း၍၊ အဖျင်းပမာ၊ အကာဖောင်းဖောင်း၊ ဗူး တောင်းသဏ္ဍာန်၊ လူ့လက်ပံဘို့၊ ကျန်ခဲ့တုံရစ်၊ ဝဲဘွင်နစ်သော်၊မိတေး ကျော်လျှင်၊ ကံ့ကော်ပင်၌၊ စက်ရှင်ဥပရာဇ်၊ ဘုရားဖြစ်က၊ ဝေနေယျ ကို၊ သုခကယ်ဆောင်၊ မဂ္ဂင်ဖောင်ဖြင့်၊ အောင်လံဝင်းဝင်း၊ရွက်ကြီး ခင်းလျက်၊ အပြင်းဆန်တက်၊ နိဗ္ဗာန်ဘက်သို့၊ လူ့ထွက်မသွေ၊ လိုက်လို ပေက၊ရှိသေခန့်ညား၊ငါ့ကိုယ်စားကို၊စိတ်ထားကြည်ဆွ၊ကိုးကွယ်ကြဟု လူ့ဘဆရာ၊ တို့သူငါကို၊ ညွှာတော်မူငြား၊ ကိုယ်တော်စားဟု၊ တိုင်း ကားစိုးချာ၊ စန္ဒာသူရိယ၊ ထိုခင်းလှအား၊ ရည်မှတ်သား၍၊ စီးပွား နောက်နောင်၊ ဖြစ်လေအောင်လျှင်၊ လူ့ဘောင်တည်စေ၊ ထားခဲ့ပေ သည်၊ ခြောက်ထွေရောင်ဖြာ၊ မဟာမုနိ၊ ထွန်းအိလျှံညီး၊ ဘုရားကြီးကို၊ မငြီးစေတနာ၊ သဒ္ဓါအဟုန်၊ ဖူးပါကုန်လော့၊ သုံးဆိုသခင်၊ ရှင်ပင် ပမာ၊ ရွှေမျက်နှာလည်း၊ သော်တာထွန်းပ၊ နေမကဘည့်၊ တောက်ပ အရောင်၊ ထိန်ထိန်ပြောင်၏၊ မျက်မှောင်တော်ကြား၊ မေးဖျားနှာ

၆အာက်၊ ပေါက်ပေါက်ကျမူ၊ ယိုလှုလှုတည်း၊ ရှုကတင့်တယ်၊ သောက်ရှူးကြယ်သို့၊ အံ့ဖွယ်ပင်သာ၊ ဖူးသောခါလည်း၊ မျက်နှာတော်ကို၊ ရှုမြော်ကျုန၊ ကြည့်ဖမ်းကြလော့၊ ကြွမည်အလား၊ သွားမည်အသွင်၊ ပြုံးချင်ရယ်ခအောင်၊ မြတ်ဘုန်းခေါင်မူ၊ မျက်မှောင်ရှင်ရှင်၊ ကြည့်တိုင်းထင်၏၊ ကြည်လင်သဒ္ဓါ၊ ဖူးသောခါလည်း၊ စေတနာသုံးပါး၊ မပြားညီမျှ၊ ဖူးကုန်ကြဘ၊ အမဘအောင်မြေ၊ ရောက်ကြစေဟု၊ ရှာခဖွန့်နှီးနွှယ်၊ ဇာတ်သွယ်သွယ်မှ၊ မကျယ်မကျဉ်း၊ စဉ်းစားဉာဏ်နှင့်၊ ဆင်ခြင်ချင့်၍၊ လင်းဖွင့်သံချို၊ စီကုံးဆို၏၊ ပုဂ္ဂိုလ်မြတ်များ၊ဘုရားကျေးဇူး၊ ချီးကျူးသိမ်းရုံး၊ စင်ငေစ်ကျုံးလည်း၊ အဆုံးဘယ်မှာ၊ မရှိရာတည်း၊ လက်ာဘွဲ့ရေး၊ များစွာသေး၏၊ ဝေ အစိန္တိယာ၊ ဘယ်မှာနတ္ထိ၊ ဆုံးမရှိ၍၊ သိရုံပင်သာ၊ ရုံးခဲ့ပါသည်။ ။နားမနာ၍ မရဲတည်း။

## ဆရာကြီး ဦးနိုးဆို မဟာမြတ်မုနိသမိုင်းလင်္ကာ

များစွာလူပုံ၊ ပျားစွဲအုံသို့၊ အပုံအယင်၊ မြေပြင်မလပ်၊ လူချင်းထပ်မျှ၊ ကြပ်ရှေ့ထိုဝယ်၊ ပါကောင်းဖွယ်တိ၊ သွယ်သွယ်များစွာ၊ ဗိုလ်ပါဆင်မြင်း၊ လုံးရင်းပြည့်လပ်၊ အထပ်ဆပ်လျှင်၊ သုံးလူရှင်ကို၊ ဖူးမြင်အံ့ငှာ၊ ရောက်ကြလာသည်၊ ရေမှာတခြား၊ များသားပြိုးပြီး၊ လှေကြီးလှေငယ်၊ ကုန်ဝယ်ထွေထွေ၊ သဘော်လှေသည်၊ ရေဝယ်မလပ်၊ မြစ်ရိုးကြပ်မျှ၊ ရောက်လာကြ၍၊ ရိခကြည်နူး၊ ဘုရားဖူးလျက်၊ ညွှင်းဖြူးသံချို၊ သာချင်းဆို၍၊ နာလိုနွှဲနွဲ့၊ ဤသို့ဘွဲ့၏၊ တုမဲ့လွန်စွာ၊ ကျွန်းလေးဖြာတွင်၊ တောင်ညာပေါ်ထွန်း၊ ဇမ္ဗူကျွန်းဝွင်၊ သာလှချင်၏၊ ခြောက်ခွင်နတ်ဌာန်၊ နိဗ္ဗာန်ထုတ်ချောက်၊ သည်ကပေါက်၏၊ အံ့လောက်ကုန်ကြ၊ ဒါနသီလာ၊ များစွာစုံစီ၊ ပါရမီလည်း၊ တောင်ဆီကျွန်းဆူ၊ သာမည်ဟူ၏၊ အလှူဒါန၊ ရဲဝံ့လှ၍၊ များစွာရွှေငွေ၊ ပြည့်စုံပေ၍၊ ကြီးဆွေရပ်စောင်၊ သုံးတောင်လောက်မှာ၊ သမ္မာတရား၊ ပြည့်စုံငြားဟု၊ စကားသံချို၊ သာချင်းဆို၏၊ ထိုထိုများစွာ၊ နတ်တကာလည်း၊ ဝမ်းမှာကြည်ညို၊ ဤသို့ဆို၏၊ ပုဂ္ဂိုလ်ထွတ်ထား၊ ဘုရားကျေးဇူး၊ ဆန်းထူးနတ်ရွာ၊ တို့ဆီမှာလျှင်၊ များစွာနန္တ၊ ဖြစ်လာကြလျက်၊ ဌာနသာစည်၊ နိဗ္ဗာန်ပြည်သို့၊ မလည်ထုဘ်ချောက်၊ ကိုယ်တိုင်ရောက်ဟု၊ ဝမ်းမြောက်တုံငြား၊ မြတ်ဘုရားကို၊ အများနတ်ဘုံ၊ ကန်တော့တုံသည်၊ အပုံများစွာ၊ ပန်းတကာကား၊ မြတ်စွာရှင်ချစ်၊ သုံးလူ့နှစ်၏၊ စုလစ်မှန်ကင်း၊ သုံးလူမင်းလည်း၊ ညွှင်းညွှင်းကြည်ဖြူ၊ မိန့်တော်မူ၏၊ ဗိုလ်လူတကာ၊ နတ်ဗြဟ္မာတို့၊ သဒ္ဓါကြည်ဖြူ၊ ဆွမ်းပန်း

လျှုလျက်၊ နှစ်သက်တရား၊ နာသောအားကြောင့်၊ ပျော်ပါးသာလွန်၊ မြို့သိဝံသို၊ စံထိုက်လှစွာ၊ ယခုမှာကား၊ အောင်ချာပုရံ၊ နိဗ္ဗာန်တံခါး၊ ဖွင့်ပြောအဆီ၊ နီးလေပြီဟု၊ မိန့်တော်ပြုက၊ ကောသလဟု၊ နာမတွင်ခြင်း၊ ထိုသည့်မင်းလည်း၊ ဝပ်စင်းတုံ့ခေါက်၊ နားတော်လျှောက်၏၊ ဘုန်းတောက်ရောင်ထင်၊ မြတ်ရှင်ပင်အား၊ ကြည်လင်စိတ်မှတ်၊ မြပြာသာဒ်ကို၊ ဆက်ကပ်ကောင်းစွာ၊ လှူချင်ပါဟု၊ လျှောက်ထားပြုက၊ သမ္ဗုဒ္ဓသည်၊ကောင်းစွ့သည်းဟူ၊ မိန့်တော်မူက၊ တူရှုထိပ်တွင်၊ လက်အုပ်တင်၍၊ သာရှင်လေးမြတ်၊ မြပြာသာဒ်ကို၊ဆက်ကပ်လှုယ်ကူ၊ မင်းကြီးလှူက၊ ထွတ်သကျသည်၊ သြဇချိုမြက်၊ အကျိုးဆက်ကုံ၊ ဘော်လျက်ချောမော၊ တရားဟောမှ၊ သဘောအမှန်၊ ညဉ့်ယံက၊ ပြင်းထန်တောင်ဟုန်၊ ဂဠုန်ပရိသတ်၊ ဆည်းကပ်အမှန်၊ သန်းခေါင်ယံက၊ နဂါးပရိသတ်၊ လင်းမှတ်ချိန်တန်၊ မိုးသောက်ယံကား၊ နတ်များမှန်စွာ၊ ဆည်းကပ်လာ၏၊ ဒေဝါသိကြား၊ ဆွမ်းကျွေးပြေား၏၊ ခွန်အားထန်ပြင်း၊ ဂဠုန်မင်းလည်း၊ ထံရင်းကုပ်ကုပ်၊ ခြေတော်ဆုပ်၏၊ တိမ်ပုပ်လှစ်စင်၊ ထက်ခွင်ပြဟ္မာ၊ သာယာမခြင်း၊ ရွှေယပ်ခံလျက်၊ ရွှေလျှုတုချုန်၊ ဇေတဝန်၌၊ မြတ်မွန်ဘုန်းလျှံ၊ စံတော်မူသည်၊ နတ်လူဖူးကြရှင်လန်းတည်း[၁]။

## ဖောင်တော်ဦး စေတီတော်များ

မဟာမြတ်မုနိဘုရားကြီး အနောက်စောင်းတန်းတောင်ဘက်၌ ဖောင်တော်ဦး စေတီတော် တည်ရှိသည်။ ယင်းစေတီတော်မှာ သက္ကရာဇ် ၁၁၄၆-ခုနှစ်က သာ တော် သီရိမဟာမမ္မာဘိဇယသီဟသူရဘွဲ့ခံ အိမ်ရှေ့မင်း မဟာမြတ်မုနိဘုရားကြီးကိုပင့်၍ စစ်ကိုင်းဆိပ်ရောက်သည်တွင် ယခုတည်ရှိရာ အရပ်သို့ ပြည်သူအများနှင့် ဖောင်တော်ကို ဆွဲယူခဲ့ကြသည်။ ယင်းဖောင်တော်ဦး တည်ရာ ဌာန၌ စေတီတည်ခဲ့ရာ ဖောင်တော်ဦးစေတီဟု တွင်လေသည်။ ကမ္ပည်းကျောက်စာတွင် လောကထွတ်ခေါင်ဟု ဘွဲ့မည်တပ်လေသည်။ ယင်းစေတီအရှေ့ဘက်အနီးတွင် စေတီကြီးငယ်ပေါင်း ၄၀-ကျော်နှင့် သိမ်တော် ၁-လုံး၊ အာရုံခံတန်ဆောင်းစသည်တို့ တည်ရှိကုန်၏။

## မဟာမြတ်မုနိ ပလ္လင်တော်ကြီး မွမ်းမံခြင်း

သက္ကရာဇ် ၁၂၇၇-ခုနှစ်တွင် မဟာမြတ်မုနိ ရှင်တော်မြတ်ကြီး စံပယ်တော်မူရာ ပလ္လင်တော်ကြီးကို မွမ်းမံသည်။ ပလ္လင်တော်ကြီး မွမ်းမံရာ၌

၁။ ကဗျာသင်္ဂဟမေဒနီ၊ ၂၆၂-၂၆၃။

ကျောင်းမှူရှင်ဒါယကာမှာ အမြတ်တော်ဝန်ထောက်မင်း ဦးဘနှင့် ဝန်ထောက်ကတော် ခင်ခင်တို့ဖြစ်သည်။

ဝန်ထောက်မင်း ဦးဘသည် မြန်မာဘုရင်လက်ထက်က အတွင်းသေနာပတိဆိုင်ရာ သံတော်ဆင့်ကြီး ရာထူး၌ ချီးမြှင့်ခြင်းကိုခံရသော မင်းလှမင်းခေါင်ရာဇာ၏သား အင်္ဂလိပ်အစိုးရမင်းတို့၏ လက်ထက် အမြတ်တော်ရုံးဝန်ထောက်မင်း ရာထူး၌ ထမ်းရွက်စေလျက် စစ်ဘက်ဌာနမှ ရအပ်သော ဘွဲ့တံဆိပ်၊ အိန္ဒိယဘုရင်ခံချုပ်မင်းမြတ် ချီးမြှင့်အပ်သော အမှုထမ်းကောင်း A-T-M ဘွဲ့တံဆိပ် ဂုဏ်ထူးဆောင်လက်မှတ် ငွေနာရီများဖြင့် ချီးမြှင့်သူကောင်းပြုခြင်းခံရသူဖြစ်ရာ ဝန်ထောက်ကတော် ခင်ခင်မှာလည်း မြန်မာဘုရင်မင်းမြတ်လက်ထက် အဂ္ဂမဟာသေနာပတိ ဝန်ရှင်တော်မင်းကြီးတို့၏ လက်အောက်၌ တိုင်းရေးပြည်မှု တရားရာဇဝတ် အစရှိသော အမှုကိစ္စများကို ဆောင်ရွက်ရသော လွှတ်တော်အရာရှိ မင်းကျော်မင်းလှစည်သူ၏ သမီးရင်းဖြစ်သည်။

ထို မဟာမြတ်မုနိရုပ်ရှင်တော် စံပယ်တော်မူရာ ပလ္လင်ကို မွမ်းမံရာ၌ ကြီးမှူးသူမှာ မန္တလေးမြို့အနောက်ပြင် မစိုးရိမ်ကျောင်းတိုက်ကြီး၏ ဒါယကာ ဦးကျော်ဖြစ်လေသည်။ မွမ်းမံသူမှာ ဗိသုကာဆရာဆိုင် ဖြစ်လေသည်။ ဘိုးတော်မင်းတရား လက်ထက်က ဆရာကြီးများ၏လက်ရာ အုတ်ပလ္လင်တော်ကြီးကို မှန်စီရွှေချပညာဖြင့် မွမ်းမံခြယ်လှယ်ရာ၌ ဗိသုကာဆရာဆိုင်သည် အစွမ်းကုန် ကြိုးစားလေသည်။

သားရိုးပန်းများကပ်၍ မှန်စီပြီး ရွှေချထားသော ပလ္လင်တော်ကြီးမှာ ရုပ်ပွားတော်ကြီးနှင့် လွန်စွာ ပဏာရလှလေသည်။ ဖူးမြင်ရသူတို့၏ နှလုံးခတ်ပီတိအိမ်ကို ဆီထည့်ကာ စိမ်သကဲ့သို့ ဖြစ်လေသည်။ ဗိသုကာဆရာကြီး ဆရာဆိုင်အား များစွာချီးကျူးကြသည်။ ၁၂၀၇-ခုနှစ် ပြာသိုလဆန်း (၁၃) ရက် (၁၄) ရက် ၂-ရက်တိုင် ရေစက်ချပွဲ ကျင်းပသည်။ ဆရာဆိုင်အား ဆုအဖြစ် ငွေ ၅၀၀ိ-ဝတ်စုံတစုံနှင့် ရွှေတံဆိပ် ချီးမြှင့်လေသည်[၁]။

## ကြေးရုပ်ကြီးများနှင့် ကြေးစည်ကြီး

မဟာမြတ်မုနိဘုရားကြီး၏ မဟာရံတံတိုင်းအတွင်း၌ ရခိုင်ပြည်မှ ယူဆောင်လာခဲ့သော ကြေးရုပ်ကြီး ၆-ရုပ်ရှိသည်။ ၎င်းတို့မှာ ဧရာဝဏ်ဆင်ရုပ် ၁-ရုပ်၊ လူရုပ် ၂-ရုပ်နှင့် ခြင်္သေ့ရုပ် ၃-ရုပ်တို့ ဖြစ်ကုန်၏။ ကြေးရုပ်များ၏ နောက်ခံသမိုင်းမှာ သက္ကရာဇ် ၉၂၅-ခုနှစ်တွင် ဟံသာဝတီ ဆင်ဖြူများရှင်လက်ထက် ယိုးဒယားနိုင်ငံမှ ဟံသာဝတီ ပဲခူးသို့ ယူဆောင်လာခဲ့သည်။

၁။ မြန်မာဗိသုကာပညာရှင် ဆရာဆိုင်၊ ၁၂၀။

သက္ကရာဇ် ၉၆ဝ-ပြည့်နှစ်တွင် တောင်ငူဘုရင်နှင့် ရခိုင်ဘုရင်တို့ ပေါင်း၍ ဟံသာဝတီကို လုပ်ကြံရာ ၉၆၁-ခုနှစ်တွင် ဟံသာဝတီပျက်လေ၏။ ကြေးရုပ်အချို့ ရခိုင်ပြည်ရောက်သည်။ ဤကြေးရုပ်များကား နှစ်ပေါင်း ၁၀၀၀-ကျော်ခန့်က ကမ္ဘောဒီးယားနိုင်ငံမှ လက်ရာများဟု ခန့်မှန်းကြသည်။

ကြေးရုပ်ကြီးများ အနောက်ဘက်တွင် အုတ်တိုက်နှင့်ထားရှိသော ငြိမ်းချမ်းသာယာအမည်ရှိ ကြေးစည်ကြီးကို တွေ့ရ၏။ (၂၃-၅-၆၇)နေ့က သွန်းလုပ်သည်ဟူ၏။ အလျား ၁၀-ပေ၊ အမြင့် ၅-ပေ၊ ခေါင်းထု ၇-လက်မ၊ အောက်ထု ၅-လက်မ ရှိသည်။ အမြင့် ၁၅-ပေရှိ ကြေးစည်တော်ထမ်းနတ်ရုပ် ၂-ရုပ်ကို အောင်ကျော်ဇေယျာနှင့် အောင်ကျော်ဒေဝါဟု အမည်ပေးထားသည်။ ကြေးချိန်ပိဿာမှာ ငြိမ်းချမ်းသာယာ=၃၂၆၄ ပိဿာဖြစ်သည်။ အကြီးဆုံးကြေးစည်နည်းနှင့်နှင့် အကြီးဆုံးမောင်းကြီးကိုလည်း သွန်းလုပ်ထားရှိလေသည်။

### မဟာမြတ်မုနိ အုတ်ပြာသာဒ်တော်ကြီး

သက္ကရာဇ် ၁၂၆ဝ-ပြည့်နှစ်တွင် အနာထပိဏ္ဍိကအမည်ရှိသော သူကြွယ်သည် ယခုထင်ရှားရှိသော ရွှေပြာသာဒ်တော်ကြီးကို အုတ်အင်္ဂတေတို့ဖြင့် ဆောက်လုပ်လှူဒါန်းခဲ့လေသည်။ ပြာသာဒ်တော်ကြီးအထက်တွင် တင်လှူထားသော ပဌမထီးတော်ကြီးမှာ သက္ကရာဇ် ၁၂၇၈-ခုနှစ်တွင် လေခ၍ မြေသို့ကျခဲ့လေသည်။

ယင်းသို့ ထီးတော် မြေခရသည်ကို—၁၂၇၈-ခု ရတုဂိုမှ ပြိဿရာသီ ဗေသာစီယာဉ်၊ စန်းနှင့်ယှဉ်၍၊ ပင်စည်ခက်ရုံ၊ စကားငုံတို့၊ ကြိုင်ထုံသင်းလှ၊ ကဆုန်လဝယ်၊ ဆန်းစပဥ္စမီ၊ သောရီနေ့ခါ၊ ရှစ်မျက်နှာမှ၊ နတ်ဝါယုရှင်၊ လေလုလင်တို့၊ ဝေဟင်မှာ၊ နဘာတိမ်ထဲ၊ ငှက်နှယ်ဝဲ၍၊ ယှဉ်နွဲ့မြူးခုန်၊ သုန်သုန်ကွန့်မြန်း၊ ပူဇော်ပန်းဖြင့်၊ လှူဒါန်းဆက်ကပ်လေရကား ထီးတော်အထွတ်၊ တမွတ်မြတ်စွာ၊ရတနာသည်၊ထုပိကာတော်နှင့်တကွ၊အန္တလိက္ခ၊ကာသကွန့်မြူး၊ ပြာသာဒ်ဦးမှ၊ ရှူးရှူးပျံကြွ၊ အဗ္ဗူတအစ္ဆရိယ အစိန္တိတအရာ ပြာဋိဟာတို့ဖြင့် ပလာဟက အနီလပထ၊ကာသတိမ်ဗွေ၊ လေလမ်းခရီး၊ ကောင်းကင်ကြီးမှ၊ သုဝဏ္ဏဟံသ၊ ငှက်များသေဌ်နင်း၊ ဟသ်ာမင်းသည်၊ သက်ဆင်းပျံသွား၊ ရွှေတောင်ဖျား၌၊ရပ်နားသည်ပမာဏ'ဒုတိယနှင့် ပဌမဘုံထပ်၌ တန့်ရပ်စံပယ်လေရကား၊ ယန္တယားမှန်မျိုး၊ စက်ကြိုးတန်ဆာ၊ ကိရိယာတို့ဖြင့်၊ ဥပစာရင်ပြင်၊ စေတီယင်္ဂဏ၊ဘူမိဘာဂ၊ ပဌမအရံတွင်းသို့၊သက်ဆင်းဆောင်ယူပြီးမှ၊ လောက

စီးပွား၊ များကြစေရန်၊ အပူဇော်ခံလေသတည်းဟူ၍” ယဉ်ကျေးသိမ်မွေ့စွာ ဖွဲ့ဆိုမှတ်တမ်းတင်ခဲ့ကြကုန်၏။

## ထီးတော်အသစ် တင်လှူခြင်း

ထိုကဲ့သို့ ထီးတော်မြေခသည့်အတွက် မိုင်းပြင်ရပ်ဒေါက်ကျက်သရေဆောင် ရွှေစလွယ်ရ မဟာရာဇာစော်ဘွားကြီးနှင့် မဟာဒေဝီတို့က အသစ်တဖန်ပြန်လည် တင်လှူကြကုန်၏။ ထီးတော်ကို သံမဏိဖြင့် ပြုလုပ်၍ သိကြားမင်း၊ ဗြဟ္မာမင်း၊ နတ်မင်းတို့ ပူဇော်ပုံဖြင့် သားနားလှစွာ ဝက်မစွတ်မြို့စား လွှတ်တော်ဝန် ထောက်မင်းကြီး မဟာစည်သူဘွဲ့ခံ အမတ်မင်းကြီးက အရပ်ရပ်စာတမ်းများနှင့် အညီ စီစဉ်လေသည်။

ငှက်မြတ်နားတော် စိန်ဖူးတော်များကိုမူ ညောင်ရွှေမြို့ မဟာရာဇာ စော်ဘွားကြီးက ညောင်ရွှေမြို့တွင် ပြုလုပ်၍ပြီးသည့်အခါ မန္တလေးမြို့ စိတြဲ မဟီရပ် ညောင်ရွှေဝင်းအတွင်းတွင် အပူဇော် အကြည်ညိုခံပြီး တဖန် မဟာ မြတ်မုနိဘုရားကြီး အရာမ်အတွင်း ထီးတော်ရှိသို့ ပင့်ဆောင်ပြောင်းရွှေ့ ခဲ့သည်။

## ငှက်မြတ်နား ရတနာပစ္စည်းများ

ငွေသားအောက်ခံ မင်းစံသိင်္ဂီ နာရဏီ အုပ်လွှမ်းရာ ရောင်ဝါထွန်းသစ် မြူညစ်မတင် ရွှေစင်ရွှေသား ဒင်္ဂါးအချိန် ၁၁၉-ကျပ်၊ ငွေသား ၉၅-ကျပ် စီခြယ်အပ်သော ပတ္တမြားနီလာ ဝဇိရာအရှိန် အမျက် စိန် အစရှိသော ရတနာ ကျောက်သေးလုံးရေ ၆၄၀-လုံးတို့ဖြင့် လုပ်ဆောင်စီခြယ်အပ်သော ငှက်မြတ် နားတော်။

ရွှေသားဒင်္ဂါးချိန် ၄၆-ကျပ်၊ ငွေသားဒင်္ဂါးချိန် ၉၅-ကျပ်၊ လျှပ်လျှပ် ထွန်းပ ပဒုမရာဂ နီလှစွေးစွေး ခေါင်ရန်းသွေးပမာ ပဒုမ္မာကြာနီအဆင်းရှိ သော ပတ္တမြားကျောက် လျှံတောက်စိမ်းစိုပွင့်ညိုဒေါက်မည်း ပိုးရည်တောင် စာ တောင်ပံလွှာကဲ့သို့ ဣန္ဒနီလာကျောက် မြကျောက် စသော အမျက် ကျောက်လုံးရေ ၄၀ပ။ ဤသို့ မနောမယ စိန်မြပတ္တမြား ဥဿဖယား ရောင်ညို ဝဇိရမျက်ပျံ့ အရံ စိန်ငယ်တို့၏အထက် ကြက်လျှာပျံ့လှဲ့ ခြောက်ဆယ့် လေးကွက် မီးစုံထွက်လျက် လက်လက်လျှံညို တမတ်သီသော ဆယ့်တရတိ အချိန် စိန်ထိပ်ဖူးညွန့် စူးစူးကွန့်မအောင် လုပ်ဆောင်အပ်သော စိန်ဖူးတော်။

ထိုမှတရပ် ကျပ် ၂၀–ကျော်ရှိ၍ ရွှေသားဆည်းလည်း လုံးရေ ၁၊ ၁–ပိဿာ ၁၈–ကျပ်ရှိ ငွေသားဆည်းလည်း ၁၊ ၃၇–ကျပ်ရှိ ငွေသားဆည်းလည်း လုံးရေ ၁၊ ၃၄–ကျပ်ရှိ ငွေသားဆည်းလည်း လုံးရေ ၁၊ ငွေ–ခကြေး ၂–ရပ် စပ်သော ဆည်းလည်း လုံးရေ ၁၂–တို့၌ ဗောဓိညွန့်ခက် ကွက်ဖောက်ထွက်သော ညောင်ရွက်တော်တို့ကို လေသက်၍ လှုပ်ရှားလျှင် ရွှေသားစောင်းခွက် စောင်းလက်နီလာ သန္တာဘွဲ့ကြိုး ဖြိုးဖြိုးလျှံမို့ စောင်းညို့ရဇတ ၃–၈ ဝဝတ်မျှ ပမာဏရှိသော ဗေလုဝပဏ္ဍုမည်သော နတ်စောင်းကို ငြိမ့်ညောင်းသံမျှ အမျှင်းဆယ်တီးမျိုးလှယ်၍ တင့်တယ်သာယာသော အသံတို့ဖြင့် လွှန်စွာဆန်းကြယ်သည့် ထီးတော်ငှက်မြတ်နားတော်တို့ ဖြစ်ကုန်၏။

ဤသို့ သဒ္ဓါနှစ်တနာ မိုးသို့ရွာ၍ တင်လှူပူဇော်ရာအရပ်ရပ် ပွဲသဘင်အခမ်းအနားများနှင့် အလှူဒါနကိစ္စ ကိုလုံပြည့်စုံသည့်ကာလ စာရင်းချုပ်လိုက်သော အခါ အသပြာငွေပေါင်း (၃၀၀၀၀)သုံးသောင်း ဖြစ်လေသည်။

ထိုသို့ ထီးတော်တင်ပြီးနောက် ဂန္ဓကုဋီအုတ်ပြာသာဒ်တော်ကြီး၏ ပျက်စီးယိုယွင်းသောအရာများကို ပြင်ဆင် ထပ်မံရွှေချသည့် ကုန်စာရင်းကား ပြည်သူအများ ထည့်ဝင်လှူဒါန်းသောငွေနှင့် ဘဏ္ဍာတော်မှ ထုတ်ဆောင်ရငွေ ၂–ခုပေါင်းသော် (၄၀၀၀၀)လေးသောင်းကျော်လေသည်။

## ထီးတော် စိန်ဖူးတော် တင်လှူခဲ့ပုံ

ထိုစဉ်က ထီးတော်၊ စိန်ဖူးတော် တင်လှူခဲ့ပုံမှာ အောက်ပါအတိုင်း ဖြစ်၏။ "ဝိသုဒ္ဓသီလာစာရ ကဝိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု ဟူသော ပဌမဘွဲ့တံဆိပ်တော်၊ ဝိသုဒ္ဓသီလာစာရဓဇ သီရိပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု ဟူသော ဒုတိယဘွဲ့တံဆိပ်တော်၊ ဝိသုဒ္ဓသီလာစာရ သီရိပဝရဓမ္မသေနာပတိ မဟာသံဃရာဇာဟူသော တတိယသံဃာ့ဦးကိုင် သာသနာပိုင် ဘွဲ့တံဆိပ်တော်နှင့် D-LITT စာပေပါရဂူဘွဲ့တံဆိပ်တော်ရ တောင်ခွင်သာသနာပိုင် ဆရာတော်ဘုရားကြီး အမှူးရှိသော သံဃာတော်အပါး ၂၀၀–တို့အား အထူးထူးသော ဒါတဗ္ဗဝတ္ထုတို့ကို ပူဇော်လှူဒါန်းရေစက်ချပြီး သက္ကရာဇ် ၁၂၈၀–ပြည့်နှစ်၊ ဝါခေါင်လပြည့်ကျော် ၄–ရက်၊ တနင်္ဂနွေနေ့ နံနက် ၉–နာရီ ၁၅ မိနစ်အချိန် အမြောက် ၃၁–ချက် ပစ်ဖောက်လျက် ဆဋ္ဌာတုံအရောက် ယန္တရားယာဉ်ပျံတော်ဖြင့် အပူဇော်ခံ တင်ယူပြီးလျှင် ယင်းမှတခါ အထက်၌ ဟသ်ာမင်းသဏ္ဌာန် စီမံလုပ်ဆောင်အပ်သော စက်ကြိုးယန္တရားဖြင့် ဆောင်ယူ ပင့်တင် ချောမောအောင်မြင်စွာ ပြီးမြောက်ခဲ့လေသည်။

တဖန် ရွှေကွန်ရက်စိန်ဖူးတော်ကြီးနှင့်တကွ "ဟင်း လင်း ကျေး ကြက်" ဟူသော ဆောင်ပုဒ်နှင့်အညီ ငှက်မြတ်နား၌ ဟင်္သာရုပ်၊ လင်းမြီးဆွဲရုပ်၊ ကျေး(ကြက်တူရွေး)ရုပ်၊ ကြက်ရုပ်တို့ ပါစေလျက် ရွေးမှုမပျက် လုပ်ကိုင်၍ ၁၃၂၅-ခုနှစ်တွင် မဟာမြတ်မုနိဘုရားကြီးအား ငှက်မြတ်နားတော်သစ်ကို လည်း တင်လှူပူဇော်ကြသည်။ ယင်းစိန်ဖူးတော်နှင့် ငှက်မြတ်နားတော်ကြီး မှာ ၃-သိန်းကျော်ခန့် တန်သောဟူ၏။ မဟာမြတ်မုနိ ငှက်မြတ်နားအဟောင်း ပုံနှင့် စပ်၍ သိမှတ်ဖွယ်များ မန္တလေးမြို့ မဟာမြတ်မုနိဘုရားကြီး စိန်ဖူးတော် နှင့် စိန်ဘယက်တော် ကုသိုလ်ရှင်များ စာရင်းစာအုပ် ကြည့်ရှုရာ၏။ ၎င်းပြင် ရွှေစင်အစစ် ပန်းသွားပန်းလာ အညွန့်အဖူးတို့၌ ကျောက်မျက်ရတနာအစစ် တို့ဖြင့် တန်ဆာဆင်၍ ပန်းထိမ်ကျော်တို့ကို ပြုလုပ်စေ၍ လှူဒါန်းဆင်မြန်း အပ်သော စိန်ဘယက်တော်ကြီးမှာ ၃-သိန်းကျော် တန်သည်ဟု သိရ၏။

## မဟာမြတ်မုနိ ဂန္ဓကုဋီတိုက်ပတ်လည် မှတ်သားဖွယ်များ

ဂန္ဓကုဋီတိုက်ပတ်လည် ၁-မျက်နှာတွင် ဖန်ပွတ်လုံးပေါင်း ၆၉-လုံးရှိ၍ နောက်ကျောတော်တည့်တည့်တွင် သစ်သားပွတ်လုံးပေါင်း ၂၄-လုံးတို့ဖြင့် ပြုလုပ်ထား၏။ ယင်းပွတ်လုံးများနှင့် ပတ်လည်ကျောက်ပြားများကို သက္ကရာဇ် ၁၂၇၇-ခု၊ နယုန်လဆန်း ၁၂-ရက်နေ့ ဗန်းမော်မြို့ ဟန်ထဲကန်တော်ရပ် ဦးညီ ဒေါ်အိတို့က ရေစက်သွန်းချ လှူဒါန်းခဲ့လေသည်။

နောက်ကျောတော်ဘက်ရှိ သစ်သားပွတ်လုံးများမှာ ပဌမ ဖန်ပွတ်လုံးများ ချွတ်ယွင်းသဖြင့် ပြင်ဆင်ဖြည့်စွက် ထပ်မံပြုလုပ်ထားသော ပွတ်လုံးများဖြစ် ကုန်၏။

## အာရုံခံများ

အလျား ၆၇-တောင်၊ အနံ ၄၄-တောင်ရှိ တောင်ဘက်အာရုံခံ အုတ် တိုက်ကြီးကို သက္ကရာဇ် ၁၂၆၆-ခုနှစ်၊ ကဆုန်လဆန်း ၁၀-ရက်နေ့ ပွဲစား ခေါင်း ဒေါ်နန်းကြိုင်က လှူဒါန်းခဲ့သည်။ ၁၃၂၃-ခုနှစ်တွင် ထပ်မံပြင် ဆင်ခဲ့သည်။

ဂန္ဓကုဋီတိုက်ရှေ့တော် ဝဲယာတွင် အလျား ၁၁-ခန်း၊ အနံ ၄-ခန်းရှိ အုတ်တိုက် ၂-လုံးရှိသည်။ ၎င်းပြင် ၈-ခန်း၊ ၄-ခန်းရှိ ဘဏ္ဍာတော်ပြတိုက် တလုံး၊ ဂန္ဓကုဋီတိုက်တော် အနောက်ဘက်အတွင်းတွင် ရှိသည်။ ၎င်းပြတိုက် များအတွင်း၌ ရှေးမြန်မာတို့၏ အသုံးအဆောင်များ၊ မင်းတုန်းမင်းတရားကြီး

စက်တော်ခေါ်ရာ ဖန်ခုတင်ကြီးစသည့် အသုံးအဆောင်ပစ္စည်းများ၊ သီပေါမင်း၊ စုဖုရားလတ်၊ ဝန်ကြီး၊ ဝန်ကလေးများနှင့် စစ်သူကြီးများ၏ ရုပ်လုံးပေါ် ပန်းပုရုပ်တုများ စသည်တို့ ပြသထား၏။ ပြတိုက်၏ရှေ့တွင် မဟာမြတ်မုနိရုပ်ရှင်တော်ကြီးကို ရခိုင်ပြည်မှ ပင့်ဆောင်လာခဲ့သော "သိရိမဟာဓမ္မာဘိဇယသီဟသူရ" ဘွဲ့ခံ ဘိုးတော်မင်းတရား၏ အိမ်ရှေ့ဥပရာဇာ၏ ပုံတူကြေးရုပ်ကိုလည်း စိုက်ထူထား၏။

## ရတနာပုံခေတ် ပန်းချီများ

မဟာမြတ်မုနိဘုရားကြီးဝင်းအတွင်း၌ ရတနာပုံခေတ် ပန်းချီလက်ရာများကို တောင်ဘက်စောင်းတန်းနှင့် အနောက်ဘက်စောင်းတန်းတို့တွင် လေ့လာကြည့်ရှုနိုင်သည်။ တောင်ဘက်မုခ်အတွင်းပိုင်း အလယ်မုခ်ဦးမှ ရှေးဟောင်းနံရံပန်းချီတို့မှာမူ မုခ်ဦးကို ပြင်ဆင်ဖြိုဖျက် ဆောက်လုပ်လိုက်သဖြင့် နှမြောဖွယ် ပျောက်ပျက်ခဲ့လေသည်။ တောင်ဘက်ဆုံး စောင်းတန်းမှ နံရံပန်းချီအချို့လည်း ထုံးသုတ်လိုက်သဖြင့် ကွာကျပျက်စီးကုန်၏။

## ယဉ်ကျေးမှုပြတိုက်သဖွယ်

မဟာမြတ်မုနိစောင်းတန်းများကား ယဉ်ကျေးမှုပြတိုက်သဖွယ် ဖြစ်သည်။ ယင်းစောင်းတန်းများ၌ မန္တလေးဖြစ် မြန်မာ့ယဉ်ကျေးမှုပစ္စည်းများ၊ အထူးအားဖြင့် ကြေးသွန်းပစ္စည်းများ၊ ဘုရားကျောင်းဆောင်များ ယွန်းထည်များ၊ တူရိယာ့ပစ္စည်းများကို ရောင်းချရန် ပြသထားသည်မှာ ပြတိုက်အတွင်း ပြသထားသကဲ့သို့ ဖြစ်လေသည်။

## မဟာမြတ်မုနိ အရှေ့မုတ်ဦးပြာသာဒ်

မဟာမြတ်မုနိဘုရားကြီး၏ အရှေ့စောင်းတန်းထိပ်ရှိ မုခ်ပြာသာဒ်မှာ ဆရာဆိုင်၏ဖခင် နာမည်ကျော် ဆရာခင်၏လက်ရာ ဖြစ်လေရာ မြတ်မြတ်နိုးနိုး လေ့လာထိုက်သည့် အပြောက်အမွန်း လက်ရာဖြစ်သည်။ ယင်း မုခ်ပြာသာဒ်မှ ဘုရားကြီးဆီသို့ မူလ အုတ်စောင်းတန်းဟောင်းကြီးမှာ ကျယ်ကျယ်ဝန်းဝန်း သားသားနားနားပင် ရှိ၏။ ယင်းအုတ်စောင်းတန်းဟောင်းမှ အနောက်သို့ ရုပ်ရှင်တော်၏ရှေ့တော် သံတန်ဆောင်းတော်ကြီးအထိ အများပြည်သူတို့ ကောင်းမှု ၃-သိန်းကျော်ဘန် ၄၂-ခန်းရှိ စောင်းတန်းရှည်ကြီးဖြင့် သွယ်တန်းလျက် ရှိ၏။

ရင်းပြင် **အနောက်မုခ်** စေ၁င်းတန်းမှာလည်း အနောက်ခြသေ့်ကြီးမှ အပြင်တံတိုင်း မုခ်ဦးအထိ ၁-သိန်း ၅-သောင်းကျော်တန် ၁၇-ခန်းရှိရာ ကျယ်ပြောလှပ ကျက်သရေရှိလှပေ၏။ မြောက်ဘက် စေ၁င်းတန်းတော်ကြီး မှာလည်း ခန်းရေ ၅၃-ခန်း ရှိလေသည်။ တေ၁င်ဘက် စေ၁င်းတန်းမှာလည်း ခန့်ညားသေသပ်လှပေသည်။ ဤသည်လျှင် မဟာမြတ်မုနိဘုရားကြီးနှင့်စပ်၍ သိမှတ်လေ့လာစရာ အမြွက်တည်း။ ဖော်ပြစရာတို့ များစွာကျန်ရှိကုန်သေး၏။

## မဟာမြတ်မုနိကဏ္ဍ အပြီးသတ်ခြင်း

ဤသို့ စသည်ဖြင့် မဟာမြတ်မုနိ ရုပ်ရှင်တော်ကြီးနှင့်စပ်၍ ကြည်ညိုဖွယ်၊ သံဝေဂဖြစ်ဖွယ်၊ သိမှတ်ဖွယ်တို့ကို ပြဆိုခဲ့ရာ အတော်အသင့် ပြည့်စုံပြီဖြစ်သဖြင့် ဤတွင် မဟာမြတ်မုနိကဏ္ဍကို လက်စသတ်လိုက်ပါပြီ။

သုဇာနာနံ ပသာဒါယ၊ သံဝေဂတ္ထာယ မေ ကတော။
မဟာမြတ်မုနိကဏ္ဍောယံ၊ သမတ္တော သာဓုဝဏ္ဏိတော။



# မဟာနွယ်စဉ်ရပ် ဗောဓိကုန်းမှ မဟာဗောဓိပင် သမိုင်း

မဟာနွယ်စဉ်ရပ် ဗောဓိကုန်း၌တည်ရှိသော မဟာဗောဓိပင်သည် မန္တလေးမြို့၌ ထင်ရှားသည့် ဗုဒ္ဓဘာသာဝင် သူတော်စင်တို့ ဦးချဝတ်ပြုရာ ကုသိုလ်ပုညမျိုးစေ့စိုက်ပျိုးရာ ပုညကိတ္တ၊ ပုညပတြတို့တွင် ပါဝင်ခဲ့လေသည်။ မန္တလေးမြို့တော်သူ မြို့တော်သားတို့သည် အခါကြီး ရက်ကြီးနှင့် ဥပုသ်နေ့များတွင် ဖူးမြော်ကန်တော့ခြင်း၊ ရေသပ္ပါယ်ခြင်းစသည်တို့ကို ပြုကြမြဲဖြစ်သည်။ အထူးသဖြင့် ကဆုန်လပြည့် ဗုဒ္ဓနေ့တွင်မူ ရွှေမန်းသူတို့ ညောင်ရေသွန်းကြ၊ ရေသပ္ပါယ်ကြရာ လူထုကြီး တိုးမပေါက်အောင် စည်ကားလှသည်။ ဗောဓိပင်မြတ် ဖူးမြော်ရသည်မှာ အဝန်းညီညာစွာဖြင့် လွန်စွာမှ ကျက်သရေရှိလှပါသည်။ တံတိုင်း ၂-ထင်ဖြင့် ကြည်နူးစရာကောင်းလှသည်။ ဗောဓိပင်၏ တောင်ဘက်၌ ဝိဇ္ဇာနှင့် သိပ္ပံ တက္ကသိုလ်ကြီးလည်း တည်ရှိခဲ့သည်။ ယင်းတက္ကသိုလ်မှ အမျိုးသား အမျိုးသမီးတို့လည်း ဗောဓိပင်သို့ မကြာမကြာ လာရောက် ဖူးမြော်ကြ တောင်းဆုခြွေလေ့ရှိကြသည်။

## သမိုင်းအကျဉ်း

ပဌမသံဂါယနာတင် ဘဝရှင်မင်းတရားကြီး မန္တလေးမြို့တော်ကို တည်ထောင်နန်းသိမ်းပွဲခံစဉ် ၁၂၂၁-ခုနှစ်တွင် သီဟိုဠ်ကျွန်းမှ မထေရ်မြတ်ကြီးတို့ မင်းတုန်းမင်းတရားကြီး ကိုးကွယ်တော်မူရန် သီဟိုဠ်ရဟန်းတော်အရှင်ဓမ္မာနန္ဒ၊ အရှင်ဝဏ္ဏရတနတို့နှင့်အတူ သီဟိုဠ်သို့ ရောက်ရှိလာသော ဥပုသ်တော်ခေါင်း ဦးမွှေး၊ ဦးအောင်ထွန်း (ငမွှေ၊ ငအောင်ထွန်း)တို့မှတဆင့် မင်းကြီးအား စွယ်တော်ပွား ၁-ဆူ၊ ဓာတ်တော်ရေ ၈-ဆူ၊ ညဏ်ခတော် ၉-လက်သစ်ရှိ တင်ပျဉ်ခွေ စိန်ဆင်းတု ၁-ဆူ၊ ညဏ်ခတော် ၈-လက်သာစ်ရှိ မဟူရာကြောင် ဆင်းတု တင်ပျဉ်ခွေ၁-ဆူ၊ ဓာတ်တော် ၈-ဆူ၊ ဒက္ခိဏသာခါ မဟာဗောဓိ

သစ်တော် ၂–တုံး၊ မဟာစေတီပုံတော်၊ ထူပါရာမပုံတော်၊ လောဟာမဟာပါသာဒပြာသာဒ်ပုံတော်နှင့် သံဃမိတ္တာဗောဓိသီးမှ ပေါက်ပွားသည့် ဗောဓိပင်ပျိုတို့ကို လောကုတ္တရာလက်ဆောင်ကောင်းအဖြစ် ပေးပို့ဆက်သအပ်တော်မူကြသည်။ စွယ်တော်အစရှိသည်တို့နှင့် ဗောဓိပင်တို့မှာ ၁၂၂၁–ခု၊ နယုန်လတွင် ပုသိမ်မြို့ဆိပ်ကမ်းသို့ ဆိုက်ရောက်တော်မူသည်။

ဗောဓိပင်နှင့် ဓာတ်တော်များရောက်ကြောင်း ပုသိမ်အကောက်ဝန် ဦးရာက မင်းတရားကြီးသို့ လျှောက်တင်လေရာ မင်းတရားကြီးသည် ညှဉ့်ညီလာခံတွင် မှူးတော် မတ်တော်များနှင့် တိုင်ပင်တော်မူ၍ မင်္ဂလာအိမ်တော်ပါ ဆောင်တော်မြဲဝန် ဦးအောင်ထွန်းနှင့် ဦးမြမွှေးတို့အား ဗောဓိပင်နှင့် ဓာတ်တော်များ ပင့်ဆောင်ရေးအတွက် ရွှေတိုက်တော်မှ ငွေအလိုရှိသမျှ ထုတ်ယူရန် အမိန့်ရှိတော်မူ၏။

## ပုသိမ်မှ မန္တလေးသို့ ခမ်းနားစွာပင့်ဆောင်ခြင်း

ရွှေတိုက်တော်မှ ဘဏ္ဍာတော်များထုတ်ယူပြီးလျှင် ရတနာဖောင်တော်ကြီးနှင့်အတူ သံလှေလက်ပြေ ၂၀၀–နှင့် ပုသိမ်သို့စုန်ဆင်း၍ မဟာဗောဓိပင်မြတ်နှင့် ဓာတ်တော် စွယ်တော် ဆင်းတုတော်တို့ကို ပင့်ဆောင်တော်မူရလေသည်။ ဧရာဝတီမြစ်ကြောင်းတလျှောက် ပွဲတော်များကျင်းပ၍ ဆန်တက်လာရာဝယ် အင်းဝရွှေမြို့တော်အောက်မြေဦး၊ ပေါက်တောအရောက်တွင် အိမ်ရှေ့ဥပရာဇာက သွားရောက်ကြိုဆိုလေသည်။ မန္တလေးနေပြည်တော်ဂေါဝိန်ဆိပ်သို့ရောက်တော်မူသောအခါ ဗောဓိပင်ကို တိုင်းသူပြည်သား ရဟန်းရှင်လူတို့ကို ဖူးမြော်စေခြင်းစသော သဘင်ကြီးစွာဖြစ်စေတော်မူလျက် ကြိုတင်ဘုတ်သင်ရှင်းလင်းထားအပ်သော ပင်းလမ်းမဖြင့် ရတနာပုံ မင်းနေပြည်၏အရှေ့မျက်နှာ မဟာဝိသုတာရာမတိုက်သို့ ပင့်ဆောင်၍ အမိုး ၃–ထပ် တန်ဆောင်းဝယ် ခပ်သိမ်းသော ရဟန်းရှင်လူတို့ ပူဇော်စေပြီးမှ ကောဇာသက္ကရာဇ် ၁၂၂၂-ခုနှစ်၊ နတ်တော်လဆုတ် ၅–ရက်နေ့ည ၃-ချက်တီးကျော် ၆-နာရီအချိန်တွင် ပွဲလမ်းသဘင် စုံလင်စွာကျင်းပစေတော်မူ၍ နေပြည်တော်အရှေ့မျက်နှာအလယ် ဦးထိပ်တံခါးမှ သွတ်သွင်းပင့်ယူ၍ မြို့လယ်လမ်းမဖြင့် ပင့်ဆောင်လျက် တောင်မျက်နှာအလယ်ကျော်မိုးတံခါးမှ ထွက်ခဲ့ပြီး စံတော်မူရာ ရွှေနန်းတော်မှ တာ၁–ထောင်ကွာလှမ်းသော ဘူမိအဘယာရာမကျောင်းတိုက်သို့ ပင့်ဆောင်ခဲ့၍ သံဃာ့ဦးကိုင် သာသနာပိုင်ဖြစ်တော်မူသော "ဥေယျဓမ္မာဘိမုနိဝရဉာဏကိတ္တိသီရိသဒ္ဓမ္မဓဇမဟာဓမ္မသေနာပတိမဟာဓမ္မရာဇာဓိရာဇဂုရု" တံဆိပ်တော်ရ သာသနာပြုဆရာတော်ဘုရားကြီး အမှူးရှိသော ဆရာတော်

သံဃာတော် ၅၈-ပါးတို့ ပရိတ်တော်ရွတ်မွမ်းတော်မူကြ၍ မင်းညီမင်းသား မင်းဆွေမျိုး မှူးတော် မတ်တော် သဒ္ဓေး ပုဏ္ဏားအမျိုး ၅-ပါးခြံရံပြီးလျှင် သာသနာတော် ၂၄၀၄-ခုနှစ်၊ ကောဇာသက္ကရာဇ် ၁၂၂၂-ခုနှစ်၊ နတ်တော်လဆုတ် ၆-ရက်၊ တနင်းလာနေ့ ၁-ချက်တီးကျော် ၃-နာရီ၊ ၂-ပါဒ်၊ ၅-ဗီဇနာ ၂-ပြန်၊ ၁-ခရာ၊ ကုံလဂ်၊ ကြင့်စန်း၊ သောကြာတြင်း၊ သောကြာနဝင်း၊ နက္ခတ် ၂၂-လုံး၊ ၂-ပါဒ်ထက် လက်စီးလျက် ၆-ဖဝါး လက်၅-သစ်ရှိသော ကောင်းမြတ်သော မင်္ဂလာအခါတော်တွင် ကောင်းချီးအနုမောဒနာအခါတော်ကြား အမြောက်သံ ၃-ချက်ပေး၍ မြေမျိုး ရေမျိုးစုံတို့ဖြင့် ပတ္တမြား ၅-ရစ်စီ အပေါက်တထောင်ရှိသော ရွှေဖျဉ်းအိုးကြီးခံ၍ စိုက်တော်မူသည်။

သီဟိုဠ်ကျွန်း၌ ဒေဝါနံပိယတိဿ၊ ဒုဋ္ဌဂါမဏိအစရှိသော မင်းကောင်းမင်းမြတ်တို့သည် အသက်နှင့်အပ်၍ ဗောဓိပင်ကို ကြည်ညိုမြတ်နိုး ကိုးစားကြကုန်သည်။ သီဟိုဠ်ဘုရင်တို့ကား ဗောဓိပင်ကို ပူဇော်လျှင် ဆန့်ကျင်ဘက်ရန်သူမင်းများလည်း မညှဉ်းဆဲမနှောင့်ယှက်နိုင်ဟု ယုံကြည်ကြသည်။

> မဟာဗောဓိံ ပူဇေယျန္တိ၊ လင်္ကေ တသ္မိံ ဇနာဓိပါ။
> ပစ္စတ္ထိကာ အဟိံသယုံ၊ သောဝ ဗောဓိမ္ဟတာ။
> (မဟာဝံသဋီကာ၊ ၂၉၄-သီဟိုဠ်မူ)

### ဗောဓိဝန္ဒနာ ဂါထာ

ဗောဓိကုန်းရောက်သော ဗုဒ္ဓဘာသာဝင် သူတော်စင်သည် အောက်ပါဂါထာဖြင့် ဗောဓိပင်ကို ရှိသေမြတ်နိုး ရှိခိုးဦးချ ပဏာမပြုရာသည်—

> ယဿ မူလေ နိသိန္နောဝ၊ သဗ္ဗာရိဝိဇယံ အကာ။
> ပတ္တော သဗ္ဗညုတံ သတ္ထာ၊ ဝန္ဒေ တံ ဗောဓိပါဒပံ။

သတ္ထာ၊ လူနတ်ပြဟ္မာ သတ္တဝါ၏ ဆရာသခင် ဘုရားရှင်သည်။ ယဿ ဗောဓိပါဒပဿ၊ အကြင်သစ်မင်းသီရိ ပင်ဗောဓိ၏။ မူလေ၊ ပင်ရင်းအောင်မြေ ပလ္လင်ဗွေ၌။ နိသိန္နောဝ၊ သီတင်းသုံးမွေလျော် စံတော်မူလျက်သာလျှင်။ သဗ္ဗာရိဝိဇယံ၊ အကျယ်ကိုလေ သိန်းကုဋေနှင့် တွက်ရေချုံးထား မာရ်ငါးပါးကို ထွားထွားညက်ညက် တိုက်ဖျက်တော်မူခြင်းကို။ အကာ၊ သမ္မပ္ပဓာန် လေးတန်ဝီရိယအစွမ်းဖြင့် ပြုတော်မူခဲ့ပြီ။ သဗ္ဗညုတံ၊ သဗ္ဗညုတ နှာမဘွဲ့လျှံ ရွှေဉာဏ်

တော်သို့လည်း။ ပတ္တော၊ ရောက်တော်မူခဲ့ပြီ။ တံ ဗောဓိပါဒပံ=ရန်မာရ်ငါးဖြာ အောင်ရာလည်းမှန် သဗ္ဗညုတ်မြတ် ရအပ်ရာဟုတ် အတိဥက္ကဋ္ဌ ထိုဗောဓိမြတ်ကို။ အဟံ၊ ဝင်္ဂစခန်းမှ ကျွတ်လုမ်းရည်ရော် တပည့်တော်သည်။ ဝန္ဒေ၊ ဆယ်လက် မြှောက်မိုး ရှိခိုးဦးချပါ၏ဘုရား။

## မန္တလေးရတနာပုံ ပုဗ္ဗမသင်္ဂါယနာတင် မင်းတရားကြီး စိုက်ပျိုးကိုးကွယ်တော်မူသော ဗောဓိပင်သမိုင်း ကျောက်စာ

ဇေယတု—

ဗောဓောပဒေသကာမေန၊ ဗောဓောပဒေသ သဉ္ဇိဘော။
ဒေဝဒေဝေါ ဒေဝဆတ္တံ၊ ဝဟန္တံ ဝဟာတံ ဟာဝေ။

[ဧင်းဂါထာကား အနုရှုပ ထောမနာသီသ တတိယ ရကာရ ဝိပုလာ သေတဆတ္တ ဒ္ဓတ္တာဂါထာ။ ။ဒုတိယပဒ ပဒေသံဟူသောပုဒ်၌ သ-ဝယ် ဇ-ဂိုဏ်းကြောင့် နိဂ္ဂဟိတလောပ၊ ယောဇနာသောအခါ ဗိန္ဒုာဂမ။]

ဗောဓောပဒေသကာမေန၊ ခပ်သိမ်းသော သတ္တဝါတို့အား သာဝက ဗောဓိ – ပစ္စေကဗောဓိ – သမ္မာသမ္ဗောဓိဟု ဆိုအပ်သော ဗောဓိသုံးပါးကို ရခြင်း၏အကြောင်း ကောင်းမြတ်စွာလှ ဥပဒေသနယကို ညွှန်ပြခြင်းငှာ အလိုရှိတော်မူသည်။ ဟုတ္တာ၊ ဖြစ်၍။ ဗောဓောပဒေသံ- ဗောဓောပဒေသဘူတံ၊ ဗောဓိသုံးပါးကို ရခြင်း၏အကြောင်း ကောင်းစွာဖြစ်၍ ဖြစ်ထသော။ ယံ ဒေဝဆတ္တံ၊ အကြင်ကုသိုလ်ဆယ်ပါး တရားသုစရိုက် အမြိုက်ပေးတတ် နတ်ထီးမြတ်ကို။ ဒေဝဒေဝေါ၊ ဩပပါတိက သမုတိဒေဝအစုတို့ထက် ဥတ္တရဝိသုဒ္ဓိဒေဝအစစ် ဖြစ်တော်မူသော ရှင်ဘုရားသည်။ သဉ္ဇိတော၊ လည်ချောင်း အာစောက် ထိရောက်လျှာဖျား နှုတ်ခမ်းသွားဖြင့် ဟောကြားစီရင်တော်မူပေပြီ။ ဟဝေ-ကေဗ္ဗေန၊ စင်စပ်သဖြင့်။ ဝဟတံ-ဝဟန္တာနံ၊ ဆက်ဆံမကင်း ယုံကြည်ခြင်းဖြင့် ကျင်းပဖြန့်မိုး ကိုးကွယ်ဆည်းကပ် မပြတ်ဆောင်ရွက်ကုန်သော သူတို့အား။ တံ ဒေဝဆတ္တံ၊ ကုသိုလ်ဆယ်ပါး တရားဟူပြီး ထိုနတ်ထီးသည်။ ဝဟန္တံ၊ အကုသိုလ်ဆယ်ပါး တရားမိုးရည် စွတ်မနှည်အောင် ရှက်ဆောင်ဆီးတား သိမ်းပကားတော်မူပါစေသတည်း။

တနည်းကား—

ဗောဓောပဒေသကာမေန၊ ခပ်သိမ်းသောသတ္တဝါတို့အား သစ္စာလေးပါး တရားသိရာ မဟာဗောဓိပင်ကို ရခြင်း၏အကြောင်း ကောင်းမြတ်စွာလှ ဥပ

ဒေသနယကို ညွှန်ပြခြင်းငှာ အလိုရှိတော်မူသည်။ ဟုတ္တာ၊ ဖြစ်၍။ ဗောဓော ပဒေသံ-ဗောဓောပဒေသဘူတံ၊ သစ္စာလေးပါး တရားသိရာ မဟာဗောဓိပင်ကို ရခြင်းအကြောင်း ကောင်းစွာဖြစ်၍ဖြစ်ထသော။ ယံ ဒေဝဆတ္တံ၊ အကြင် မဟာဗောဓိ ပရိဘောဂစေတီတော်ဟုဆိုအပ်သော နတ်ထီးမြတ်ကို။ ဒေဝ ဒေဝေါ၊ ဩပပါတိက သမ္မုတိဒေဝ အစုတို့ထက် ဥတ္တရုတ္တရ ဝိသုဒ္ဓိဒေဝ အစစ် ဖြစ်တော်မူသော ရှင်စောဘုရားသည်။ သဗ္ဗီတော၊ နောင်တော်မြတ်ဖျား ရှေးဘုရားတို့ လေးပါးသစ္စာ သိရာဌာန ဇယဘူမိ အောင်ကိန်းရှိသော အရပ်၌ စိုက်ပျိုးပြုပြင် စီရင်တော်မူပြီ၊ ဟဝေ ကေန္တေန၊ စင်စစ်သဖြင့်။ ဝဟတံ ဝဟန္တာနံ၊ ကြည်ညိုလေးမြတ် ဆည်းကပ်ဆောင်ရွက်ကုန်သောသူတို့အား။ တံ ဒေဝဆတ္တံ၊ မဟာဗောဓိ ပရိဘောဂစေတီတော်ဟုဆိုအပ်သော ထိုနတ်ထီးသည်။ ဝဟန္တု၊ အကုသိုလ်ဆယ်ပါး တရားမလိမ်း ပျောက်ကင်းငြိမ်းအောင် ရွက်ဆောင်ဆီးတား သိမ်းပကားတော်မူပါစေသတည်း။

# ဗောဓိဝံသအခန်း

**နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။**

ဆယ့်ခြောက်တူက်ရေ၊ သင်္ချေကပ်ကိုန်း၊ တသိန်းရှည်ကြာ၊ သံသရာဝယ်၊ ဒါန သီလ၊ စသည်ဆယ်လီ၊ ပါရမီဘရား၊ ကိုက်ပွားညှန့်သန်၊ ခါကောင်းတန်၍၊ သာရမဏ္ဍ၊ ကမ္ဘာမထက်၊ စတုတ္ထသခင်၊ ဒီပင်္ကရာ၊ မြတ်စွာသေဋ္ဌနင်း၊ တရားမင်းစစ်၊ ဖြစ်သောအခါတည်း။

ထိုရောအခါ၊ ဒီပင်္ကရာ၊ လောကနာကား၊ အဝိဇ္ဇာလောဘ၊ ဝဋ္ဋမူလ၊ ဓမ္မနှစ်ရပ်၊ ပုံတော်စွပ်လျက်၊ အကုပ်နှမ်ဖြာ၊ ဇရာမရဏ၊ သခ်ါရထုံးဖွဲ့၊ နှမ်ဆယ့်ကိုးမည်၊ ကန့်ထောက်တည်၍၊ ခိုင်ကျည်စွာလှ၊ အာသဝဝင်ရိုး၊ လျှိုထိုးပြီးခါ၊ အကမ္ဘာဘာ၊ ကြာတံစလှည့်၊ ဆွေးမြည့်ရှုံမျှ၊ မဟိရသား၊ ဘဝသုံးပါး၊ ဝဋ်ရထားထက်၊ စီးသွား စိုင်းနှင်၊ ကျင်လည်ကြရ၊ စက္ကဝါဠ၊ ခကဏ္ဍဝါ၊ စကြဝဠာကောင်းကင်၊ မြေပြင်မြစ်မင်း၊ အတွင်းအနန္တရ၊ ဘုမ္မာကာသ၊ ဇာတ်ကျန်ကြသား၊ ပဒပရမ၊ နေယျဥဂ္ဃတဉ်၊ ဝိပဉ္စိတ၊ လေးဝအနက်၊ စက်ပုညဝါ၊ ရှေးကံပါသား၊ သတ္တာဘုန်းရင့်၊ ကျွတ်နှင့်မည့်သူ၊ ရွေးကာယူလျက်၊ ယဉ်ဖြူတုလွတ်၊ ရှုန်းရှုန်းလွှတ်သား၊ ဗောဇ္ဈင်ရတနာ၊ ခုနစ်ဖြာဟု၊ ပါရမီသမုဋ္ဌာန်၊ ကြောမ္ဘန့်ဖြင့်၊ နိဗ္ဗာန်ပြည်ခိုင်၊ ရောက်တိုင်သဲသဲ၊ ပို့ဆဲသဘင်၊ ရင်လတ်သော်ဘည်း။

ထိုရောကာလ၊ ဗုဒ္ဓပြွာဒနဝမ၊ ခဏကိုးဆင့်၊ ခါကောင်းသင့်၍၊ ကိုယ်နှင့်ဖလှယ်၊ ရောင်းဝယ်ယူငင်၊ လိုဘန်အင်ဖြင့်၊ ဗောဓိဂ်မာ၊ တရားရှာသား၊ သုမေဓာဇာစ်၊ တို့သင်းကျစ်လျှင်၊ စ်စစ်မယုတ်၊ မနုဿတ္တ၊ လိင်္ဂသမ္ပတ်၊ မှတ်သည်ရှေးဖျား၊ ဘုရားဖြစ်ဟိတ်၊ အစိတ်ရှစ်မည်၊ ကိုယ်၌ဘည်သား၊ ဇာနည်အဘွတ်၊ တမွတ်ယောကျ်ား၊ ဘုရားမျိုးစေ့၊ ရသေ့တဆူ၊ ဖြစ်တော်မူတည်း။

ထိုရောအခါ၊ သုမေဓာကား၊ ဒီပင်္ကရာ၊ မြတ်စွာရှေ့မှောက်၊ ကျောက်ဆစ်တံတား၊ ခင်းပစ်ထား၍၊ ဘုရားဘုရား၊ ဘုရားရှင်ဘိန်း၊ သား လေးသိန်းနှင့်၊ ယဉ်မိန်းကျာရွှေ၊ နင်းကြွခလဟု၊ စေတနာကွန့်၊ သက်ကိုစွန့်တည်း။

ဒီပင်္ကရော လောကဝိဒူ၊ အာဟုတိနံ ပဋိဂ္ဂဟော။
ဉဿီသကေ မံ ဌတွာန၊ ဣဒံ ဝစနံ-မဗြဝိ—

အစဟိသား၊ ပါဠိမာလာ၊ ဒေသနာအရ၊ ပဌမပကတူး၊ နိယတ်ကျူးသည်၊ ပန်းဦးထိုတွင်၊ ဆင်ခဲ့ပြီးမြောက်၊ နောက်နှစ်ကျိပ်သုံး၊ ပေါင်းရုံးတွက်ဖွဲ့၊ နှစ်ဆယ့်လေးခန်း၊ ဗျာဒိတ်ပန်းကို၊ ဦးရန်းထိပ်ပြင်၊ ဆင်ခဲ့မပြတ်၊ အစုဆက္က၊ သတဇာတ်ပေါင်း၊ အလောင်းတော်တန်း။ ငြိမ်းကြီးသုံးဆယ်၊ ဖြိုးဆယ်မောက်မောက်၊ ဆောက်ကြီးဆောက်၍၊ နောက်အန္တိမဒေဝ၊ သိဒ္ဓတ္ထကုမာရ၊ ဇာစ်ဘာဝ၌၊ ဉာဏ်အခေါင်၊ ဥဒည်းတောင်သို့၊ ရောက်အောင်တက်တော်မူသတည်း။

ဥဒည်းတောင်ကြီး၊ ကိုယ်တော်ထီးလျှင်၊ တက်ပြီးရောက်ခါ၊ အညာတကောဏ္ဍညအစ၊ သုဘဒ္ဒအဆုံး၊ ပေါင်းရုံးမလွတ်၊ ပါစေချွတ်၍၊ ပြည်ထွတ်နေရဗာန်၊ မရကျန်သည်၊ သုံးတန်သတ္တဝါ၊ ဗြဟ္မာလူနတ်၊ ပရိသတ်အများ၊ သူတို့အားလည်း၊ ဘုရားငါနှင့်၊ တမြင့်နှင်းပန်း၊ တပဲမှန်းလျက်၊ တန်းတန်းဖြောင့်မတ်၊ ဝိပဿနာ၊ လမ်းသုံးဖြာဖြင့်၊ သုံးခါးထောင်ဝက်၊ စက်တပြောင်ပြောင်၊ ကိလေရောင်ဟု၊ တောက်လောင်စွဲရာ၊ လောင်စာမဟိ၊ ပကတိချမ်းငြိမ်၊ ရွှေအိမ်နိဗ္ဗာန်၊ ရပ်ဌာန်သာလှ၊ ရောက်စေကြဲဟု၊ ပဋ္ဌသဟာဿ၊ ထောင်ကိန်းမှတ်၍၊ လူနတ်ပရမေ၊ ထားခဲ့ပေတည်း။

ဘုရားမြတ်စွာ၊ ထားခဲ့သာသနာ၊ စက်အာဏာသည်၊ အာရုဋ္ဌာရှင့်၊ တစတစ၊ ဆန်းတက်ကြွ၍၊ ဒုတိယသည်းဆာ၊ နေဝါစည့်စည့်၊ မွန်းချက်တည့်၏သို့ဖြစ်သော၊ သုနာပရန္တ၊ တမ္ဗဒီပ၊ နှစ်ဌာနထက်၊ ဒေ့ဝဒဟ၊ ကောလိယနှင့်၊ ကပိလမည်၊ ပြည်ထောင်သုံးပါး၊ အမွန်ထားပြီး၊ ပွားပြုံးပွားပြုံး။ ပုလဲကုံးသို့၊ ပေါင်းရုံးမပျက်၊ ဆက်ကာဆက်ကာ၊ အစဉ်လာသည်၊ ဥက္ကာမုခ၊ အသမ္ဘိန္န၊ သကျဝံသ၊ အာဒိစ္စဗန္ဓု၊ တိုင်းပြုပြည်ထောင်၊ မင်းခေါင်မင်းဖျား၊ မင်းတရားအပေါင်းတို့သည်၊ သရေခေတ္တရာ၊ ပေါက္ကာရာမ၊ မြင်စိုင်းပင်းယ၊ ဇေယျပူရ၊ ရဘနာပူရ၊ မြို့ပြခရိုင်၊ နိုင်ငံအုပ်စိုးလျက်၊ မိုးဝအပြင်၊ ကြတ္တိကာသဘင်၊ စင်သောလကဲ့သို့ ဖြစ်သတည်း။

ထိုတွင် အထူးကျေးဇူးထင်ပြ ချလတ်သော်ကား—

၁။ ဘေးလောင်းတော် ရတနာသိင်္ခမြို့တည် အလောင်းမင်းတရားကြီး ဘုရား၊

၂။ သားတော် ဇေယျပူရမြို့တည် သီရိပဝရမဟာဓမ္မရာဇာ တံဆိပ်နာမံ ခံတော်မူသော ကန်တွင်းစေတီတော်ဒါယကာ၊

၃။ ညီတော် ရတနာပူရမြို့တည် သီရိပဝရမဟာရာဇိန္ဒာဓိပတိ တံဆိပ်တော် နာမံ ခံတော်မူသော နိဗ္ဗာန်ဆိပ်ဦးစေတီတော်ဒါယကာ၊

၄။ ညီတော် အမရပူရ ပဌမမြို့တည် သီရိပဝရဝိဇယာနန္တနယသတြိဘဝ နာဒိတျာ ဓိပတိ ပဏ္ဍိတ မဟာဓမ္မရာဇာ ဓိရာဇာ တံဆိပ်နာမမံတော်မူ သော အောင်မြေလောကစေတီတော်ဒါယကာ၊

၅။ မြေးတော်ရတနာပူရ စတုတ္ထမြို့တည် သီရိပဝရသုဓမ္မမဟာဓမ္မရာဇာဓိ ရာဇာ တံဆိပ်နာမံခံတော်မူသော မဟာဝိဇယရံသီစေတီတော် ဒါယကာ၊

၆။ ညီတော်အမရပူရ ဒုတိယမြို့တည် သီရိပဝရဒိတျာလောကာဓိပတိဝိဇ ယ မဟာဓမ္မရာဇာဓိရာဇာ တံဆိပ်နာမံ ခံတော်မူသော လောကမဏိ စူဠာစေတီတော်ဒါယကာ။

ဤသို့လျှင် ခမည်းတော်မြတ်တိုင်တိုင် ဆက်စည်မကွာ ဖြာခဲ့ပြီးနောက် ငါ တို့သာသနာ့ဒါယကာ ပဉ္စမသင်္ဂါယနာတင် ရေမြွေအသျှင် မဟာဓမ္မရာဇ် တရား မင်းမြတ်သည်ကား သာသနာတော် ၂၃၉၆—ခုနှစ် ကောဇာသက္ကရာဇ် ၁၂၁၄-ခု ဟေမန္တရတု ကြွေလုဆဲဆဲဖြစ်သော တပေါင်းလဆန်း ၁၁—ရက် ကြာသပတေးနေ့အခါ ရေဏီမဏ္ဍလာ မြေမျက်နှာထက် စကြာတန္ဆန်း မန္တာတ် ဘုန်းဖြင့် ချွန်းချွန်းကြိုးထစ် တန်ခိုးလှစ်သော မင်းခေါင်မင်းစစ် မင်းအဖြစ် သို့ ရောက်တော်မူသတည်း။

နိဗ္ဗာနပစ္စယ နာဂရာဇာအမည်ရှိသော ဆဒ္ဒန်ဆင်မင်းသခင်သည် ဘေး တော်စက္ကရတ် ဘိုးတော်မန္ဓာတ် ခမည်းတော် နာထနတ်တို့၏ အရိုက်အရာ ဇမ္ဗူ ဒီပါမင်းချမ်းသာကို ယူပြီးရကား ထိုနှစ် နှောင်းတန်ခူးလပြည့်ကျော် ၉-ရက် ၆— နေ့အခါ ကပိလဝတ်နွယ်လာ သကျာဝံသမင်းများဝေလေ့ မရွှေနန်းရိုး ဘေးဘိုးဘမင်း မယွင်းမယိ ဘာဝနာဖြဟ္မစိုရ် ကြာညိုပုံ့သင်း သတင်းသဒ္ဒါ ဖြူစင်စွာလျက် စကြာမန္ဓာတ် မင်းမြတ်မဟေသီ သုဘဒ္ဒါဒေဝီ နတ်တည်တို့ကဲ့သို့ စတုသင်္ဂြိုလက္ခဏာ အင်္ဂါအနန္တ အစုံဟိသော နှမတော်မြတ် ဟိရိနတ်အား ကိုးပါးသော ကျောက်မျိုးတို့ဖြင့် ရစ်ဆင့်ခြယ်လှယ်အပ်သော ရတနာဥကင်

ခံပလ္လင်ထက် စကြဝဠာမျှ ထီးရွက်နေဖြင့် ပြည်သူ့မိမြတ် သတ်မှတ်တင့်ကဲ ချီးမြှင့် ပြဋ္ဌာန်းတော်မူပြီးနောက် အရောက်ကောဇာ ၁၂၂၁–ခု ကဆုန်လပြည့်ကျော် ၇–ရက် ၂-လာ နေ့အဝင် သိကြားဆင်ယာ သုမင်္ဂလ သမယ၌ အမရကိန်း ခြေ ငြိမ်းခဲ့စေမှ အစိန္တေယျော် တိလော်ကဂ္ဂ၊ ဂေါတမဘုရား၊ ညီတော်မြတ် အား၊ဗျာဒိတ်ထားသည့်၊ မြေမျှဦးစွန်း၊ ကြန်မြေသေဥ်မြေ၊ သေတ္တုမြေထက်၊ ပရမေရန်နင်း၊ တြင်းသမား၊ နဝင်းသားတို့၊ မှတ်သားနှုန်းထွင်း၊ ငှက်မင်း ခတ်သိုက်၊ အလိုလိုက်၍၊ ကောင်းမြိုက်သိမ်မွေ့၊ ကိန်းဆိုက်တွေ့က၊ ဘုန်းငွေ့ ပြိုင်တု၊ သူဇာလုသည်၊ ဇမ္ဗူ့ကြက်သရေ၊ မြုတေလျှံပတ်၊ တောင်နန်းနတ် နှင့်တကွ၊ မဏိသေလ၊ ရတနာ့အသွေး၊ မြရောင်ပြေးသည်၊ မန္တလေးသာ ခေါင်၊ ဥဒည်းတောင်ထက်၊ ကုန်းလောင်ဆယ်စင်း၊ သျှင်နေမင်းသည်၊ ထွန်း ဝင်းပဌမ၊ မနိုက်မပြ၊ ဇယသိဒ္ဓိ၊ အောင်ကိန်းဟိသော၊ သုတိမင်္ဂလာ၊ အခါ တိုင်တန်းလျက်၊ ထီးနန်းမြို့ပြ၊ ထာဝရစိုက်ထူ၊ တည်တော်မူသတည်း။

ထီးနန်းစိုက်ထူ၊ ရွှေတောင်ဇမ္ဗူ၊ တက်တော်မူပြီး၊ ဘုရားသာသနာ ၂၃၉၈–ခု၊ ကောဇာသက္ကရာဇ် ၁၂၁၆-ခု၊ နယုန်လပြည့်ကျော် ၆-ရက် ၆-နေ့၊ ဂုဏ်ကျေးဇူးအပေါင်းတို့ဖြင့် ထူးကဲလွန်မြတ်သော မဟာဥကင်သစ် လှစ်တော်မူ၍ သိရိပဝရမဟာရာဇာဓိရာဇာ တံဆိပ်နာမံ ခံတော်မူသော နိဗ္ဗာ နပစ္စယနာဂရာဇာ အမည်ဟိသော ဆဒ္ဒန်ဆင်မင်းသခင်သည့် သိရီပဝရမဟာရာ ဇိန္ဒာရတနာဒေဝီတံဆိပ်နာမံ ခံတော်မူသောပြည်ကြီးမိန့်နှင့်တကွ သရဒအခါ၊ နဘာကာသ၊ တ်ထိပုဏ္ဏမ၊ လနှင့်အတူ၊ စင်ဖြူညစ်ကြေး၊ သားမြေးဝန်းပတ်၊ မှူးမတ်မဏ္ဍိုင်၊ ရံပြိုင်ညွှတ်ခ၊ မဟာသမယ၊ ဝရမန္ဒာတ်၊ သုဒဿန၊ မဟာ သုဒဿန၊ ကုသနေမိ၊ အမွှန်ဟိသော၊ ဘေးတော်စက္ကရတ်၊ သမုန်တ်တိုက်ဲ့သို့ မြတ်သောစည်းစိမ်၊ ငြိမ်စည်အခါ၊ ပညာအမြုတေ၊ ဣန္ဒြေထိုးထွင်း၊ ကြံတော် ရင်းကား၊ အယဋ္ဌ ပုဂ္ဂလော နိရယံ ဥပပန္နော၊(လ) တထာဂတော လောကေ အနုပ္ပန္နော၊ ပဍံဝါ အနေဠမူဂေါ၊ မိန့်ဟောသံထင်၊ အဋ္ဌင်္ဂိုတ္တရ၊ ကျမ်းမ-ပေ ခွဲ၊ ဧရဲတိရစ္ဆာန်ပြိတ္တာ၊ အပါယ်သုံးရွာ၊ ဒီဃာယုကဗြဟ္မာ၊ မိစ္ဆာဒိဋ္ဌိ၊ ဣန္ဒြိယ ဝေကလ္လ၊ ပစ္စန္တရစ်သူ၊ သယမ္ဘူမစပ်၊ သုညကပ်မှ၊ စွဲရပ်သန္ဓေ၊ နေလှာ တိဟိတ်၊ ဆိတ်ခဲ့တရား၊ ရှစ်ပါးရပ်ပြစ်၊ နစ်သောကာလ၊ ဗုဒ္ဓုပ္ပါဒ၊နဝမခဏ၊ သမယကောင်းမြိုက်၊ ကြိုက်တော်မူလတ်ရကား။

အမျိုးသားတို့နတ်၊ သတ္တမဣလသိဖြစ်တော်မူသော၊ ရှင်စောဘုရား၏ ရှစ်ပါးအံ့ဖွယ် ကြွယ်သောသာသနာကို လွန်စွာချီးမြောက်အံ့ဟူသော ခိုင်ကြံ့သောသဒ္ဓါတော်မြတ်ဖြင့်၊ မပြတ်မစဲ၊ ဝဋ်ရှကြလှဲဝယ်၊ မြင့်မြဲ ရှည်ကြာ၊ ခန္ဓာမတုံး၊ ဝိဇ္ဇာ ဖုံးလည်း၊ အရှုံးမခံ၊ အဆုံးကြံလျက်၊ နိယံ

မှပျက်၊ ကသိုဏ်းကွက်နှင့်၊ မဂ်လေးပါးလျှောက်၊ ဆိမ်မီးသုံးတောက်၊ နေခြည်ရောက်အောင်၊ လှံမခစောက်အဲခိုး၊ ကြိုးပမ်းကြပေသော၊ တောနေသခင်၊ အရှင်သူမြတ်တို့နှင့်တကွ၊ ဘုရားနှုတ်နက်၊ ဓမ္မစက်ငါးသွယ်၊ နိကာယ်ငါးကျမ်းကို၊အစွမ်းအလျှောက်၊ ချွေနောက်ပတ်ပတ် သင်အံမှတ်သော၊ ပရိယတ္တိဗဟုလပုဂ္ဂိုလ်၊ နှင့်ဖြိုကိလေ၊ ဝင့်ကင်းကြွေသည်၊ ဗေရာဂီလောင်း၊ ရဟန်းကောင်းတို့အား၊ စိတ်ထားဖင့်နွဲလျက်၊ လှူခဲလှူခက်၊ လှူမရက်သော ဥစ္စာမည်သည်မဟိ၊ မဟာသဟဿိ၊ ကောဋိမှတ်ထိန်း၊ အသိန်းမျှလောက်သောပစ္စည်းတို့ကို လှူဒါန်းတော်မူခြင်း၊

ခုနစ်ရာ့နှစ်ဆယ့်ကိုးဆူ၊ ရောင်ဖြူပဝင်း၊ သလင်းဓမ္မစေတီတို့ဖြင့်၊ ဆင့်ဆင့်ဝင်းပလျက်၊ နဝရတ်ရောင်ရင့်၊ အစုံပွင့်၍၊ မင်းမင့်းသျှောင်ဦး၌၊ ဖြူးဖြူးစိုက်အပ်သော၊ မကိုဋ်သရဖူတို့ကို၊ ပြက်ရယ်မူဘိသကဲ့သို့ဖြစ်၍၊ ဓမ္မရာဇ်ရောင်ရှင်၊ လင်းလင်းထင်သော၊ ရွှေစင်နီဖလံ၊ ရာဂီမဆံ၊ ပုဇွန်ခွံရဲရဲ၊ ရွှေခဲ ရွှေပြားအထက်၌၊ မဇ္ဇာတိသရ၊ မနောမြတ်ဟု၊ မြတုံးမြခဲ၊ ပုလဲဂေါမုတ်၊ ဥဿဖယား၊ ပြယိုးယားလျှံထိန်၊ စိန်အမြုတေ စသော၊ ကျောက်မျိုးတို့ဖြင့် အသင့်သင့်ပြိုင်၍ ပွင့်လျက်၊ လျက်လက်စုံစွာ၊ ရတနာမကိုဋ်၊ တင်ထားစိုက်အပ်သော၊ ဇဋ္ဌိလသူဌေး၏၊ ကံခပေးရွှေတောင်၊ ပုံဆောင်နှိုင်းထောက်၊ လုံ့ပေါက်ပကတိ၊ ဘူမိဥဂ္ဂဘ၊ ကြွားကြွားကြွသော သတ္တဌာနအဝင်အပါ၊ မဟာလောကမာရဇိန်စေတီတော်ကြီးနှင့်တကွ၊ အဘယဂိရိ၊ တောင်ကြီးမှာဘက်၊ တျက်တျက်မာကြော၊ မြေငေါငေါထက်၊ မောမောလုံးတောက်၊ ပေါပေါပေါက်သား၊ ရွှေကျောက် ငွေကျောက်၊ သံကျောက်လောဟာ၊ ရတနာကျောက်ပေတို့ဖြင့်၊ တခဲနက်ပြီးသော မဟာအတုလ စေတီတော်ကြီး၊ အစဟိသည်တို့ကို၊တည်ထားတော်မူသဖြင့်၊ ဘူဝနာကာသတမယေ၊ မြေရေကောင်းကင်၊ အပြင်မဆံ့၊ မအံ့နိုင်ရာ၊ သမုဒ္ဒရာ၊ ဂင်္ဂါသဲလုံး၊ ကျုံးတချသို့၊ အဿဒိသဒါန၊ အနဂ္ဃကောင်းမှုတော်မြတ်ဟိုကို၊ အကိတ္တိတာပသအစ၊ သသပဏ္ဍိတ အဆုံးရှိသော အလောင်းတော် တကျိပ်ကဲ့သို့ကား၊ ဝိဝဋ္ဋာနုသာရီ၊ ပါရမီဒါနတရားကို အားထုတ်ရည်သန်တော်မူသဖြင့်၊ ဖ႒သင့်နှလုံး၊ ယူကျုံးသွင်းပိုက်တော်မူသည်။

ထိုသို့ လှူဒါန်းတော်မူသောကာလ "အစေတနံ့ စေတနံ့ဝ ဝသုန္ဓရံ ကုဥ္ဇရံဝ နဒန္တော" စိတ်ဇော်မရှိသော ပကတိ မြေအပြင်ကိုလျက်၊ စိတ်စေတနာ၊ ပြည့်စုံစွာသည်၊ မာတင်ဥက္ကဋ္ဌ၊ ပတ်ယတ်လုံးစည်း၊ ပေါက်မုန်သည်းကို၊ ရယည်းရှူမျှော်၊ စေ့စေ့ခေါ်၍၊ ဟစ်အော်ကြည်းဟည်းစေသကဲ့သို့ကား "သိနေ့ရုဝနဝဋ္ဋံ့သကာ ပထဗျာ ကမ္ပိ" ပါဠိတော်အစဥ်ဖြင့်၊ ဥယျာဥ်ဗိမာန်၊ ပန်းစုံပန်သော၊ မဏ္ဍိုင်ဗဟို၊ မြင်းမိုရ်တောင်မင်းတည်းဟူသော မြေ၏ဦးခေါင်းကို၊

နံတောင်းကျောက်ရင်းပမာ၊ ဒီပါလေးဦးနှင့်တကွ၊ ရှင်မြူးကခုန်၊ တုန်လှုပ်စေသဖြင့်၊ အောင်မြေဦးကင်း၊ နှင်းတော်မူသတည်း။

ကိုကီဝ အဏ္ဍံ စမရီဝ ဝါလဓိံ၊
ပိယံဝ ပုတ္တံ နယနံဝ ဧကကံ။
တထေဝ သီလံ အနုရက္ခမာနကာ၊
သုပေသလာ ဟောထ သဒါ သဂါရဝါ။

ဂါထာစံသဠ၊ ဘုရာ့ပါဠိ၊ လာရှိထင်ပြက်၊ အသက်စွန့်ပစ်၊ အဥ ချစ်သား၊ ရစ်မနည်းနှီး၊ စာမရီမြီးစောင့်၊ သဲ့ကောင့်အမိ၊ မျက်စိတခု၊ စောင့်ထိန်းပြုသည်၊ ဥပဒေစဉ်စီ၊ ရှေးထုံးမှီသော၊ မဟာသီလဝအစ၊ သခ်ပါလအဆုံးရှိသော၊ အလောင်းတော် တကျိပ်ကဲ့သို့ကား၊ ဝိဝဋ္ဋနှသာရီ၊ ပါရမီသီလ တရားကို အားထုတ်ရည်သန်တော်မူသဖြင့်၊ ဒသင့်နှလုံး၊ ယူကျုံးသွင်းပိုက်တော်မူသည်။

တတိယမဂ် ဉာဏ်စက်ရောင်ဝင်း လင်းပြီးသောသူကဲ့သို့ကား ကာမဂုဏ်ငါးပါး တရားမခိုက် လိုမလိုက်သော စရိုက်အလေ့ ပြကတေ့ သဘောတော်ဖြင့် ရမ္မာပြည်ကြီးရှင်ဖြစ်သော ယုဓဋ္ဌယမင်းမြတ်သည် နေခြည်လျှံတက် မြက်ပင်နှင့်တကွ ဘီလူးမလင်ပန်းဝယ် ခန်းခြောက်လေသော နှင်းပေါက်ဆီးခဲ၏ မမြဲသည့်အဖြစ်ကို နှစ်နော်တွေးခေါ်၍ အတ္တဘောကို ရှုသကဲ့သို့ ပုပ္ဖရှရှ မြင်မြင်သမျှ သဝိညာဏက အဝိညာဏက သခ်ါရတို့ကို လက္ခဏာတရား သုံးပါးထင်ထင် မြင်အောင်ပိုက်ထုပ်လျက် ရုပ်နာမ်တရားကို သိမ်းပကားတော်မူသတည်း။

ဤသို့လျှင် လွန်ကဲသောသဒ္ဓါလွန်ကဲသောပညာ လွန်ကဲသောဝီရိယ အဘိဇ္ဇဗလ အသာဓာရဏ စတုစက္ကသမ္ပတ္တိ ရာဇဒ္ဓိဂုဏ်တရားတို့သည် ပွားလေပွားလေ ဖျားတက်ရေသို့ ဖြစ်လတ်ရကား—

စတုဒီပိဿရ ဇာလိဂ်စကြာသခင်သည် ဆင်ပျံရတနာဖြင့် နဘာကာသ မိုးဝခရီးသို့လှည့်လည်ရာ ဘုရားသုံးဆူတို့ သစ္စာလေးပါးတရားသိမြင် ဗောဓိညွန့်ရှင် သစ်ပင်တို့၏ပေါက်ရောက်ရာဌာန မာရာရိဝိဇယ အဘိသေကသဗ္ဗဗုဒ္ဓ ပထမမြေပေါ်ကို ဆင်တော်ပျံလွှား မသွားဝံ့သည်ဖြစ်၍ ဆုတ်နစ်သောအခါ စကြာနရိန်သည် ဝရဇိန်ချွန်းတောင်းဖြင့် နှင်မောင်းပြင်းထန် ချွန်းချက်အန်ကြောင့် ဆဒ္ဒန်ပျံမျိုး ကြမ္မာညှိုးလည်း တန်ခိုးမင်းဘုန်း ရှုန်းရှုန်းမြေထက် မသက်တန့်နား အစားဆင်ပျံ ခံလှာရ၏သို့ကား။

နိဗ္ဗာနပစ္စယနာဂရာဇာ စကြာဆင်တော်လည်း တေဇောကမ္ဘဇ ချမ်းအေး မြကမင်းတရာ့ဘုန်းတော် ဆော်သောအားဖြင့် ပတ္တမြားဂူစံ ဘားဘားမှင်ဆံ ကေသရာပျို ဆီးခံရင်ဆိုင် ဝံ့ရဲနိုင်သော မောရိယပစ္စယနာဂရာဇာဂိရိ ဒုတိယ ဆဒ္ဒန် စက်တော်တင်ရန် ခံပြန်လှာရသော ပဥ္စမသံဂါယနာတင် ဘုရင်မင်း တရားကြီးဘုရား၏ ရာဇဒိဋ္ဌိဂုဏ် တရားဟုန်ကြောင့် ပါဠိလိပုတ်ပြည် တည်မည့် အခါ သမ္မာအယူရှိသောသူတို့ သုံးဆောင်လျှာ နေရာအလို့ငှာ သမ္မာအယူရှိ သော နတ်တို့သည် စိတ်နှလုံးကို ညွတ်စေသကဲ့သို့ သာသနာ့တော်စောင့် စသော နတ်ကောင်းနတ်မြတ်တို့သည် သီဟိုဠ်ကျွန်းခွင်အတွင်း သီတင်းသုံးနေ သော ရဟန်းတော်တို့ စိတ်နှလုံးညွတ်စေသဖြင့် ဒေဝါနံပိယတိဿမင်းမြတ် အထံသို့ ဓမ္မာသောကမင်းကြီးသည် မဟာဗောဓိဒက္ခိဏသာခါကို ပို့သကဲ့သို့ ပုသိမ်အကောက်ဝန်သား ရောနှင့် အဆောင်တော်မြဲ မြေက်မွေးငအောင်ထွန်း တို့ကို အထံဘော်သို့ ပို့ရောက်ဆက်သလာစေသည်။

သာသနာတော် ၂၃၆–ခု၊ ဇမ္ဗူဒိပ်ကျွန်းကို အစိုးရသော ဓမ္မာသောက မင်းကြီးသည် သီဟိုဠ်ကျွန်းကို အစိုးရသော ဒေဝါနံပိယတိဿမင်းကြီးအကျိုး ငှာ ဆေးဒန်းမြင်းသီလာဖြင့်သား၍ ဖြတ်ယူအပ်သော မဟာဗောဓိဒက္ခိဏ သာခါကို သီတင်းကျွတ်လ မဟာပဝါရဏာနေ့ ရွှေဖျဉ်း၌ တည်စေပြီးလျှင် အစဉ်အတိုင်း ပူဇော်ပသ၍ နတ်တော်လ ပဌမပါဋိပဒရက်၌ သံဃမိတ္တာထေ ရီမ အမှူးရှိသော များစွာသော အခြံအရံနှင့်တကွ တာမလိတ္တိ သင်္ဘောဆိပ်မှ သီဟိုဠ်ကျွန်းသို့ ကူးသွားစေသည်။ သမုဒ္ဒရာအလယ်သို့ ရောက်သောအခါ များစွာသော နတ်နဂါးတို့သည် ဆောင်ယူပင့်မည်ရှိရာ သံဃမိတ္တာထေရီမ သည် ဂဠုန်ငှက်မင်းသဏ္ဍာန် ဖန်ဆင်းလှန့်ခြောက်သဖြင့် မပင့်မယူဝံ့သော အခါ သံဃမိတ္တာအထံသို့ကပ်ပြီးလျှင်—

အရှင်ဘုရား....

လူ နတ် နဂါး သိကြား ပြဟ္မာတို့အလို့ငှာ လောက၌ ဘုရားဖြစ်တော်မူ ပါသည်။ ဂေါတမထင်ရှား ဘုရားမာရဇိန် မြတ်မုနိန်သည်လည်း မုစလိန္ဒ မူလေန ဥရဂိန္ဒဘုဇင်္ဂေန ဆဋ္ဌမသတ္တာဟအတွင်း ကျည်းပင်ရင်း၌ သီတင်းသုံး နေတော်မူသောကာလ မုစလိန္ဒနဂါးမင်းသည် ရှည်လျားသော မိမိကိုယ်ကို ကြည်ညိုခြင်း ပီတိဖြင့် ဂန္ဓကုဋိအဟန် ဖန်ဆင်းလျက် လှူဒါန်းသောအခါ သည်းခံတော်မူပါသည်။ ဥရုဝေလ၊ ပနန္ဒတို့ကိုလည်း သုံးပါးသော သရဏဂုံ ချပ်ရိုတန်ဆာတို့ကို ဆင်ယင်သဖြင့် ချီးမြှင့်တော်မူပါသည်။

အကျွန်ုပ်တို့နဂါးပြည်သို့ ရက်လည်ရုံမျှ ပင့်ဆောင်ပါရမည့်အကြောင်းနှင့် တောင်းပန်လျှောက်ထား ပင့်ဆောင်သွား၍ နဂါးတို့ကမ်းသို့ ညချမ်းအခါ ဆိုက်ရောက်လာဘိသကဲ့သို့—

မြတ်စွာဘုရား စွယ်တော် ဆူရေ ၁၊ ခါတ်တော်ဆူရေ ဂ၊ စိန်ဆင်းတု တင်ပျဉ်ခွေ ညဏ်တော် ၉(၉–လက်သစ်)ဆူရေ ၁၊ မဟူရာ ကျောက်ဆင်းတု တင်ပျဉ်ခွေညဏ်တော် ဂ (ဂ·လက်သစ်)ဆူရေ ၁၊ ဒက္ခိဏသာခါ ၊ မဟာ ဗောဓိပင်တိုး ၂၊ မဟာစေတီ၊ ထူပါရုမ၊ မဟာဝိဟာရ၊ လောကပါသာဒ၊ မဟာဗောဓိပင်များနှင့်—

အရပ်သံတောင် ၁–တောင်ရှိသော မဟာဗောဓိပင်ရှင် ၂·ကို ပုသိမ် အကောက်ဝန်သား ရောနှင့် အဆောင်တော်မြဲ မြေတ်မွေး၊ အောင်ထွန်းတို့ကို သီဟိုဠ်ကျွန်းရဟန်းတော်တို့က ပင့်ဆောင်ဆက်သစေသကဲ့သို့ လေရေအဟုန် မှသုံးဖြောင့်ဖြောင့် နတ်ကောင်းစောင့်၍ ၁၂၂၁·ခု၊ နယုန်လဆန်း ၁၄·ရက် နေ့ ရတနာပုံဆိပ်ကမ်းသို့ ချမ်းအေးမြူးရှင် မတ်လုလင်တို့ ဘုရင်ဘုန်းဖျား တရားဆယ်ပွင့် ကိုယ်တော်ကျင့်ကြောင့် လွယ်လင့်တကူ ဆိုက်တော်မူသတည်း။

ဘုန်းတော်ခြောက်ပါးနှင့် ပြည့်စုံတော်မူသော ရှင်စောသုံးလူ့ သဗ္ဗညု၏ ရုပ်ဟိန္ဒုရဇာ မဟာဗောဓိ ဒက္ခိဏသာခါသည် "ယမကာယမကာ ဂုမ္ဗာ ဂုမ္ဗာ အာဝေလာ အာဝေလာ" ခြောက်ဖြာယှက်ရုံ အစုံအစုံ အစုအစု အသွယ်အသွယ်ဟု ဆိုအပ်သော ရောင်ခြည်ကွန်ရက်တို့ကို ဘဝဂ်မိုးထွက် လွှတ်လျက်လွှတ်လျက် ထွက်ခဲ့ပြီးရကား—သမုဒ္ဒရာမြစ်ဝှမ်း တင်းကျမ်းပြည့်မျှ ဇမ္ဗုကောလဆိပ်ကမ်းသို့ ညချမ်းဆည်းဆာ ကြွရောက်လာသော ထိုအခါ ဝယ် ဒေဝါနံပိယတိဿမင်းကြီးသည် ၃–ရက်ပတ်လုံး သီဟိုဠ်ကျွန်း မင်း အဖြစ်ဖြင့် ပူဇော်၍ ၄–ရက်မြောက်သောနေ့၌ မဆွကပင် သုတ်သင်ပြီးသော ခရီးမဖြင့် ကြီးစွာသောသဘင်ကို ကျင်းပလျက် အနုရာဓမြို့သို့ ပင့်ယူပူဇော်လျက် ၁၄–ရက်မြောက်သောနေ့ အရိပ်ပွားသော ညချမ်းအခါ အနုရာဓမြို့ မြောက်တံခါးမှ သွတ်သွင်းယူသယ်၍ မြို့လယ်မင်းလမ်းမဖြင့် ပင့်ဆောင်လျက် တောင်တံခါးမှထွက်သဖြင့် ၎င်းတံခါးနှင့် ကုလလေးတာ အပြန် ၅–ရကွာ သော မဟာမေဃဝန် ဥယျာဉ်ကျောင်းတိုက်၌ စိုက်မျိုးကိုးကွယ်တော်မူ သကဲ့သို့—

သီဟိုဠ်ကျွန်း ရဟန်းတော်တို့က စေလွှတ်ပို့သ၍ ရတနာပုံနေပြည်တော်သို့ ဆိုက်ရောက်လာသော မဟာဗောဓိပင်ကြီး၏ သားတော်အစစ် ပင်ရှင်နှစ်ကို

ပြည်သားပြည်သူ လူရှင်ရဟန်းတို့ကို လှူဒါန်းပူဇော် ဖူးမြော်စေခြင်း စသော သဘင်ကြီးစွာ ဖြစ်စေတော်မူလျက် မဆွကပင် သုတ်သင်အပ်သော မင်းလမ်းမ ဖြင့် ရတနာပုံပြည်ကြီး၏ အရှေ့မျက်နှာ မဟာဝိသုတာရာမတိုက်တော်သို့ ပင့်ဆောင်၍ အရောင်ဖြူလှပ် အမိုးသုံးထပ် တန်ဆောင်းရပ်ဝယ် ခပ်သိမ်းသော ရဟန်းရှင်လူတို့ကို ပူဇော်စေပြီးမှ ကောဇာသက္ကရာဇ် ၁၂၂၂-ခု၊ နတ်တော် လပြည့်ကျော် ၅-ရက်နေ့ည ၃-ချက်တီးကျော် ၆-နာရီအချိန်တွင် သဘင်စုံ ကျင်းပ၍ ရတနာပုံနေပြည်တော် ရှေ့မျက်နှာ အလယ်ဦးထိပ်တံခါးမှ သွတ်သွင်း ယူသယ်၍ မြို့လယ်မင်းလမ်းမဖြင့် ပင့်ဆောင်လျက် တောင်မျက်နှာ အလယ် ကျော်မိုးတံခါးမှ ထွက်ခဲ့ပြီးကာ စံတော်မူရာ မဟာဝိရူဟတိုက်ခန်းနှင့်တူသော အဆောင်ဆောင်သော ရွှေနန်းတော်မှ ဒက္ခိဏဒိသာ တာတတောင်ကွာဟိ သော ဘူမိအဘယ မင်္ဂလာဘေးမဲ့ပေးတော်မူရာ အဘယာရာမကျောင်းတိုက် သို့ ပင့်ဆောင်ခဲ့၍—

ဂဏာစရိယ ဂဏပါမောက္ခအစစ် သင်္ဃရာဇ်ဖြစ်တော်မူသော "ဧဝံယျ ဓမ္မာဘိ မုနိဝရ ဉာဏကိတ္တိ သီရိပဝရ သီရိသဒ္ဓမ္မဓမ္မ ဓမ္မသေနာပတိ ဓမ္မရာဇာ ဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ သာသနာပြု ဆရာတော်ဘုရားကြီး အမှူးဟိသော ဆရာတော် သံဃာတော် ၅၀-ပါး ပရိတ်ရွတ်မွမ်း၍ မင်းညီမင်းသား၊ မင်းဆွေ မင်းမျိုး၊ မှူးတော် မတ်တော်၊ သူဌေး ပုဏ္ဏား၊ အမျိုးလေးပါးတို့ မစခြံရံပြီး လျှင် သာသနာတော် ၂၄ပ၄-နှစ်၊ ကောဇာသက္ကရာဇ် ၁၂၂၂-ခု၊ နတ် တော်လပြည့်ကျော် ၆-ရက်၊ ၂-လာနေ့ နေ့တချက်တီးကျော် ၃-နာရီ ၂-ပါဒ်၊ ၅-ဗီဇနာ၊ ၂-ပြန်၊ ၁-ခရာ၊ ကုံလဂ်၊ ကြဋ္ဌစန်း၊ သောကြာ တြင်း၊ သောကြာနဝင်း၊ နက္ခတ် ၂၂-လုံး ၂-ပါဒ်ထက် လဂ်စီးလျက် ၆-ဘဝါး ၅- လက်သစ်ရှိသော ကောင်းမြတ်သော မင်္ဂလာအခါတော်တွင် ကောင်းချီးအနုမောဒနာ အခါးဘော်ကြား အမြောက်သံ ၃-ချက်ပေး၍ မြေမျိုး ရေမျိုးစုံဘို့ဖြင့် ပတ္တမြား ၅-ရပ်စီ အပေါက်တထောင်ရှိသော ရွှေဖျဉ်း ကြီးခံ၍ စိုက်တော်မူသည်။ အနန္တရ ဘဝမဆည်း ဖြုတ်ခြည်းရှုတ်ခြည်း ဝဋ္ဋကုန် လှည်း၍ ညစ်မည်းကင်းပ အရဟတ္တဖလစတုဋ္ဌဖိုလ်ထွက်ဆုဘ်လိုသောဟူ၍လည်း ပတ္ထနာပြုတော်မူသည်။ စိုက်ပျိုးပြီးသော ဗောဓိညောင်တော်ကိုလည်း ကလိင် စကြာမင်းသည် ဘုရား ၃-ဆူတို့ ပွင့်တော်မူသော ဗောဓိပင်ရာကိုမျှ ရွှေ သည်တိုင် စိုက်မှတ်ခြင်း၊ တံတိုင်းမဟာရံ ပတ်ဝိုက်ခြင်း၊ လေးကျွန်းလုံး မင်းစည်းစိမ်ဖြင့် ပူဇော်ခြင်းကို ပြုသကဲ့သို့ ငါတို့ သာသနာ့ဒါယကာ မဟာ ဓမ္မရာဇ်တရားမင်းမြတ်သည်လည်း သောမနဿသဟဂုတ် ဉက္ကဋ္ဌစော စေတနာ ဖြင့် သစ် အုတ် အင်္ဂတေ ရွှေသစ်စေးအလှိုင်ှာ အသပြာ လေးသောင်းကျော်ကို

ရွှေတိုက်တော်မှ ထုတ်ပေး၍ ဝိသုကမ္မအမတ်အား တည်ထားဖန်ဆင်းစေသည်မှာ—

ပရိဘောဂ စေတီတော်ဟု ဆိုအပ်သော တောစိုးသစ်ပင်၏ ဝန်းကျင်မျက်နှာ၌ အာလိန်သုံးဆင့် မြှင့်တော်မူခြင်း၊

ထုပ်စွပ်လျောက်တင် ရွှေစင်အတိ မွမ်းမံအပ်သော သည်မ သည်ရံ သည်တွေးတို့ကို လေးဆင့်တိုင်ဟိုပ် စိုက်ယူခြင်း၊

ငွေခတ်အာတူ ဖွေးဖွေးဖြူသော ပဟာရံ ၂-ထပ် ဇရပ်ရှစ်ကန် ရေကန်ရှစ်ခုတို့ကို ပြုစုတူးဖော်စေခြင်း၊

နေ့စဉ်မပြတ် အရပ် ၄-မျက်နှာတို့၌ ဆီမီးပူဇော် ဆွမ်းတော်ကပ်လှူခြင်း၊

နှစ်စဉ်မပြတ် သဗ္ဗညုဘုရား ပွင့်တော်မူသော ကဆုန်လပြည့်နေ့ ညောင်ရေသွန်းလောင်းခြင်း—

ဟု ဆိုအပ်သော ဝိသာခါသဘင် စီရင်ခြင်း၊ တန်ဆောင်မုန်းလ ဆီမီးတန်ဆောင် ပူဇော်ခြင်းဟု ဆိုအပ်သော သရဒသဘင်စီရင်ခြင်း စသည်တို့ဖြင့် မရေတွက်နိုင်သော ကောင်းမှုတော်တို့ကို ကြည်ညိုအားထုတ် မဆုတ်မနစ် ဖြစ်စေတော်မူသည်။

ဤသို့လျှင် ဓမ္မာသောကမင်းကြီးသည် သီဟိုဠ်ကျွန်းသို့ မဟာဗောဓိဒက္ခိဏသာခါကို ပို့သကဲ့သို့ သီဟိုဠ်ကျွန်း ရဟန်းတော်တို့က မဟာဗောဓိပင်ကို ရတနာပုံ နေပြည်တော်သို့ ပို့ဆက်ခြင်း၊ သီဟိုဠ်ကျွန်းသို့ ရောက်သော ဗောဓိပင်ကို ဒေဝါနံပိယတိဿမင်း စိုက်ပျိုးသကဲ့သို့ ရတနာပုံ နေပြည်တော်သို့ ရောက်သော ဗောဓိပင်ကို စိုက်ပျိုးတော်မူခြင်း၊ ကာလိင်္ဂစကြာမင်းသည် ဗောဓိပင်ရာကိုမျှ ကြည်ညိုလေးမြတ်စွာ ပူဇော်သကာကို ပြုသကဲ့သို့ စိုက်ပျိုးတော်မူပြီးသော ဗောဓိညောင်တော်ကို ရိုသေလေးမြတ်စွာ ပူဇော်သကာကို ပြုခြင်း၊ ယောဂီ ဣသိ ယတိ တာပသတို့ကို နိစ္စမပြတ် စောင့်ရှောက်စေခြင်းဟု ဆိုအပ်သော မဟာဗောဓိ၏ အတ္ထုပ္ပတ္တိကို—

နောင်သောကာလ သာသနိရိက မွေတော် ခတ်တော်တို့သည် မဟာဗောဓိမဏ္ဍိုင်သို့ တပြိုင်နက်တည်း စုသဖြင့် မာတုပရိနိဗ္ဗာန် စံမြန်းသည်တိုင်အောင် ထွန်းပြောင်မြင့်ရှည် တည်ရစ်စေသော—

ဟု ရတနာသိင်္ဃ နရဒေဝ ဒသမရာဇဝင် မထင်အတု အံ့သုမာလိ နွယ်လာဟိသော ပဥ္စမသင်္ဂါယနာတင် ဘုရင်မင်းတရားကြီးဘုရား နန်းစံနှစ်ဆယ့်ခုနစ်နှစ် ရောက်လစ်သောအခါ ဤကျောက်စာသိပိုင်းကို ထိုးစေသတည်း။

**ဗောဓိမဏ်လာ၊** ကွန့်ရှန်းဖြာလျက်၊ စက္ကဝါဠတပိုင်း၊ မြမြမှိုင်းတည့်၊ ဆိုင်းဆိုင်းယှက်ငြိ၊ ခက်ချင်းထိ၍၊ ပရိမဏ္ဍလ၊ ဝန်းဝန်းပလျက်၊ ဂေါ်တမရှင်ချစ်၊ သစ္စာလှစ်သား၊ ဒုမရာဇ်ခကျော်၊ စေတီတော်ကို၊ ပူဇော်ကြရာ၊ ဖြစ်စေငှာဟု၊ ရတနာပုံ၊ မင်းပွဲစုံသည်၊ ရွှေဘုံဌာန်၊ ပဋ္ဌမနန်းတည်၊ ဇာနည်ဥက္ကဋ္ဌ၊ ဖန်ဆင်းလတ်က၊ နတ်မင်းလူမင်း၊ ဖြူဟ္မာမင်းတို့၊ နန်းကင်းမကိုဋ္ဌ၊ ဝပ်စင်းတိုက်၍၊ ဦးခိုက်ကြည်လင်၊ ပန်ဆင်ကြသား၊ မဟာ်ဏာ၊ အပြင်သာဝယ်၊ ဝဇီရာသန၊ နေရာမထက်၊ မြပြာသာဒ်ကြီး၊ မြထီးမောက်မောက်၊ မြနန်းဆောက်သို့၊ ရွှေနောက်ယာဝဲ၊ မြရိပ်ကြဲလျက်၊ မြခဲပမာ၊ ချမ်းအေးစွာသား၊ ရတနာပုံ၊ ရိပ်မြုံဗောဓိ၊ ထူပွတ္တိကို၊ မိဓိလာကျော်ဟိုး၊ ပြည်ကြီးစိုးသား၊ မဂ္ဂဇိုးမင်းလျှဉ်၊ သားမြေ့စဉ်သို့၊ ပဋ္ဌမထင်၊ တင်သည့်မင်းမြတ်၊ တို့စောထွတ်၏၊ နာဂတ်နန်းပျော်၊ သားမြေးတော်တို့၊ ပူဇော်ရိုသေ၊ ကိုးကွယ်စေဟု၊ ပရမေ ကဝိန်၊ ပညာထိန်သည်၊ နရိန္ဒာဘိ သီရိသုဓမ္မ၊ စသည်တွက်ဘွဲ့၊ နှစ်ဆယ့်ခြောက်လုံး၊ သီကုံးအက္ခရာ၊ ရာဇာဓိရာဇ်၊ အသစ်ခတ်နှိပ်၊ မင်းပေးလိပ်ဖြင့်၊ တံဆိပ်နှစ်ဆင့်၊ ဘိသိက်မြှင့်သား၊ ဘုရင့်ဆရာ၊ ထေရ်မဟာလျှင်၊ အက္ခရာထင်းထင်း၊ မော်ကွန်းကွန်းသည်။ ။သလင်းရွှေစာ သံပိုင်းတည်း။

## ရေကန်ဇရပ်ကြီးများနှင့် ထီးဖြူရုံ

ဗောဓိပင် မဟာရံအတွင်းဝယ် အုတ်ရေကန်ကြီး ဂ-ကန်ရှိလေသည်။ အရှေ့မုခ်အဝင်တွင် ဇရပ်ကြီးတဆောင်၊ အနောက်မုခ်အဝင် ဇရပ်ကြီးတဆောင် ရှိလေသည်။ ၎င်းပြင် အနောက်မုခ်အဝင် ဒုတိယမဟာရံတံတိုင်းအတွင်းတွင် ထီးဖြူရုံတခုရှိသည်။ ယင်းအဆောက်အအုံများအတွက် ထိုစဉ်က ငွေတော် ၄-သောင်း ကုန်ကျသည်ဟု သိရ၏။

## သီပေါမင်းတရားနှင့် ဗောဓိပင်

ပဋ္ဌမသံဂါယနာဝင် မင်းတရားကြီး နတ်ရွာစံတော်မူပြီးနောက် သားတော် သီပေါမင်း နန်းတက်တော်မူသောအခါ "နရိန္ဒာဘိသီရိသုဓမ္မဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု"နှင့် နရိန္ဒာဘိသီရိသုဓမ္မဇောတိပါလဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု"ဘွဲ့တံဆိပ်တော် ၂-ထပ်ရ ဆီးပန်းနီဆရာတော်ဘုရားကြီး၏ တိုက်တွန်းချက်အရ ခမည်းတော် မင်းတုန်းမင်းတရားကြီး စိုက်ပျိုးတော်မူခဲ့သော မူလဗောဓိပင် မျိုးစေ့ကိုယူ၍ သက်စေ့ ၂၁-ပင် စိုက်ပျိုးတော်မူသည်။ ဗောဓိ

ပင် စိုက်ပျိုးတော်မူသော အခမ်းအနားကို ဖန်ချက်ဝန်မင်းအား လွှဲအပ်တော်မူရာ ရွေးထုံးစဉ်လာအရ အရှေ့ပြင် မင်္ဂလာဥယျာဉ်တော်၌ ထားတော်မူ၍ သက္ကရာဇ် ၁၂၄၁-ခုနှစ်တွင် ခမည်းတော် မင်းတုန်းမင်းတရားကြီး စိုက်ပျိုးတော်မူသည့် ဗောဓိပင်ကို ဗဟိုပြု၍ လေးမျက်နှာပတ်ဝန်းကျင် အရံအဖြစ် စိုက်ပျိုးတော်မူခဲ့လေသည်။

## မင်းတရားကြီး အမြဲပူဇော်ကန်တော့ခြင်း

ပဋ္ဌမသံဂါယနာတင် ဘဝရှင်မင်းတရားကြီးသည် မဟာဗောဓိပင်မြတ်အား ဆိတ်နို့ နွားနို့များဖြင့် အမြဲထာဝရ သွန်းလောင်းကာ အပင်၏ လေးမျက်နှာတွင် သွန်းတော်ပွဲများ၊ ဆီမီးများ၊ ပန်းများဖြင့် အမြဲထာဝရ ပူဇော် ကန်တော့တော်မူသည်။

## တန်ဆောင်းတော်ကြီးများ

ဗောဓိပင် မဟာရံတံတိုင်းအတွင်းတွင် အာရုံခံ အုတ်တန်ဆောင်းတော်ကြီး ၈-ခုရှိသည်။ ထိုအုတ်တန်ဆောင်းတော်ကြီးများသည် မိဖုရားကြီးများ၏ ကောင်းမှုကုသိုလ်တော်များ ဖြစ်လေရာ အရှေ့မုခ်အဝင်တွင် တောင်ဘက်နေရာ၌ စကြာဒေဝီ မိဖုရားကြီး၏ အာရုံခံတန်ဆောင်း၊ အရှေ့မုခ်အဝင် မြောက်ဘက်နေရာ၌ ဆင်ဖြူမရှင် မိဖုရားကြီး၏ အာရုံခံတန်ဆောင်း၊ တောင်မုခ်အဝင် အရှေ့ဘက်နေရာ၌ တောင်ရွှေနန်းဆောင် မိဖုရားကြီး၏ အာရုံခံတန်ဆောင်း၊ တောင်မုခ်အဝင် အနောက်ဘက်နေရာတွင် တောင်ရွှေနန်းဆောင် မိဖုရားကြီး၏ အာရုံခံတန်ဆောင်း၊ တောင်မုခ်အဝင် အနောက်ဘက်နေရာတွင် မြောက်ရွှေနန်းဆောင် မိဖုရားကြီး၏ အာရုံခံတန်ဆောင်း၊ အနောက်မုခ်အဝင် တောင်ဘက်အနီးတွင် အနောက်နန်း မိဖုရားကြီး၏ အာရုံခံတန်ဆောင်း၊ မြောက်ဘက်အနီး (ရာဟုထောင့်) တွင် မြင်ကွန်းမင်းသား မယ်တော်ကြီး၏ အာရုံခံတန်ဆောင်း၊ မြောက်မုခ်အဝင် အနောက်ဘက်အနီးတွင် လှိုင်ထိပ်ခေါင်တင် မိဖုရားကြီး၏ အာရုံခံတန်ဆောင်း၊ မြောက်မုခ်အဝင် အရှေ့ဘက်အနီးတွင် မြောက်နန်းမတော် မိဖုရားကြီး ဒေါ်သဲ၏ တန်ဆောင်းတို့ ဖြစ်ကုန်၏။

## ဆုတောင်းရဘုရားနှင့် ဆုတောင်းပြည့်ဘုရား

ဗောဓိပင် မဟာရံ အနောက်မုခ်အဝင် အရှေ့တောင်ဘက်၌ ဆုတောင်းရ ဘုရားတဆူ တည်ရှိလေသည်။ ယင်းဆုတောင်းရဘုရားကို အမရပူရမြို့တည်ဦးစ

ဘိုးတော်မင်းတရားလက်ထက် အသည်ဝန်မှင်းကလေးက တဦး ၁၁၄၇–ခုနှစ်က တည်ထားခဲ့သည်။ ၎င်းပြင် ဗောဓိပင် မဟာရံ အနောက်မုခ်အဝင် မြောက်ဘက်တွင် ဆုခတောင်းပြည့်စေတီ တည်ရှိသည်။ ၎င်းဘုရားကို ၁၁၄၈–ခုနှစ်တွင် အသည်ဝန်မင်းကြီး တည်ထားကိုးကွယ်ခဲ့လေသည်။ ယင်းစေတီ ၂–ဆူတို့ကား ဆုတောင်းလျှင် များသောအားဖြင့် ရတတ် ပြည့်ဘတ် ပြည့်စေဘတ်သည်ဟု ယခုတိုင် ထင်ရှားလေသည်။

ထူပသေဋ္ဌာ ဟိ ဧတေ ဒွေ၊ ပတ္ထနီယသနာမကာ။
ပတ္ထေန္တာနံ မနုဿာနံ၊ မနံ ပူရေန္တိ ပါယသော။

# ပဥ္စမဆင်တဲ သာသနာဝင်

မန္တလေးမြို့ တမ္ပဝတီရပ်ကွက်၌ ကျောင်းတိုက်ပေါင်း တော်တော်များများ တည်ရှိသည်။ ၎င်းတို့မှာ—

၁။ ဆင်တဲတိုက် (ပဥ္စမဆင်တဲတိုက်)

၂။ မာရ်အောင်တိုက်၊

၃။ မှန်ကင်းတိုက်၊

၄။ ကတိုးတိုက်၊

၅။ စန္ဒာမုနိတိုက်၊

၆။ ရွှေကွန်ညွှာ အုတ်ကျောင်းတိုက်၊

၇။ ရွှေရင့်ရဲတိုက်၊

၈။ မှန်ကင်းကျောင်းတိုက်၊

၉။ ရွှေစံခိုင်တိုက်၊

၁၀။ ရွှေတိဂုံတိုက်၊

၁၁။ တမ္ပဝတီတိုက်၊

၁၂။ စလေတိုက်၊

၁၃။ ငါးစီးတိုက်—

စသည်တို့ ဖြစ်ကုန်၏။ (သာသနာရေးဌာနက စလေနှင့် ငါးစီးတိုက်ကို တမ္ပဝတီနယ် တိုက်များအဖြစ် သတ်မှတ်စာရင်းယူထားသည်။)

ဆင်တဲတိုက်သည် ဝိနည်းဂဏ္ဌိ၊ သဂြိုဟ်အရကောက်–စသည်တို့ကြောင့် သာသနာ့ဝန်ထမ်း စာပေသမားတိုင်း သိရှိကြားဘူးကြပြီး ဖြစ်သည်။တမ္ပဝတီ

ရပ်ကွက် မန္တလေး တောင်မြို့သွား ကားလမ်းမကြီး၏အရှေ့ဘက်၌ တည်ရှိလေသည်။ မြင့်မားသော တံတိုင်းကြီးဖြင့် ကျောင်းတိုက်ကို တွေ့ရှိနိုင်သည်။ ကျောင်းတိုက်အတွင်း၌ စည်းခုံစေတီ အစရှိသော စေတီပုထိုးပေါင်း ၁၀-ဆူနှင့် ကျောင်းပေါင်း ၁၁-ကျောင်းရှိလေသည်။ ကျောင်းထိုင်ဘုန်းကြီး ၅-ပါးရှိ၍ စာသင်သား ရဟန်းတော် ၃၀-ကျော်မျှ ရှိလေသည်။ လက်ရှိ တိုက်အုပ်ဆရာတော်မှာ ဆရာတော် ဦးသောမ ဖြစ်လေသည်။

သက္ကရာဇ် ၁၁၄၄-ခုနှစ်တွင် နန်းတက်သော အမရပူရရွှေမြို့ ရွှေနန်းတည် ဘိုးတော်မင်းတရားလက်ထက် မင်းကြီး မဟာမင်းထင်စည်သူ မိုးနဲဗိုလ်မှူး ဝန်ထောက်အမတ်က ဘုံ ၇-ဆင့် ပြာသာဒ်ကြီးနှင့်တကွ ဘုံလေးဆင့်ရှိ ကျောင်းတော်ကိုလည်း ဆောက်လုပ်စေ၍ ဝေယန်ဘုံသာ အမည်တပ်၍ စတုဒိသာသံဃိကအဖြစ် လှူဒါန်းခဲ့သည်။ ယင်းကျောင်းတိုက်သည် ဆင်တဲရွာဇာတိ ဆရာတော် သီတင်းသုံးတော်မူသဖြင့် ဆင်တဲတိုက်ဟု အမည်ရသည်။

## ပဌမ ဆင်တဲဆရာတော် အရှင်ဉာဏသဒ္ဓမ္မ

ဆင်တဲဆရာတော်သည် နိဿယ အရေးအသားအတတ်၊ ဂဏ္ဍိအရေးအသား အတတ်တို့၌ ကျွမ်းကျင်တတ်မြောက်သော မထေရ်မြတ်ဖြစ်ကြောင်း ဆရာတော်၏ ကျမ်းများဖြင့် သိနိုင်လေသည်။

သက္ကရာဇ် ၁၁၀၆-ခုနှစ်၊ နယုန်လတွင် ပခန်းကြီးမြို့ ကျေးမိုးထူး ဆင်တဲရွာ (ပခုက္ကူခရိုင် ဆင်တဲရွာ)၌ ဖွားမြင်တော်မူခဲ့သည်။ ငယ်နာမည် မောင်ရွှေ ဖြစ်သည်။ အရွယ်ရောက်သော် "အရှင်ဉာဏသဒ္ဓမ္မ" ဟူသော ဘွဲ့တော်နာမဖြင့် ရှင်ရဟန်း ပြုတော်မူခဲ့သည်။ သာသနာပိုင် မန်လည်ဆရာတော် ဘုရားကြီး အရှင်ဂုဏ စသည်တို့ထံတွင် ပညာသင်ကြား တတ်မြောက်ခဲ့သည်။ တချို့ အဋ္ဌုပ္ပတ္တိကျမ်းစာများ၌ ပဌမ ဆင်တဲဆရာတော်၏ဘွဲ့ကို ဉာဏာလင်္ကာရ ဖြစ်သည်ဟု ဖော်ပြကြသည်။ သို့ရာတွင်—

ဗဟုဝါစကာသုရမ္မေန၊ ဝိသုဒ္ဓါစာရကာဓိနာ။
ဂုရုဟိ ဉာဏသဒ္ဓမ္မောတိ၊ ကတနာမေန ဘိက္ခုနာ—

ဟူသော ဆရာတော်၏ ပါရာဇိကဏ် အဋ္ဌကထာဂဏ္ဌိကျမ်း နိဂုံးလာဂါထာဖြင့်ပင် ဉာဏသဒ္ဓမ္မဖြစ်ကြောင်း သိသာလေသည်။ "ဉာဏာလင်္ကာရာဘိ သဒ္ဓမ္မဓဇ မဟာဓမ္မရာဇဂုရု" ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိခဲ့သည်။

## မောင်းထောင်သာသနာပိုင်နှင့် ဆင်တဲဆရာတော်

မောင်းထောင်သာသနာပိုင်နှင့် ဆင်တဲဆရာတော်ကြီးတို့သည် တခေတ်တည်းတွင် ထင်ရှားတော်မူကြသော ဆရာတော်တို့ဖြစ်တော်မူကြသည်။ မောင်းထောင်သာသနာပိုင်က ဆင်တဲဆရာတော်အောက် ၁၁-နှစ်လောက်ငယ်သည်။ မောင်းထောင်ဆရာတော်က ဆင်တဲဆရာတော်ကြီးအား များစွာလေးမြတ်တော်မူသည်။ ဆရာတော် ၂-ပါးတို့ တနေ့၌ အလှူမဏ္ဍပ်တခုတွင် ဆုံမိတော်မူကြသည်။ မောင်းထောင်ဆရာတော်က ဆရာတော် ကျမ်းဂန်များ ရေးသားပြုစုတော်မူရာ ယခု ဘယ်ကျမ်းပြုစုတော်မူပါသတုံးဘုရားဟု လျှောက်ထားရာ ဆင်တဲဆရာတော်ကြီးက သာသနာပိုင် ဆရာတော်ကလေး ပရမတ္ထဝိနိစ္ဆယနိဿယ၊ နာမရူပဝိနိစ္ဆယနိဿယ စသည်တို့ ပြုပြီးဖြစ်၍ ယခု ဝိနည်းဂဏ္ဌိကို ဆက်လက် ရေးသားရာ မဟာဝါသို့ ရောက်ပြီဖြစ်ကြောင်း အမိန့်ရှိတော်မူသည်တွင် တပည့်တော်လည်း ဝိနည်းဂဏ္ဌိကို ရေးစပြုနေပါသည်၊ ဆရာတော် ရေးမှန်းမသိ၍သာ ရေးသားခြင်း ဖြစ်ပါသည်။ ယခုသော် ဆရာတော်ရေးမှန်းသိသဖြင့် ဆက်လက် မရေးတော့ကြောင်းပါဘုရားဟု လျှောက်ထားလေသည်။

မောင်းတောင်ဆရာတော်၏ လက်စမှာ အရှင်မဟိန္ဒထေရ် ဝေဒိသကဂိရိသို့ ကြွရောက်ခန်းအထိသာ ရှိလေသည်။ မောင်းထောင်ဆရာတော်သည် ထိုအခန်းမှစ၍ ဆက်လက်မရေးတော့ဟု သိရသည်။ ဆင်တဲဆရာတော် အရှင်ဉာဏာသဒ္ဓမှ ပြုစီရင်တော်မူသည့် ကျမ်းများမှာ—

၁။ စန္ဒသူရိယ ဂတိဒီပနီကျမ်း၊

၂။ အသီတိနိပါတ် ဇာတ်အဋ္ဌကထာ နိဿယကျမ်း၊

၃။ သစ္စသံခိပ် နိဿယကျမ်း၊

၄။ နာမရူပ ပရိစ္ဆေဒ အဋ္ဌကထာ နိဿယကျမ်း၊

၅။ ပါရာဇိကဏ် ဂဏ္ဌိကျမ်း၊

၆။ နျာသနိဿယကျမ်း၊

၇။ ပရမတ္ထဝိနိစ္ဆယကျမ်း၊

၈။ ဝဇိရဗုဒ္ဓိဋီကာ နိဿယကျမ်း—

စသည်တို့ ဖြစ်ကုန်၏။

## ပါရာဇိကဏ် အဋ္ဌကထာ ဂဏ္ဌိကျမ်း

ဆရာတော်သည် ပါရာဇိကဏ် အဋ္ဌကထာ ဂဏ္ဌိကျမ်းကိုလည်း ဖော်ပြခဲ့သည့်အတိုင်း ရေးသားစီရင်တော်မူခဲ့သည်။ ကျမ်းဦးဂန္ထာရမ္ဘ—

၁။ ဒွတ္တိံသာသီတျာဘိသုဘံ၊ မဟာဒယာဒိကံ ဇိနံ။
နတွာ သဒ္ဓမ္မမဿာပိ၊ ဒက္ခိဏေယျံ နုတံ ဂဏံ၊

၂။ သီလာဒိကေ စ ဂုရဝေ၊ ပရိယတ္တိဝိသာရဒေ။
သိရသာ မေ ဒရံ နတွာ၊ ဗဟုဂန္ထကာရေ ဓီရေ။

၃။ မူလသောတူဟိ ယာစိတော၊ ဟာသညာဏေဟိ ဝဏ္ဏနေ။
နိဿာယေဝ ကရိဿာမိ၊ ဂဏ္ဌိကပ္ပံ ယထာဗလံ။

၄။ ဓီရေဟေဝ ပုရာဏေဟိ၊ အာစရိယေဟိ နိဿယေ။
သုဝဏ္ဏိတေဝ ရစိတော၊ ဝိဇ္ဇမာနေ ပိ သောတုနံ။

၅။ ညာဏဝုဿ ကတတ္တာ၊ တေန သောတူဟိ ဇာနိတုံ။
န သက္ကာ ဋ္ဌကထာနျာယံ၊ တသ္မာ တေသံ သုဗောဓိတုံ။

၆။ သာဓုကာရံ သုခေနေဝ၊ ဝိစိန္တော စ သာဓုကံ။
တံ ဝဏ္ဏနေပိ နိဿာယ၊ ဂုရူနံ ပဿိတံ နယံ။

၇။ ဂဏ္ဌိကပ္ပံ ကရိဿာမိ၊ ပါရာဇိကဿ စောဒနာ-
ဝိဿဇ္ဇနာနုသန္ဓိဟိ၊ မဏ္ဍေတွာ ယုဝသောတုနံ။

၈။ မနာပံ ညာဏသောဘံဝ၊ တမ္ပိ ပဿန္တု ဧကဂ္ဂနာ။
ပညာယ စ ဝိစိန္တု၊ သမ္မုဋ္ဌဒ္ဓာဝ သဇ္ဇနာ—

ဟူသော ၈-ဂါထာဖြင့် ရတနတ္တယပဏာမ၊ အာစရိယပဏာမ၊ အဘိယာစက၊ ကရဏပ္ပကာရ၊ ပဋိညာဉ်၊ ဥယျောဇဉ်တို့ကို ဖော်ပြတော်မူခဲ့လေသည်။ ၎င်းပြင်—

သဗ္ဗလောကသုခပ္ပဒေါ၊ ဇိနော ဒေတု သုခံ မမ။
သဗ္ဗဝေရာဘယာတီတော၊ ဗုဒ္ဓေါ ဝိနေတု မေ ဘယံ—

ဂါထာဖြင့် အာသီသပတ္ထနာ ထပ်မံ၍ ပြုတော်မူခဲ့သည်။

စတုတ္ထပါရာဇိကအဖွင့် ဆုံးသည်အထိသာ စာအုပ်အဖြစ်သို့ ရောက်သည်။ ယင်းစတုတ္ထပါရာဇိကအဖွင့်၏ ဂဏ္ဌိပဗ္ဗတို့ကို ပြဆိုတော်မူပြီး—

၁။ သဗ္ဗင်္ဂုပဂတံ ရမ္မံ၊ ပုညကမ္မိန-မာဝါသံ။
အမရံ ပူရနဂရံ၊ ကာရိတော စက္ကဇောတိတံ။

၂။ စတုက္ကဏ္ဏေသု ဣဒ္ဓိဇ-ပုညစေတိယသောဘနံ။
ရက္ခပုရ မဟာမုနိံ၊ သဂ္ဂမဂ္ဂမောက္ခတိဋ္ဌံ။

၃။ မဟိဒ္ဓိကေဝဿာဘိသေကော၊ ဗဟုဒေသတဿ သာမိကော။
အဘိန္နခတ္တိယဝံသော၊ စက္ကာတုလ မမာယိကော။

၄။ ရဋ္ဌံ ကာရေသိ ဓမ္မေန၊ ဝရဆန္ဒော သုပညဝါ။
အဋ္ဌုတ္တရစတ္တရီယဂုဏော၊ တေသံ ဒက္ခိဏဗာဟုနော။

၅။ မိဘိမာ တိက္ခဇဝန-ဉာဏိကေန ဒယာလုနာ။
သတိပညာဒိဘိတ္ထဝ-ဗျာပိတကိတ္တိကေန စ။

၆။ ရာဇာတိမဟာဒိဃာယုက-နာမေန အန္တေပုရိကေန။
သုကာရိတေ တိဘုမ္မိကေ၊ သောဝဏ္ဏေကေ မနောရမေ။

၇။ ဒေဝဝိမာနသဒိသေ၊ ဝိဟာရေ အတိသောဘိတေ။
သီမာစေတိယာလင်္ကတေ၊ ဂသန္တေန သတာသမေ။

၈။ ဆင်တဲက္လတျာဘိဓာနကေ၊ နိဗ္ဗေဓသူရဉာဏေန။
သာသနေ စက္ကဇောတိတံ၊ နိစ္စံ ပတိဘာမာနသာ။

၉။ ဗဟုဝါစကသုရမ္မေ၊ ဝိသုဒ္ဓါစာရကင်္ခိနာ။
ဂုရူဟိ ဉာဏသဒ္ဓမ္မောတိ၊ ကတနာမေန ဘိက္ခုနာ။

၁၀။ စက္ကာနုဂ္ဂဟကာမာနံ၊ ဝရဆန္ဒာနသောတုနံ။
ဉာဏတ္ထာယ ဝိပိနန္တော၊ ဝဏ္ဏနေ စ ယထာဗလံ။

၁၁။ ပါရာဇိကာဂဏ္ဌိကပ္ပံ၊ မနာပံ ဉာဏသောဘိတံ။
သောတူနံ သာဗ္ဗတ္ထနယ-ဂ္ဂါဟနေ သုဆေကိကံ။

၁၂။ ဇိနစက္ကေ သဂ္ဂလက္ခေ၊ သက္ကရာဇေ ခသဋ္ဌကေ။
သမ္ပတ္တေ ဝိသာခမာသေ၊ ပုဏ္ဏမေကပဟာရိကေ။

၁၃။ နိဋ္ဌိတံ သုဋ္ဌုတံ မယာ၊ ပဉ္စဂန္ထသဟဿံဝ။
မဟာဇနဟိတာဝဟံ၊ ဇောတေတု သဗ္ဗဒါ သာမံ-

ဟူသော ၁၃-ဂါထာဖြင့် အမရပူရမြို့တော်ကို ဖွဲ့ဆိုခြင်း၊ ဘိုးတော်(ဗဒုံ) မင်းတရားကို ချီးမွမ်းခြင်း၊ ကျောင်းဒါယကာမင်းကြီး မဟာသက်တော်ရှည်

အတွင်းဝန်ကို ချီးမွမ်းခြင်း၊ မိမိသီတင်းသုံးရာ ဆင်တဲကျောင်းတိုက်ကို ချီးမွမ်းခြင်း၊ မိမိဇာတိဌာနေ မွေးရပ်မြေကို ဖော်ပြခြင်း၊ မိမိ၏ ဉာဏ်ရည်ဉာဏ်သွား စွမ်းပကားကို ဖော်ပြခြင်း၊ ပကရဏပွဲယောဇဉ်ကို ဖော်ပြခြင်း၊ ကျမ်းပြီးရာအချိန် (သာသနာသက္ကရာဇ် ၁၃၃၄-ခုနှစ်၊ ကောဇာသက္ကရာဇ် ၁၁၅၂-ခုနှစ်၊ ကဆုန်လပြည့်)ကို ဖော်ပြခြင်းတို့ဖြင့် နိဂုံးအုပ်တော်မူခဲ့လေသည်။ ဖော်ပြပါ ပါရာဇိကဏ်အဋ္ဌကထာဂဏ္ဌိကျမ်းကြီးပဌမတွဲကို သက္ကရာဇ် ၁၂၆၄-ခုနှစ်တွင် မန္တလေးမြို့ ပိဋကတ်စာပုံနှိပ်တိုက်ဘွင် ရိုက်နှိပ်ခဲ့ရာ ရှိုင်ဆိုက် ၆၆၉-မျက်နှာ ရှိလေသည်။

## ရိုက်နှိပ်သူ၏ နိဂုံး ကေပိုဒ်ရတု သံပေါက်

ဤပါရာဇိကဏ်အဋ္ဌကထာဂဏ္ဌိကျမ်းကြီးကို ရိုက်နှိပ်သူ၏ နိဂုံးကေပိုဒ်ရတုနှင့် "နိဂမကထာသံပေါက်စာ"သည်လည်း မှတ်သားဖွယ်ကောင်းသဖြင့် အခွင့်ကြုံတုန်း ဤသာသနာဝင်ကျမ်း၌ အောက်ပါအတိုင်း ဖော်ပြအပ်ပါသည်—

ဇိနံ ဇယတု။ ။ရတနာသုံးတန်၊ ထိပ်ဝယ်ပန်၍၊ အကျွန်ပတ္တနာ၊ ကောင်းခြီးငှာစိမ့်၊ မန္ဒာခိဋ္ဌ၊ စသည်ဝဏ္ဏ၊ ဝယပိုင်းခြား၊ အစဉ်အားဖြင့်၊ ပျို့ထွားနုနယ်၊ သင့်ရှိုင်ယ်က၊ ဆန်းကြွယ်အထူး၊ ဂုဏ်ကျေးဇူးကို၊ ထိမ်မြူးမနေ၊ ဖော်ထုတ်ပေမှ၊ ညာကြေလွှံ့ကြွား၊ ကျော်ထင်ရှားအံ့၊ စိတ်ထားနှလုံး၊ သူတော်ထုံးကို၊ သိမ်းကျုံးမှတ်ယူ၊ ယူကြီး ယူလျက်၊ တလူဘဝ၊ ဤကာလ၌၊ သုခစီးပွား၊ မဖြစ်ငြားက၊ ငါ့အား တိမှာ၊ သံသရာဝယ်၊ ယုတ်မာအံ့နည်း၊ စိတ်ကိုတည်း၍၊ အရည်းရှင်မူ၊ နှလုံးဖြူ၍၊ ကြည်ဖြူသဒ္ဓါ၊ ကျမ်းများစွာကို၊ မှာမှာဖွေစု၊ ရှာကြည့်ရှု၍၊ သေက္ကုမေဒနီ၊ စုံစီပြည့်ဝ၊ ကျမ်းထိုမျှကို၊ ကျနပီပြင်၊ စက်ပုံတင်သည်၊ များဖြင်သောင်းသောင်း၊ မိတ်ဆွေပေါင်းတို့၊ အကြောင်းခြင်းရာ၊ ကောင်းတင်းသာလေ့၊ ရွှယ်မှာတွက်စစ်၊ သက်ခုနှစ်က၊ တစ်နှစ် တ-န၊ နမောစ၍၊ လောကဓမ္မ၊ ရာဇသုံးတန်၊ တတ်ကျေပြွန်သည်၊ ပညာဝန်ခေါ်၊ ဆရာကျော်တို့၊ ထံတော်ခြေရင်း၊ တုပ်ဝပ်စင်းလျက်၊ နှီးရင်းပညာ၊ ဖွေရှာစင်းကုတ်၊ အန်အားထုတ်၍၊ မယုတ်လေးသွယ်၊ ဆင့်ဆင့်ကြွယ်သည်၊ တဆယ်ကမောက်၊ ငါးနှစ်လောက်က၊ ကိုယ့်အောက်ပညာ၊ မလိမ္မာသည်၊ မန္ဒာဒသက၊ ကြီးငယ်စသား၊ ပေါင်းတလွှားတို့၊ ထံပါးမကွာ၊ ဆည်းကပ်လာသည်၊ စွမ်းပါသမျှ၊ ဖြန့်ဖြူး၄၍၊ သင်ပြပညာ၊ စဉ်သင့်လာသည်၊ မချာတိထီ၊ ဤပါမီကြောင့်၊ ဌာနီယွန်းခို၊ ရပ်ထိုထို၌၊

ပုဂ္ဂိုလ်အများ၊ ကျွန်ုပ်အာ လည်း၊ တိုးပွားပညာ၊ ကြီးရင့်မာအောင်၊ ဆရာနောက်နှောင်း၊ ကျွန်ုပ်ငရီးလျှင်၊ တွေ့ကြောင်းပတ္တနာ၊ ကျူး မြွက်ပါသည်၊ လူ့ရွာကာစ၊ ဘုံသုံးဝဠ်၊ ပိယမိတ္တေ၊ အပိယေနှင့်၊ ချစ်ဆွေမဟူ၊ တွေ့ကြုံမူလျှင်၊ ငြူစူဏ္ဍာသာ၊ အဘိဇ္ဈာသည်၊ စိတ်မှာ မခန်း၊ မြူဆန်နှမ်းမျှ၊ မသန်းရလို၊ ထဲကြည်ညိုလျက်၊ ပုဂ္ဂိုလ်သူ မွန်၊ ထူးကဲလွန်၍၊ တံခွန်သဖွယ်၊ ပညာကြွယ်သည်၊ ဉာဏ်ဝယ်ထက် မြက်၊ ဂုဏ်ရည်တက်လျက်၊ နိုင်းဖက်စံခွင့်၊ ပမာချင့်မူ၊ ငါနှင့်ငါသာ၊ နှိုင်းစရာသို့၊ ကြည်သရာယောင်၊ ပွဲများပေါင်တွင်၊ ကောင်းဝေါင် ရောက်ရောက်၊ အောင်ထိပ်ပေါက်၍၊ ကဲမောက်စေလို၊ စိတ်ကောင်း ကြို၏၊ ထိုထိုမှာမှာ၊ နှစ်ဖြာကိစ္စ၊ အတ္တပရ၊ ဟိတစီးပွား၊ ရှိသည် များမှာ၊ သူအားပြုလှည့်၊ ငါ့အားပြည့်စေ၊ ပစ္စက္ခေ၌၊ ဣဋ္ဌေအနိဋ္ဌ၊ စေ-ကာယိက်တွင်၊ ဣဋ္ဌနှင့်သာ၊ ကြုံကြိုက်ပါ၍၊ ရန်ခွာပယ်လှည်း၊ တောင်ဥဒည်းမှ၊ ကွန့်မြူးကြွသည်၊ ထွန်းပကျက်သရေ၊ တက်သစ် နေသို့၊ မကြွေခန္ဓာ၊ ကျင်လည်ရာ၌၊ ဗျာပါမတိမ်း၊ ကိုယ်စိတ်ငြိမ်း ၍၊ ခပ်သိမ်းဥဿုံ၊ မေတ္တာဟုန်ကြောင့်၊ စုံပါစေကြောင်း၊ ဟိုနောက် နှောင်းက၊ ဂုဏ်ဧပေါင်းကြီးကျယ်၊ ကျေးဇူးကြွယ်သည်၊ ပေါယယ် သဟာ၊ မာပိညာနှင့်၊ ဆရာထွေထွေ၊ ပေါင်းမိတ်ဆွေလည်း၊ လေးထွေ ရောင်စို၊ ဧတာင်ပေါင်းခိုသည်၊ မြင်းမိုရ်ယုဂန်၊ ကွန့်မြူးပြန်သည်၊ ဘောမန်သရဒ၊ ပန္နရဝယ်၊ ထွန်းပပြည့်လျှမ်း၊ ငွေလစန်းသို့၊ ရွှင်လန်း စေဟူ၊ တောင်းဆုမူသည်။ ။နတ်လူအောင်ဆု နှင်းစေသောဝ်။

## နိဂမကထာသံပေါက်

၁။ မင်္ဂလာအောင်မျိုး၊ သာပေါင်းကြွို၊ မန်းမြို့နေပြည်တော်။

၂။ ပညာရင်နို့၊ သောက်ယူစို့၊ မြို့ရွှေကြီးတိုက်တော်။

၃။ ရွှေတောင်နောက်ပြင်၊ နှစ်လမ်းသင်၊ များဖြင်ဆရာတော်။

၄။ လောကုတ် လောကီ၊ ကျမ်းထိုဤ၊ စာဂီဝါဒတော်။

၅။ ချီးမွမ်းပြစ်တင်၊ ခံရအင်၊ လူရှင်ရဟန်းတော်။

၆။ ရှစ်ပါးလောကဓံ၊ များဆက်ဆံ၊ ကံ၏အကျိုးတော်။

၇။ မိတ်ဆွေပေါင်းတို့၊ နောက်ကောင်းဘို့၊ ပို့၏ မေတ္တာတော်။

၈။ ဤမျှအချုပ်၊ နိဂုံးအုပ်၊ သရုပ်စာတမ်းတော်။

ဤသည်လျှင် ပါရာဇိကကဏ်အဋ္ဌကထာဂဏ္ဌိကျမ်းကြီး ပုံနှိပ်လုပ်ဆောင်သူ၏ နိဂုံးဆုံးတောင်းလက်ာ ဖြစ်လေသည်။ ကဗျာသုတေသီတို့အကျိုးငှာ ဖော်ပြအပ်ပါသည်။

## ဉျာသနိဿယကျမ်းကြီး

ဆရာတော်သည် ဉျာသနိဿယကျမ်းကြီးကိုလည်း ကျမ်းတက်၊ အဆုံးအဖြတ် စသည်တို့ဖြင့် တန်ဆာဆင်၍ ရေးသားစီရင်တော်မူခဲ့သည်။ ကျမ်းဦးဂန္ထာရမ္ဘ၌—

၁။ မဟာဒယံ မဟာဉာဏံ၊ မဟာသံဃံ မဟာကုလံ။
မဟာဝဏ္ဏံ မဟာဗုဒ္ဓံ၊ မဟာဂုဏံ မဟံ နမေ။

၂။ မဟာပူဇံ မဟာသုဒ္ဓိ၊ မဟာသုခံ မဟာဒီပံ။
မဟာတာဏံ မဟာဓမ္မံ၊ မဟာဂုဏံ မဟံ နမေ။

၃။ မဟာသီလံ မဟာပညံ၊ မဟာခေတ္တံ မဟာသုတံ။
မဟာရမ္မံ မဟာသံဃံ၊ မဟာဂုဏံ မဟံ နမေ။

၄။ ကတဃောစံ ပဏာမယာ၊ ဝတ္ထုတ္တယေ နတာရဟော။
အာနုဘာဝေန ဃာတန္တ-ရာယော ဟုတွာဝ သာဓုကံ။

၅။ ဉျာသဿာဟံ ကရိဿာမိ၊ သာဓိပ္ပါယံဝ နိဿယံ၊
နိဿယံ ဂရုပဒေသံ၊ ဝိစိနန္တော စ ဝဏ္ဏနံ။

၆။ တမ္ပိ သဏှနိပေါဏတ္ထ-အဓိပ္ပါယတ္တာဝ ဒုက္ကရံ။
တထာပိ ဂရုပဒေသော၊ သံဝဏ္ဏနာ စ ဒိဿတိ။

၇။ တသ္မာ သောတူဟိ ယာစိတော၊ တိက္ခဟာသနဉာဏေဟိ။
မူလဘူတေဟိ သာဒရံ၊ သမ္မာဆန္ဒုပမောကွေဟိ။

၈။ မီရေဟေဝ ပုရာဏေဟိ၊ ဂရူဟိ နိဿယေ ကတော။
အာကုလတ္ထာဓိပ္ပါယတ္တာ၊ နိဿယဿ အလေခတော။

၉။ ပဋ္ဌန္နဋ္ဌေ စ ဂန္ထာနံ၊ တေန သောတူဟိ ဇာနိတုံ။
န သက္ကာ ဉျာသတ္ထာဓိပ္ပါယံ၊ တသ္မာ တေသံ သုဗောဓိတုံ။

၁၀။ သာဓုကာနံ သုခေနေဝ၊ ဝိစိနန္တော စ သာဓုကံ။
တံ ဝဏ္ဏနေ ဝိနိဿယံ၊ ဂရူနံ ပဿတိ နယံ။

---

၁။ ပါရာဇိကကဏ်အဋ္ဌကထာဂဏ္ဌိ၊ ၆၇၀–၁။

၁၁။ နျာသကပ္ပဿ ကရိယံ၊ သာဓိပ္ပါယံ ဝ နိဿယံ။
သောတူနဉ္စ မနုပ္ပံဝါ၊ ဉာဏပါဒ္ဒေဝ သောဘယံ။
တမ္ပိ ပဿန္တု စက္ခုနာ၊ ပညာယ စ ဝိစိန္တု—

ဟူသော ၁၁-ဂါထာခွဲဖြင့် ကျယ်ဝန်းပြည့်စုံစွာ ဂန္ထာရမ္ဘ ပြုတော်မူခဲ့သည်။ ဆရာတော်မရေးမီက မအောက် ၃-စောင်သာ နိဿယရှိပြီး အထက် ၅-စောင်မှာ နိဿယ မရှိကြောင်းလည်း ကျမ်းဦး၌ ဖော်ပြတော်မူခဲ့သည်။ ရှေ့ ၃-စောင် နိဿယရှိငြားသော်လည်း ရှုပ်ထွေးသော အဓိပ္ပာယ်ရှိသည်ဟု မိန့်ဆိုတော်မူသည်။ ဆရာတော်သည် နျာသနိဿယ နိဂုံး၌လည်း—

၁။ ရညော အမရပူရဿ၊ မဟိဒ္ဓိကဿ ကာရိနော။
အန္တေပုရိကဇေဋ္ဌေန၊ မဟာဒီဃာယုနာမိနာ။

၂။ သုကာရိတေ မနောရမ္မေ၊ ဝိဟာရေ အတိသောဘိတေ။
ဘိက္ခုသမူဟနိဿိတေ၊ ဝသန္တေန သတာသနေ။

၃။ ဆင်တဲဣတျာဘိဂါမကော၊ နိဗ္ဗဓသူရဉာဏေန။
သာသနေ စက္ကဇောတိတံ၊ နိစ္စံ ပဏ္ဍိတမာနသာ။

၄။ ဗဟုဝါစကရမ္မေန၊ ဝိသုဒ္ဓါစာရကာဓိနာ။
ဂရုဟိ ဉာဏသဒ္ဓမ္မောတိ၊ ကတနာမေန ဘိက္ခုနာ။

၅။ စက္ကာနုဂ္ဂဟကာမာနံ၊ ဝရစ္ဆန္ဒာန သောတူနံ။
ဉာဏတ္ထာယ ဝိစိနန္တော၊ ဝဏ္ဏနေ စ ယထာဗလံ။

၆။ နိဿယော နျာသကပ္ပဿ၊ မနာပေါ ဉာဏသောဘိတော။
သဗ္ဗတ္ထပိ စ သောတူနံ၊ နယဂ္ဂါဟာသု ဒေဿကော။

၇။ ဇိနစက္ကေ ဘဿာလင်္ကေ၊ သက္ကရာဇေ ခတ္တာယကေ။
ဖုဿမာသေ စတုတ္ထိယံ၊ အင်္ဂပါဒေ ဂုရုဒ္ဒိနေ။

၈။ နိဋ္ဌိတော သုဋ္ဌု သော မယာ၊ ပဉ္စက္ကသဟဿံ ဝ။
မဟာဇနဟိတာဝဟံ၊ ဇောတေတု သဗ္ဗဒါ သာဓုံ—

ဟူသော ၈-ဂါထာဖြင့် သီတင်းသုံးရာ ကျောင်းတိုက်၊ ဇာတိချက်ကြွေမွေးရပ်မြေ၊ ကျမ်းရေးသားပြီးချိန်၊ သာသနာသက္ကရာဇ် ၂၃၄၄-ခုနှစ်၊ ကောဇာသက္ကရာဇ် ၁၁၆၂-ခု၊ ပြာသိုလဆန်း ၄-ရက်၊ ကြာသပတေးနေ့ စသည်တို့ကို ဖော်ပြ၍ ပြည့်စုံစွာ နိဂုံးအုပ်တော်မူခဲ့လေသည်။ ၎င်းပြင်—

၁။ ဣမိနာ ကတပုညေန၊ ဣတော ပဋ္ဌာယ ယာဝတာ။
တိဋ္ဌတေ သာသနံ သာဓုံ၊ ခေကောပိ တာဝတာ အဟံ။

၂။ အပ္ပမာဒေါဝ သာသနံ၊ ဇောတေယျံ သဏ္ဍဝါစာယ။
ဝိနယန္တေ ၀ သာခုကံ၊ ဓမ္မတ္ထပစ္စတ္တိကေပိ။

၃။ သာသနန္တရမာနတော၊ ပရံ သမ္ဘာဝေသုပိ။
ဗုဒ္ဓဓမ္မာနုလောမိကံ၊ ဝါဒံ ကမ္မဋ္ဌ ကရေယျံ။

၄။ အဋ္ဌဝိဓညာဏုပေတော၊ ခေမပ္ပဒကရော ယဒါ။
သုဝဏ္ဏိတံ အနဝဇ္ဇံ၊ မဟာသုခံ အနုဗ္ဗဝံ။

၅။ အရိမေတ္တေယျဗုဒ္ဓဿ၊အနေကဝဏ္ဏထောမိတော။
သန္တိကေဝ ဗဟုသုတော၊ သုခပ္ပဋိပဒေါ ခိပ္ပာ-
ဘိညော ပရသုခဒ္ဒဒေါ၊ ဘဝါမိ ဟေဘိက္ခုကော။

၆။ သဗ္ဗေပိ ပါဏိနော ဟောန္တု၊ ဓမ္မမာမကမာနသာ။
ဓမ္မရာဇာ စ မဗ္ဗေန၊ သမ္မာ ရက္ခတု မေဒနိံ—

ဟူသော ၆-ဂါထာခွဲဖြင့် တကြိမ်တခါမျှ မမေ့မလျော့ မပေါ့မဆသော သတိရှိသူဖြစ်၍ သာသနာ့အန္တရာယ် ရန်စွယ်တို့ကို သိမ်မွေ့ညံ့ထွားသော စကားဖြင့် ဆုံးမကမြစ်လျက် ဘုရားဘုန်းခေါင် သာသနာရောင်ကို တောက်ပြောင်လင်းလက်အောင် ဆောင်ရွက်ရလိုကြောင်း၊ ဘုရားသာသနာ ကွယ်ပပြီးနောက် ဘုရား တရားနှင့် မဆန့်ကျင်သော အယူဝါဒ အမူအကျင့်တို့ကိုသာ ပြုရကြောင်း၊ ပုထု၊ ဂမ္ဘီရ၊ ဇဝန၊ ဟာသ၊ တိက္ခ၊ နိဗ္ဗေဓိက စသော ပညာရှစ်ပါးနှင့် ပြည့်စုံသူ ဖြစ်ရလိုကြောင်း၊ အရိမေတ္တေယျဘုရားရှင် မပွင့်သေးမီ ဥစ္စာစည်းစိမ် ဂုဏ်သိရိမညှိုးသည့် ဘဝအမျိုး၌သာ ဖြစ်ရ၍ နောက်ဆုံး အရိမေတ္တေယျဘုရားလက်ထက်တွင် များစွာသော တေဒဂ်ဘွဲ့ထူးပိုင်ရှင် များစွာသော ကျမ်းဂန်ဗဟုသုတတို့နှင့်ပြည့်စုံလျက် သုခပ္ပဋိပဒါ ခိပ္ပာဘိညာဉ်ဖြင့် ဟေ ဘိက္ခုရဟန္တာဖြစ်ရလိုကြောင်း၊ သတ္တဝါအားလုံးတို့ တရားမြတ်နိုးသူ ဖြစ်ကြပြီး တရားမင်းမြတ်လည်း တရားသဖြင့် မြေပေါ်မှိုဘင်း သတ္တဝါခပင်းတို့ကို စောင့်ရှောက်ပါစေကြောင်း တောင်းဆုခြွေတော်မူခဲ့လေသည်။ ယင်းရှာသနိဿယကျမ်းကြီးကို ဖေမူမှ ကူးယူ၍ ၁၂၇၁-ခုနှစ်၊ နတ်တော်လအတွင်းတွင် ပဌမတွဲကိုဂုဏ်း၊ တန်ခူးလအတွင်းတွင် ဒုတိယတွဲကိုဂုဏ်း ၂၅-လမ်းစာဆိုတန်း တိုက်နံပါတ် ၄၉၊ ကဝိမျက်မှန် စာပုံနှိပ်တိုက်က ရိုက်နှိပ်ထုတ်ဝေခဲ့ရာ ပဌမတွဲမှာ ရှိုင်ဆိုက် စာမျက်နှာ ၃၄၉-ရှိပြီး ဒုတိယတွဲမှာ ၅၆၉-ရှိပေသည်။

## ပရမတ္ထဝိနိစ္ဆယနိဿယ

ဆရာတော်သည် ပရမတ္ထဝိနိစ္ဆယနိဿယကိုလည်း သက္ကရာဇ် ၁၁၆၃-ခုနှစ်၊ ပြာသိုလဆန်း ၃-ရက်နေ့တွင် အပြီးသတ် ရေးသားစီရင်တော်မူခဲ့လေသည်။ ယင်းပရမတ္ထဝိနိစ္ဆယကျမ်းဦး၌လည်း—

၁။ မဟာဒယံ မဟာဉာဏံ၊ မဟာဝီသံ မဟာကုလံ။
မဟာဝဏ္ဏံ မဟာဗုဒ္ဓံ၊ မဟာဂုဏံ မဟံ နမေ။

၂။ မဟာပူဇ္ဇံ မဟာသုဒ္ဓံ၊ မဟာဂုဏံ မဟံ နမေ။
မဟာတာဏံ မဟာဓမ္မံ၊ မဟာဂုဏံ မဟံ နမေ။

၃။ မဟာသီလံ မဟာပညံ၊ မဟာခေတ္တံ မဟာသုတံ။
မဟာဓမ္မံ မဟာသံဃံ၊ မဟာဂုဏံ မဟံ နမေ။

၄။ ကတသောဝံ ပဏာမဿ၊ ဝတ္ထုတ္တယေ နတာရဟော။
အာနုဘာဝေန ဃာတန္တ-ရာယော ဟုတွာဝ သာဓုကံ။

၅။ ပရမတ္ထဝိနိစ္ဆယ-ပကရဏဿ · နိဿယံ။
ကရိဿာမိ နိဿာယေဝ၊ တံဝဏ္ဏနေ ယထာဗလံ။

၆။ တန္တိ ဂမ္ဘီရနိပုဏတ္တာ-ဓိပ္ပါယံ ဂူဠ္ဟသင်္ခါတံ။
လီနပ္ပဒတ္ထကံ တဿ၊ နိဿယော နတ္ထိ နဿုတာ။

၇။ တသ္မာ ဝ ဓမ္မသိရိနာ၊ သမ္မာဆန္ဒ ပမောဒိနာ။
သိဿေန ယာစိတော သာဓု၊ ကရိဿာမိဿ နိဿယံ။

၈။ ဝဏ္ဏနေ စ သုနိဿာယ၊ ဂရူနံ ပဿတံ နယံ။
ဉာဏပါဠ္ဌဝသောဘာယ၊ သောတူနဉ္စေဝ ယောဂိနံ။
တမ္ပိ ပဿန္တု စက္ခုနာ၊ ပညာယ စ ဝိစိနန္တု—

ဟူသော ၈-ဂါထာခွဲဖြင့် ပဏာမ၊ အဘိယာစက၊ ပဋိညာဉ်၊ ဥယျောဇဉ် စသည်တို့ကို ပြုတော်မူခဲ့လေသည်။ ယင်းပရမတ္ထဝိနိစ္ဆယ နိဿယ နိဂုံး၌လည်း—

ရညော အမရပူရဿ၊ မဟိဒ္ဓိကာဿ ကာရိနော။
အန္တေပုရိက ဇေဋ္ဌေန၊ မဟာဒီဃာယုနာမိနာ—

အစရှိသော ဂါထာများဖြင့် နိဂုံးချုပ်တော်မူခဲ့သည်။ ၎င်းပြင်—

ဣမိနာ ကတပုညေန၊ ဣတော ပဋ္ဌာယ ယာဝတာ။
တိဋ္ဌတေ သာသနံ သာမုံ၊ ကောပိ တာဝတာ အဟံ—

အစရှိသော ၆–ဂါထာခွဲဖြင့် နျာသနိဿယ နိဂုံးလာ ဂါထာများအတူ ရေးသားစီရင်တော်မူ၍ ဆုတောင်းတော်မူခဲ့လေသည်၊ ယင်း ပရမတ္ထဝိန္ဒုနိဿယကျမ်းကိုလည်း ရန်ကုန်မြို့ ကဝိမျက်မှန် ပုံနှိပ်တိုက်က ၁၂၇၃-ခုနှစ် ဝါဆိုလအတွင်း အပြီးတိုင် ရိုက်နှိပ်ထုတ်ခဲ့ရာ ရှိုင်ဆိုက် ၃၀၀–ကျော် ရှိလေသည်။

## လွန်စွာအလုပ်လုပ်သည့် ဆရာတော်

"ဉာဏာလင်္ကာရာဘိ သဒ္ဓမ္မဓဇမဟာဓမ္မရာဇဂုရု" ဘွဲ့ဆိပ်တော်ရ ဆင်တဲ ဆရာတော်ဘုရားကြီး အရှင်ဉာဏသဒ္ဓမ္မသည် လွန်စွာ ပရိယတ်အလုပ်ကိစ္စကို ပြုလုပ်တော်မူသည့် ဆရာတော် ဖြစ်တော်မူသည်။ ထိုစဉ်က ဆင်တဲတိုက်ကြီး၌ စာသင်သား ရဟန်းသာမဏေတို့ ရာနှင့်ချီ၍၊ သို့မဟုတ် ရာပေါင်းများစွာ သီတင်းသုံးတော်မူခဲ့ကြောင်းကိုလည်း—

သုကာရိတေ မနောရမ္မေ၊ ဝိဟာရေ အတိသောဘိတေ။
ဘိက္ခုသမူဟနိသ္သိတေ၊ ဝသန္တေန သတာ သနေ—

ဟူသောဂါထာဖြင့် သိသာသည်။ ဆရာတော် အရှင်ဉာဏသဒ္ဓမ္မကား ကျမ်းဂန် ပြုစုမှု၌သာ များစွာ လေ့ကျက်တော်မူသည် မဟုတ်။ စာပေကျမ်းဂန် ချပို့မှု၌ပည်း လွန်စွာကြိုးကုတ် အားထုတ်တော်မူသော မထေရ်မြတ်ဖြစ်ကြောင်း—

"ဗဟုဝါစကရမ္မေန၊ များစွာသော စာသင်သားတို့အား ကျမ်းဂန်ပို့ချခြင်းဖြင့်လည်း အလွန်မွေ့လျော်သော။ မယာ၊ ငါသည်—ဟူသော စကားဖြင့် သိသာလေသည်။

## ဝဇီရဗုဒ္ဓိဋီကာနိဿယ

၎င်းပြင် ဝဇီရဗုဒ္ဓိဋီကာကျမ်းကြီး၏ မြန်မာအတ္ထနိဿယကို ရေးသား စီရင်တော်မူခဲ့လေသည်။ကျမ်းဦး၌—

ဝဇိရဗုဒ္ဓိ ဂန္ထဿ၊ နိဿယဥ္စ ယထာဗလံ။
ကရိဿာမိ သုနိဿာယ၊ အာစရိယောပဒေသကံ—

အစရှိသော ဂါထာတို့ဖြင့် ဆရာသမားတို့၏ အထံမှ ရရှိခဲ့သော နည်းနာနယတို့ကိုအမှီပြု၍ တတ်နိုင်သလောက် ကြိုးပမ်းအားသစ် စီရင်မည်ဖြစ်ကြောင်း နိဂါထရှေးသွားဖော်ပြတော်မူခဲ့လေသည်။ ယင်း ဝဇီရဗုဒ္ဓိဋီကာနိဿယကျမ်းကြီးရေးသားစီရင်ပြီးချိန်မှာ သက္ကရာဇ် ၁၁၆၆–ခုနှစ် နယုန်လဆုတ် ၁၃–ရက် နေ့က ဖြစ်လေသည်။

## သက်ဆုံးတိုင် စာပေဖြင့် ပျော်မွေ့သော ဆရာတော်

ဆရာတော် အရှင်ဉာဏသဒ္ဓမ္မကား သီလကို စင်ကြယ်အောင်ကျင့်သုံး၍ စာပေချဲ့ပို့မှုတို့၌ ကျမ်းစာရေးသားမှု ထာဝစဉ်အလေ့ဂရုပြုသော ပုဂ္ဂိုလ်မြတ်ဖြစ်တော်မူသည်။ သက်ဆုံးတိုင် စာပေဖြင့် မွေ့လျော်တော်မူသည့်ပုဂ္ဂိုလ်ထူးပါတည်း။

## စုဒ်စောဒနာအာဘော်ထုတ် ကောင်းလှသူ

ဆရာတော်ကား စုဒ်စောဒနာ အာဘော်ကောင်းသော ဆရာတော်အဖြစ် ထင်ရှားတော်မူသည်။ သီလဝိသောဓနီကျမ်း၌ "မင်းအိုဆရာတော် ကျမ်းရိုးဆို သူမတူတန်အောင် ကောင်းလှသည်။ မင်းရွာဆရာတော် ကျမ်းဂန်ဝါစုဂ္ဂတ အရများသည်။ ဆုံတားဆရာတော် ကျမ်းဂန်နိုင်လှသည်။ ရွှေတောင်ဆရာတော် အတိဂမ္ဘီရဉာဏ် ရှိလှသည်။ ဗားကရား ဆရာတော် သင်ရိုးကျမ်း နိုင်လှသည်။ မုန်တော ဆရာတော် ဂါထာဘွဲ့ မြန်လှသည်။ ဆင်တဲဆရာတော် စုဒ်စောဒနာအာဘော်ထုတ် ကောင်းလှသည်။ မောင်းထောင်ဆရာတော် ကျမ်းဂန်ဂန္ထန္တရ နှံ့စပ်လှသည်။ ညောင်ကန်ဆရာတော်၊ ဆရာတော်ဦးယာ ဉာဏ်ကောင်းလှသည်"ဟု ဆရာတော်ကြီးများ၏ အချည်အချင်းတို့ကို ဖော်ပြထားသည်[၁]။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ဖော်ပြပါ သာသနာတော်၌ အချိန်ပြည့်လုပ်အားပေးခဲ့သော ဆင်တဲဆရာတော်ဘုရားကြီး အရှင်ဉာဏသဒ္ဓမ္မသည် သက်တော် ၇၂–နှစ် ရှိတော်မူရာ ၁၁၇၈–ခုနှစ်တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည်။

---

၁။ သီလဝိသောဓနီ။ ၁၇၁။

## သံဝေဂယူရန်

**မိးဘေးရေဘေး၊** ပြည်ပျက်ဘေးလည်း၊ ဆယ်ရေးတရေး၊ ကယ်နိုင်သေး၏၊ အိုဘေးနာဘေး၊ သေခြင်းဘေးဟု၊ ဘေးဆိုးအပြား၊ ဤသုံးပါးကား၊ သားနှင့်အမိ၊ ဖြစ်တုံဘိလည်း၊ မျက်စိအောက်တွင်၊ ရင်ခွင်တင်လျက်၊ သက်သက်ရေးပိုင်၊ မတတ်နိုင်ဘူး၊ လက်မှိုင်ချကာ၊ နေရစ္စာရှင့်။ (မဃဒေဝ)

## ဉာဏာလင်္ကာရာဘိသဒ္ဓမ္မဇမဟာဓမ္မရာဇဂုရု
## ဆင်တဲဆရာတော်၏ တပည့်
## သာရတ္ထဒီပနီဋီကာ နိဿယကျမ်းပြု
## အရှင်ဓမ္မသီရိ

**ဆရာတော်** အရှင်ဓမ္မသီရိသည် ဆင်တဲဆရာတော်ဘုရားကြီး အရှင်ဉာဏသဒ္ဓမ္မ၏ တပည့်ရင်းချာဖြစ်လေသည် သက္ကရာဇ် ၁၁၂၀-ခန့်တွင် ဖွားမြင်သည်ဟု ခန့်မှန်းသိရှိရလေသည်။

အရွယ်ရောက်သော် ရှင် ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ ငယ်စဉ်ကပင် "ဉာဏာလင်္ကာရာဘိ သဒ္ဓမ္မဇ မဟာဓမ္မရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ ပဌမဆင်တဲဆရာတော်ဘုရားကြီးထံရောက်ရှိ၍ ပါဠိအဋ္ဌကထာဋီကာတို့ကို သင်ယူတော်မူခဲ့လေသည်။

## စာပေကျမ်းဂန် ချပို့သာသနာပြု

ဆင်တဲတိုက်၌ ဆရာတော်ကြီး၏ အမိန့်အရ စာသင်သား ရဟန်း သာမဏေကြီးငယ်တို့အား ပိဋကတ်အခြေခံကျမ်းစာများနှင့် ပိဋကတ်ကျမ်းစာတို့ကို ချပို့၍ သာသနာပြုတော်မူခဲ့လေသည်။ ဆရာတော်သည် ဝိနည်းကျမ်းဂန်တို့ကို ထူးထူးခြားခြား ဦးစားပေး၍ ချပို့တော်မူဟန်ရှိပေသည်။

## သာရတ္ထဒီပနီဋီကာ နိဿယကြီး ရေးသားပြုစုခြင်း

ဆရာတော်သည် သာရတ္ထဒီပနီဋီကာ နိဿယကြီးကို သံဃာဒိသိက်အဖွင့်မှစ၍ ပရိဝါဆုံးသည်အထိ (ကျမ်းစာအဆုံးအထိ)ပြုစုစီရင်တော်မူခဲ့လေသည်။

သာရတ္ထဒီပနီဋီကာအစမှစ၍ ပါရာဇိကအဖွင့် ဆုံးသည်တိုင်အောင် "ဝိစိတ္တာလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု"ဘွဲ့တံဆိပ်တော်ရ အရှင်ဝရာလင်္ကာရထေရ် ပြုစု စီရင်တော်မူခဲ့လေသည်[၁]။ ဆရာတော်သည် ကျမ်းဦး၌—

ဇိနာဒိစ္စော တိလောကန္ဓံ၊ ဟန္တွာန သမဗောဓယိ။
ဓမ္မပ္ပဘာဟိ ဝါရိဇံ၊ မနံ ပူရေတု မေ သဒါ။

ယော ဇိနာဒိစ္စော၊ အကြင်ဘုရားတည်းဟူသော နေမင်းသည်။ တိလောကန္ဓံ၊ လောကသုံးပါး၌ဖြစ်သော အဝိဇ္ဇာတည်းဟူသော အမိုက်ကို။ ဟန္တွာန၊ ဖျောက်တော်မူဦး၍။ ဓမ္မပ္ပဘာဟိ၊ သူတော်ကောင်းတရားတည်းဟူသော ရောင်ခြည်တို့ဖြင့်။ ဝါရိဇံ၊ ဝေနေယျသတ္တဝါအပေါင်းတည်းဟူသော ကြာကို။ သမဗောဓယိ၊ ကောင်းစွာပွင့်စေတော်မူပြီ။ သော ဇိနာဒိစ္စော၊ ထိုဘုရားတည်းဟူသော နေမင်းသည်။ မေ၊ ငါ၏။ မနံ၊ နှလုံးအလိုကို။ သဒါ၊ အခါခပ်သိမ်း။ ပူရေတု၊ ပြည့်တော်မူပါစေသတည်း—

ဟူသော အာသီသပုဗ္ဗက ဂန္ထာရမ္ဘတို့ ဖော်ပြ၍ ကျမ်းကို စီရင်တော်မူခဲ့လေသည်[၂]။

ကျမ်းစာအဆုံး၌ကား—

၁။ နာနာရတနသမ္ပုန္နံ၊ နာနာရင်္ဂေဟိ ဝါရိတံ။
အမရပူရနဂရံ၊ သတ္တာ့ဟိ ဒုပ္ပဓံသိယံ။
၂။ အာဒိကမ္မနရိန္ဒဿ၊ ဥတ္တရဂဗ္ဘသာမိနာ။
အန္တေပုရာဘာရိကေန၊ မဟာမစ္စေန ကာရိတေ။
၃။ နာနာဘူမကလင်္ကာရေ၊ ဗဟုကဋ္ဌနုလိမ္ပိတေ။
ဂမနာဂမနသမ္ပန္နေ၊ နာနာဝိဟာရဝါရိတေ။
၄။ ဝိဟာရေ ဝသန္တော မီရော၊ သောတုဇနေဟိ နိဿိတော။
သာသနုဇ္ဇောတနကာမော၊ သန္တစိတ္တသမာဟိတော။
၅။ သီဟောဝ ပိဋ္ဌကေ သူရော၊ ဗဟုဂန္ထေဟိ ကာရိတော[၃]။
ခေတလေ ပုညစန္ဒောဝ၊ ဇမ္ဗုဒီပေ စ ဝိဿုတော။
၆။ လဒ္ဓလဒ္ဓော မဟာပညော၊ ယော ဂရုသန္တိကေ မယာ။
ဩသဓိနာဝ သိဿာနံ၊ ပါကဋ္ဌေန သုမေဓသာ။

---

၁။ စစ်ကိုင်းသာသနာဝင်။ ၁၂၀–၁၂၂-ကြည့်။
၂။ နောက်ပြေထုပ် မဟာဝါအစ၌ တွေ့ရသော ဂန္ထာရမ္ဘဖြစ်သည်။
၃။ အဋ္ဌကထဂန္ထကာရကော။ (ဤသာသနာဝင်ကျမ်းပြုသူ)

၇။ ဓမ္မရသပိဝန္တာနံ၊ ဘိက္ခုနာ သာသနေ ရတာ။
ဓမ္မသီရိတိ နာမေန၊ သဒ္ဒဝိဟာရိကေန စ။

၈။ လဒ္ဓေါပဒေသမာဂမ္မ၊ သာသနဿ စ ဝုဍ္ဎိယာ။
သောတုဇနာန-မတ္ထာယ၊ ယုဝါနံ မန္ဒဗုဒ္ဓိနံ။

၉။ ဝိနယာဂံဝဏ္ဏနာယ၊ ဋီကာယ တေရသကဏ္ဍတော။
ယာဝ ပရိဝါရာယေ သော၊ နိဿယော သော သုလိက္ခိတော။

၁၀။ ဇိနစက္ကေ ကစ္စေဂျရေ၊ သက္ကရာဇေ ဓမက္ကယေ။
ကာဠပက္ခဝိသာခါယ၊ သတ္တမိယံ ဗုဓာဒိနေ။

၁၁။ အဓိကဒ္ဒိပဟာရေ စ၊ စတုပါဒေ သုနိဋ္ဌိတော။
အနာယာသေနာယံ ကထာ၊ ဣမံ သိက္ခန္တု သဗ္ဗသော—

ဟူသော ၁၁-ဂါထာဖြင့် ပြည့်စုံစွာ နိဂုံးအုပ်တော်မူခဲ့လေသည်။ ဤဂါထာများ၌ မှတ်စရာကား—

ဥတ္တရဂဗ္ဘသာမိနာ၊ မြောက်ဘက်တိုက်ဝန်လည်း ဖြစ်သော။ အန္တော်ပူရိကဘာရေန၊ အတွင်းဝန်လည်းဖြစ်သော။ မဟာမစ္စေန၊ မင်းကြီးသက်တော်ရှည် အမတ်ကြီးသည်။ ကာရိတော၊ ဆောက်လုပ်အပ်ထသော။ နာနာဘူမကလက်ံတော၊ အဆင့်ဆင့်သော ဘုံတို့ဖြင့် တန်ဆာဆင်အပ်သော။ ဗဟုကဋ္ဌနလိမ္ပိတော၊ အတွင်းအပ၌ ရွှေတို့ဖြင့် လိမ်ကျံအပ်ထသော—

ဟူသော ပါဠိအနက်များ ဖြစ်သည်။ ပါဠိသုံးပုံ အတုယူစရာ ဖြစ်သည်။ ဤသာရတ္ထ ဒီပနီဋီကာ နိဿယကြီး ပြီးချိန်မှာ သာသနာသက္ကရာဇ် ၂၃၄၁-ခုနှစ်၊ ကောဇာသက္ကရာဇ် ၁၁၅၉-ခုနှစ်၊ ကဆုန်လပြည့်ကျော် ၇-ရက်၊ ဗုဒ္ဓဟူးနေ့က ဖြစ်လေသည်။ ဆရာတော် အရှင်ဓမ္မသီရိကား ထူးမြတ်သော ဝီရိယပိုင်ရှင် ဖြစ်တော်မူပါပေသည်။

## ပျံလွန်တော်မူခြင်း

စာပေကျမ်းစာ ချုပ်ို၍ သာသနာပြုတော်မူသည့်အပြင် နောင်လာ နောက်သားတို့ အကျိုးများရန် သာရတ္ထဒီပနီဋီကာကျမ်းကြီး ကူးခပ်ရာ၌ အခက်အခဲမရှိရန် ကရုဏာစိရရှိဖြင့် သာရတ္ထဒီပနီဋီကာ နိဿယကြီးကိုလည်း ပြုစီရင်တော်မူခဲ့သော အရှင်ဓမ္မသီရိသည် ပစ္ဆိမအရွယ်တွင် ပြုလုပ်လက်စ သာသနာ့ကိစ္စများကို ထားတော်မူကာ ဘဝနတ်ထံ ဝင်စံတော်မူခဲ့လေသည်။

## သံဝေဂယူရန်

ဓမ္မသီရိတ္ထေရိန္ဒော ဟိ၊ သာသနဿ သိရိန္ဒရော။
သောပိ မစ္စုဝသံ ယာတော၊ မာဒိသေသု ကထာဝ ကာ။

ဓမ္မသီရိတ္ထေရိန္ဒော ဟိ၊ တပည့်တပန်း ရဟန်းသံဃာတို့၏ အကြီးအကဲ အရှင်ဓမ္မသီရိ မထေရ်သည်ကား။ သာသနဿ၊ သမ္မာသမ္ဗုဒ္ဓ အတုလဥသျှောင် ငါးမာရ်အောင်ဘုရားသာသနာတော်၏။ သိရိန္ဒရော၊ ကျက်သရေကိုဆောင်တော်မူပါပေ၏၊ သောပိ၊ သာသနာ့ကျက်သရေဆောင် အရှင်ဓမ္မသီရိ မထေရ် သော်မှလည်း။ မစ္စုဝသံ၊ သေမင်းအလိုနိုင်ငံသို့။ ယာတော၊ ရှောင်လွှဲမရ ရောက်ရကုံသေး၏။ မာဒိသေသု၊ ငါနှယ်ပုဂ္ဂိုလ်တို့၌။ ကထာဝ၊ ပြောဆိုဖွယ်သည် သာလျှင်။ ကာ၊ အဘယ်ရှိပါအံ့နည်း။

## ဉာဏကိတ္တိယတိသာရဓမ္မ မဟာဓမ္မရာဇာဓိရာဇဂုရုဘွဲ့တံဆိပ်တော်ရ ဆင်တဲဆရာတော် အရှင်ဉာဏကိတ္တိ

ဆင်တဲတိုက် သာသနာ့ဝန်ဆောင် ပုဂ္ဂိုလ်များအနက် အရှင်ဉာဏကိတ္တိ သည်လည်း ပါဝင်ခဲ့သည်။ အရှင်ဉာဏကိတ္တိသည် မင်းတုန်းမင်းတရားကြီး၏ ပိဋကတ်တော်များကို သုတ်သင်စေ၍ ကျောက်သို့ ရေးတင်သောအခါတွင် "သာဂရဝံသာဘိဓဇ မဟာဓမ္မရာဇဂုရု"ဘွဲ့နှင့် "သာဂရဝံသဓဇအတုလာဓိပတိ သီရိပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု"ဘွဲ့ရ အရှင်သာဂရမထေရ်နှင့် ယမကပါဠိ အဋ္ဌကထာကို ပြင်ဆင်၍ တင်သွင်းတော်မူရသည်။

၁၂၁၆-ခုနှစ်၊ ဝါဆိုလဆန်း ၂-ရက်နေ့တွင် မင်းတုန်းမင်းကြီးဆက်ကပ် အပ်သော "ဉာဏကိတ္တိယတိသာရဓမ္မမဟာဓမ္မရာဇာဓိရာဇဂုရု"ဘွဲ့တံဆိပ်တော် ကို အလှူခံရရှိတော်မူသည်။ ဆရာတော်သည် ဆရာတော်အရှင်သာဂရထက် သက်တော်ကြီးဟန် တူပါသည်။ သီပေါမင်းတရား ၁၂၄၆-ခုနှစ်၊ တော်သလင်းလကွင် ဆရာတော် ၈၁-ပါး ဘွဲ့တံဆိပ်ဆက်ကပ်သည့် စာရင်းတွင် ဆရာတော်၏ ဘွဲ့တော်နာမ မတွေ့ရတော့သဖြင့် ၁၂၄၆-ခုနှစ်၊ တော်သလင်း မတိုင်မီက ပျံလွန်ဖွယ်ရှိသည်ဟု မှန်းဆနိုင်လေသည်။

ဉာဏကိတ္တိယတိသေဋ္ဌော၊ ဂန္ထသံသောဓကော ဟိ ခေါ။
အာရာမေ ဆင်တဲနာမမှိ၊ ဝသိတွာန မုံရန္ဒရော။

## ရာဇဂုရု၊ ရာဇာဓိရာဇဂုရု ဘွဲ့ဆိပ်တော်သုံးထပ်ရ ဆင်တဲဆရာတော် အရှင်သာဂရမဟာထေရ်

ဆင်တဲဆရာတော်တပါး ဖြစ်တော်မူသော အရှင်သာဂရသည်လည်း ဝိနည်း၊ သုတ္တန်၊ အဘိဓမ္မာ ကျမ်းစာမရွေး တတ်မြောက်ကျွမ်းကျင်သော ဆရာတော် ဖြစ်တော်မူသည်။

ကန္နီမြို့စီရင်စု တွင်းငယ်ရွာ၌ သက္ကရာဇ် ၁၁၇၂-ခုနှစ်တွင် ဖွားမြင်တော်မူခဲ့လေသည်။ အရွယ်ရောက်သော် ရှင် ရဟန်းပြု၍ သာသနာ့ဝန်ကို အားသွန်ကြိုးပမ်း ထမ်းဆောင်တော်မူခဲ့လေသည်။

### အမရပူရမြို့ ရောက်ရှိ ပညာသင်ကြားခြင်း

အသက်အရွယ် နုနယ်ငယ်လျစဉ်ကပင် အမရပူရမြို့သို့ ရောက်ရှိတော်မူ၍ "ဉာဏာလင်္ကာရသီရိပရမမဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ အရှင်ဉာဏာလင်္ကာရမဟာထေရ်စသည်တို့ထံတွင် ပညာသင်ကြားတတ်မြောက်တော်မူခဲ့လေသည်။

### စာပေချပို့ သာသနာ့ဝန် ထမ်းဆောင်ခြင်း

စာပေသင်ကြားတတ်မြောက်ပြီးနောက် ဆင်တဲတိုက်၌ ရောက်ရှိ၍ မှီခိုသင်ယူကြသော စာသင်သား ရဟန်း သာမဏေများစွာတို့အား စာပေချပို့၍ ပရိယတ္တိသာသနာတော်ကို များစွာ ချီးမြှောက်တော်မူသည်။

### စာပေကျမ်းဂန် ပြုစုရေးသားခြင်း

ဆရာတော် အရှင်သာဂရသည် ကျမ်းဂန်များစွာတို့ကို စီရင်ရေးသားတော်မူခဲ့လေသည်။ ၎င်းတို့မှာ—

၁။ အကုသလမနောကမ္မဝိနိစ္ဆယကျမ်း၊

၂။ သင်္ဂြိုဟ်အရကောက်ကျမ်း၊

၃။ ကမ္မဘေဒဝိနိစ္ဆယကျမ်း၊

၄။ ကပ္ပဘေဒဝိနိစ္ဆယကျမ်း၊

၅။ ပုဂ္ဂလပညတ်ပါဠိတော်နိဿယကျမ်း၊

၆။ အဘိဓမ္မတ္ထသာရဝိနိစ္ဆယကျမ်း၊

၇။ ဝိနည်းမဟာဝါပါဠိတော်နိဿယသစ်ကျမ်း၊

၈။ အဘိဓမ္မာသမုဟဝိနိစ္ဆယကျမ်း—

စသည်တို့ ဖြစ်ကုန်၏။

## အကုသလမနောကမ္မဝိနိစ္ဆယကျမ်း

ဖော်ပြပါကျမ်းများအနက် အကုသလမနောကမ္မဝိနိစ္ဆယကျမ်းကို စည်သူရွှေတောင် လျှောက်ထားသဖြင့် ၁၂၁၄-ခုနှစ်၊တန်ဆောင်မုန်းလပြည့်နေ့တွင် အပြီးစီရင်တော်မူခဲ့လေသည်။ စာမျက်နှာ ၃၀-ကျော်ခန့် ရှိ၏။

## သင်္ဂြိုဟ်အရကောက်ကျမ်း

သင်္ဂြိုဟ်အရကောက်ကျမ်းမှာ ဆင်တဲ သင်္ဂြိုဟ်အရကောက်ကျမ်းဟု တွင်သည်။ ဆရာတော်ဘုရား အဘိဓမ္မတ္ထသင်္ဂဟကျမ်းကို လေ့လာဆောင်ရွက်သော်လည်း အဓိပ္ပာယ်သဘောကို အထက်အောက် နှီးနှော၍ မယူနိုင်ပါ။ အထက်အောက် နှီးနှော၍ ယူဆနိုင်အောင် မကျဉ်းမကျယ် ရေးသား၍ပေးပါမည့်အကြောင်း အမရပူရမြို့ မြောက်မျက်နှာ ကြေးထိုးရပ်နေ ဥပါသကာဒါယကာ အကောက်စာရေး ရွှေတောင်နရာက အကြိမ်ကြိမ် လျှောက်ထားတောင်းပန်သဖြင့် နှုတ်တတ်အာဂုံဆောင်လွယ်ရုံ စီရင်ရေးသားတော်မူခဲ့လေသည်။ ယင်းကျမ်းမှာ ရှိုင်ဆိုက်နှင့် စာမျက်နှာ ၂၀၀-ခန့် ရှိ၏။

## ကမ္မဘေဒဝိနိစ္ဆယကျမ်း

ကမ္မဘေဒဝိနိစ္ဆယကျမ်းမှာ ကုသိုလ်ကမ္မပထတရားဆယ်ပါး၊ အကုသိုလ်ကမ္မပထတရားဆယ်ပါး၊ သရဏဂုံသုံးပါး၊ ငါးပါးသီလအကြောင်းကို အဆုံးအဖြတ်ပြုသည့်ကျမ်း ဖြစ်သည်။ နိဂုံး၌ "သာဂရဓဇသိရိပဝရမဟာဓမ္မရာဇဂုရုတိလဒ္ဓလဉ္ဆနနာမကေန ထေရေန ရစိတော ကမ္မဘေဒဝိနိစ္ဆယော နိဋ္ဌိတော"ဟု ပါရှိသည်ဟု သိရ၏။

## အဘိဓမ္မတ္ထသာရ ဝိနိစ္ဆယကျမ်း

အဘိဓမ္မတ္ထသာရ ဝိနိစ္ဆယကျမ်းမှာ နက်နဲသော ကျမ်းဖြစ်သည်။ ယင်းအဘိဓမ္မတ္ထသာရ ဝိနိစ္ဆယကျမ်း၌ကမ္မာတည်ပုံ၊ ကမ္ဘာပျက်ပုံ၊ နိရောဓ သမာ

ပတ် ဝင်စားသော ပုဂ္ဂိုလ်တို့၏ ပဋ္ဌကိစ္စလေးပါးကို ပြဆိုခြင်း၊ မဂ်ဉာဏ်နှင့် သဗ္ဗညုတဉာဏ်တို့၏ သိပုံအထူးကို ပြဆိုခြင်း၊ ရဟန္တာပုဂ္ဂိုလ်တို့၏ သန္တာန် အစဉ်၌ ဖြစ်ပျက်ပုံကို ပြဆိုခြင်း၊ ရဟန္တာတို့၏ စုတိစိတ်နိမိတ် အာရုံအကြောင်း စသည်တို့ ပါရှိလေသည်။ ယင်းကျမ်းမှာ ရှိုင်ဆိုက် စာမျက်နှာ ၇၀–ကျော် ကျော် ရှိ၏။

## ဝိနည်းမဟာဝါ ပါဠိတော် နိဿယသစ်

ဆရာတော် အရှင်သာဂရသည် ဝိနည်းမဟာဝါ ပါဠိတော် နိဿယသစ်ကို လည်း ရေးသားစီရင်တော်မူခဲ့လေသည်။ ယင်းနိဿယသစ်သည် ပခန်းကြီး ရွှေဥမင်ဆရာတော် အရှင်ဇမ္ဗုဓဇ၏ နိဿယကိုထောက်၍ နိဿယသစ်ဟု တွင် သည်။ ဖော်ပြပါ ဝိနည်းမဟာဝါ နိဿယကျမ်းဦး၌—

၁။ ဇယေ သုဘေ ပဇာနန္ဒော၊ လောကနာထော မဟာမုနိ။
ပညပေသိ ရက္ခဏတ္ထံ၊ ပဏ္ဍိတံ ဒေတု သော မမံ။

၂။ ဣမာယ ပတ္ထနံ ကတွာ၊ ရတနာပုဥ္ဇ အဝှယံ။
အယုဇ္ဈံဝ မာပိတသ္မိ၊ သိရိမန္တသ္မိ ရာဇိနော။

၃။ သဒ္ဓါသီလာဒိဂုဏေန၊ သမ္ပန္နာယ မဟေသိယာ။
အာသမ္ဘိန္နာယ ဝံသေန၊ ပဋိသောဓိယ သာသနံ။

၄။ မိုင်းခိုင်နဂရဘောဇေန၊ သဒ္ဓေကေနာဘိယာစိတော။
ဒသခန္ဓမဏ္ဍိတသ္မိ၊ မဟာဝဂ္ဂသ္မ နိဿယံ။

၅။ နာတိသင်္ခေပဝိတ္ထာရံ၊ ကရိဿာမိ သုဗုဒ္ဓကံ။
ယုဝဘိက္ခူနံ-မတ္ထာယ၊ သဒါ ပဿန္တု သာဓဝေါ—

ဟူသော ၅-ဂါထာဖြင့် အာသီသပဋ္ဌက ပဏာမနှင့် ကပ်ဦးအစ မဟာသမ္မတ နွယ်ရိုး မင်းမျိုးစင်စစ်ဖြစ်တော်မူသော သာသနာ့ဒါယကာမင်း မဟာဓမ္မရာဇ် မင်းခေါင်မင်းဖျား မင်းတုန်းမင်းတရားကြီးနှင့် သဒ္ဓါ၊ သီလ၊ သုတ၊ စာဂ၊ ပညာဂုဏ်နှင့် ကုံလုံလောက်င ပြည့်ဝသော မိဖုရားကြီး၏ အမိန့်ကို နာခံပြီး ပါဠိ၊ အဋ္ဌကထာ၊ ဋီကာ၊ အနု၊ မဓု၊ လက်သန်း၊ ဂန္ထန္တရကျမ်း ထိုထိုမျှတို့၌ အလွန်လျှင် လိမ္မာသော မိုင်းခိုင်မြို့စား မဟာသီရိဇေယျသူ အမည်ရှိသော အမတ်ကြီး တောင်းပန်သဖြင့် ရေးသားမည်ဖြစ်ကြောင်း စသည် ဖော်ပြ၍ ဂန္ထာရမ္ဘ ပြုတော်မူခဲ့လေသည်။

ကျမ်း၏ အဆုံးနိဂုံး၌လည်း—

၁။ ကွဒ္ဒိမန္တာန-မာဝါသံ၊ ပတိရူပ သုနိမ္မိတံ။
သာသနဿ ဓုဟောဘာသံ၊ ရတနာပုဇ္ဇ အဝှယံ။

၂။ တဿ ပါစီနဒေသမှိ၊ ဤသံဒက္ခိဏနိဿိတေ။
သုမာပိတက အာရာမေ၊ စေတိယာဒိသုံသောဘိတေ။

၃။ ဗလနာယကာ မစ္စေန၊ မြို့သစ်နဂရဘောဂိနာ။
မင်းကြီး မဟာမင်းထင်စည်သူ-ဝှယေန သဟ ကာရိတေ။

၄။ ပါသာဒါဒိအလင်္ကိတေ၊ စတုဘုမ္မကအာဝါသ။
ဝေယန်ဘုံသာတိ သမ္မတေ၊ ဗိဝါသေန္တေန ထေရေန။

၅။ လိခိတော အဝိရောစေန၊ မဟာဂဂ္ဂဿ နိဿယော။
သက္ကရာဇေကောသဟဿံ၊ အဋ္ဌတိံသာဓိ ဒွိသတံ။

၆။ စိတ္တမာသမှိ သမ္ပတ္တေ၊ ဇုဏှပက္ခစတုဒ္ဒသေ။
ပေါတ္ထကံ အာရောပေတွာန၊ အနာယာသေန နိဋ္ဌိတော။

၇။ ယာဝ ဗုဒ္ဓေါတိ နာမမ္ပိ၊ သတ္တလောကေ ပတိဋ္ဌတိ။
လောကဇေဋ္ဌဿ သတ္ထုနော၊ အယံ တာဝ ပတိဋ္ဌတု—

ဟူသော ၇-ဂါထာဖြင့် မိမိသီတင်းသုံးရာကျောင်းတိုက် ကျမ်းပြုပုံ အခြင်းအရာ ကျမ်းပြီးချိန် (၁၂၃၈-ခုနှစ်၊ တန်ခူးလဆန်း ၁၄-ရက်) ကျမ်းစာကြာရှည်တည်ရန် ဆောင်တချက်တို့ကို ဖော်ပြ၍ နိဂုံးအုပ်တော်မူခဲ့လေသည်။ ယင်းနိဿယမှာ ပုံနှိပ်မူ ရှိုင်ဆိုက်ဖြင့် ပ္ပမ၊ ဒုတိယ ၂-တွဲရှိရာ တတွဲလျှင် စာမျက်နှာ ၃၀၀-ကျော်ကျော် ရှိလေသည်။

## ယမကပါဠိ အဋ္ဌကထာကို သုတ်သင်ခြင်း

ပဥ္စမသံဂါယနာတင် မင်းတုန်းမင်းတရားကြီး ပဥ္စမသံဂါယနာ၏အကြီးလုပ်ငန်းဖြစ်သော ပိဋကတ်ကျမ်းဂန်များကို သုတ်သင်ပြင်ဆင်သည့် လုပ်ငန်းတွင် ဆရာတော် အရှင်သာဂရသည် "ဉာဏာဘိဝံသိယာဘိသာရ မဟာဓမ္မရာဇာဓိရာဇဂုရု"ဆရာတော်နှင့်အတူ ယမကပါဠိအဋ္ဌကထာကို သုတ်သင်ပြင်ဆင်၍ တင်သွင်းတော်မူခဲ့လေသည်။

## ဘွဲ့တံဆိပ်တော် ၃-ထပ် အလှူခံရရှိခဲ့

ဆင်ကဲဆရာတော်အရှင်သာဂရမဟာထေရ်သည် အမရပူရစတုတ္ထနန်းစိ ပုဂံမင်းတရားကြီးလက်ထက်တွင်"သာဂရဝံသာဘိဓဇ မဟာဓမ္မရာဇဂုရု" ဟူ

ဝေသာ ဘွဲ့တံဆိပ်တော်၊ ရတနာပုံမြို့တည် နန်းတည် မင်းတုန်းမင်းတရားကြီး လက်ထက် "သာဂရဓဇသီရိပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု" ဟူသော ဘွဲ့တံဆိပ်တော်နှင့် သားတော် မာရ်အောင်ရတနာစေတီတော်ဒါယကာ သီပေါမင်းတရားလက်ထက် "သာဂရဝံသဓဇ အတုလာဓိပတိ သီရိပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု" ဟူသော ဘွဲ့တံဆိပ်တော်အားဖြင့် ဘွဲ့တံဆိပ်တော် ၃-ထပ်ကို အလှူခံရရှိတော်မူခဲ့လေသည်။ ထိုအချိန်တွင် ဆရာတော်သည် သက်တော် ၇၄-နှစ်ရှိလေပြီ။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ဆရာတော်သည် သက်ဆုံးတိုင် ပရိယတ်၊ ပဋိပတ်အလုပ်ကို ထာဝစဉ် လုံးပမ်းကြိုးကုတ် အားထုတ်တော်မူဆဲဖြစ်စဉ် ဘဝနတ်ထံ ဝင်စံတော်မူခဲ့လေသည်။

## သံဝေဂယူရန်

ယမေကရတ္တိံ ပဌမံ၊ ဂဗ္ဘေ ဝသတိ မာဏဝေါ။
အဗ္ဘုဋ္ဌိတောဝ သော ယာတိ၊ သ ဂစ္ဆံ န နိဝတ္တတိ။

ယံ ယော မာဏဝေါ၊ ကိုးလာဖြစ်လာ အကြင်သတ္တဝါသည်။ ဧကရတ္တိံ၊ တညဉ့်၌။ ဝါ တညဉ့်ပတ်လုံး။ ပဌမံ၊ ရှေးဦးအစ ပဋိသန္ဓေခဏ၌။ ဂဗ္ဘေ၊ အမိဝမ်းတိုက်၌။ ဝသတိ၊ စွဲပိုက်သန္ဓေ တည်နေ၏။ သော မာဏဝေါ၊ ကိုးလာဖြစ်လာ ထိုသတ္တဝါသည်။ အဗ္ဘုဋ္ဌိတောဝ၊ သေဘေးသို့ ရှေးရှုသည်၏ အဖြစ်ဖြင့် ဆက်လက်မျှော်ရည် တည်လျက်သာလျှင်။ ယာတိ၊ မနေမနား တသွားတည်း သွားရရှာ၏။ ဂစ္ဆံ ဂစ္ဆန္တော၊ ပနားမနေ သေရန်အလို့ငှာ တသွားတည်း သွားရရှာသော။ သ သော မာဏဝေါ၊ ထိုသတ္တဝါသည်။ န နိဝတ္တတိ၊ တအောင့်တခဏ တနာရီ တဆံခြည်မျှလည်း မရပ်မတည် မဆုတ်နစ်ပါချေ။

## ဇနိန္ဒာဘိသီရိပရမဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု ဆရာတော်အရှင်ဇနိန္ဒ

ဆရာတော်သည် ဆင်တဲတိုက်ကြီး၌ သီတင်းသုံးတော်မူ၍ စာပေကျမ်းဂန်ချပို့တော်မူခြင်း၊ ကျမ်းစာပြုစုရေးသားခြင်းတို့ဖြင့် သာသနာပြုတော်မူသည့် သာသနာ့ဝန်ဆောင်ဆရာတော် ဖြစ်တော်မူသည်။

ပခန်းစီချင်စု နေရင်းရွာ(ပခုက္ကူခရိုင် နေရင်းရွာ၊ ယခု မကွေးတိုင်း ပခုက္ကူမြို့နယ်)၌ သက္ကရာဇ် ၁၁၃၆–ခုနှစ်တွင် ဖွားမြင်တော်မူခဲ့လေသည်။ ဆရာတော်သည် ဂုဠ္ဌတ္ထဝဏ္ဏနာဋီကာကျမ်း၊ဓာတုကထာဋီကာယောဇနာကျမ်း၊ နေတ္တိပါဠိတော်နိဿယကျမ်းစသည့် ကျမ်းဂန်များစွာတို့ကို ပြုစီရင်တော်မူခဲ့သော အရှင်သာရဒဿီမဟာထေရ်၏ မြေးတော်ဖြစ်လေသည်။

အရှယ်ရောက်သော် "ပုညာဘိသိရီမဇ္ဈ မဟာဓမ္မရာဇဂုရု" ဘွဲ့တံဆိပ် တော်ရ ဒုတိယမဏိရတနာဆရာတော်ဘုရားကြီးကို ဥပဇ္ဈာယ်ပြု၍ ရှင် ရဟန်း ပြုပြီး သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ သက်တော်ငယ်စဉ်က စ၍ ရတနာပူရသို့ ရောက်ရှိတော်မူ၍ ပိဋကတ်အခြေခံကျမ်းစာများနှင့်တကွ အထက်တန်း ပိဋကတ်ကျမ်းစာများကို သင်ယူတော်မူခဲ့လေသည်။ ရတနာပူရ စတုတ္ထမြို့တည် မင်းတရားကြီးလက်ထက်တွင် လေးမင်းသား၏ အုတ်တိုက် ပျောင်း တည်ဆောက်၍ ကိုးကွယ်ခြင်းကို ခံယူတော်မူရသည်။ အမရပူရမြို့ သို့ ရောက်သောအခါ မြို့တော်မြောက်ဘက် ဆင်တဲတိုက် ပေါက်မြိုင်မြို့စား၏ ဝါဆိုကျောင်း၌ သီတင်းသုံးတော်မူ၍ စာပေချပို့ သာသနာပြုတော်မူခဲ့သည်။ ထိုအခါမှစ၍ ဆင်တဲဆရာတော်ဟု ထင်ရှားလေသည်။

## စာပေချပို့တော်မူခြင်း

အမရပူရမြို့ မြောက်မျက်နှာရှိ ပုဗ္ဗာရုံကျောင်းတိုက်စသော ကျောင်းတိုက် တို့၌ လှည့်လည်သီတင်းသုံးတော်မူ၍ များစွာသော တပည့်တပန်း ရဟန်း သာမဏေတို့အား စာပေကျမ်းဂန်ချပို့၍ ပရိယတ္တိသာသနာကို ချီးမြှောက် တော်မူသည်။ ဆရာတော်၏ စာပေချပို့ပုံမှာ အထွက် အတက် စုဒ် စောဒနာ တို့ဖြင့် ချပို့တော်မူကြောင်း ဆရာတော် ရေးသားပြုစုတော်မူသည့် ချရီးပို့စဉ် ဋီကာကျော်နိဿယကျမ်းကြီးဖြင့် မှန်းဆနိုင်လေသည်။

## ဋီကာကျော်နိဿယကျမ်းကြီး ရေးသားစီရင်ခြင်း

ဆရာတော်သည် တပည့်များဖြစ်ကြသော ဉာဏာလင်္ကာရဓဇ မဟာဓမ္မ ရာဇဂုရုဘွဲ့တံဆိပ်တော်ရ အရှင်ဉာဏ၊ ကဝိန္ဒာဘိသိရိဓဇ မဟာဓမ္မရာဇ ဂုရုဘွဲ့တံဆိပ်တော်ရ အရှင်ကဝိန္ဒအစရှိသော တပည့်တပန်းတို့က တောင်း ပန်သဖြင့် ဋီကာကျော်နိဿယကျမ်းကြီးကို သက္ကရာဇ် ၁၂၀၄-ခုနှစ်၊ ပဌမ ဝါဆိုလအတွင်း အပြီးရေးသားစီရင်တော်မူခဲ့လေသည်။

ဆရာတော် အရှင်ဇနိန္ဒသည် ကျမ်းဦး၌—

ကရိဿံ မြန်မဘာသာယ၊ ဝန္ဒိတွာ ရတနတ္တယံ။
အဘိဓမ္မတ္ထသင်္ဂဟ-သံဝဏ္ဏနာယ နိဿယံ။
လီနတ္ထဉာပနတ္ထာယ၊ ဂန္ထော ဟိ ကာရိတော သမ္မာ။
နိဿယော တဿ သခေ်ပေါ၊ တေန သခ်တံ ယထာဗလံ။
မယာ နိဿာယ တင္ကိကံ၊ နာတိသခေ်ပဝိတ္ထာရံ၊
မန္ဒဗုဒ္ဓိန-မတ္ထာယ၊ သုဏာထ နိဿယံ သာဓုံ—

ဟူသော သုံးဂါထာဖြင့် ပဏာမ၊ ပကရဏာဟေတု၊ ကာရဏာပ္ပကာရ၊ ပဋိညာဉ်တို့ကို ပြုတော်မူခဲ့လေသည်။ ကျမ်းပြုဆရာတော်ကိုယ်တိုင်က ''နာတိသခေ်ပဝိတ္ထာရသခ်တံ''မကျဉ်းမကျယ် အလယ်အလတ်စား ပြုမည်ဟု မိန့်ဆို၏။ သို့ရာတွင် ကျမ်းကြီးမှာ အလွန်ကျယ်ဝန်းပြည့်စုံလှပါသည်။ စုဒ်စောဒနာစသည်တို့ဖြင့် ဝေဝေဆာဆာနိုင်လှသည်။ ဋီကာကျော် ၉-ပိုင်း ပေနှင့် ၉-ထုပ်ရှိဟန်တူပါသည်။ ဤစာပြုသူသည် ဆရာတော် အရှင်ဇနိန္ဒ၏ ဋီကာကျော်နိဿယ ရိုက်နှိပ်ပြီးမှု ပဌမအုပ်နှင့် တတိယအုပ်ကို တွေ့ဘူးရာ တတွဲလျှင် တအုပ် ဖြစ်ပါသည်။ စိတ်ပိုင်းကို တအုပ်ရိုက်နှိပ်ထားရာ စာမျက်နှာ ၄၅၄-ရှိလေသည်။ ဆရာတော်အရှင်ဇနိန္ဒ၏ ဋီကာကျော်နိဿယ ပေထုပ် တော်တော်များများကိုလည်း တပိုင်းတထုပ်စီ တွေ့ရ၏။ မန္တလေးစာချနည်းအတိုင်း ချဲ့ပို့လိုလျှင် အေးအေးဆေးဆေး နိဿယကြည့်ရှုပြီး ချဲ့ပို့နိုင်ရန် ကရုဏာဖြင့် စီရင်တော်မူခဲ့ခြင်းဖြစ်လေသည်။

## အတုယူစရာ စာပြောပုံနမူနာ

ဤမန္တလေးသာသနာဝင်ကျမ်း ဤဆင်တဲတိုက် သာသနာဝင်အခန်း၌ ဆင်တဲ့ ဆရာတော်တပါးဖြစ်တော်မူသော အရှင်ဇနိန္ဒ၏ ဋီကာကျော်နိဿယ၌ စာပြောပုံနမူနာကို အတုယူနိုင်ရန်၊ နည်းယူနိုင်ရန် အောက်ပါအတိုင်း အမြွက်မျှ ဖော်ပြအပ်ပါသည်။

အဘိဓမ္မတ္ထသင်္ဂိုဟ်ကျမ်း၏အနက်ကိုဖွင့်တော်မူလိုသော အရှင်သုမင်္ဂလသာမိ ဋီကာဆရာသည် အာယု၊ ဝဏ္ဏ၊ သုခ၊ ဗလ၊ ပဋိဘာနဟုဆိုအပ်သော ငါးပါးသော အကျိုးတို့ကို ပွားတိုးစေတော်မူလိုသည်ဖြစ်၍ ကျမ်းကို အားမထုတ်မီရှေးအဖို့ဖြစ်သောကာလ၌ ဝိသုဒ္ဓကရုဏာဉာဏ် အစရှိသည်ဖြင့် ပဏာမကို အားထုတ်တော်မူသတည်း။ လိုရင်းပါဌ်ကား နတွာ ဟူလိုသတည်း။ အစိပ္ပာယ်ကား ရှိခိုးသော ဟူလိုသော်။

အရှင်ဋီကာဆရာ ရှိခိုးသောဟူ၍ ဆရာဆို၏၊ ပရမီသွာ မဟာပိန္န ကဒ်ဲစန္ဒ စသောနတ်တို့ကို ရှိခိုးကောင်းအံ့လော စောဒနာရှိသောကြောင့် ဗုဒ္ဓံဟူသော ပါဌ်ကိုမိန့်သတည်း။ ထိုပါဌ်၏အဓိပ္ပာယ်ကား ဘုရားရှိခိုး၏ဟူလိုသော်။ ဆရာ ဘုရားကို ရှိခိုးသောဟု ဆရာဆို၏၊ ဆရာရှိခိုးအပ်သောဘုရားသည် အဘယ်ဂုဏ် ဝိသေသရှိပါသနည်း စောဒနာရှိ၍ ဝိသုဒ္ဓကရုဏာဉာဏံဟူသော ပါဌ်ကို မိန့် သတည်း။ တနည်းကား ဘုရားကို ရှိခိုးသောဟု ဆရာဆို၏၊ ပရမီသွာ မဟာပိန္န ကဒ်ဲစန္ဒစသောနတ်တို့ကိုလည်း ရှိမခိုးကောင်းပါ။ထိုနတ်တို့သည်လည်း ဘုရားနှင့် ပညာမိတဗ္ဗအဖြစ်ဖြင့် အတူမဟုတ်ပါသလော စောဒနာရှိသောကြောင့် ဝိသုဒ္ဓံ ကရုဏာဉာဏံဟူသော ပါဌ်ကို မိန့်သတည်း။ အဓိပ္ပာယ်ကား ငါရှိခိုးအပ်သော ဘုရားသည် ဝိသုဒ္ဓကရုဏာဉာဏ်ဘည်းဟူသော ဂုဏ်ဝိသေသရှိ၏။ ဂုဏ်ဝိသေသ ရှိသောပုဂ္ဂိုလ်၌ပြုအပ်သော ပဏာမသာအလိုရှိအပ်သော အန္တရာယဝိသောသန စသော အကျိုးကို ပြီးစေနိုင်၏။ ပရမီသွာစသောနတ်တို့သည် ဂုဏ်ဝိသေသမရှိ သောသူ၌ ပြုအပ်သော ပဏာမသည် အလိုရှိအပ်သော အကျိုးကို မပြီးစေနိုင်။ ထို့ကြောင့် ပရမီသွာစသောနတ်တို့အား ရှိမခိုးမူ၍ ဘုရားကို ရှိခိုးသည် ဟူလိုသော်။

ဆရာ၊ ဘုရားကိုရှိခိုးသောဟု ဆရာဆို၏။ဘုရားကိုသာ ရှိခိုးကောင်းသလော၊ ဘုရားအားပြုအပ်သော ပဏာမသာ အန္တရာယဝိသောသနစသော အကျိုးရှိ သလော စောဒနာရှိ၍ ဓမ္မဉ္စဟူသောပါဌ်ကိုမိန့်သတည်း။ဘုရားကိုသာ ရှိခိုးအပ် သည်မဟုတ်၊ တရားကိုလည်း ရှိခိုး၏ဟူလိုသော်။ ဘုရားတရားကို ရှိခိုးသောဟု ဆရာဆို၏၊ ဘုရားတရားကိုသာ ရှိခိုးကောင်းသလော၊ ဘုရားတရားအား ပြုအပ် သောပဏာမသာ အန္တရာယဝိသောသနစသော အကျိုးရှိသလော စောဒနာရှိ၍ သံဃဉ္စဟူသော ပါဌ်ကို မိန့်သတည်း။ ဘုရားတရားကိုသာ ရှိခိုးသည်မဟုတ်၊ သံဃာတော်ကိုလည်း ရှိခိုး၏ဟူလိုသော်။

သမ္ဗုဒ္ဓပူဇိတံ စသော ဂုဏ်ပုဒ်ကို နောက်တနည်းဆို၊ ဤဂါထာ၌ ဝိသုဒ္ဓ ကရုဏာဉာဏံ ဟူသောပုဒ်၏ ပဌမအနက်ကို ဝိသေသေန ကိလေသေဟိ သုဇ္ဈတီ တိ ဝိသုဒ္ဓေါ၊ ဘဂဝါ။ ဝိသုဒ္ဓေ ဌိတတ္တာ ဝိသုဒ္ဓံ၊ ဝိသုဒ္ဓံကရုဏံ ဉာဏံ ယဿာတိ ဝိသုဒ္ဓကရုဏာဉာဏောဟူသော မဏိမဉ္ဇူပဌမဝိကပ်၊ ကရုဏာဉာဏောဟူ သော မဏိမဉ္ဇူဒုတိယဝိကပ်နှင့်လျော်စေသည်၊ တတိယဥပမာအနက်ကို ပကရ ဏာ၏ အစွမ်းအားဖြင့် ယူအပ်သော"ဝိသုဒ္ဓံ ကရုဏာဉာဏံ ယဿာတိ ဝိသုဒ္ဓကရု ဏာဝိယ ဝိသုဒ္ဓကရုဏာဉာဏော"ဟူသော ကေစိဝါဒနှင့် လျော်စေသည်[၁]။

---

၁။ ဆင်တဲ့မူဋီကာကျော်နိဿယမူအကျယ်။ ဟ္မမာ၁၊ ၄-နှာ-၁၂၅၂-ခု မြန်မာ သံတော်ဆင့် မိုးစက် ပုံနှိပ်တိုက်ရိုက်။

ဤကား ဆင်တဲဆရာတော် အရှင်ဇနိန္ဒ၏ ဋီကာကျော် နိဿယလာ စာ ပြောပုံ အမြွက်တည်း။

ဤ ပဌမတွဲ နိဿယ၏ အဆုံး၌ "ဣတိ ဇနိန္ဒာဘိသိရီပရမဓဇမဟာဓမ္မ ရာဇာဓိရာဇဂုရုတိ လဒ္ဓလဉ္ဆေန မဟာထေရေန ရစိတော အဘိဓမ္မတ္ထဝိဘာဝိနိယာ နာမ အဘိဓမ္မတ္ထသင်္ဂဟဋ္ဌကထာယ ပဌမပရိစ္ဆေဒဝဏ္ဏနာယ နိဿယော နိဋ္ဌိတော"ဟု ပါရှိ၏။

## ပုံနှိပ်ခြင်း နိဂုံးလင်္ကာ

ဤ ၁၂၅၂-ခုနှစ်က သံတော်ဆင့် ဦးဘိုးအိုက ရန်ကုန်မြို့ သံတော်ဆင့် မီးစက်ပုံနှိပ်တိုက်တွင် ရိုက်နှိပ်ခဲ့ရာ စာအုပ်အဆုံး၌ အောက်ပါ နိဂုံးလင်္ကာ ပါရှိရာ ကဗျာသုတေသီတို့အကျိုးငှာ ဖော်ပြအပ်ပါသည်—

ဇမ္ဗူချက်ချာ။ ။စက္ကဝါတွင်၊ လက်ယာနိမိတ်၊ တမွဒိပ်ဟု၊ မြန်ရိပ်အဝန်း၊ တင့်စွာထွန်းသား၊ ရွှန်းရွှန်းစေဘိတ်၊ ရွှေပေလိပ်ထက်၊ ငွေတံဆိပ်သွေး၊ ခတ်နှိပ်ရေးသို့၊ ဆေးအစုံခြယ်၊ မှုန်မပြယ်သည်၊ ဘုံနယ်ရှု(ယူ)ဖွယ်၊ ဟံသာစသည်၊ နဂရမည်၊ အောင်ဘွဲ့ချီသည်၊ ပြည်၏ခဘန်း၊ ဂဏန်းသတ်မှတ်၊ တိုက်နံပါတ်လည်း၊ ဗားဆဋ္ဌိခေါ်(တွင်)၊ ဂုဏ်ဘုချင်စိုက်၊ ပုံဟင်ရိုက်သည့်၊ တိုက်အပေါ်တွင်၊ မဟော်သေန၊ ပဏ္ဍိတသို့၊ ဇဝနတိက္ခာ၊ ဝိသဒ္ဒါနှင့်၊ ပညာစွမ်းရင့်၊ သံတော်ဆင့်က၊ မြော်ချင့်စေနာ၊ မိုးနှယ်ရွာလျက်၊ မှဟာပုညံ၊ အရင်းခံ၍၊ သင်အံလေ့လာ၊ မျိုးတကာတို့၊ ဓမ္မာအဘိ၊ အတိုရေကော ဓမ္မော အဘိဓမ္မော၊ ကျမ်းဟောဤစာ၊ ဂမ္ဘီရာမှ၊ ဋီကာအစု၊ စီရင်ပြုသည်၊ ရှုသုမင်္ဂလာ၊ မြတ်ဆရာ၏၊ ရွှေဗျာနှုတ်နက်၊ပုဒ်အထွက်ကို၊ ရှုပ်လျက်မထွေး၊ သာသင်နွေးသည်၊ ပျို့မွေ့လွှမ်းကျော်၊ ဆင်တဲခေါ်သည်၊ ဆရာတော်ငြိမ်း၊ သည်စာကျမ်းကို၊ တနှမ်းတဆန်၊ မတိမ်းကျန်ပဲ၊ မှုမှန်မှုဟောင်း၊ မှုရင်းကောင်းကို၊ မညောင်းစအပ်၊ ဖန်ဖန်ထပ်၍၊ တည်းကြပ်ပြင်ဆင်၊ ပုံနှိပ်တင်သည်။ ။ဘဝင်နှစ်ခြိုက် မြတ်လေးတည်း။

မြတ်လေးဘဝင်။ ။နှစ်ခြိုက်အင်ကြောင့်၊ရိုက်တင်မှုမှန်၊ဖွင့်ဖော်ပြန်သည်၊ ဆော်ဖန်ပြီးလစ်၊ သက္ကရာဇ်ကား၊ အစ်နှင့်ကြွန္ဒ၊ ပန်စမ္မတည့်၊ ဒွါဒသစက်၊ ဝနုထက်၌၊ တက်ပုဏ္ဏမီ၊ ကျော်လွှမ်းချီ၍၊ ဟိထီအသက်၊ ၁၄-ရက်တွင်၊ ဘဝင်္ဂဟိုရ်၊ မွန်းမတ်ခိုလျက်၊ ထိုထိုအမြင်၊ ရာသီ

ခွင်မှာ၊ ဂြိုဟ်စဉ်အစု၊ ပြိဿနန်း စခန်းလှ၍၊ ဓနုပြောင်ဆင်၊ တူတွင် ပန္နရ၊ နာဂသိမ်နေ၊ သီဟေဟတ္ထ၊ ကိုတွင်ခလျက်၊ မကာရ ကြွက်၊ နောက်ဆက်ပြိတ္တာ၊ ဥက္ကာပူးဆင့်၊ ကန့်မြူးတင့်သည်၊ စွင့်စွင့်ပျော်မွေ့၊ ချိန်အစေ့ကို၊ မရွေ့မယုတ်၊ ပြီးစီးချုပ်လျက်၊ သမုတ်ဖွယ်ရာ၊ ဋီကာစာဇ၊ ကျယ်စွာနိဿယ၊ ကျမ်းဂန္ထကို၊ ကျနသေချာ၊ သန့်ရှင်းပါသည်၊ မဟာပုည၊ ကုသလကြောင့်၊ အင္ဂဝိဓေသ၊ (အင္ဂဝိဓေ)၊ ဆုရှစ်ထွေတွင်၊ ပရမေပဒ၊ သုံးပါးပြသည့်၊ အစမည်ရှိ၊ ပညာခံမှု၊ ကျွင့်ဘိသခ်ျ၊ သေးလ်နေ၍၊ ကပ္ပေအရ၊ တသိန်းများကို၊ နှလုံးကြိုးကုတ်၊ လုံ့လထုတ်လျက်၊ မယုတ်ပြည့်မို၊ ပါရမီကို၊ အောင်စည်တီးခတ်၊ အောင်သဘတ်ဟု၊ ထပ်ထပ်မနော၊ ဓိဋ္ဌာန်စော၏၊ ထိုရော အန္တိ၊ မရောက်ဘိခင်၊ သုဂတိဘုံ၊ အလုံးစုံကို၊ ရိုလှုံလူးလာ၊ စံစေငှာတည်း၊ မြင့်ကြာတည်နေ၊ ရပြန်ပေလည်း၊ လိုလေသမျှ၊ ကြစ္ဆိတတည့်၊ ဘဝမကွာ၊ ထက်ကြပ်ပါသို့၊ လွယ်စွာသုံးယူ၊ သိဒ္ဓိနှယ်မူကို၊ ရှယ်ခြူ ပနက်၊ ပန်ဆင်မြွက်၏၊ ထက်မြက်သောဉာဏ်၊ ပဋိဘာန်နှင့်၊ တိက္ခဇဝန၊ ဝိသဒပြင်၊ ဟာသအရာ၊ ကျွမ်းလိမ္မာလျက်၊ မဟာမျိုးမြတ်၊ ဖြစ်စေအပ်ဟု၊ ထပ်ထပ်ပြန်လှန်၊ ဆုတောင်းပန်သည်။ ။ကောန်မုချရကြောင်းတည်း။

ဤသည်လျှင် ပုံနှိပ်ခြင်း နိဂုံးလက်ာ ဖြစ်လေသည်။ တတိယတွဲကို ၁၂၆၀-ပြည့်နှစ်က ရန်ကုန်မြို့ ၂၅-လမ်း၊ စာဆိုဘန်း၊ တိုက်နံပါတ် ၅၃၊ ရတနာသီရိ ပုံနှိပ်တိုက်တွင် ရိုက်နှိပ်ခဲ့သည်။

ဆရာတော်သည် နိဿယအဆုံး နိဂုံး၌—

မဟာဘုဇော၊ ကြီးသော ဘုန်းလက်ရုံး အားရှိတော်မူထသော။ မဟုဿာဟော၊ ကြီးသော လုံ့လဝီရိယရှိတော်မူထသော။ ဂဇဿာမိ၊ ဆဒ္ဒန်ဆင်မင်းအမှူးရှိသော ဆင်ဖြူများရှင် ဖြစ်တော်မူထသော။ ဓမ္မရာဇာ၊ တရားမင်းဖြစ်တော်မူထသော မြတ်စွာဘုရားသည်။ ပူရေတွာ၊ အမျှသုံးဆယ်သော ပါရမီတို့ကို ဖြည့်တော်မူပြီး၍။ ပရိဘဥ္ဇိတော၊ အလုံးစုံသော ကိလေသာတို့ကို ချိုးဖွဲ့ဖျက်ဆီးတော်မူပြီး၍။ ပထဝိံ၊ မြေကို။ ကမ္ပေန္တော၊ ပြင်းစွာတုန်လှုပ်စေလျက်။ အနုတ္တရံ၊ အတုမရှိသော သမ္ဗောဓိ သဗ္ဗညုတဉာဏ်သို့။ ပတ္တောဝိယ၊ ရောက်တော်မူသကဲ့သို့။ ပထဝိံ၊ မြေကို။ ကမ္ပေန္တော၊ ပြင်းစွာတုန်လှုပ်စေလျက်။ ရဇ္ဇံ-ရာဇဘာဝံ၊ မင်း၏အဖြစ်သို့။ ပတ္တော၊ ရောက်တော်မူသော။ ယော ဘူပါလော၊ အကြင် ရေမြေရှင် မင်းမြတ်သည်။ ထူပမင်္ဂလိတံ၊ မဟာမုနိ အစရှိသော စေတီတော်တို့ဖြင့် တန်ဆာဆင်အပ်သော။ အမရနာမကံ၊

အမရပူရ အမည်ရှိသော။ နဂရံ၊ တရာထီးဆောင်း မင်းအပေါင်းတို့ ညွှတ်ခ ခွန်းသဆက်သွင်းရာ ရာဇဌာနီဖြစ်သော ပြည်ကြီးကို။ ဒုတိယံ၊ နှစ်ကြိမ် မြောက်။ မာပေသိ၊ တည်တော်မူပြီ။

တဿ ဘူပါလဿ၊ ထိုအမရပူရ ဒုတိယမြို့တည်ဖြစ်သော ရေမြေ့အရှင် မင်းမြတ်၏။ အယျကဿ၊ အမရပူရပဌမမြို့တည်ဖြစ်သော ဘိုးတော်မင်းတရားကြီး၏။ ကာလေ၊ လက်ထက်တော်၌။ ကာဘော၊ ဆောက်လုပ်အပ်ကုန်သော။ စတ္တာရော ဝိဟာရေ၊ ဆင်ဘဲတိုက် ကတိုးတိုက် ရွှေစေတီတိုက် ခွေးကြို (ခွေးချီး၊ ဝွေးဂျို)တိုက်ဟု ဆိုအပ်ကုန်သော လေးရပ်သော ကျောင်းတိုက်တို့ကို။ ဣမေ၊ ဤကျောင်းတိုက်တို့သည်။ ဝါ၊ ဤကျောင်းတိုက်တို့၌ နေကုန်သော ရဟန်းတို့ သည်။ မနုဇောဟိ၊ ဝိသဘာဂဖြစ်ကုန်သော လူတို့ဖြင့်။ သမ္ဘာဓာ၊ ကျဉ်း မြောင်းကုန်၏။ ဣတိ မနသိကတွာန၊ ဤသို့နှလုံးပြုတော်မူ၍။ ဣဒ္ဓိယာ၊ ရာဇိဒ္ဓိ ဖြင့်။ ဝါ၊ မင်း၏ဘန်ခိုးဖြင့်။ အာဟရိတ္ဝာ၊ ဆောင်ယူ၍။ တတော ပုရတော၊ ထိုအမရပူရရာဇဓာ(ဌာ)နီဖြစ်သော ပြည်ကြီး၏။ ဝါ၊ ထိုအမရပူရရာဇဓာ (ဌာ)နီဖြစ်သောပြည်ကြီးမှ။ နာတိဒူရေ၊ မဝေးလွန်းထသော။ နစ္စာသန္နေ၊ မနီးလွန်းထသော၊ ဂမနာဂမနုပပတေ၊ အသွားအလာနှင့် ပြည့်စုံထသော။ သေန္နေ၊ အရှေ့မြောက်ထောင့်အရပ်၌။ သဉ္စယဋ္ဌပမာဏကေ၊ အတာခြောက် ဆယ် ပမာဏရှိသော။ ဌာနေ၊ အရပ်၌။ သိလာထမ္ဘေ၊ ကျောက်တိုင်တို့ကို။ ကရိတ္ဝာ၊ စိုက်မှတ်၍။ ဘော၊ ထိုလေးရပ်သောကျောင်းတို့ကို။ တေန ဘူပါလေ န၊ ထိုအရပူရ ဒုတိယမြို့တည်ဖြစ်သော ရေမြေ့ရှင်မင်းမြတ်သည်။ နိမ္မိတာ၊ ဖြစ် စေအပ်ကုန်၏။ ဝါ၊ ဖန်ဆင်းအပ်ကုန်၏။

တေသု၊ ထိုလေးရပ်သောကျောင်းတို့တွင်။ သဗ္ဗေသံ၊ အလုံးစုံကုန်သော ကျောင်းတိုက်တို့၏။ ပုရတ္ထိမဒိသာဘာဂေ၊ အရှေ့အရပ်အဖို့၌။ ဠိတတ္တာ၊ တည် သည်၏အဖြစ်ကြောင့်။ ပုဗ္ဗာရာမောတိသင်္ခါတော၊ ပုဗ္ဗာရာမဟုဆိုအပ်သော။ သလိလာသယဥဒကကူပပေါက္ခရဏီသမ္ပန္နေ၊ မြိန်မြတ်သော ရေရှိသော ရေ တွင်းရေကန်တို့နှင့် ပြည့်စုံထသော။ ခဏ္ဍသိမာလက်တော၊ ခဏ္ဍသိမ်ဖြင့် တန်ဆာ ဆင်အပ်ထသော။ ဝိဝိတ္တေ၊ ဆိတ်ငြိမ်ထသော။ ပဓာနသာရုပ္ပေ၊ မြတ်သော ရဟန်းတရားအားထုတ်ခြင်းငှာ လျောက်ပတ်ထသော။ ဝါ၊ ကမ္မဋ္ဌာန်းစီးဖြန်း ခြင်းငှာ လျောက်ပတ်ထသော။ ဝိဟာရေ၊ ကျောင်းတိုက်၌။ အယျကဿ၊ အမရပူရပဌမမြို့တည်ဖြစ်သော ဘိုးတော်မင်းတရားကြီး၏။ မင်းလှသီရိဝှယဿ၊ မင်းလှသီရိဟု ဘွဲ့အမည်ရှိသော။ အမစ္စဿ၊ မြေခွန်ဝန်ဖြစ်သောအမတ်၏[၁]။ ပုတ္တေန၊ သားဖြစ်သော။ ဝက်မစွတ်နဂရဘောဇကေန၊ ဝက်မစွတ်မြို့စားဖြစ်

၁။ မြေခွန်းဝန်ဖြစ်သောအမတ်၏။ (ပေမူရင်း)

သော။ မင်းကြီးမင်းလှမဟာကျော်ထင်တိနာမေန၊ မင်းကြီးမင်းလှမဟာကျော်ထင်ဟု အမည်ရှိသော။ အန္တေပုရအမစ္စေန၊ အတွင်းဝန်အမတ်သည်။ ဘရိယာယ၊ နိဗ္ဗာန်ရောက်ကြောင်း ကောင်းမှုသဲနှီး ဇနီးအိမ်ရှင်မနှင့်။ သမ္မန္တယိတွာ၊ တိုင်ပင်၍။ ကတေ၊ ဆောက်လုပ်အပ်သော။ ရမ္မေ၊ နှလုံးမွေ့လျော်ဖွယ်ရှိသော။ ဝိဟာရေ စ၊ ကျောင်း၌၎င်း။ စာရိတ္တသောဘိတသ္မိ၊ ဒါန သီလအစ ရှိသော အမျိုးတို့၏အလေ့အကျင့် တင့်တယ်ထသော။ ဝိသာလသ္မိ၊ ပြန့်ပြော ကြွယ်ဝသော။ ပြည်ဘုံကျော်ခေါင် ဣတိ နာမသ္မိ၊ ပြည်ဘုံကျော်ခေါင်ဟူသော ဘွဲ့အမည်ရှိထသော။ မုတ်ဦးဣတိဝှယဇေဋ္ဌကသ္မိ၊ မုတ်ဦးခေါ်မှတ် အရပ်သွေးကြီး၏။ နေတ္တေန စ၊ မြေးလည်းဖြစ်ထသော။ စာရိတ္တသောဘိတသ္မိ၊ အမျိုးတို့၏ အလေ့အကျင့်တင့်တယ်ထသော၊ ဘောဂသုခသေဋ္ဌိနော၊ ဘောဂ သုခ သဋ္ဌေး၏။ နေတ္တေန စ၊ မြေးလည်းဖြစ်ထသော။ သဒ္ဓေန၊ ကံ ကံ၏အကျိုးကို ယုံကြည်သော သဒ္ဓါတရားနှင့် ပြည့်စုံထသော။ မဟာဘောဂပုညသေဋ္ဌိနာ၊ မဟာဘောဂပုညသဋ္ဌေးသည်။ ဇနိယာ၊ အလှူလက်ဦး ပေးကြိုးစွာလှ အိမ်ရှင်မနှင့်။ သမ္မန္တယိတွာ၊ တိုင်ပင်၍။ ကတေ၊ ဆောက်လုပ်အပ်သော။ ရမ္မေ၊ နှလုံးမွေ့လျော်ဖွယ်ရှိသော။ ဝိဟာရေ စ၊ ကျောင်း၌၎င်း။ ဝသန္တေန၊ သီတင်းသုံးနေသော။

ကူးခန်းနဂရသ္မိ၊ ကူးခန်းမြို့၏။ ပုရတ္ထိမဒိသာဘာဂေ၊ အရှေ့အရပ်မျက်နှာအဖို့၌။ အစုဃောဇနပမာဏေ၊ ယူဇနာခွဲ အတိုင်းအရှည်ရှိထသော။ ဌာနေ၊ အရပ်၌။ နေရင်းဣတိဝှယေ၊ နေရင်းအမည်ရှိသော။ ဂါမေ၊ အဆက်ဆက်သော ကျွမ်းပြုပုဂ္ဂိုလ်တို့၏ သီတင်းသုံးရာဖြစ်သော ရွာ၌။ တီသု ဝိဟာရေသု၊ ပုပ္ဖာရုံ အောင်မြေဘုံသာ မဏိရတနာဟုဆိုအပ်သော သုံးရပ်သောကျောင်းတိုက်တို့၌။ ဝါရေန၊ အလှည့်အလှည့်ဖြင့်။ ဝသန္တသ္မိ၊ သီတင်းသုံးနေသော။

နာနာဂန္ထေသု၊ ပါဠိ အဋ္ဌကထာ ဋီကာ အနု မဓု လက်သန်း ဆန်း အလင်္ကာ နေတ္တိစသော အထူးထူးသောကျမ်းတို့၌။ ဆေကသ္မိ၊ လိမ္မာတော်မူထသော။ မဟီတလေ၊ ဇမ္ဗူသောင်းခွင် မြေအပြင်၌။ ဂုဏေဟိ၊ သီလ သမာဓိ စသော ဂုဏ်တို့ဖြင့်။ ပါကဋသ္မိ၊ ထင်ရှားကျော်စောထသော။ ဂန္ထကာရကသ္မိ၊ ဂူဠတ္ထဝဏ္ဏနာဋီကာကျမ်း ဓာတုကကထာယောဇနာကျမ်း ဝိသုဒ္ဓိမဂ်ဂဏ္ဌိကျမ်း နေတ္တိပါဠိတော်နိဿယ စရိယာပိဋက အဋ္ဌကထာနိဿယ သုတ်သီလက္ခန် ပါဠိတော်ဂဏ္ဌိ သုတ္တနိပါတ်ပါဠိတော်နိဿယ စသော ကျမ်းတို့ကို ပြုတော်မူထသော။ သာရဒဿီတိ၊ သာရဒဿီ ဟူ၍။ ဂုရူဟိ၊ ဆရာတို့သည်။ ဂဟိတနာမဓေယျသ္မိ၊ မှည့်အပ်သော အမည်ရှိတော်မူထသော။ ပုပ္ဖာရာမစရိယသ္မိ၊ ပုပ္ဖာရုံဆရာတော်ဘုရားကြီး၏။ နေတ္တေန၊ မြေးဖြစ်ထသော။

တဿ၊ ထိုပုဗ္ဗာရုံဆရာတော်ဘုရားကြီး၏။ သဒ္ဓိဝိဟာရိကဿ၊ သဒ္ဓိဝိဟာရိက တပည့်ဖြစ်သော။ ပုညာဘိသီရိဓဇမဟာဓမ္မရာဇဂုရုတိလဒ္ဓလဉ္ဆဿ၊ ပုညာဘိသီရိဓဇမဟာဓမ္မရာဇဂုရုဟု ရအပ်သော တံဆိပ်ရှိထသော။ မဏိရတနာစရိယဿ၊ ဒုတိယ မဏိရတနာ ဆရာတော်ဘုရားကြီး၏။ သဒ္ဓိဝိဟာရိကေန၊ ဥပဇ္ဈာယ်တပည့် ဖြစ်သော။ ဇနိန္ဒာဘိသီရိပရမဓဇမဟာဓမ္မရာဇာဓိရာဇဂုရုတိလဒ္ဓလဉ္ဆေန၊ ဇနိန္ဒာဘိ သီရိပရမဓဇမဟာဓမ္မရာဇာဓိရာဇဂုရုဟု ရအပ်သော တံဆိပ်ရှိထသော။ ဂဏပါမောက္ခေန၊ အမြိုမြိုအရွာရွာမှ ပညာရှင်နို့ကို စို့ခြင်းငှာ လာကုန်သော ထေရမဇ္ဈိမနဝဖြစ်သော ရဟန်းအပေါင်းတို့၏ ဂိုဏ်းအကြီးဖြစ်ထသော။ မဟာထေရေန၊ မဟာထေရ်သည်။

အဘိဓမ္မတ္ထဝိဘာဝိနိယာနာမ၊အဘိဓမ္မတ္ထဝိဘာဝိနီအမည်ရှိသော။ဋီကာယ၊ အရှင်သုမင်္ဂလာမိဆရာသည် စီရင်အပ်သောဋီကာကျမ်း၏။ယော နိဿယော၊ အကြင်နိဿယကို။ သိဿေဟိ၊ ဉာဏာလင်္ကာရဓဇ မဟာဓမ္မရာဇဂုရု ကဝိန္ဒာဘိ သီရိဓဇ မဟာဓမ္မရာဇဂုရု အစရှိသော တပည့်အပေါင်းတို့သည်။ အဘိယာစိတော၊ ရှေးရှု တောင်းပန်အပ်သည်ဖြစ်၍။ ရစိတော၊ စီရင်အပ်ပြီ။

သော နိဿယော၊ ထိုအဘိဓမ္မတ္ထဝိဘာဝိနီ ဋီကာကျမ်း၏ နိဿယသည်။ ကူပဒါယကေန၊ ရေတွင်းဒါယကာဖြစ်သော။ရွှေတောင်ကျော်စွာတိ နာမေန၊ ရွှေတောင်ကျော်စွာ ဟူသော ဘွဲ့အမည်ရှိသော။ ဥပါသကေန၊ ရတနာသုံးပါးသို့ ဆည်းကပ်တတ်သော ဒါယကာသည်။ ပေါတ္ထကလေခနေဟိ၊ ပုရပိုက်ကန့်ကူတို့ဖြင့်။ ယတိစ္ဆိတံ၊ အလိုရှိတိုင်း။ ဥပထမ္ဘိတော၊ ထောက်ပံ့အပ်သည်ဖြစ်၍။ အနာယာသေန၊ မငြိုငြင် မပင်ပန်းသဖြင့်။ သက္ကရာဇေ၊ကောဇာသက္ကရာဇ်သည်။ စတုဝဿာဓိက ဒွိသတသဟဿေ၊ လေးနှစ်အလွန်ရှိသော တထောင့်နှစ်ရာသို့။ ဝါ၊ တထောင့်နှစ်ရာ့လေးနှစ်သို့။ သမ္ပတ္တေ၊ ရောက်သည်ရှိသော်။ ဇိနစက္ကေ၊ မြတ်စွာဘုရား သာသနာတော်သည်။ ဒသ သရ အဂ္ဂိ နေတ္တေ၊ နှစ်ထောင့်သုံးရာ ရှစ်ဆယ့်ခြောက်ခုသို့။ သမ္ပတ္တေ၊ ရောက်သည်ရှိသော်။ ပဌမအာသာဠ္ဓိမာသေ၊ ပဌမဝါဆိုလ၌။ ပုဏ္ဏမိယံ၊ လပြည့်နေ့၌။ နိဋ္ဌိတော၊ အပြီးသို့ရောက်၏။

ရာဇာ၊ လူများသနင်း ပြည့်ရှင်မင်းသည်။ ပဝနေ၊ တောကြီး၌။ ထေနေ၊ ခိုးသူ ဒမြတို့ကို။ ဂဟေတွာ၊ ဖမ်းယူ၍။ နဂရာမုခံ၊ နေပြည်ဘော်သို့။နေတွာ၊ ဆောင်၍။ တေ ထေနေ၊ ထိုခိုးသူ ဒမြတို့ကို။ ဝဓိ-ဝဓိတွာ၊ ဓား သန်လျက်ဖြင့် သတ်၍။ နဂရသုခံ၊ (ရဇ္ဇသုခံ) ပြည် (မင်း) စည်းစိမ်ကို။ အနုဘဝတိ္တက္ကဝ၊ ခံစားသကဲ့သို့။ မယာ၊ ငါသည်။ သာတရူပံဝနေ၊ လောကီစိတ် ကောသီတိ ဇေတုသိက် ဒွေပညာသ ရုပ်အဋ္ဌဝီသ ဟူသော တောကြီး၌။ကိလေသထေနေ၊

တထောင့်ငါးရာ ကိုလေသာတည်း ဟူသော ခိုးသား ဒမြတ်တို့ကို။ ဂဟေတွာ၊ ဖမ်းယူ၍။ သိဝမုခံ၊ နိဗ္ဗာန်တည်းဟူသော ပြည်ကြီးသို့။ နေတွာ၊ ဆောင်ယူ၍။ တေ ကိလေသထေနေ၊ ထိုကိလေသာတည်း ဟူသော ခိုးသူ ငမြတ်တို့ကို။ ဝဓိ-ဝဓိတွာ၊ အရဟတ္တမဂ်ဓား သန်လျက်ဖြင့် သတ်ပြီး၍။ တဿ သိဝသုခဿ၊ ထိုနိဗ္ဗာန်တည်းဟူသော ပြည်ကြီးချမ်းသာကို။ အနုဘဝနတ္ထာယ၊ ခံစား ပါရခြင်း အကျိုးငှာ။

က္လမိနာ၊ ဤအဘိဓမ္မတ္ထဋီကာကျမ်း၏ နိဿယကို ပြုသဖြင့်။ ယံ ပုညံ၊ အကြင် ကောင်းမှုကို။ မယာ၊ ငါသည်။ ဥပစိတံ၊ ဆည်းပူးအပ်ပြီ။ တဿ ပုညဿ၊ ထိုကောင်းမှု၏။ ဗလေန စ၊ အစွမ်းဖြင့်လည်း။ ဒုတိယေ ဝါ၊ ဒုတိယ အတ္တဘော၌ရင်း။ တတိယာဒိမှိ ဝါ၊ တတိယ အစရှိသော အတ္တဘော၌ရင်း။ သီလာစာရဂုဏေ၊ သီလအာစာရ ကျေးဇူး၌။ ဝါ၊ ဝါရိတ္တသီလ စာရိတ္တ သီလ ကျေးဇူး၌။ ရတော၊ မွေ့လျော်သည်။ ဟုတွာ၊ ဖြစ်၍။ ပဉ္စကာမေသု၊ ငါးပါးသော ကာမဂုဏ်တို့၌။ အလဂ္ဂေါ၊ ငြိကပ်ခြင်းမရှိသည်ဖြစ်၍။ပဌမဖလံ၊ သောတာပတ္တိဖိုလ်သို့။ ပတွာန၊ ရောက်၍။

အန္တိမေ၊ အဆုံးစွန်ဖြစ်သော။ အတ္တဘာဝမှိ၊ အတ္တဘော၌။ မုနိပုင်္ဂဝံ၊ ရဟန်းဖြစ်တော်မူသော။ ဝါ၊ ရဟန်းတကာတို့ထက် မြတ်တော်မူသော။ မေတ္တေယျံ၊ မိတေးမြတ်စွာဘုရားကို။ ဒိသွာန၊ လက်ဦးစွာ ဖူးတွေ့ရ၍။ ဓီရေဿ၊ ပစ္စေကဗုဒ္ဓါသာဝကတို့နှင့် မဆက်ဆံသည်ဖြစ်၍ အသာဓာရဏဖြစ်သော သဗ္ဗညုတဉာဏ်ရှိတော်မူသော။ တဿ၊ ထိုမိတေးမြတ်စွာဘုရား၏။ သဒ္ဓမ္မ ဒေသနံ၊ သူတော်ကောင်းတရားတည်းဟူသော ဒေသနာတော်ကို။ သုတွာန၊ ကြားနာရ၍။ အဂ္ဂဖလံ၊ မြတ်သောအရဟတ္တဖိုလ်ကို။ အဓိဂန္တွာ၊ ရ၍။ ဇိနသာသနံ၊ မိတေးမြတ်စွာဘုရား၏[၁]။ သာသနံ၊ သာသနာတော်ကို။ သောဘေယျံ၊ တင့်တယ်စေရလို၏။ ရာဇာနော၊ ပြည့်ရှင်မင်းတို့သည်။ ဓမ္မေနဝ၊ တရားသဖြင့်သာလျှင်။ က္လမံ ပဇံ၊ ဤသတ္တဝါအပေါင်းကို။ သဒါ၊ အခါခပ် သိမ်း။ ရက္ခန္တု၊ စောင့်ရှောက်သည် ဖြစ်စေကုန်သတည်း။

တေ၊ ထိုပြည့်ရှင်မင်းတို့သည်။ ပုညကမ္မေသု၊ ဒါန သီလအစရှိသော ကုသိုလ်ကောင်းမှုတို့၌။ နိရတာ၊ အမြဲမွေ့လျော်ကုန်သည်ဖြစ်၍။ ဇိနသာသနံ၊ မြတ်စွာဘုရား သာသနာတော်ကို၊ ဇောတေန္တု၊ ထွန်းတောက်ပစေကုန် သတည်း။ သဗ္ဗေ၊ ခပ်သိမ်းကုန်သော။ က္လမေ စ ပါဏိနော၊ ဤသတ္တဝါတို့သည်

၁။ အရိမေတ္တေယျမြတ်စွာဘုရား၏။

လည်း။ သဗ္ဗဒါ၊ အခါခပ်သိမ်း။ နိဉပဒ္ဒဝါ၊ ဉပဒ္ဒဝေါ မရှိကုန်သည်ဖြစ်၍။ နိစ္စံ၊ အမြဲ။ ကလျာဏသက်ပွါ၊ ကောင်းသောအကြံ ရှိကုန်သည်ဖြစ်၍။ ဝါ၊ နိက္ခမ္မသက်ပ္ပ အဗျာပါဒသက်ပ္ပ အဝိဟိံသသက်ပ္ပဟု ဆိုအပ်သော ကောင်းသော သက်ပ္ပရှိကုန်သည် ဖြစ်၍။ အမတံ၊ သေခြင်းကင်းသော။ ပဒံ၊ နိဗ္ဗာန်သို့။ ပပ္ပေါန္တု၊ ရောက်စေကုန်သတည်း။ "သဗ္ဗေ သတ္တာ မေ ပုညံ သမံ လဘန္တု" သဗ္ဗေ၊ ခပ်သိမ်းကုန်သော။ သတ္တာ၊ သတ္တဝါတို့သည်။ မေ၊ အကျွန်ုပ်၏။ ပုညံ၊ ကောင်းမှုကို။ သမံ၊ အမျှ။ လဘန္တု၊ ရစေကုန်သတည်း-ဟူ၍ လိုအပ်သမျှ ဉဿုံ အလုံးစုံဖော်ပြ၍ နိဂုံးအုပ်တော်မူခဲ့လေသည်။

## ဋီကာကျော် နိဿယချနက် ရှေးဆင်တဲမူ

အထက်ဖော်ပြပါဆင်တဲမူကျယ် ဋီကာကျော် နိဿယကြီးကား စာအုပ်အကုန် ရိုက်နှိပ်ဖြစ်လျှင် ရွှင်ဆိုက် စာမျက်နှာ ၃၅၀၀၊ ၄၀၀၀ (သုံးထောင့်ငါးရာ၊ လေးထောင်)ခန့်ရှိမည်ဟု ခန့်မှန်းရပါသည်။ ယင်းနိဿယချနက်သက်သက်ကို ရေးစီရင်ထားသည့်ဋီကာကျော်နိဿယလည်း ရှိလေသည်။ ယင်းနိဿယကို အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ မန္တလေ မြို့အနောက်ပြင် တောင်သမန်တိုက် ဆရာတော် အရှင်ကလျာဏထေရ်က အနုသန္ဓေ အထွက်အတက်စုဒ်စောဒနာစသည့် အဓိပ္ပာယ်စကားများကို ချန်လှပ်၍ ဆရာတော်ဘုရားကြီးချနက်အတိုင်း စီရင်တော်မူခဲ့လေသည်။စာအုပ်အတွင်းမျက်နှာဖုံး၌ အမရပူရဒုတိယမြို့တည်နန်းတည် ကုန်းဘောင်မင်းတရားကြီးလက်ထက်တော်"ဇနိန္ဒာဘိသိရိပရမဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု"လွှတ်ထု ခတ်နှိပ် တံဆိပ်နာမံ အလှူခံတော်မူရသော အမရပူရမြို့မြောက်ဘက် စန္ဒာမုနိဘုရား စေတီတော်ကြီးအနီးဆင်တဲတိုက်ကြီး၏သခင် အသျှင်ဆင်တဲဆရာတော်ဘုရားကြီး စီရင်ရေးသားတော်မူအပ်သော ဋီကာကျော် နိဿယချနက် ရှေးဆင်တဲမူဟု ရိုက်နှိပ်ပါရှိလေသည်။ ယင်းနိဿယကို သက္ကရာဇ် ၁၂၈၈-ခုနှစ်၊ ပဋ္ဌမဝါဆိုလတွင် ရတနသိဒ္ဓိပိဋကတ်ပုံနှိပ်တိုက်တွင် ရိုက်နှိပ်ခဲ့လေသည်။ ရွှင်ဆိုက် စာမျက်နှာ ၄၁၆-ရှိလေသည်။

## ရာဇာဓိရာဇဂုရု ဘွဲ့တံဆိပ်တော် အလှူခံရရှိခြင်း

ဆရာတော်သည် အမရပူရ ဒုတိယမြို့တည်နန်းတည် ရွှေဘိုမင်းတရားကြီး ဆက်ကပ်လှူဒါန်းသည့် "ဇနိန္ဒာဘိသိရိပရမဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ကို အလှူခံရလေသည်။

## ဘဝနတ်ထံ ဝင်စံတော်မူခြင်း

ဤသို့ ဖော်ပြခဲ့သည့်အတိုင်း စာပေကျမ်းဂန် ချပို့ခြင်း၊ ကျမ်းစာ ပြုစုရေးသားခြင်း စသည်ဖြင့် ဘုန်းမီးနေလ တောက်ပထိန်ညီး သာသနာတော်မြတ်ကြီး၌ လုပ်အားအပြည့် ပေးတော်မူခဲ့သော ဆင်တဲဆရာတော်ဘုရားကြီး အရှင်ဇနိန္ဒ မဟာထေရ်သည် သက္ကရာဇ် ၁၂၀၉-ခု၊ နယုန်လလဆုတ် ၁၀-ရက်နေ့တွင် ဘဝနတ်ထံ ဝင်စံတော်မူခဲ့လေသည်[၁]။

## သံဝေဂယူရန်

အစ္စယန္တိ အဟောရတ္တာ၊ ဇီဝိတံ ဥပရုဇ္ဈတိ။
အာယု ခီယတိ မစ္စာနံ၊ ကုန္နဒီနံဝ ဩဒကံ။

ကုန္နဒီနံ၊ ငယ်ကျဉ်းတုံလစ် မြစ်ချောင်းတို့၏။ ဩဒကံ၊ ရေသည်။ ခီယတိ ဣဝ၊ ကာလကြာရှည် မတည်ပုံသေ ကုန်ခန်းလေသကဲ့သို့။ တထာ၊ ထို့အတူ၊ အဟောရတ္တာ၊ နေ့ညဉ့်တို့သည်။ အစ္စယန္တိ၊ မုချဧကန် တရွေရွေ ကုန်လွန်သွားကုန်၏။ မစ္စာနံ၊ ကြုံလာဖြစ်လာ သတ္တဝါတို့၏။ ဇီဝိတံ၊ အသက်ဇီဝိန်သည်။ ဥပရုဇ္ဈတိ၊ ကာလချိန်ခါ မကြာလှပဲ အနန်နဲဖြင့် ပျက်စဲချုပ်ဆုံး၏။ မစ္စာနံ၊ ကြုံလာဖြစ်လာ သတ္တဝါတို့၏။ အာယု၊ အသက်သမုတ် နာမ်နှင့်ရုပ်သည်။ ခီယတိ၊ မုချပုံသေ ကုန်ရချေ၏။

## နေရင်းဆရာတော်များ

နေရင်းဆရာတော်ဟူ၍ ထင်ရှားသော ဆရာတော်များမှာ တော်တော်များများရှိသည်။ ဂူဠတ္ထဝဏ္ဏနာဋီကာကျမ်း၊ ဓာတုကထာဋီကာယောဇနာကျမ်း၊ ဝိသုဒ္ဓိမဂ်ဂဏ္ဌိကျမ်း၊ နေတ္တိပါဠိတော်နိဿယ၊ စရိယာပိဋကအဋ္ဌကထာနိဿယ၊ သုတ်သီလက္ခန်ပါဠိတော်ဂဏ္ဌိ၊ သုတ်နိပါတ်ပါဠိတော်နိဿယ စသော ကျမ်းဂန်များစွာတို့ကို ပြုစုစီရင်တော်မူခဲ့သော ပုဗ္ဗာရုံဆရာတော် အရှင်သာရဒဿီသည်လည်း နေရင်းဆရာတော်ဟု ထင်ရှားလေသည်[၂]။

သုတ်သီလက္ခန်ပါဠိတော်နိဿယ၊ သုတ်မဟာဝါပါဠိတော်နိဿယ၊ သုတ်ပါထေယျပါဠိတော်နိဿယ၊ သုတ်သီလက္ခန်အဋ္ဌကထာနိဿယ၊ သုတ်မဟာဝါအဋ္ဌကထာနိဿယ၊ သုတ်ပါထေယျအဋ္ဌကထာနိဿယ၊ အဋ္ဌသာလိနီအဋ္ဌ

---

၁။ အရှင်ဇယန္တဟုလည်း အချို့စာများ၌ ရှိလေသည်။
၂။ ပခုက္ကူသာသနာဝင်၊ ၁၆၉-၁၇၀။

ကထာနိဿယဟောင်း၊ သမ္မောဟဝိနောဒနီအဋ္ဌကထာနိဿယ၊ ဋီကာကျော် နိဿယ၊ သခေ်ပဝဏ္ဏနာဋီကာနိဿယ၊ မူလသိက္ခာအဋ္ဌကထာနိဿယ၊ ကင်္ခါ ဝိတရဏီအဋ္ဌကထာနိဿယ၊ ဇိနာလင်္ကာရ စာကိုယ်နိဿယ၊ ဇိနာလင်္ကာရဋီ ကာနိဿယ၊ သဒ္ဒသာရတ္ထဇာလိနီနိဿယ၊ သုတ္တနိဒ္ဒေသစသည့် ကျမ်းဂန် ပေါင်းများစွာတို့ကို ပြုစီရင်တော်မူခဲ့သော နေရင်းရွာ ပဌမမဏိရတနာဆရာ တော် အရှင်အရိယာလင်္ကာရထေရ်သည်လည်း နေရင်းဆရာတော်ဟု ထင်ရှား သည်[၁]။

"ပုညာဘိသီရိဓဇ မဟာဓမ္မရာဇဂုရု"ဘွဲ့တံဆိပ်တော်ရ ဒုတိယနေရင်း မဏိ ရတနာဆရာတော် အရှင်ပုညသည်လည်း နေရင်းဆရာတော်ဟု ထင်ရှားခဲ့လေ သည်[၂]။

"ဝိစိတ္တာဝံသဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု"ဘွဲ့တံဆိပ်တော်ရ ဆရာတော် အရှင်ဝိမလာစာရသည်သည်း နေရင်းဆရာတော်ဟု ထင်ရှားသည်[၃]။

## ဉာဏာလင်္ကာရသီရိပရမဓဇမဟာဓမ္မရာဇာဓိရာဇဂုရု ဘွဲ့တံဆိပ်တော်ရ အရှင် ဉာဏာလင်္ကာရ

ဆရာတော် အရှင်ဉာဏာလင်္ကာရသည်လည်း ဆင်တဲတိုက်၌ သီတင်းသုံး၍ စာပေပို့ချ သာသနာပြုတော်မူသဖြင့် ဆင်တဲဆရာတော်ဟု ထင်ရှားသော ဆရာတော်တပါး ဖြစ်တော်မူသည်။

ပခန်းကြီးမြို့ အနောက်လက် ကြည့်ကန်(ကျည်းကန်)ရွာ၌ အဖ ဦးမြတ်စံ ပေါ်၊ အမိ ဒေါ်နှိုးတို့မှ သက္ကရာဇ် ၁၁၆၂-ခုနှစ်၊ ဝါဆိုလဆန်း ၁၁-ရက် နေ့တွင် ဖွားမြင်တော်မူခဲ့လေသည်။ ငယ်မည် မောင်သာနိုး ဖြစ်သည်။

အရွယ်ရောက်သော် ရှင် ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော် မူခဲ့လေသည်။ ဘွဲ့တော် အရှင်ဉာဏာလင်္ကာရ ဖြစ်လေသည်။ အဆက်အထက် ဆင်တဲဆရာတော်ဘုရားကြီးများထံ ပိဋကတ်ကျမ်းဂန် အရပ်ရပ်ကို သင်ယူ တတ်မြောက်တော်မူခဲ့လေသည်။

ပုဂံမင်းလက်ထက် ပေါက်မြိုင်မြို့စား အတွင်းဝန် ဦးမှုန်၏ ကိုးကွယ်ခြင်းကို ခံယူတော်မူရသည်။ မြို့တော်မြောက်ဘက်ရှိ ဆင်တဲတိုက်အတွင်း လေးထပ်

၁။ ပဉ္စက္ကူသာသနာဝင်၊ ၁၆၇-၁၆၈။
၂။ ဆင်တဲမူဋီကာကျော်နိဿယမူကျယ် နိဂုံးကြည့်။
၃။ သာသနာဝင်ဘွဲ့တံဆိပ်တော်များသမိုင်းလည်း ကြည့်။

## ပညာသင်ကြားခြင်း

ရဟန်းဖြစ်ပြီးနောက် မြင်းခြံမြို့ နွားပြင်းတောင်တောရ၌ ၁-ဝါ သီတင်းသုံး၍ ချုံကြီးရွာ ကျင်းကျောင်းတိုက် ဆရာတော် အရှင်ဉာဏိန္ဒထံ၌လည်း ရူပသိဒ္ဓိ၊ သဒ္ဒနီတိ၊ ဋီကာကျော်၊ အဋ္ဌသာလိနီကျမ်းများကို သင်ယူပြီး ပခုက္ကူမြို့၊ မဟာဝိသုတာရာမတိုက် ရေစကြိုဆရာတော်ဘုရားကြီး အရှင်ဂန္ဓသာရထံ ရောက်ရှိ၍ ပိဋကတ်ကို သင်ယူတော်မူခဲ့သည်။ မန္တလေးမြို့၊ အသောကာရာမ တိုက်၊ ဒက္ခိဏာရာမတိုက်တို့၌လည်း သီတင်းသုံး၍ ပညာသင်ကြား ဆည်းပူး တော်မူခဲ့သည်။

## ကျမ်းဂန်ပို့ချ ဂဏဝါစက

၁၂၈၁-ခုနှစ်တွင် ရန်ကုန်မြို့၊ ညောင်တုန်းကိုက်၌ စာသင်သား များစွာ တို့အား စာပေပို့ချ၍ ၁-ဝါ သီတင်းသုံးခဲ့သည်။ ၁၂၈၂-ခုနှစ်တွင် မန္တလေး မြို့မှ ကျောင်းဒကာကြီး ဦးထွန်း၊ ဒေါ်ကြီး၊ ဦးဘတင်တို့ ပင့်လျှောက်ချက် အရ ဆင်တဲတိုက်သို့ ကြွရောက် စာပေပို့ချတော်မူခဲ့သည်။ ရမည်းသင်းမြို့နယ် ညောင်လှန့်တောရကျောင်းတိုက် ဆရာတော် ဦးမေဓာဝီအထံ၌လည်း ၃-လမျှ နေထိုင်၍ ပဋိပတ်လုပ်ငန်းအတွက် နည်းခံတော်မူခဲ့၍ ညောင်အိုင်ကံသာ ကျောင်း၌လည်း ၁-ဝါနေထိုင်၍ စာချခဲ့ဘူးသည်။ ကျမ်းစာများကိုလည်း ပြုစုတော်မူခဲ့သည်။ ၎င်းတို့မှာ—

၁။ ပစ္စဝေက္ခဏာဝိသုဒ္ဓိကျမ်း၊

၂။ ပဥ္စသီလဝိနိစ္ဆယကျမ်း၊

၃။ ဓမ္မသေတ္တုကျမ်း၊

၄။ ကောဋ္ဌာသသံခိပ်နှင့် ရေစက်ချအမျိုးမျိုး—

အစရှိသော စာငယ်များကိုလည်း ပြုစုတော်မူခဲ့သည်။ ၎င်းပြင် နိုင်ငံတော် ဝိနည်းဓိုရ်တာဝန်၊ ဆဋ္ဌသံဂါယနာ ဩဝါဒါစရိယတာဝန်၊ ဆဋ္ဌသံဂီတိကာ ရက တာဝန် စသည်တို့ကိုလည်း ဆောင်ရွက်တော်မူခဲ့သည်။

သက်တော်-၇၆၊ သိက္ခာတော် ၅၆-ဝါအရ ၁၃၂၇-ခုနှစ် နတ်တော် လဆုတ် ၁-ရက် ကြာသပတေးနေ့ ည ၁၀-နာရီအချိန်တွင် ဘဝနတ်ထံ ဝင်စံ တော်မူလေသည်။

ဥတ္တမော ယော မဟာထေရော၊ ဥတ္တမကိစ္စကာရကော။
သော ဆသတ္တတိဝဿမှိ၊ အဂမီ တိဒသာလယံ။

## ဆင်တဲတိုက်အုပ်ဆရာတော် ဦးသောမ

ဆရာတော် ဦးဥတ္တမ ပျံလွန်တော်မူပြီးနောက် ဆင်တဲတိုက် တိုက်အုပ် ဖြစ်လာသူမှာ ဦးသောမဖြစ်သည်။ တိုက်ကြီးမြို့ အဘ ဦးသော်၊ အမိ ဒေါ်လု တို့မှ ၁၂၇၀-ပြည့်နှစ် ဝါဆိုလဆုတ် ၆-ရက်နေ့တွင် ဖွားမြင်ခဲ့သည်။ ဆင်တဲ တိုက် တိုက်အုပ်ဆရာတော် ဦးဥတ္တမကို ဥပဇ္ဈာယ်ပြု၍ သာမဏေဝတ်၊ ရဟန်း အဖြစ်သို့ ရောက်ခဲ့သည်။ ဆရာတော် ဦးဥတ္တမ ပျံလွန်တော်မူပြီးနောက် ဆင်တဲ တိုက်၏ တိုက်အုပ်အဖြစ် ဆက်ခံဆောင်ရွက်တော်မူရသည်။

## လက်ရှိအခြေအနေ

ဆင်တဲတိုက်၌ ကျောင်းအကြီး အငယ်ပေါင်း ၁၁-ကျောင်းမျှ ရှိလေ သည်။ သံဃာတော် ၃၀-ကျော်လောက်သာ သီတင်းသုံးလျက်ရှိသည်။ ရှေးဟောင်းစေတီပုထိုး ၁၀-ဆူရှိသည်။ ယင်းစေတီများအနက် သာသနာ သက္ကရာဇ် ၂၄၂၃-ခု၊ ကောဇာသက္ကရာဇ် ၁၂၄၁-ခုနှစ် ကဆုန်လဆန်း ၄-ရက် တနင်္ဂနွေနေ့ နေ့ ၃-ချက်တီးကျော် ၇-မောင်းတပါဒ်၊ ၁၂၄၂-ခုနှစ် ကူး အတာသင်္ကြန်ပြောင်း အမြောက်သံပေး အခါတော်နှင့် တပြိုင်နက် မှူးတော် မတ်တော်တို့ကို ပုံတာပေးအပ် ကြီးကြပ်ပြင်ဆင်စေသည့် စေတီ ဆူရေ ၆၉-ဆူအနက် သံချက်ဝန် နေမျိုးမင်းလှသခ်ယာ ကြီးကြပ်ပြင်ဆင် သည်ဟု ကျောက်စာထိုးထားသည့် စေတီဟောင်း တဆူလည်း ပါဝင်သည်။

ဧဝံ ဟိ သဗ္ဗသင်္ခါရာ၊ စဥ္စလာ အသယံဝသီ။
အစိရဋ္ဌာယိဘာဝါ စ၊ အလံ တေသု ဝိရဇ္ဇိတုံ။

## ပဌမဆင်တဲတိုက် သာသနာဝင် အပြီးသတ်ခြင်း

သူတော်ကောင်းတို့ စေတနာ သဒ္ဓါတရား တိုးပွားရန်၊ သံဝေဂရယူရန် ရည်သန်လျက် မန္တလေး သာသနာဝင်ကျမ်းကြီးကို ကြိုးပမ်းအားထုတ် စီရင်ရာ ပဌမဆင်တဲတိုက် ဆရာတော်ဘုရားကြီးတို့၏ အန္ဓယ်အဆက်ကို ပြဆိုရာဖြစ်သော ပဌမဆင်တဲသာသနာဝင် ဤတွင် လက်စသတ်လိုက်ပါပြီ။

သုဇနာနံ ပသာဒါယ၊ သံဝေဂတ္ထာယ မေ ကတော။
ဆင်တဲသာသနဝံသောယံ၊ သမတ္တော သာဓုဝဏ္ဏိတော။

# အသောကာရာမ သာသနာဝင်

အသောကာရာမ ကျောင်းတိုက်ကြီးသည် ပညာရှင် ရဟန်းတော်ပေါင်း များမြောက်စွာတို့၏ ပေါ်ထွန်းရာ ဘူမိနက်သန် အောင်မြေမှန်သည့် ကျောင်းတိုက်ကြီး ဖြစ်လေသည်။ သာသနာပိုင် ဆရာတော်ကြီး ၃-ပါးတို့ ယာပိုထ် လေးလီ တလှည့်စီဖြင့် မျှညီရှင်ပြုး သီတင်းသုံးတော်မူပြီး သာသနာရေးကိစ္စ အဝဝကို ဆောင်ရွက်ရာ ဌာနမှန်လည်း ဖြစ်လေသည်။

## အသောကာရာမ ကျောင်းတိုက်ကြီး

အသောကာရာမတိုက်ကြီးကို မန္တလေးမြို့ တောင်ပြင် မဟာမြတ်မုနိ ရုပ်ရှင်တော်မြတ်ကြီး ကိန်းဝပ်တော်မူရာ ဘုရားကျောင်းတော်ကြီးမှ တောင်ဘက်တွင် တည်ရှိလေသည်။ လွန်စွာမြင့်မားလှသော တံဘိုင်း ၂-ထပ် ဝန်းရံလျက် လွန်စွာကြီးကျယ်သော ကျောင်းတိုက်ကြီးအဖြစ် သာသနာသမိုင်းတွင် ထင်ရှားလှသည်။ ယခုလက်ရှိ အခြေအနေမှာ ကျောင်းပေါင်း ၅၀-ကျော် ၆၀-မျှရှိပြီး ကျောင်းထိုင်ဆရာတော် ၃၀-မျှ ဦးစီးအုပ်ချုပ်ကာ သံဃာတော် ၂၅၀-လောက် သီတင်းသုံးတော်မူလျက် ရှိလေသည်။ ဒုတိယကမ္ဘာစစ်အပြီး သံဃာတော် ၄၀၀-လောက်အထိ တိုးတက်များပြားခဲ့ဘူးသည်။

## သံဝေဂရစရာ

သံဃာတော်ပေါင်း ၂၀၀၀-ခန့် ချမ်းသာစွာ စည်းဝေးနိုင်၊ သာသနာ့ကိစ္စ ပြုလုပ်နိုင်သော အလွန်တရာ ကျယ်ပန်းလှသည့် ဆင်တက်သော်ပင် မကျိုးမပျက် ခိုင်ခံ့သည်ဟု အဆိုရှိသည့် ကျောင်းတော်ကြီးမှာ မီးဒဏ်ကို ခံခဲ့ရပြီး ပျက်စီးခဲ့သဖြင့် အုတ်ရိုးလှေကားပျက်ကြီးများနှင့် လွင်တီးခေါင်မြေပြင်သာ တွေ့ရတော့ရာ သံဝေဂဖြစ်စရာ ကောင်းလှတော့သည်။

## သမိုင်းအကျဉ်း

၁၁၄၃-ခုနှစ်တွင် မင်းအဖြစ်သို့ ရောက်ဖော်မူ၍ သက္ကရာဇ် ၁၁၄၄-ခုနှစ်တွင် မြို့တော်သစ်၊ နန်းတော်သစ်တို့ကို တည်ထောင်၍ စံတော်မူသော အမရပူရ အောင်မြေလောက စေတီတော်ဒါယကာ ဘိုးတော် (ဗဒုံ) မင်းတရားသည် တံတိုင်း မီးဘား နှစ်ထပ်အတွင်း အပြင်မုခ်ကြီး ရှစ်မျက်နှာ ရှိ၍ ကျယ်ဝန်းလှသော အသောကာရာမ ကျောင်းတိုက်ကြီးကို အလယ်၌ ကြီးကျယ်ခမ်းနားလှသည့် ရတနာဘုံကျော် အမည်သမိုက်သည့် ကျောင်းတော်ကြီးနှင့်တကွ "ဉာဏာဘိဝံသဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့ တံဆိပ်တော်ရ မောင်ထောင်သာသနာပိုင် ဆရာတော်အား တင်လှူတော်မူလေသည်။

## ခမ်းနားလှသော ရတနာဘုံကျော် ကျောင်းတော်ကြီး

ဖော်ပြပါ မောင်းထောင်သာသနာပိုင် ဆရာတော်အား တင်လှူသည့် ရတနာဘုံကျော် ကျောင်းတော်ကြီးမှာ အလွန်တရာမှ ခမ်းနားကြီးကျယ် ဆန်းပြားလှကြောင်း ရာဇဝင်ဆရာတို့ မှတ်တမ်းတင်ခဲ့ကြသည်။ ဤကျောင်းသည် ကုန်းဘောင် အမရပူရခေတ် ဂေဟာနိမ္မာနအဘတ်၏ မှတ်တိုင်သဖွယ်လည်း ဖြစ်ပါသဖြင့် ဤသာသနာဝင်၌ ဖော်ပြအပ်သည်။

ကျောင်းတော်ကြီး တိုင်စဉ်အတွင်းဝင်သည်မှာ တောင်မြောက်ရှေ့နောက် တိုင်စဉ်အကုန် မြောင်းအကျယ် ၅-တောင်၊ အနက် ၇-တောင်ဟူး၍ သစ်ကြီးကို ထု ၁-တောင် ၄-သစ်၊ ပြက် ၁-တောင် ၄-သစ် ပြုပြီး မြောင်းဖွဲ့တိုင်းဆက်ကာခင်း၍ မြောင်းဆုံးများတွင် အံချပြီး စဉ်ရှပေါက်အကျယ် ၂-မိုက် ဖောက်ပြီးလျှင် တိုင်စဉ်အတိုင်းတွင် ထုံးအုတ်အင်္ဂတေသာရွတ်နှင့် တွင်းပင်ပြု၍ တိုင်ခြေစရွေးဖောက်နှင့်ချည်း ထုမတ်ပြီးလျှင် တွင်းကို အင်္ဂတေ သွတ်ရသည်။ ကျောင်းတော်ခေါင်ဘုံကွန်းမ ၇-စဉ်စီ၊ ဝဲယာ ကွန်းငယ် ၇-စဉ်စီ၊ ရှေ့နောက် ယွန်းဆက် ကွန်း ၂-စဉ်စီ၊ ယွန်းဆက်ပါ ကွန်း ၁၁-စဉ်၊ သည့်မ ဝဲယာတိုင် ၂-စဉ်စီ၊ သည်ထွေး ဝဲယာတိုင် ၂-စဉ်စီ၊ မြေကြီးမှ အထက်ကြမ်းအထိ သံတောင် ၂၀-အမိုး စမြင်လေးမျက်နှာလှည့်၍ အခန်းစေ့မုဋ်တံခါးနှင့်ချည်းသာ ထားတော်မူသည်။ ရှေ့နောက်အမိုး မုခ်ကြီး ၄-ခု၊ မှန်ကင်း ၈-ဆူ၊ မင်းတက် အရှေ့လှေကား ၁-စဉ်း၊ တောင်ဘက်လှေကား ၂-စဉ်း၊ မြောက်ဘက် လှေကား ၂-စဉ်း၊ အနောက်လှေကား ၁-စဉ်း၊ စုစုပေါင်း အုတ်လှေကား ၆-စဉ်း၊ အလယ်ကွန်းစပ်တွင် ဘောင်မြောက် မာရဘင်ဆီး၍ ဥကင်ရာဇပလ္လင်

ဇေတော်နှင့် မြတ်စွာဘုရား သီတင်းသုံးတော်မူဟန် ရုပ်တုတော် ထားတော်မူသည်။ ဥကင်ဝိယာထီးဖြူတော် ၄-ချက် သွင်းစိုက်ထားသည်။ မာရဘင် အနောက်ကွန်းစင်လယ်တွင် ဝေဇယန်ဘုံ ၇-ဆင့်နှင့် ဂန္ဓကုဋီတိုက် ထားတော်မူသည်။

အမိုး ခဲမဖြူအုတ်ကြွပ် အမွှမ်းခြင်ပိဘ် အတွင်းပြင် ရွှေပိန်းအထက် လည်နှစ်ဆင့်မှစ၍ အတွင်းမာရဘင်အရှေ့ဘက်၊ အနောက်ဘက် ရွှေပိန်းထည့်တော်မူသည်။ကျောင်းတော်စမြင်ခန်း ၇၆-ခန်း၊ မုခ်တံခါးတိုင်း ပိတ်ထားသော်လည်း မှောင်မိုက်ခြင်း အလျှင်းမရှိပေ။ တောင်မြောက် အရှေ့ အနောက် အကာမှန်အိမ်တိုင်စဉ် အမိုးရနယ် မျက်နှာကြက်များ ရွှေရောင်အချင်းချင်၊ ကူးလူးဆက်ဆံကာ အရောင်တလက်လက် ပြောင်ထွက်ထွန်းလင်းလေသည်။

ကျောင်းတော်အရှေ့ အတွင်းမုခ်တံခါးတောင်ဘက်တွင် ရွှေပြာသာဒ်တော်ကြီး တဆောင်၊ အရှေ့မြောက်ထောင့်တွင် ရေကန်ကြီး တကန်၊ ကျောင်းတော်မြောက်အပြင် မုခ်တံခါးကြီးအတွင်း၊ အနောက်ဘက်တွင် ဆွမ်းစားကျောင်း ကွန်းငါးစင်နှင့် လေးထပ်ဆောင်း၍ ရွှေပိန်းထည့်တော်မူသည်။ ကျောင်းတော်ဆောင်မ သက်သက် တိုင်ပေါင်း ၂၂၀-ရှိ၍ စုစုပေါင်း ၄၄၂-တိုင် ရှိလေသည်။ ဤသို့ဖြင့် အသောကာရာမတိုက်၌ ရှိခဲ့ဘူးသော ရတနာဘုံကျော် ကျောင်းတော်ကြီး ခမ်းနားကြီးကျယ်ပုံကို စာရှုသူတို့ ရိပ်မိလောက်ပေပြီ။

ဧဝံ အာသောကအာရာမေ၊ ဝိဟာရော ရုစိရော မဟာ။
ပဿန္တာနံ အတိတ္တော စ၊ ဘူပတိနာဘိနိမ္မိတော။

## ပဌမ မောင်းထောင်သာသနာပိုင် ဆရာတော်

ဖော်ပြပါ ကျောင်းတိုက်ကြီး၌ မောင်းထောင်သာသနာပိုင် ဆရာတော်သည် ကြာမြင့်စွာ သီတင်းသုံးရာ ဓူရနှစ်ပါး ပွားသစ်ခဲ့ဘူးသည့် သာသနာပိုင်ကိစ္စ အဝဝကိုလည်း ဆောင်ရွက်တော်မူခဲ့သည်။

ကုန်းဘောင်ခေတ်လယ်တွင် ထူးခြားစွာ ပေါ်ပေါက်လာခဲ့သော ပါဠိသက္ကတ မြန်မာဘာသာ စသည်တို့၌ အပိတ်အပင်မရှိ ထူးချွန်စွာ တတ်မြောက်တော်မူသော ပညာရှင် မောင်းထောင်သာသနာပိုင် ဆရာတော်၏ဖြစ်စဉ်ကို ဤ၌ ဖော်ပြအပ်ပါသည်။

ပဌမမောင်းထောင်ဆရာတော်သည် ရတနာသိင်္ဃ ကုန်းဘောင်မြို့နန်းတည် အလောင်းမင်းတရားကြီး လက်ထက်တွင် မုံရွာခရိုင် ဘုတလင်မြို့နယ် မောင်း

ထောင်ရွာတွင် ကောဇာသက္ကရာဇ် ၁၁၁၅-ခုနှစ်၊ အဘ စစ်ဗိုလ်ကြီး ဦးစိုး အမိ ဒေါ်ခွေ တို့မှ ဖွားမြင်တော်မူခဲ့သည်။ မောင်မြတ်နေဟု မိဘတို့က မှည့်ခေါ်ကြသည်။ အသက် ၁၀-နှစ်သားတွင် ကျောင်းနေပညာ သင်ကြားခဲ့ပြီး ၁၃-နှစ်သားအရွယ်တွင် သာမဏေဝတ်ခဲ့သည်။ သာမဏေဘွဲ့တော်ကို ရှင်ဉာဏ ဟု ဥပဇ္ဈာယ်ဆရာတော်က မှည့်ခေါ်သတ်မှတ်တော်မူသည်။

သာမဏေ ၇-ဝါရပြီးနောက် သက်တော် ၂၀ စေ့သဖြင့် ရဟန်းဘဝ ဒုလ္လဘကို ရယူတော်မူခဲ့သည်။ အသီးအသီးသော ဆရာတော်များထံ ချဉ်းကပ်၍ ဗျာကရဏ်းကျမ်းများနှင့်တကွ ပိဋကတ်ကို သင်ယူခဲ့ရာ ရဟန်း ၃-ဝါအတွင်းမှာပင် စာပေကျန်းဂန်တို့၌ လွန်စွာကျွမ်းကျင်တတ်မြောက် အရအမိ များလှသည့် ပါရဂူမြောက် တစ်ခေါ်လောက်သော ပညာရှိအဖြစ်သို့ ရောက်ရှိတော်မူလေသည်။

### ၃-ဝါရ ဂဏဝါစက စာချဆရာတော်

ရဟန်း ၃-ဝါရပြီးနောက် မိမိဇာတိချက်ကြွေ မွေးရပ်မြေဖြစ်သော မောင်းထောင်ရွာရွှေ မင်္ဂလာအရံ၌ စာသင်သားများစွာတို့အား စာပေပို့ချ၍ သာသနာတော် စည်ပင်ရာစည်ပင်ကြောင်း ကောင်းမြတ်သောအလုပ်ဖြင့် ပျော်မွေ့တော်မူလေသည်။

### ရတနာပူရ ရွှေမြို့တော်သို့

ဘိုးတော်မင်းတရားသည် သက္ကရာဇ် ၁၁၄၃-ခုနှစ်၊ တပို့တွဲလဆုတ် ၁၅ ရက်နေ့တွင် ရွှေထီးရွှေနန်း သိမ်းမြန်းတော်မူ၍ တန်ခူးလဆန်း ၂-ရက်နေ့တွင် လူဆရာ ဦးညို၊ ဦးပြစ်တို့ ပြောလာသော စာပေကျမ်းဂန် တတ်မြောက်ကျွမ်းကျင်ရမိလှသည်ဟု ကျော်စောထင်ရှားသော မောင်းထောင် ပဉ္စင်းငယ် ဘယ်မှာ သီတင်းသုံးသနည်းဟု မှူးတော်မတ်တော်တို့အား မေးတော်မူသဖြင့် မောင်းထောင်မှာပင် ရှိနေကြောင်း လျှောက်တင်ကြသည်တွင် ယခုပင် အလျင်အမြန် ရောက်အောင် ပင့်ခေါ်စေဟု အမိန့်တော်ပြန်၍ တောင်ဘက်တိုက်ဝန် မင်းကျော်ရွှေတောင်ကို ပင့်စေတော်မူ၏။ ရောက်လာခဲ့သည်ဟူ၍လည်း အတွင်းလွှတ်တော်က အကြိမ်ကြိမ်ဆင့်ရ၏။ ထိုသက္ကရာဇ် တန်ခူးလဆုတ် ၈-ရက်နေ့တွင် စာသင်သားရဟန်းတော် ၈၅-ပါးနှင့် ရတနာပူရ အဝရွှေမြို့တော်သို့ ရောက်၍ မိုးထိကျောင်း အနောက်မြောက်တွင် စာသင်တိုက်တည် ယာယီကျောင်း၌ တည်းခိုနေထိုင်ရသည်။

ထိုအခါ ရဟန်းဝါ ၆–ဝါကျော် ၇–ဝါ အဝင်ရှိလေပြီ။ ထိုနှစ် ဝါဆိုလဆန်း ၈–ရက်နေ့တွင် စာသင်ကျောင်းကို မူးတော် မတ်တော်တို့နှင့်တကွ အိမ်ရှေ့မင်းထွက်၍ ရွှေကရားနှင့် ရေစက်သွန်းချ၍ ငြီးလှူတော်မူသည်။ "ဉာဏာဘိသာသနဓဇမဟာဓမ္မရာဇဂုရု" တံဆိပ်နားမ်တော်ကိုလည်း ဆက်ကပ်လှူဒါန်းတော်မူသည်။ ပိဋကတ်ကိုလည်း သုတ်သင်စောင်မ ရလေသည်။ ရာဇာဘိသေကကျမ်းကိုလည်း ပုဏ္ဏားများနှင့် ပြန်ဆိုရလေသည်။ မင်းတရားကြီးမှာ ဘိသိက်တော် မခံရသေးသည်ဖြစ်၍ ပိဋကတ်တော်များကို မရေးသားစေပဲ ဆိုင်းငံ့ထားလေသည်။

## ဘိုးတော်မင်းတရား မြို့နန်းသစ်တည် အဘိက်သိက်ခံခြင်း

သက္ကရာဇ် ၁၁၄၄–ခုနှစ် တပို့တွဲလဆန်း ၁၂–ရက် အင်္ဂါနေ့ ဥတ္တရဖလဂုဏီနက္ခတ် မွန်းတည့်ချိန်တွင် ဘိုးတော်မင်းတရားသည် ရွှေဘုံရွှေနန်းနှင့်တကွ အမရပူရရာဇဓာနီ မင်းနေပြည်ကြီးကို တည်ထောင်စံနေတော်မူ၍ ၁၁၄၅–ခုနှစ် ရာသီကဆုန် နယုန် ဝေါဟာ ဝိသာခါနက္ခတ်အကြိုက်တွင် ရာဇာဘိသိက်ခံတော်မူ၍ တဖန် ၁၁၄၆–ခုနှစ် ရာသီကဆုန် နယုန် ဝေါဟာ ဝိသာခါနက္ခတ်အကြိုက်တွင်လည်း ဝေဿန္တရာ ဒေဝါနံပိယတိဿဟူသော မွေရာဇ်တို့၏ ထုံးကိုနှလုံးမူ၍ နှစ်ကြိမ်မြောက် ခရုသင်း ၃–လုံးဖြင့် အမျိုးသုံးပါးတို့ သွန်းသောမုဒ္ဓါဘိသိက်ကို တဖန်ခံတော်မူပြန်သည်။

## ယာယီကျောင်း၌ ကိုးကွယ်ခြင်း

မင်းတရားသည် ရွှေနန်းတက်တော်မူစကပင် မောင်းထောင်ဆရာတော်ကလေးကို အမရပူရမြို့သို့ပင့်၍ ဓေတ္တာ တွင်းသင်းလေးထပ်ကျောင်းတွင် တင်ထား သီတင်းသုံးစေပြီးနောက် အမရပူရရွှေမြို့တော်အတွင်း ဆင်ကြိုးရွှေဂူသုဓမ္မာဇရပ်ပိဋကတ်တိုက်အနီးတွင် ယာယီကျောင်းဆောက်၍ ကိုးကွယ်တော်မူသည်။ ပိဋကတ်တော်ကို အပ်၍ စာရေး ၁၀၈–ယောက် ပေလုပ်မျဉ်းကိုင် ၅၄–ယောက်၊ စာကြည့်စာတည်း ဆရာတော် ၅၀၊ နောက်ပါ သံဃာတော် ၅၀–နှင့် ရွှေရေး မင်ရေး ကညစ်ရေး အက္ခရာ ၃–ပါးဖြင့် ရေးသားတည်းဖြတ်ရာဘွင် စောင်မစီရင်တော်မူရလေသည်။

ထေရံ ဉာဏေန သံယုတ္တံ၊ အာနေတွာ ပုရမုတ္တမံ။
အပ္ပယိ တိပေဋကမ္ပိ၊ အဋ္ဌာဓိကသတံ ဇနံ။

စတုပဏ္ဏာသကေ စာပိ၊ ဇနေ လေခါယ ကာရကေ။
ပညာသသောဓကေ စာပိ၊ သမဏေ ပရိဝါရကေ။
ပညာသကေ စ တထေဝ၊ အဒါ ထေရေ ကတာဒရော။

## သာသနာပြုပုဂ္ဂိုလ် ၄-ပါး

ဘိုးတော်မင်းတရားကြီးလက်ထက်တွင် ပဌမသာသနာပိုင်ဆရာတော်ကြီး ၄-ပါး သာသနာပြုလုပ် အုပ်ချုပ်သည်မှာ ၁၁၄၆—ခုနှစ်အထိ ဖြစ်လေသည်။

ယင်း ၄-ပါးတို့မှာ—

(၁) မင်းအိုဆရာတော်"ဂုဏာဘိလင်္ကာရသဒ္ဓမ္မမဟာဓမ္မရာဇာဓိရာဇဂုရု"

(၂) ဆုံသားဆရာတော်ကြီး "တိပိဋကာလင်္ကာရသဒ္ဓမ္မသာမိမဟာဓမ္မရာဇာဓိရာဇဂုရု"

(၃) မန်လည်ဆရာတော်ကြီး"ဂုဏမုနိန္ဒာဓိပတိမဟာဓမ္မရာဇာဓိရာဇဂုရု"

(၄) မင်းရွာဆရာတော်ကြီး"ဉာဏဓမ္မဒီပအနန္တဓဇမဟာဓမ္မရာဇာဓိရာဇဂုရု"တို့ ဖြစ်လေသည်။

### မောင်းထောင်ဆရာတော် အရှင်ဉာဏာဘိဝံသ သာသနာပိုင်ဆရာတော်များတွင် ပါဝင်ခြင်း

သက္ကရာဇ် ၁၁၄၆-ခုနှစ် တန်ဆောင်မုန်းလဆန်း ၃-ရက်နေ့ ဆုံထား ဆရာတော်ကြီး ပျံလွန်တော်မူသဖြင့် ဆရာတော်ကြီး ၃-ပါးသာ ကျန်တော့သည်။ ဆုံထားဆရာတော် ပျံလွန်တော်မမူမီကလေးတွင်ပင် မင်းတရားသည်—

၁။ မင်းအိုဆရာတော်ဘုရားကြီး"ဂုဏာဘိလင်္ကာရသဒ္ဓမ္မမဟာဓမ္မရာဇာဓိရာဇဂုရု"

၂။ မန်လည်ဆရာတော်ဘုရားကြီး "ဂုဏာမုနိန္ဒာဓိပတိ မဟာဓမ္မရာဇာဓိရာဇဂုရု"

၃။ ဆုံသားဆရာတော်ဘုရားကြီး "တိပိဋကာလင်္ကာရသဒ္ဓမ္မသာမိမဟာဓမ္မရာဇာဓိရာဇဂုရု"

၄။ မင်းရွာဆရာတော်ဘုရားကြီး "ဉာဏဓမ္မဒီပအနန္တဓဇမဟာဓမ္မရာဇာဓိ ရာဇဂုရု"

၅။ ရွှေတောင်ဆရာတော်"ကဝိန္ဒာဘိသဒ္ဓမ္မပဝရမဟာဓမ္မရာဇဂုရု"

၆။ ဗားကရာဆရာတော်"တိပိဋကာလင်္ကာရသိရိဓဇမဟာဓမ္မရာဇဂုရု"

၇။ ကဘိုးဆရာတော်"စက္ကိန္ဒာဘိဓဇမဟာဓမ္မရာဇဂုရု"

၈။ မဲထီးဆရာတော်"ပရမသီရိဝံသဓဇမဟာဓမ္မရာဇဂုရု"

၉။ မိုးတောဆရာတော်"ဇနိန္ဒာဘိပဝရမဟာဓမ္မရာဇဂုရု"

၁၀။ စလင်းဆရာတော်"မဟာဉာဏာဘိဓဇမဟာဓမ္မရာဇဂုရု"

၁၁။ ဆင်တဲဆရာတော်"ဉာဏာဘိလင်္ကာရာဘိဓဇမဟာဓမ္မရာဇဂုရု"

၁၂။ မောင်းထောင်ဆရာတော်"ဉာဏာဘိသာသနဓဇမဟာဓမ္မရာဇဂုရု"

ဟူသော ဆရာတော်တကျိပ်နှစ်ပါးကို သာသနာပြု အပ်တော်မူသည်။

## မောင်းထောင်ဆရာတော် တပါးတည်း သာသနာပိုင်ဖြစ်ပြီ

သက္ကရာဇ် ၁၁၅၀–ပြည့်နှစ် အသောကာရာမတိုက် ရတနာဘုံကျော်ကျောင်းတော်ကြီးကို မတင်လှူမီ တနှစ်အလိုတွင် "ဉာဏာဘိဝံသဓမ္မသေနာပတိမဟာဓမ္မရာဇာဓိရာဇဂုရု"ဟူသော တံဆိပ်တော်ဆက်ကပ်ပြီး သာသနာပြု သာသနာပိုင် ခန့်အပ်တော်မူခြင်းကို ခံတော်မူရသည်။ ယခင်က ဆရာတော် ၁၂–ပါးတို့ ပြုစီရင်သောအရာသည် ပုထုဇဉ်ဂတိအားဖြင့် တပါးပါးသို့ရောက်၍ စီရင်ကြသဖြင့် အလိုရှိတိုင်း မပြီးမပြေဟု မင်းတရားက မှတ်တော်မူ၍ အသီးအခြား သာသနပိုင် တပါးတည်း အအပ်ခံတော်မူရခြင်း ဖြစ်လေသည်။ မောင်းထောင် သာသနာပိုင်ဖြစ်သောအခါ သိက္ခာတော် ၁၅-ဝ မျှသာ ရတော်မူသေးသည်။

## သာသနာပိုင်ဆရာတော် အဓိဋ္ဌာန်

သာသနာပိုင် အအပ်ခံရသောနေ့၌ သံဃာ့ပရိသတ်အလယ်တွင် ကျောင်းဦး ဘုရားရှေ့တော်မှောက်၌ သာသနာရေး သာသနာ့မှုနှင့် စပ်သမျှကို ဆန္ဒာ၊ ဒေါသာ၊ ဘယာ၊ မောဟာအဂတိတရားသို့ မလားမရောက်ပါပဲ တရားရှိရာ ရှုက်ဆောင်မည်။ အသက်ကိုသော်လည်း စွန့်မည်။ တရားတော်ကို မစွန့်ပြီ။ သာသနာ့ဒါယကာတရားမင်းမြတ်က အမိန့်တော်အထူးပြန်သော်လည်း မှန်ရာကိုသာ လိုက်မည်။ တရားကိုစွန့်၍ မလိုက်ပြီ။ မနာခံသော် ခပ်မဆိတ်သာ နေမည်ဟု အဓိဋ္ဌာန်ပြုတော်မူသည်။ ဤသည်တို့ကို ထောက်၍ မောင်းထောင် ဆရာတော်၏ စိတ်ထားဖြောင့်မတ်ပုံ မြင့်မြတ်ပုံ သတ္တိဗျတ္တိရှိပုံတို့ကို သိနိုင်လေသည်။

ဧဝံ မောင်းထောင်ဝိဘာဝီ စ၊ ဥဇုဇာတိ ဝိစက္ခဏော။
ဝိသာရဒေါ သုဗျတ္တော စ၊ နာထသာသနဓေတလေ။

## ကျောင်းတိုက်နေရာ လျှောက်ထားစေတော်မူခြင်း

ဘိုးတော်မင်းတရားသည် သက္ကရာဇ် ၁၁၄၅-ခုနှစ်၊ တန်ဆောင်မုန်းလပြည့်ကျော် ၁-ရက်နေ့တွင် ''မင်းကျော်ရွှေတောင်''ကို ဆရာတော် အရှင်ဉာဏာဘိဝံသထံ—

''ဆရာတော်မှာ ပိဋကတ်တိုက်၌ စောင်မ၍ သီတင်းသုံးနေတော်မူရန်၊ ထာဝရတိုက်ကြီးတာကြီးတည်၍ သီတင်းသုံးနေရန် နှစ်ရပ်ရှိမှ သင့်မည်။ ပိဋကတ်တိုက်မှာ တိုက်ကြီးတာကြီး မတည်လောက် ဖြစ်သည်။ မည်သည့်အရပ်မှာ သီတင်းသုံး နေလိုသော နှလုံးတော် ရှိပါသနည်း ဘုရား''—

ဟူသော စာနှင့် လျှောက်ထားစေရာ ဆရာတော် အရှင်ဉာဏာဘိဝံသက—

''ဒကာတော် ရေခြွေရှင်မင်းတရား၊ ဘုရားမြတ်စွာ သာသနာတော်ကို ပြုစုတော်မူထိုက်သော တရားမင်းမြတ်၏ သာသနာတော်ကို ပြုစုတော်မူခြင်း၌ အသင်းအပင်းဖြစ်ထိုက်သော ရှေးကံရှိသည်နှင့် ပိဋကတ်ကိုစွကို စောင်မ၍ ရွှေမှိုဘော်ဘွဲ့ သီတင်းသုံး နေရသည်မှာ ''ယာတာနုယာယီစ ဘဝါဟိ''အစရှိသည်ဖြင့် ဝိဓုရဇာတ်လာ သာဓုနရဓမ္မလေးပါးကို နှလုံးထား၍ တရားမင်းမြတ်၏ သာသနာတော်အားများသော ကျေးဇူးတော်ကို ဆောက်သဖြင့် အထူးမေတ္တာစာ မသွင်းဖြစ်ပါသည်။

ယခုအခါမှာ အမိန့်တော်ရှိတိုင်း ရွှေမှိုတော်မှာ နေရသည်ဖြစ်လျှင် အဓွန့်ရှည်စွာ သာသနာဘော်ဘည်ရာ ရာဇဓာနီဖြစ်လာမည့် ရွှေပြည်တော်ဖြစ်၍ အင်္ဂါငါးပါးနှင့်ပြည့်စုံသော ကျောင်းတိုက် ကန်တိုက်ဖြစ်လျှင် နောက်နောက်သံဃာတို့ အရှည်သီတင်းသုံးရာ ဖြစ်မည်ကို အကြောင်းပြု၍ ရွှေမှိုတော်မှ ကုပ်လုပ်သေးတာ ပြန်ငါးရာခန့်ကွာသောအရပ်ကို စိစစ်၍ နေရသော် သင့်ပါမည် သာသနဒါယကာ တရားမင်းမြတ်''—

ဟု မိန့်တော်မူလိုက်လေသည်[၁]။

ဘိုးတော်မင်းတရားသည် မောင်းထောင်ဆရာတော် အရှင်ဉာဏာဘိဝံသအား တပါးတည်း သာသနာပြုအပ်၊ သာသနာပိုင်ခန့်၍ ကျောင်းတိုက်

၁။ အဋ္ဌမေးတော်ဖြေ၊ ၁၅-ကြည့်။

သီးခြားကိုးကွယ်လိုသည့်ဆန္ဒမှာ အမရပူရမြို့တော် တည်ပြီးစကတည်းက ဖြစ်လေသည်။ သို့ဖြစ်၍ ဆရာတော်သဘောကျသည့် အမရပူရမြို့တော်နှင့် တာတထောင်ကွာလှမ်း၍ ဆိတ်ငြိမ်သောနေရာ၌ မဟာရံတံတိုင်းကြီး ၂-ထပ်ဖြင့် ခမ်းနားကျယ်ဝန်းသည့် ကျောင်းတိုက်ကြီး၊ ခမ်းနားလှသည့် ကျောင်းတော်ကြီး၊ အရံကျောင်းများကို ဆောက်လုပ်ပြီး အတွင်းဝန်တို့ကို ဆရာတော်အား ကျောင်းတော်ကြီး ကမ္ပည်းနာမည်ပေးရန် အတွင်းဝန်တို့သည် ဆရာတော်ထံ မဟာဒါန်စာရေးတို့ကို စေလွှတ်၍ အောက်ပါအတိုင်း လျှောက်ထားစေကြကုန်၏—

ကျောင်းတော်ကြီး ကမ္ပည်းတင်ရန်ကို သာသနာပိုင်ဆရာတော်မှာ မည်သို့တပ်သင့်မည် အတွင်းဝန်တို့က လျှောက်စေ ဘုရားအမိန့်တော်မြတ်ကို ဦးထိပ်ထက် ဆင်ရွက်ရပါသည်။ ကျောင်းတော်ကြီး ကမ္ပည်းတပ်ရန်ကို မည်သို့တပ်သင့်မည်၊ မေတ္တာစာ သွင်းပါမည့်အကြောင်းကို ရှိခိုး နားတော်လျှောက်ပါသည်ဘုရား။

ဆရာတော်သည် အထက်ဖော်ပြပါစာကို ၁၁၅၁-ခုနှစ်၊ နတ်တော်လပြည့်ကျော် ၁၀-ရက်နေ့ မဟာဒါန်စာရေးတို့ လျှောက်လာသည်တွင်—

ကုသိုလ်တော်ကျောင်းတော်ကြီးကို တပ်မှတ်တော်မူမည်မှာ အမည်သညာရှိမှ ခေါ်ဝေါ်စသားသည်ဖြစ်သောကြောင့် မချွတ်လျှင် အမည်သညာ သတ်မှတ်ရာသည်ဟူ၍ ဋီကာကျမ်းဂန်ဆိုသည်နှင့် သင့်တင့်ညီညွတ်သည်။ အမည်သညာမှာလည်း ဇေတဝန်၊ ပုဗ္ဗာရုံကျောင်းများကဲ့သို့ တိုက်တာအရာမ်နှင့်ကျောင်း မထူးမခြား စွဲမှတ်သည်လည်း ရှိသည်။ မဟာမေဃဝန်တိုက်၊ မဟာဝိဟာရကျောင်း၊ မဟာဝန် (မဟာဝုန်)တိုက်၊ ကုဋာဂါရကျောင်းများကဲ့သို့ တိုက်တာအရာမ်နှင့်ကျောင်း ထူးခြားစွဲမှတ်သည်လည်း ရှိသည်။ တိုက်တော်ကျောင်းတော်မှာ တိုက်အရာမ်နှင့်ကျောင်း မထူးခြား။ နာမံကမ္ပည်းတပ်မှတ်တော်မူလိုသော် အသောကာရုံဟူ၍ တပ်မှတ်တော်မူသင့်မည်။ တိုက်အရာမ်နှင့်ကျောင်း ထူးခြား၍တပ်တော်မူလိုသော် တံတိုင်းနှစ်ထပ် ခြံရံသည့်အဆုမ်ကို အသောကာရာမ၊ ကျောင်းတော်ကို ရတနာဘုံကျော် တပ်မှတ်တော်မူသင့်သည်။ ယင်းသည့် နာမံကမ္ပည်းများမှာလည်း စိုးရိမ်ခြင်းကင်းရာ ကင်းကြောင်းဖြစ်သော အရာမ်အာဝါသဟူသော အနက်ကြောင့် အသောကာရုံ=အသောကာရာမဆိုသည်။ ကျော်စောအံ့ဩဖွယ် ရတနာအတိပြီးသော ဘုံဗိမာန်ဟူသော အနက်ကြောင့် ရတနာဘုံကျော် ဆိုသည်။ လောကီအလိုထောက်ချင့်သော် ဝဂ္ဂစက်။

မ႖တြိကာစက် အစားအကြွင်းများလည်း သင့်သည်။ သဗ္ဗသောဘဒြစက်၊ သတပဒိစံစက်၊ အံသစက်နက္ခတ်အစီးအနင်းများလည်း လွတ်သည်။ ဆန်းဂိုဏ်းလည်း ကောင်းမြတ်သည်။ ကမ္ပည်းရေးသားမည်မှာ တိုက်အရာမ်နှင့်ကျောင်း ထူးခြားတပ်မှတ်တော်မူလိုလျှင် အသောကာရာမတိုက်၊ ရတနာဘုံကျော် ကျောင်းတော်ကြီးဟု ရေးသားသင့်သည်''—

ဟု လျှောက်လာသည့် မဟာဒါန်စာရေးတို့ဘွင် အမိန့်ရှိတော်မူလိုက်လေသည်၊

မင်းတရားကြီးသည် ဆရာတော်အမိန့်အတိုင်း တိုက်တော်ကို အသောကာရာမ၊ ကျောင်းတော်ကို မဟာဘုံးကျော်ဟု အမည်ကမ္ပည်း ထိုးတပ်စေတော်မူလေသည်။

### အသောကာရာမတိုက် ရတနာဘုံကျော်ကျောင်းကို ခံယူတော်မူခြင်း

သာသနာပိုင် ဖြစ်ပြီးနောက် သက္ကရာဇ် ၁၁၅၁-ခုနှစ် တပေါင်းလဆန်း ၁၄-ရက် စနေနေ့တွင် အမရပူရမြို့တော်မှ မြောက် တာ ၁-ဆောင်က မဟာမြတ်မုနိဘုရားကြီး တောင်ဘက်၊ယခု ဒက္ခိဏာရာမ ဘုရားကြီးတိုက် အနောက်ဘက်ရှိ ဆရာတော်အမိန့်အတိုင်း အသောကာရာမ အမည်သတ်မှတ် မှည့်ခေါ်အပ်သော ကျောင်းတိုက်ကြီးနှင့် စမြင်မော်ယွန်းချီးနှင့်တကွ ဘုံငါးဆင့်ရှိသော မှန်ကင်းရှစ်ဆူ စိန်ဖူး စိန်ပွင့်တို့ဖြင့် တင့်တယ်လှစွာသော ကျောင်းဦးပြာသာဒ် မဏ္ဍပါသာဒဖြင့် တန်ဆာဆင်အပ်သော ရဘနာဘုံကျော်ကျောင်းတော်ကြီးကို မင်းဧကရာဇ်ကိုယ်တိုင်—

ဣမံ ဘန္တေ သပါသာဒံ၊ သုဝိသာလံ ဝိစိတ္တိကံ။
ဒေဝတာနံ ဝိမာနံဝ၊ ရုစိရံ သုမနောဟရံ။
ဝိဟာရံ အနုကမ္ပာယ၊ ထေရော မေ သမ္ပဋိစ္ဆတု။

အရှင်မြတ်ဘုရား၊ အလွန်တရာ ဆန်းကြယ်လှစွာ ဖန်ရောင်၊ မှန်ရောင်၊ ရွှေရောင်တို့ဖြင့် တပြောင်ပြောင်နှင့် ဘောက်လောင်မခန်းခြူးပန်းခြူးနွယ် အသွယ်သွယ်တို့ဖြင့် ဆန်းကြယ်လည်း ဆန်းကြယ်လှစွာသော နတ်တို့၏ စံနန်းဗိမာန်သဖွယ် တင့်တယ်လှပ စိတ်နှလုံးကိုလည်း ယူကျုံးဆွဲဆောင်နိုင်သော ဤကျောင်းတိုက်ကြီးနှင့် ကျောင်းတော်ကြီးကို မထေရ်မြတ်သည် တပည့်တော် ဧကရာဇ်မင်းမြတ်အား သနားငဲ့ညှာတော်မူပါသဖြင့် သံဃာ့ကိုယ်စား လက်ခံသာယာတော်မူပါဘုရား—

ဟု မြွက်ဆို၍ ရေစက်သွန်းချ လှူဒါန်းခြင်းကို ခံတော်မူရလေသည်။

ထိုသို့ အလှူခံရကြောင်းကို—

မဟာမုနိသမညာယာ၊ သမ္ဗုဒ္ဓသမ္ဗုဒ္ဓါ ကတာ။
ပဋိမာ တံ ပါသာဒမှာ၊ ဥဇု အာသန္နဒက္ခိဏော။

အသောကာရာမအာရာမေ၊ ပဥ္စဘူမိမဟာလယေ။
ရတနဘုမ္မိကိတ္တိဝှယေ၊ ဓမ္မပါသာဒလက်တေ—

ဟူသော ၂-ဂါထာဖြင့် သီလက္ခန်ဋီကာသစ် (သီလက္ခဝဂ္ဂအဘိနဝဋီကာ) နိဂုံး၌ ဖော်ပြတော်မူခဲ့သည်။

### ပင့်သံဃာ များစွာတို့အား ပရိက္ခရာရှစ်ပါး စသည်လှူ

ရေမြွေရှင် ဘိုးတော်မင်းတရားသည် ဖော်ပြပါ ကျောင်းလွှတ်သဘင်ပွဲ၌ ပင့်သံဃာ အရည ၀ါသီ၊ ဂါမဝါသီ သံဃာတော် အရှင်မြတ်တို့အား ပရိက္ခရာ ရှစ်ပါးနှင့်တကွ ရဟန်းအသုံးအဆောင် များစွာတို့ကို လှူဒါန်းတော်မူလေသည်။

ယင်း ကျောင်းလွှတ်သဘင်၊ ကျောင်းပူဇော်ပွဲကို အကြောင်းပြု၍ ရက်ပေါင်း ၆၀-တိုင်တိုင်လည်း မှူးတော်၊မတ်တော် သူရဲသူခက် ပြည်သူပြည်သား အပေါင်းတို့အားလည်း အသဒိသဒါန အလှူကြီး ပေးတော်မူ၍ သဘင်ကြီးကြီး ခံတော်မူသည်[၂]။

### ရပ်ဝေးမှ ဂိုဏ်းအုပ် ဂိုဏ်းထောက် သုံးရာကျော် ကြွလာ

မင်းတရားက သာသနာပိုင် ဆရာတော်အား အသောကာရာမတိုက် အရာမ်နှင့်တကွ ရတနာဘုံကျော်ကျောင်းတော်ကြီး တင်လှူကြောင်း ကြား သိတော်မူကြသဖြင့် ရပ်ဝေးမှ ဂိုဏ်းအုပ် ဂိုဏ်းထောက် ဆရာတော် သံဃာ တော်ပေါင်း ၃၀၀-ကျော် ကြွရောက်တော်မူလာကြကုန်၏။

### တံဆိပ်နာမံ လှူဒါန်းရန် မေတ္တာစာ ဆက်သွင်းခြင်း

သာသနာပိုင် မောင်းထောင်ဆရာတော်ဘုရားကြီးသည် ကျောင်းပူဇော်ပွဲ ရက်အတွင်း ကြွရောက်တော်မူလာကြသော သံဃာတော်များအနက် ဘွဲ့တံဆိပ်

---

၁။ သီ၊ ဋီ၊ သစ်၊ ၂။ ၄၃၆။
၂။ ကုန်းဘောင်ဆက်၊ ၁။ ၆၄-ကြည့်။

နှင့် ထိုက်တန်တော်လျော်အောင် ဗျတ္တိဗလ ပြည့်ဝစုံလင်တော်မူကြသော ဆရာတော် သံဃာတော် အရှင်မြတ်တို့အား တံဆိပ်နာမံတော်လှူရန် သက္ကရာဇ် ၁၁၅၁-ခုနှစ် တပေါင်းလဆုတ် ၁၀-ရက်နေ့တွင် ယာယီကျောင်းတော်မှ မဟာဒါနဝန်ကို စေလွှတ်၍ အောက်ပါမေတ္တာစာကို မင်းတရားထံ သွင်းတော်မူသည်—

ဆရာတော် မေတ္တာစာ ဆက်သွင်းအပ်သည် သာသနာ့ဒါယကာ မဟာဓမ္မရာဇ် တရားမင်းမြတ်။

ဘုန်းတော်ကြီးသော တရားမင်းမြတ်သည် သတ္တဝါအပေါင်းတို့ကို သံသရာမှ ကယ်ဆယ်တော်မူလိုသည်ဖြစ်၍ သာသနာတော်မြတ်ကို ပစ္စယ၊ ဓမ္မ ၂-ပါးဖြင့် ချီးမြှင့်တော်မူသောကြောင့် သဒ္ဓါ၊ ဗျတ္တိရှိသည့် ရဟန်းသံဃာတို့ တရားနှင့်အညီ သာသနာတော်ကို စောင့်ထိန်းကြ၍ လွန်စွာ သာသနာတော် စည်ထွန်းသဖြင့် အတိုင်းမသိ ကုသိုလ်တော် ပွားများသည်။ အသောကာရာမတိုက် အရှမ်နှင့်တကွ ရတနာဘုံကျော်ကျောင်းတော်ကြီး လှူဒါန်းတော်မူ၍ သာသနာတော်ကို အတိုင်းထက်အလွန် ချီးမြှင့်တော်မူမည် ကြားသိသောကြောင့် အဝေးကျေးရွာ ဂိုဏ်းသံဃာ သီလဝန် ဂုဏဝန် ပုဂ္ဂိုလ်ထူးတို့လည်း ကျေးဇူးတော်ကို ဆောက်၍ စည်းဝေးလာကြသည်။ ကုသိုလ်ကောင်းမှု မည်သည်ကို မည်သည့်အကြောင်းမဆို စွဲမှတ်ပြုသင့်ကြောင်း သဗ္ဗညုဘုရားလည်း ဌာနန္တရဆိုက်သည့် ရဟန်းတို့ကို ဌာနန္တရ ထားတော်မူကြောင်း သာသနာပြု ရှေးသီဟိုဠ်ကျွန်းမင်းတို့ ရဟန်းသံဃာတို့အား တံဆိပ်နာမံ လှူဒါန်း၍ သာသနာကို ချီးမြှင့်ကြောင်းများကို ကျမ်းဂန်ထုံးစံရှိသည်နှင့်အညီ အဝေးကျေးရွာ သာသနာတော်ကိုအထူးစောင့်မသည့် ပုဂ္ဂိုလ်ထူးများကို တံဆိပ်နာမံ လှူဒါန်းချီးမြှင့်၍ ကုသိုလ်ပါရမီ ပွားများစေသင့်ကြောင်းကို မေတ္တာစာဆက်သွင်းအပ်သည် သာသနာ့ဒါယကာ မဟာဓမ္မရာဇ်တရားမင်းမြတ်[၁]။

ဆရာတော် သံဃာတော် နှစ်ဆယ့်ငါးပါးတို့အား ရာဇဂုရုဘွဲ့တံဆိပ်လှူ

သာသနာပိုင် မောင်းထောင်ဆရာတော်၏ မေတ္တာစာ ဆက်သွင်းချက်အရ မင်းတရားသည် ၁၁၅၁-ခုနှစ် တန့်ခူးလဆန်း ၁၁-ရက်နေ့တွင် အောက်ပါအတိုင်း ဆရာတော် သံဃာတော် ၂၅-ပါးတို့အား "မဟာရာဇဂုရု" ဘွဲ့တံဆိပ်တော်များကို ဆက်ကပ်လှူဒါန်းတော်မူလေသည်—

၁။ အမေးတော်ဖြေ၊ ၃၂၅-၆။

သက်တော် ၇၀၊ သိက္ခာတော် ၅၀-ရှိ ဒုရယ်ခေါင်းဂိုဏ်းအုပ်ဆရာတော် အရှင်စန္ဒိမာအား "စန္ဒသီရိဝံသမဟာရာဇဂုရု"၊

သက်တော် ၇၆၊ သိက္ခာတော် ၅၆-ရှိ အောင်ပန်းဂိုဏ်းအုပ် ဆရာတော် အရှင်ကုလ္လန္ဒဝဇီရာအား "ကုလ္လန္ဒာဘိသဒ္ဓမ္မမဟာရာဇဂုရု"၊

"ဆင်ဖြူကျွန်းဂိုဏ်းအုပ်ဆရာတော် သက်တော် ၆၁ သိက္ခာတော် ၄၁ ဝါရှိ အရှင်ဂုဏဝံသအား "ဂုဏာဘိလင်္ကာရမဟာရာဇဂုရု"၊

သက်တော် ၄၅ သိက္ခာတော် ၂၅-ဝါရှိ ကတိုးဂိုဏ်းအုပ်ဆရာတော် အရှင်ဂုဏဝါအား "ဂုဏာဘိသီရိဓဇမဟာရာဇဂုရု"၊

သက်တော် ၇၃ သိက္ခာတော် ၅၃-ဝါရှိ အရှင်စန္ဒသာရအား "ဉာဏာဘိလင်္ကာရမဟာရာဇဂုရု"၊

သက်တော် ၅၆ သိက္ခာတော် ၃၆-ဝါရှိ ပုဂံဂိုဏ်းအုပ်ဆရာတော် အရှင်လင်္ကာဒီပအား "လင်္ကာဘိဝံသဓဇမဟာရာဇဂုရု"၊

သက်တော် ၅၀ သိက္ခာတော် ၃၀-ရှိ အရှင်ဂုဏသာရအား "ဂုဏသီရိဝံသမဟာရာဇဂုရု"၊

သက်တော် ၅၁ သိက္ခာတော် ၃၂-ဝါရှိ ဝက်စုတ်ဂိုဏ်းအုပ်ဆရာတော် အရှင်မဏိမဥ္ဇူသာအား "မဏိသာရဓမ္မမဟာရာဇဂုရု"၊

သက်တော် ၅၀ သိက္ခာတော် ၃၀-ရှိ သတ္တုတ်ဂိုဏ်းအုပ်ဆရာတော် အရှင်ဝရစိတ္တအား "ဝရသဒ္ဓမ္မဓဇမဟာရာဇဂုရု"၊

သက်တော် ၆၀ သိက္ခာတော် ၄၀-ရှိ နေရင်းဂိုဏ်းအုပ်ဆရာတော် အရှင်ပညာရံသီအား "ပညာဘိသီရိဓဇမဟာရာဇဂုရု"၊

သက်တော် ၆၁ သိက္ခာတော် ၄၁-ဝါရှိ တပယင်းဂိုဏ်းအုပ်ဆရာတော် အရှင်သုမနအား "သုမနာဘိစာရမဟာရာဇဂုရု"၊

သက်တော် ၄၂ သိက္ခာတော် ၂၂-ဝါရှိ မင်းတဲဂိုဏ်းအုပ်ဆရာတော် အရှင်ဝိမလာစာရအား "ဝိမလသဒ္ဓမ္မမဟာရာဇဂုရု"၊

သက်တော် ၆၀ သိက္ခာတော် ၄၀-ရှိ အမြင့်ဂိုဏ်းအုပ်ဆရာတော် အရှင်သာရမဥ္ဇူအား "သာရသဒ္ဓမ္မမဟာရာဇဂုရု"၊

သက်တော် ၆၃ သိက္ခာတော် ၄၀-ရှိ ပဒုံဂိုဏ်းအုပ်ဆရာတော် အရှင်စန္ဒိမာအား "စန္ဒာဘိသီရိဓဇမဟာရာဇဂုရု"၊

သက်တော် ၄၄ သိက္ခာတော် ၂၄-ဝါရှိ ကနီဂိုဏ်းအုပ်ဆရာတော် အရှင်ဥတ္တမသာရအား "ဥတ္တမဝံသဓရမဟာရာဇဂုရု"၊

သက်တော် ၆၁ သိက္ခာတော် ၄၁-ဝါရှိ ရတနာသိဿဝိကျောင်းအုပ်ဆရာတော် အရှင်ဉာဏဝိလာသအား "ဉာဏဝိလာသဓမ္မမဟာရာဇဂုရု"

သက်တော် ၅၆ သိက္ခာတော် ၃၆-ဝါရှိ ကျောက်ဆောက်ဂိုဏ်းအုပ်ဆရာတော် အရှင်သိရိမင်္ဂလအား "သိရိဝံသာလင်္ကာရမဟာရာဇဂုရု"၊

သက်တော် ၅ဝ သိက္ခာတော် ၃ဝ-ရှိ လယ်ကိုင်းဂိုဏ်းအုပ်ဆရာတော် အရှင်ဂုဏဝန္တအား "ဂုဏာဝံသဓဇမဟာရာဇဂုရု"၊

သက်တော် ၆၃ သိက္ခာတော် ၄၃-ဝါရှိ မောက်တက်ဂိုဏ်းအုပ်ဆရာတော် အရှင်ခေမာစာရအား "ခေမာဘိဓမ္မာစာရမဟာရာဇဂုရု"၊

သက်တော် ၄၃ သိက္ခာတော် ၂၃-ဝါရှိ ပုံ့ကျဂိုဏ်းအုပ်ဆရာတော် အရှင်ကလျာဏအား "ကလျာဏဓမ္မမဟာရာဇဂုရု"၊

သက်တော် ၅ဝ သိက္ခာတော် ၃ဝ-ရှိ စလင်းဂိုဏ်းအုပ်ဆရာတော် အရှင်ဝိစိတ္တာလင်္ကာရအား "ဝိစိတ္တာလင်္ကာရမဟာရာဇဂုရု"၊

သက်တော် ၅၆ သိက္ခာတော် ၃၆-ဝါရှိ ကျပင်းဂိုဏ်းအုပ်ဆရာတော် အရှင်ဝရသမ္မောဓိအား "ဝရဝံသဓဇမဟာရာဇဂုရု"၊

သက်တော် ၄၃ သိက္ခာတော် ၂၃-ဝါရှိ ကျအိုးဂိုဏ်းအုပ်ဆရာတော် အရှင်ဓမ္မဝိလာသအား "မေ္မာဘိလင်္ကာရမဟာရာဇဂုရု"၊

သက်တော် ၄၇ သိက္ခာတော် ၂၇-ဝါရှိ လေည်းငေါက်ဂိုဏ်းအုပ်ဆရာတော် အရှင်မုနိန္ဒဃောသအား "မုနိန္ဒလင်္ကာရမဟာရာဇဂုရု"၊

သက်တော် ၄ဝ သိက္ခာတော် ၂ဝ ရှိ ရေစကြိုဂိုဏ်းအုပ်ဆရာတော် အရှင်ဇောတယန္တအား "ဇောတာဘိသာသနမဟာရာဇဂုရု"—

ဘွဲ့တံဆိပ်တော်များကို အသီးသီး လေးမြတ်ကြည်ဖြူ ဆက်ကပ်လှူဒါန်းမူခဲ့လေသည်[၁]။

## တောင်ဆောင်တော်မိဘုရား၏ အောင်မြေဘုံကျော်ကျောင်း

သက္ကရာဇ် ၁၁၅၃-ခုနှစ်တွင် မီးတားပွတ်ရံ မဟာရံတံတိုင်း ၂-ထပ်တို့ဖြင့် ခြံရံအပ်သော ဆွမ်းစားကျောင်း၊ မီးတင်းကုပ်၊ သိမ်ဿဆေးရုံ၊ ဘဏ္ဍာတိုက်၊ ဓမ္မပါသာဒခေါ် တရားပြာသာဒ်ဆောင် စသည်တို့ဖြင့် တန်းဆာဆင်အပ်သော

၁။ သာသနာ့ဌေတော် ဘွဲ့တံဆိပ်တော်များ၊ သမိုင်းလည်း ကြည့်။

မြို့တော်အရှေ့မြောက်ထောင့်၌ ဘုံလေးဆင့်ရှိသော အောင်မြေဘုံကျော် ကျောင်းတော်ကြီးကိုလည်း အလှူခံ ရရှိတော်မူသည်။ "ဉာဏာဘိဝံသဓမ္မ သေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု" ဟူသော ဘွဲ့တံဆိပ်တော်ကိုလည်း ၃-ကြိမ်မြောက် အလှူခံ ရရှိတော်မူသည်။ ထို့ကြောင့် သီလက္ခန်ဋီကာသစ် နိဂုံး၌ပင်—

တထာ ဒက္ခိဏဒေဝိယာ၊ နဂရသမီပေ ကတေ။
ပုဗ္ဗုတ္တရေ ဇယဘုမ္မိ-ကိတျာဘိခေနကေပိ စ—

ဟူသော ဂါထာဖြင့် ယင်းကျောင်း၌လည်း သီတင်းသုံးတော်မူကြောင်း ဖော်ပြတော်မူခဲ့သည်၊

## မြောက်ရှေ့ရေးဆောင် မိဖုရား၏
## သုံးထပ်ဇေတဝန်ကျောင်းတော် အလှူခံ

တဖန် ထိုသည့် ၁၁၅၁-ခုနှစ်၊ နတ်တော်လဆန်း ၁၅-ရက်၊ တနင်္ဂနွေ နေ့တွင် ဆင်ဖြူးရှင်ဂုဘုရားရှင် အရှေ့တောင်ယွန်းတွင် ပိဋကတ်တိုက်တော်၊ မဟာမြတ်မုနိ၊ အရှေ့တောင်ယွန်းတွင် ယင်းတော်မိဖုရား ဆောက်လုပ်သည့် သိမ်ပြာသာဒ်၊ ဆင်ဖြူးရှင်ဂုဘုရားတံတိုင်းအတွင်း လှိုင်းဘက်မိဖုရားက ဆောက် လုပ်သည့် သိမ်စံရုပ် တို့ကို ရေစက်ချ လှူဒါန်းပွဲနှင့် တဆက်တည်း ဆင် ဖြူးရှင်ဂုဘုရားတောင်မြောက် ရှေ့ရေးဆောင်မိဖုရားက ဆက်ကပ်လှူဒါန်း သည့် စံကျောင်းတော်ကိုလည်း အလှူခံရရှိတော်မူသည်။ ဘုံတော်မင်းတရား သည် ယင်းကျောင်းလှူပွဲတွင် ဂါမဝါသီ၊ အရညဝါသီ ဆရာတော် သံဃာ တော် အရှင်မြတ် များစွာတို့အား ပရိက္ခရာရှစ်ပါးနှင့်တကွ ရဟန်းသံဃာ တော်တို့၏ အသုံးအဆောင် များစွာတို့ကိုလည်း လှူဒါန်းလေသည်[၁]။ ယင်းသို့ ဖြစ်ကြောင်း—

တထေဝုတ္တရဒေဝိယာ၊ နဂရဗ္ဘန္တရေ ကတေ။
သောဏ္ဏဂုဟာထူပန္တိကေ၊ ပရိမာဏကနာမကေ[၂]—

ဟု သီလက္ခန်ဋီကာသစ် (သီလက္ခန္ဓဝဂ္ဂအဘိနဝဋီကာ) ၌ ကိုယ်တိုင် မိန့်ဆိုတော် မူခဲ့လေသည်။

---

၁။ ကုန်းဘောင်ဆက်၊ ၂။ ၆၀။ သာသနာလင်္ကာရစာတမ်း။ ၂၀၉-လည်း ကြည့်။

၂။ သီ၊ ဋီ၊ သစ်၊ ၂။ ၄၃၇။

## မေဒုတသံဝိဓောယက

၁၁၄၇-ခုနှစ်က ဘိုးတော်မင်းတရားသည် သာသနာပြု ဆရာတော်များ တို့နှင့် တိုင်ပင်၍ သာသနာ အနှံ့အပြား တည်စေလိုသော ဆန္ဒကြောင့် ၅၆-ဌာနတို့သို့ သာသနာပြုအဖွဲ့များ စေလွှတ်တော်မူခဲ့သည်။ ထိုစဉ်က မောင်းထောင် ဆရာတော်သည် ရွှေတန်းမှပါဝင်သော စီစဉ်ရေးဆရာတော်အဖြစ် ပါဝင်စရာ ရှိသည်။

## သီဟိုဠ်ကျွန်း အမရပူရဂိုဏ်း၏ အမွန်အစ မထေရ်

မောင်းထောင်ဆရာတော်သည် သီဟိုဠ်ကျွန်းရှိ သံဃာတော် ထောင်ပေါင်း များစွာရှိ အမရပူရဂိုဏ်းကြီး၏ အမွန်အစ ပဘာဝမဟာထေရ်မြတ်လည်း အမှန် ဖြစ်တော့သည်။

သက္ကရာဇ် ၁၁၆၂-ခုနှစ် နယုန်လဆန်း ၁၄-ရက်နေ့တွင် သီဟိုဠ်ကျွန်းမှ အမ္ဗဂဟပိတိယရွာ လျှင် ဖွားရာဇာတိရှိသော သာမဏေ ရှင်ဉာဏဝိမလတိဿ သည် အဖော်သာမဏေ ၅-ပါး၊ ကပ္ပိယဒါယကာ ၃-ဦးနှင့်အတူ အမရပူရ ရာဇဓာနီ မင်းနေပြည်သို့ ရောက်ရှိလာကြသည်။ သီဟိုဠ်မှ အာဂန္တုဧည့်သည် တော်တို့သည် ရွှေအဆင်း ဓာတ်တော် ၂-ဆူ၊ ပုလဲအဆင်း ဓာတ်တော် ၃-ဆူ၊ မုလေးငုံအဆင်း ဓာတ်တော် ၅-ဆူတို့ကိုလည်း ပင့်ဆောင်ခဲ့ကြ၍ မင်းတရား ကြီးအား ပေးဆက်ကြလေရာ မင်းတရားကြီးက ဓာတ်တော် မွေ့ဘော်များကို ရှိသေစွာ ကိုးကွယ်တော်မူသည်။

## သီဟိုဠ်သာမဏေများ ရဟန်းခံခြင်း

သီဟိုဠ်မှ ကြွရောက်လာကြသော ရှင်ဉာဏဝိမလ အစရှိသော သာမဏေတို့ သည် သာသနာပိုင် ဆရာတော်အား ရဟန်းအဖြစ် ၎လိုကြောင်း လျှောက် ထားသဖြင့် အမရပူရမြို့ ဆင်ကြိုးရွှေဂူသိမ်တော်၌ ပရိက္ခရာရှစ်ဖြာ စုံသင်စွာဖြင့် သာသနာပိုင် ဆရာတော်ဘုရားကြီး အရှင်ဉာဏာဘိဝံသသည် ဥပဇ္ဈာယ်ပြု၍ ရဟန်းခံပေးတော်မူသည်။

ကမ္မဝါစာ ရွတ်ဖတ်၍ ချီးမြှောက်တော်မူကြသော ဆရာတော်များမှာ—

ကဝိန္ဒာဘိသဒ္ဓမ္မဓရဇေမဟာဓမ္မရာဇဂုရု ဆရာတော်၊
ဇနိန္ဒာဘိဇေမဟာဓမ္မရာဇဂုရု ဆရာတော်၊
မုနိန္ဒဃောသမဟာဓမ္မရာဇဂုရု ဆရာတော်—

စသော သီလဝန္တ၊ သိက္ခာကာမ ဆရာတော်တို့ ဖြစ်ကုန်၏။

အရှင်ဉာဏဝိမလ အမှူးရှိသော သီဟိုဠ်ရဟန်းတော် ၆-ပါးတို့သည် အမရပူရမြို့တော်၌ ဆောင်းဥတုကျော်မျှ သီတင်းသုံး၍ ပညာသင်ကြားပြီး အမိ သီဟိုဠ်နိုင်ငံသို့ ပြန်ကြကြပြီး အမရပူရမှ ယူခဲ့သော သာသနာကိုစွဲ၍ အမရပူရဂိုဏ်းဟု သီးခြားထောင်ကြ၍ သာသနာပြုကြလေသည်။ အရှင်ဉာဏဝိမလသည် အောက်ပါ အဖော်ရဟန်းတော်တို့ဖြင့် ဥဒကုက္ခေပသိမ်၌ ကိုယ်တိုင် ဥပဇ္ဈာယ်ပြုပြီး သီဟိုဠ်အမျိုးသား များစွာတို့ကို ရဟန်းပြုပေးကာ ယူခြင်းစွဲ အမရပူရ သာသနာကို ဂုဏ်ပြုသည့်အနေနှင့် အမရပူရဂိုဏ်းဟု ဂိုဏ်းသီးခြား ထောင်၍ သာသနာပြု၍ ယခုတိုင် သီဟိုဠ်၌ သံဃာတော်ပေါင်း ထောင်ပေါင်း များစွာရှိသော ဂိုဏ်းအဖြစ် ထင်ရှားလျက် ရှိပေသည်။

ထို့ကြောင့် မောင်းထောင် သာသနာပိုင် ဆရာတော်သည် သီဟိုဠ်ကျွန်း အမရပူရဂိုဏ်းကြီး၏ အမွန်အစ ပဘာဝပုဂ္ဂိုလ်မြတ်လည်း မှန်လှတော့သည်။ ယင်း အတ္ထုပ္ပတ် ဖြစ်ရပ်ကို ယဂိရလ အရှင်ပညာနန္ဒသည် မဟာဝံသကျမ်း ၁၀၂-အပိုင်း၌ အောက်ပါဂါထာများဖြင့် မှတ်တမ်းတင်ခဲ့လေသည်—

ဒွိကသဟဿတ္တိသတ-ဒွိစတ္တာလီသသမ္ဗတေ။
သောဂတေ ပဌမတ္တေဟိ၊ သာမဏေရေဟိ သာခုံဟိ။

တထာ တီဟိ ဂဟဋ္ဌေဟိ၊ ကိံကရေဟိ သမာဝုတော။
ဂတော မရမ္မဝိသယံ၊ ကရိတွာန မဟဏ္ဏဝေ။

သာမိကံ သရဒံ တတ္ထ၊ ဝသိတွာန ယထာရုစိံ။
လဒ္ဓူပသမ္ပဒေါ ပတ္တာ၊ ပုနလင်္ကံ မနောရမံ။

ဝိက္ချာတော ဉာဏဝိမလ-တိဿနာမေန သဂ္ဂုဏော။
ဒွိကသဟဿတ္တိသတ-ဆ စတ္တာလီသမ ဟာယနေ။

ဥဒကုက္ခေပသီမာယံ၊ ဗဟုန္နမုပသမ္ပဒံ။
သယံ ပမောနော ဒတွာန၊ နိကာယံ ဌပယိ ဣဓ။

အမရပူရာဘိဓာနော ဝါ၊ မူလဝံသသမဝှယော။
အယံ နိကာယော လင်္ကာယံ၊ ဒိပ္ပတေ ဟိတသာဓကော။

ဂါထာ၌ ငါးပါးဟု ဆိုသော်လည်း ဉာဏဝိမလပါ ၆-ပါးဟု မှတ်ရာ၏။ ငါးပါးတို့ကား—

၁။ မာဒမ်ပေ ရွာသား ရှင်ဥတ္တမဓိရတိဿ၊
၂။ ကောသသ်ဂေါဍ ရွာသား ရှင်ဝိပုလတိဿ၊
၃။ ဗြာဟ္မဏဝတ်တေ ရွာသား ရှင်ဇိနပါလတိဿ၊

၄။ ဗောဂဟာဝတ်တော ရွာသား ရှင်ဇာယတုဇိနတိဿ၊
၅။ ဝတုရေဂမ ရွာသား ရှင်ဓမ္မာဓာရတိဿ—
တို့ ဖြစ်သည်။

၎င်း သာမဏေငါးပါးတို့သည် အရှင်ဉာဏာဝိမလနှင့် တနေ့တည်း ရဟန်းအဖြစ်ကို ရကြလေသည်။ ကပ္ပိယဒါယကာ ၃-ဦးအနက် နာဒမည်သော ကပ္ပိယမှာ အရှင်မြတ်များ ရဟန်းခံသောနေ့တွင် ရှင်သာမဏေဝတ်သည်၊ နောက်မကြာမီ ရဟန်းခံသည်။

ဤသို့ဖြင့် သာသနာပိုင် မောင်းထောင်ဆရာတော် အရှင်ဉာဏာဘိဝံသသည် သီဟိုဠ် အမရပူရသံဃာတို့၏ မူလပဘဝ ပုဂ္ဂိုလ်ဖြစ်ရာ ဆရာတော်ဂုဏ်သတင်းသည် မြန်မာ သီဟိုဠ်နှစ်နိုင်ငံ၌လည်း လွှန်စွာပျံ့နှံ့ကျော်စောလေ၏။

လံကာဒီပေ မရံပူရ-နိကာယ ပဘဝေါ ဟိ ယော။
တဿ ဂုဏကထာ ဩဃော၊ ဒွီသု ရဋ္ဌေသု ပတ္ထဋော။

သီဟိုဠ်ကျွန်း ဥဒ္ဒရဋ္ဌ အမရပူရ နိကာယ အစအမွန်

မောင်းထောင် သာသနာပိုင်သည် သီဟိုဠ်ကျွန်းရှိ အမရပူရဂိုဏ်း သံဃာတို့၏သာလျှင် အစအမွန်ဖြစ်သည် မဟုတ်သေး၊ သီဟိုဠ်ကျွန်း အထက်ပိုင်း၌ ထွန်းကားစည်ပင်လျက်ရှိသော ဥဒ္ဒရဋ္ဌ အမရပူရ သံဃာ့ဂိုဏ်း၏ အမွန်အစပဘဝအဖြစ်လည်း သီဟိုဠ်သာသနာဝင်၌ မှတ်တမ်းတင်ထားသည်။

သာသနာသက္ကရာဇ် ၂၃၂၄–၂၄၀၀-တွင် သီဟိုဠ်၌ ထင်ရှားခဲ့သော ဗောဂဟာင်္ဂုယ (ဗောဓိဂစ္ဆပိဋ္ဌိ) ရွာဇာတိ ရှင်ဓမ္မဇောတိသာမဏေသည် သာမဏေငါးပါး၊ ကပ္ပိယဒါယကာ ၂-ယောက်နှင့် မြန်မာပြည် အမရပူရမြို့သို့ ကြွလာပြီး ဉာဏာဘိဝံသ မောင်းထောင် သာသနာပိုင် ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်ကို ရယူခဲ့ပြီး သီဟိုဠ်နိုင်ငံ အထက်ပိုင်း၌ "ဥဒ္ဒရဋ္ဌအမရပူရနိကာယ" ဟူသော အမည်ဖြင့် ဂိုဏ်းသီးခြားထောင်၍ သာသနာပြုခဲ့လေသည်။ယင်းအကြောင်းကို သီဟိုဠ်ဘာသာရေးမဟာဝံသကျမ်းကြီး ၇၇၆-၇-နှင့် သမိပါတိ တယေဟိဗုဒ္ဓါစာရယော ကျမ်း ၄၅-တို့၌ လာရှိသည်။ ပါဠိမဟာဝံသကျမ်းကြီး ၁၀၂-ပိုင်းမြောက်၌လည်း—

ဗောဓိဂစ္ဆပိဋ္ဌိဂါမေ၊ သဉ္ဇာတော ဓမ္မဇောတိဒေါ၊
ဓမ္မဇောတိသမညာတော၊ သာမဏေရော ဟိ သုဗ္ဗတော။

သောပိဒေသန္တရံ ဂန္တွာ၊ ဂဟေတွာ ပုပ္ပသမ္ဘဒံ။
အာကာမ်ံမာနော ညပေတွာ၊ နိဇဘာဝံ ဟိတေသိနံ။

မဟာဝိဓာနမုဋ္ဌလိ–မဟာသယဝရဿ စ။
အညေသဉ္စောပကာရဿ၊ လဒ္ဓတ္တာ တုဋ္ဌမာနသော။

ပဉ္စဟိ သာမဏေရေဟိ၊ ဂဟဋ္ဌေဟိ စ ဒွိဟိ သော။
သမေတော ဂါဋ္ဌတိတ္ထမှာ၊ နာဝမာရုယှ ပီတိယာ။

ဒွါသဟဿတ္တိသတမှာ၊ ပရံ သမ္ဗုဒ္ဓဟာယနေ။
ကေနုပညာသမိတေ၊ မရမ္မဝိသယံ ဂတော။

ယဿံ ပုဗ္ဗုပဂါ ဘိက္ခူ၊ အလတ္တုံ မုပသမ္ပဒံ။
တတ္ထ သော ပျုပသမ္ပန္နော၊ သမ္မာပုဏ္ဏ မနောရထော။

လင်္ကာဒီပံ ပုနာဂန္တွာ၊ နိဇော့ဥဇဝရေဝသံ။
အကာ ပရတ္ထံ သုစိရံ၊ ယထာသတ္တိ ယထာဗလံ။

ဥပဂန္တွာ တတော ပစ္ဆာ၊ ဥဒ္ဒရဋ္ဌံ သုခါဝဟံ။
နိကာယံ ဌပယိ အတ္ထ-ပဓာနောဓိကသဒ္ဓယာ။

ဥဒ္ဒရဋ္ဌမရပူရ–နိကာယဝှယဝိသုတော။
သောယံ နိကာယော အဇ္ဇာပိ၊ ဥဒ္ဒရဋ္ဌမှိ ဘာသတေ—

ဟူသော ဂါထာများဖြင့် မှတ်တမ်းတင်ထားလေသည်။

### သီဟိုဠ်ကျွန်း သီရိသဒ္ဓမ္မနိကာယ အစအမွန်

မောင်းထောင်သာသနာပိုင်သည် လံကာဒီပခေါ် သီဟိုဠ်ကျွန်းရှိ သီရိသဒ္ဓမ္မဝံသနိကာယ၏ အစအမွန်ပုဂ္ဂိုလ်မြတ်လည်း ဖြစ်ကြောင်း သီဟိုဠ်သာသနသမိုင်းများအရ သိရလေသည်။ သီဟိုဠ်ကျွန်း ကပ္ပဂ္ဂါဇာတိ အရှင်ဓမ္မက္ခန္ဓသည် ရှမ်းဂိုဏ်းမှရအပ်သော ရဟန်းအဖြစ်ကို သံသယဖြစ်၍ မြန်မာပြည် အမရပူရမြို့သို့ ကြွရောက်ပြီး ဉာဏာဘိဝံသ မောင်းထောင်သာသနာပိုင်ထံ ဒဋ္ဌိကမ္မပြု သိမ်ထပ်၍ သံဟိုဠ်ပြန်ကြွပြီး သီရိသဒ္ဓမ္မဝံသ အမရပူရ နိကာယကို တည်ထောင်သည်။

ထိုအကြောင်းကို မဟာဝံသပစ္ဆိမပိုင်းကို ပြုစုသူ ယလိရလပညာနန္ဒထေရ်သည်—

ကပ္ပာသဂါမသဉ္ဇာတော၊ ဓမ္မက္ခန္ဓတပေါဓနော။
သျာမနိကာယမှိ လဒ္ဓ-ပဗ္ဗဇ္ဇော ထိရမာနသော။

ဥပသမ္ပန္နမာဒါတုံ၊ ဒေသန္တရဝရံ သုဘံ။
ဂန္တုကာမော ဒါယကာနံ၊ တံ ပဝတ္တိံ နိဝေဒိယ။
ဧတ္ထာရော ဘိက္ခဝေါ ဒွေစ၊ သာမဏေရေ တထာပရေ။
တယော ဂဟဋ္ဌေ စာဒါယ၊ နာဝမာရုယှ ပီတိယာ။
ဒွိသဟဿတ္တိသတေက-ပဉ္ဉာသတိမ ဟာယနေ။
အကာသိ ဂမနံ သီဟံ၊ မရမ္မဝိဇိတံ သုဘံ။
ဒဠှီကမ္မောပသမ္ပတ္တိံ၊ ဥပသမ္ပတ္တိ မုတ္တမံ။
အမရပူရနိကာယ-ဝုဒ္ဓိံ ကတွာ ယထာဗလံ။

## ကလျာဏီဝံသနိကာယ အထောက်အကူ

အေဒီ ၁၇၅၂-၁၈၃၂-တွင် သီဟိုဠ်၌ထင်ရှားသော ကတဥ္စူဝေရွာဇာတိ အရှင်ဂုဏရတနတ္ထေသည်လည်း မူလသမ်းဂိုဏ်း၌ ရအပ်သော ရဟန်းသိက္ခာ၌ သံသယဖြစ်ပြီး မြန်မာပြည်သို့ သာသနာ့သက္ကရာဇ် ၂၃၅၁-ပြည့်နှစ်တွင် ရောက် ရှိသည်။ တပေါင်းလပြည့်နေ့တွင် ဟံသာဝတီမြို့ (ပဲခူးမြို့) ကလျာဏီသိမ်၌ မူလသိက္ခာကိုစွန့်၍ ရဟန်းအသစ်ခံသည်။

ရဟန်းမခံမီ အမရပူရမြို့ မောင်းထောင် သာသနာပိုင်ထံ ကူညီချီးမြှောက် စေခြင်းမပါ ရန် လျှောက်ထားလွှာဆက်ကပ် တောင်းပန် လျှောက်ထားသဖြင့် သာသနာပိုင်က မင်းတရားထံ စာသွင်းလေလျှင် မင်းမြတ်က ပရိက္ခရာများ နှင့်တကွ အမတ်တဦးကိုစေလွှတ်၍ ကူညီလှူဒါန်းစေသည်။ သာသနာပိုင် ဆရာ တော်ကလည်း ကိုယ်တိုင် မကြွရောက်နိုင်သဖြင့် ထိုစဉ်က ပဲခူးနယ်၌ မဟာ နာယကတာဝန်ဆောင်သော ရာဇဂုရုဘွဲ့တံဆိပ်တော်ရ ဘဒ္ဒန္တမေဓာနန္ဒာဓဇထံ ဥပဇ္ဈာယ်ပြု၍ ရဟန်းခံပေးရန် အကြောင်းကြားလေသည်။

သို့ဖြစ်၍ ဘဒ္ဒန္တမေဓာနန္ဒာမထေရ်သည် ကလျာဏတိဿ သာမဏေနှင့် အဖော်ဖြစ်သော သီဟိုဠ်သား မေဓရတနသာမဏေ၊ မေဓာရသာမဏေတို့ကို ဥပဇ္ဈာယ်ပြု၍ ရဟန်းခံပေးတော်မူသည်။ အရှင်ဉာဏဂမ္ဘီရဓဇထေရ်၊ အရှင် အာစာရဝံသဓဇထေရ်၊ အရှင်ပညာသာရဓဇထေရ်တို့မှာ ကမ္မဝါစာ ဆရာ တော်များ ဖြစ်ကြသည်။ ၎င်းမထေရ်တို့သည် သီဟိုဠ်ပြန်ရောက်သောအခါ "ကလျာဏီဝံသနိကာယ"ဟူသော ဂိုဏ်းကိုထောင်ကြ၍ သာသနာပြုတော်မူ ကြသည်။

သီဟိုဠ်ကျွန်း၌ ယိုးဒယားနိုင်ငံမှ ဥပါလိထေရ်သာသနာသက္ကရာဇ် ၂၂၉၃-ခုနှစ်က ယူဆောင်ခဲ့သောဂိုဏ်းသည် သံဃာတော်ဦးရေ များပြားသည်။



မောင်းထောင်သာသနာပိုင် အရှင်ဉာဏာဘိဝံသ ဥပဇ္ဈာယ်ပြု
ရဟန်းခံပေးလိုက်သည့် သီဟိုဠ်ရဟန်းတော် အရှင်ဂုဏရတနတိဿ

သာသနာ သက္ကရာဇ် ၂၃၀၃-ခုနှစ် ဥပါလိထေရ်၏ သျှမ်းဂိုဏ်းသံဃာတော် ၂-ထောင်ကျော်ရှိ၍ ကလျာဏီဝံသရာမညဂိုဏ်းမှာ ၃-ရာမျှရှိကြောင်း—

ဥပါလိဝှနိကာယမှိ၊ ဒွိသဟဿာဓိကာပိ စ။
သတတ္တယမိတာဘိက္ခူ၊ မရမ္မံချသမာဂမေ—

ဟူသော ဂါထာဖြင့် သီဟိုဠ်ကလျာဏီသာသနဝံသ သမိုင်းကျမ်း၌ တွေ့ရလေသည်။

## သီဟိုဠ်ကျွန်း ဓမ္မရက္ခိတ နိကာယဂိုဏ်း၏ အမွန်အစ
## မောင်းထောင်ဆရာတော်

ဘဒ္ဒန္တဉာဏာဘိဝံသ ဓမ္မသေနာပတိ မောင်းထောင်သာသနာပိုင်သည် သီဟိုဠ်ကျွန်း ဓမ္မရက္ခိတ သံဃာ့အဖွဲ့အစည်း နိကာယ၏လည်း အစအမွန်ပုဂ္ဂိုလ် မှန်ပေသည်။ ဓမ္မရက္ခိတဂိုဏ်းကို ခေါင်းဆောင်တည်ထောင်မည့် အန္တုဉ္ဒာဝေ ရွာသား ရှင်ဓမ္မရက္ခိတတိဿသာမဏေသည် မြန်မာပြည်အမရပူရ ရာဇဓာနီသို့ ရောက်လာပြီး မင်းတရား၏ ပရိက္ခာရပစ္စယာနုဂ္ဂဟဖြင့် ရဟန်းအဖြစ်ကို ရရှိတော်မူခဲ့သည်။ သာသနာသက္ကရာဇ် ၂၃၅၁-ခု၊ ဝါဆိုလပြည့်နေ့တွင် အမရပူရမြို့ ဆင်ကြီးရွှေဂူသိမ်၌ ဉာဏာဘိဝံသ ဓမ္မသေနာပတိ မောင်းထောင်သာသနာပိုင် ဆရာတော်ကြီးကို ဥပဇ္ဈာယ်ပြု၍ အရှင်ဝဇီရဗောဓိသထေရ်၊ အရှင်ဉာဏစက္ကထေရ်၊ အရှင်ဝိမလာက္ခထေရ်တို့က ကမ္မဝါစာ ဆရာဖြစ်၍ ချီးမြှောက်တော်မူကြသည်။ ၎င်းမထေရ်သည် သီဟိုဠ် ပြန်ကြွရောက်သောအခါ ဓမ္မရက္ခိတ အမရပူရ နိကာယကိုထောင်၍ သာသနာပြုရာ ယနေ့တိုင် တပည့်အစဉ်အဆက် တိုးတက်စည်ကားလျက် ရှိပေသည်။ ၎င်းဂိုဏ်းအကြောင်းကို မဟာဝံသကျမ်း ၁၀၂-အပိုင်း၌လည်း—

အန္တုဉ္ဒာဝဂါမဇာတော၊ ကတညူ မိတဘာသနော။
ကောဝိဒေါ ဓမ္မသတ္ထေသု၊ သာမဏေရော ဒယာပရော။

ဂန္တွာ မရမ္မဝိဇိတံ၊ သသံဃံ နရနာယကံ။
တောသေတွာ သမမညေဟိ၊ လဘိတွာ နုပသမ္ပဒံ။

အတ္တပ္ပဓာနေနာယံ ဘိက္ခု၊ နိကာယမိဟ အာရဘိ။
ဓမ္မရက္ခိတဝံသာဂ္ဂေါ၊ သောယမဇ္ဇာပိ ဒိပ္ပတေ—

စသော ဂါထာဖြင့် မှတ်တမ်းတင် ဖော်ပြခဲ့သည်။

ဤသို့ဖြင့် ပဌမမောင်းထောင် သာသနာပိုင် ဆရာတော်ဘုရားကြီး အရှင်ဉာဏာဘိဝံသသည် သီဟိုဠ်သာသနာသမိုင်း၌လည်း လွန်စွာထွန်းပြောင်သည့် ခေါင်းဆောင်ပုဂ္ဂိုလ်အဖြစ် ထင်ရှားလှ၍။ သီဟိုဠ်ဘာသာရေး သမိုင်းစာအုပ် ပေါင်း မြားမြောက်စွာတို့၌ ၎င်းဆရာတော်ကို ဂုဏ်တင်ဖော်ပြထားကြလေ သည်။

လက်ာဒီပေပိ သော ထေရော၊ သံဃရာဇာဘိပါကဋော။
ပေါတ္ထကေသု စ နေကေသု၊ တဿုပ္ပတ္တိ ပကာသိသံ။

## ပရိယတ်ဆောင်ရွက် ပဋိပတ်လေ့ကျင့်

သာသနာပိုင် အရှင်ဉာဏာဘိဝံသသည် မင်းမိဖုရား ကျောင်းတော်ငါးရပ် တို့၌ အလဲအလှယ် သီတင်းသုံးတော်မူလျက် သာသနာရေးကိစ္စအဝဝကို စီရင် တော်မူရသည်။ မင်းတရားမေးသမျှ ပြဿနာများနှင့် ဂိုဏ်းထောက်ဂိုဏ်းအုပ် ဂိုဏ်းချုပ် ခန့်ထားရေးကိစ္စများ၊ ၎င်းဂိုဏ်းထောက် ဂိုဏ်းအုပ် ဂိုဏ်းချုပ်တို့ မေးသောပြဿနာများကို ဖြေဆိုခြင်းနှင့် နိုင်ငံခြားသာသနာပြု လုပ်ငန်းများ ကို ပြုလုပ်ရသည်။ နေ့ဝါ ညဝါ စသည့် ပရိယတ်စာဝါများကိုလည်း မြား မြောက်စွာသော တပည့်တပန်းတို့အား ချပို့တော်မူသည့်ပြင် ဥဘတောဝိဘင်း ကိုလည်း အရဆောင်တော်မူသည်။ ယင်းသို့ဆောင်ကြောင်း–

"ဒွေဝိဘင်္ဂါဒိဝေဒဏာ၊ ဥပဇ္ဈာစရိယတံ ပတ္တော"ဟု သီလက္ခန်ဋီကာနိဂုံး (သီ၊ သီ၊ သစ်၊ ၁။ ၄၃၇)ဖြင့် သိသာလေသည်။ ၎င်းပြင် ဘောသနိက်မူဘင် အမြဲ ဆောက်တည်၍ အခြားပဋိပတ်လုပ်ငန်းများကိုလည်း ပြုလုပ်လေ့ကျက် တော်မူသည်။

## ကျမ်းဂန်ပြုပုဂ္ဂိုလ်ကျော်

ဆရာတော်ကား ကြီးကျယ်မြင့်မားသည့် သကာသမယ ပရသမယန္တရဝိဒူ ပညာရှင် ပုဂ္ဂိုလ်မွန် ပုဂ္ဂိုလ်မြတ်ကြီးလည်း ဖြစ်တော်မူသည်။ ရဟန်း ၃၀ဝါ လောက်ကစ၍ စာချပညာရှင် ပုဂ္ဂိုလ်ဖြစ်ရုံမျှမကပဲ ရဟန်း ၆–ဝါမှစ၍ ထိပ်တန်းပါဠိကျမ်းပြု ပုဂ္ဂိုလ်ဟူသော ဘွဲ့ထူးကို ဆွတ်ခူးနိုင်ခဲ့သည်။

ရဟန်းသိက္ခာ ၁–ဝါမှစ၍ ၅–ဝါတိုင်အောင် ယခုရှိသမျှ ပိဋကတ်စာပေ ကျမ်းဂန်တို့ကို အကုန်အစင်ကြည့်ရှုလေ့လာမည်ဟု ရည်မှတ်ပြီး နေတ္တိကျမ်း လာ ဥဒါဟာရဏ်သက်သေသာဓက ပုံစံပြယုဂ်ဟူသမျှကို အစွဲပြု၍ ဂရုတစိုက် မှတ်သားကြည့်ရှုတော်မူသည်။

## ရဟန်းသိက္ခာ ၆-ဝါ နေတ္တိဋီကာကျမ်းကြီးပြု

ရဟန်းသိက္ခာ ၆-ဝါအရတွင် "ပေဋကာလင်္ကာရ"အမည်ရှိသော နေတ္တိဋီကာသစ် ကျမ်းကြီးကို ပြုစုတော်မူခဲ့သည်။ အရှင်ဓမ္မပါလ၏ နေတ္တိဋီကာဟောင်းမှာ ပေငါးအင်္ဂါခန့် ဆဋ္ဌသံဂါယနာမူ စာမျက်နှာ ၁၅၀-မျှသာ ရှိသဖြင့် ကျဉ်းလွန်းလှသည်။ ထိုထက်အဆများစွာ ကျယ်ဝန်းပြည့်စုံသောကြောင့် မောင်းထောင်သာသနာပိုင် အရှင်ဉာဏာဘိဝံသ၏ နေတ္တိမဟာဋီကာဟု ကမ္ပည်းသတ်မှတ် ခေါ်ဝေါ်ကြသည်။ နေတ္တိမဟာဋီကာကြီးမှာ ဘာဏဝါရ ၅၆-ဘာဏဝါရရှိကြောင်း—

ပါဠိအဋ္ဌကထာဒီဟိ၊ အဝိရောဓေတွေ၀ ဣတိ သာ။
သမတ္တာ ဆပဏ္ဏာသာယ၊ ပါဠိယာ ဘာဏဝါရတော—

ဟူသောဂါထာဖြင့် ရေတွက်ဖော်ပြတော်မူခဲ့သည်။ ၆-ဝါအရ ရေးသားကြောင်းကိုလည်း "ဆဝဿာနုပဂန္တွာန၊ အဇ္ဈေသာရသီလေန" ဟူသော နိဂုံးဖြင့် ခိုင်လုံစွာ သိရှိရလေသည်။

ဆရာတော်သည် ဖော်ပြပါ ပေဋကာလင်္ကာရမည်သော နေတ္တိမဟာဋီကာသစ်ကျမ်းဦး၌—

၁။ ဘ၀နေတ္တိဇဟော ဓမ္မ-နေတ္တိမ္ပကာသယံ ဇနံ။
ဘ၀နေတ္တိမုတ္တံ အကာ၊ ဝန္ဒေ တံ ဓမ္မသာမိကံ။

၂။ ဘ၀နေတ္တိဇဟာယေန၊ ဓမ္မနေတ္တိဓရာ အဟု။
သမ္မာသမ္ဗုဒ္ဓပူဇေယျံ၊ ဝန္ဒေ ဟံ ဓမ္မမုတ္တမံ။

၃။ ဘ၀နေတ္တိဇဟော ယော စ၊ ဇိနောရသမုပါဂတော။
ပုညက္ခေတ္တံ မသဒိသံ၊ ဝန္ဒေ တံ ဓမ္မနေတ္တိကံ။

၄။ ဓမ္မကံ ယဿ သဒ္ဓမ္မ-သံဝဏ္ဏနမကာသိယော။
ကေသရိံ ကစ္စာနဝှယံ၊ ဝန္ဒေ တံ မုနိပုင်္ဂဝံ။

၅။ ယေ ဆတ္တာယန္တိ သီလေန၊ ဝဇာယန္တိ သုဘေန စ။
တေဇသာ ယေသံ စုဒ္ဒိ မေ၊ ဝန္ဒေ တေ ဂုဏသာဝိကေ။

၆။ ဠစ္ဆေဝံ ကတပ္ပဏာမ-တေဇသာ ရတနတ္တယေ။
ဝိသောသေတွာန သဗ္ဗတ္ထ၊ အန္တရာယေ အသေသတော။

၇။ မဟာကစ္စာနတ္ထေရေန၊ ဘာသိတာ ဓမ္မနေတ္တိယာ။
တဿာ ဝဏ္ဏနာယ သဏှ-ဂမ္ဘီရတ္ထဝိသူဒနီ။

၈။ ကာမဋ္ဌ သန္တိ တဿာယာ၊ သခေ်ပေနတ္ထ ဇောတနာ။
သခေ်ပတ္တာ တု န သက္ကာ၊ အနတ္ထာ သညာတဝေ ကွစိ။

၉။ ဝိစာရေတွာ အတ္ထမတော၊ သံသန္ဒေတွာ တဒုဘယံ။
သမာနေတွာန သံယုတ္တ-မညတ္ထ စ ယထာရဟံ။

၁၀။ ပါဠိယတ္ထမ္ပိ ဒဿေတွာ၊ ဥဒါဟရဏပါဠိယာ။
အတ္ထံ ပဋ္ဌနိကာယသ္မာ၊ ဂဟေတွာန ဝိနိစ္ဆယံ။

၁၁။ အဝိရောဓေတွာ သမယံ၊ အာစေရသီဟာနံ ဝရံ။
သံဝဏ္ဏနံ ကရိဿာမိ၊ နာတိဗျာသေန သာဓုကံ။

၁၂။ ကွတိ သဒ္ဓမ္မရာဇဿ၊ သာသနဿ ဟိတေသိနော။
စိရဋ္ဌိတိယာ သာဓူနံ၊ တောသနာယ စ သာသနေ။

၁၃။ သုဘာသိတံ အသံကိဏ္ဏံ၊ နိပုဏ္ဏတ္ထ ဝိနိစ္ဆယံ။
ပေဋ္ဌကာလင်္ကာရံ နာမ၊ တံ န်သာမေထ သာဓဝေါ—

ဟူသော ၁၃-ဂါထာဖြင့် ရတနတ္တယပဏာမ၊ ကစ္စာယနတ္ထေရပ္ပဏာမ၊ ဂုဏသာမိကထေရပ္ပဏာမ၊ ကရဏပ္ပကာရ၊ ပကရဏဟေတု၊ ပဋိညာဉ်၊ ဥယျောဇဉ်တို့ကို ပြတော်မူ၍ ခမ်းနားစွာ ဂန္ထာရမ္ဘ ပြုတော်မူခဲ့လေသည်။ ကျမ်း၏အဆုံး၌လည်း—

၁။ အာဒိတော ယာ ပဋိညာတာ၊ နိပုဏတ္ထဝိနိစ္ဆယာ။
ပေဋ္ဌကတ္ထဝဏ္ဏနာယ၊ သမာလင်္ကာရကာရိနီ။

၂။ ဇိနနိဗ္ဗာနဝဿမှိ၊ မလ္လရည် မဟာဝနေ။
သမ္ပတ္တေ စတုဝီသတိ၊ သတံ ဒွိဟိ သဟဿေဟိ။

၃။ ပါဠိအဋ္ဌကထာဒီဟိ၊ အဝိရောဓတ္တံဝဏ္ဏိ သာ။
သမတ္တာ ဆပဏ္ဏာသာယ၊ ပါဠိယာ ဘာဏဝါရတော။

၄။ တမ္ပဒီပရဋ္ဌေ ရမ္မေ၊ ဇိနသာသနဇောတနေ။
နာနာရဋ္ဌေ နဂရာနံ၊ မုခံ အာယပ္ပဝေသနေ။

၅။ နာနာရတနသမ္ပုဏ္ဏံ၊ ရတနာပူရနာမကံ။
ဝိတံ အာဠကမန္ဒာဝ၊ သုဒဿနံဝ ပါတဠံ။

၆။ တတ္ထ ယော သေတက္ကာဘိန္ဒော၊ ပတ္တောဘိသေက မုတ္တမံ။
သုတော မဟာဓမ္မရာဇာ-ဓိရာဇနာမတော သဒါ။

၇။ အကာ သာသနပဂ္ဂဟံ၊ နိဂ္ဂယှ ပရဝါဒိနံ။
အသမ္ဗုဒ္ဓပ္ပဝေဒိတံ၊ ပဟာယ အသတံ ဝါဒံ။

၈။ တဒါ သုနာပရန္တကေ၊ သာသနဉ္စောတနေ ယတ္တ။
ဇိနာဝုဍ္ဎ သဏ္ဌိတံ၊ စန္ဒနမဏ္ဍန မာဠံ။

၉။ ရာဇောရေဝေသဟဿာနံ၊ သဏ္ဌာနမ္ပတိ သမ္မတော။
ပုညကမ္မိနမာဝါသော၊ ပရောသဟဿမန္ဒိရော။

၁၀။ တဿ ဂါမဿ ဥတ္တရ-ဒိသာဘာဂေ မနောရမေ။
တင်္ဂါမသာမိနာ ကတေ၊ အရညကင်္ဂ နာမကေ။

၁၁။ ယောဂါဝစရဘိက္ခူနံ၊ ဝါသာရဟေ ဝိဝိတ္တကေ။
သဒါသပဋ္ဌင်္ဂသညောဂေ၊ ဣသိသံဃနိသေဝိတေ။

၁၂။ ပုဗ္ဗကာ ပေ.တု တဿေဝ၊ ဂါမဏိနာ စ သောကတော။
တေတုဘူမိကဝိဟာရေ၊ နာနာသမ္ဘာရလင်္ကတေ။

၁၃။ ဝသန္တေန သုဓီမတာ၊ ဉာဏဝံသာဘိဓာနေန။
ဆင်ဿာနုပဂ္ဂစ္ဆတာ၊ အဏ္ဏောစာရသီလေန။

၁၄။ ဓမ္မရာဇဿသာသန-စိရဋ္ဌိတိယာ သာဓုနံ။
ပညာဝေပုလ္လပတ္တိယာ၊ ကတာ ဂမ္ဘီရတ္ထဝတီ။

၁၅။ ပေဋကာလင်္ကာရသညာ၊ သော သဏ္ဏတ္ထ သူဒနီ။
ယာဝ အန္တရဓာနာဝ၊ တိဋ္ဌတံ ဇိနသာသနေ။

၁၆။ ယံ ပတ္တံ ကုသလံ တေန၊ ကုသလာ သဗ္ဗပါဏိနံ။
သဗ္ဗေ ဣဋ္ဌတ္တံ သင်္ပ္ပါ၊ လဘန္တု မဓုရပ္ဖလံ။

၁၇။ ယထာရက္ခိံသု ပေါရာဏာ၊ သုရာဇာနော တထာ အယံ။
ရာဇာ ရက္ခတု ဓမ္မေန၊ အတ္တနောဝ ပဇံ ပဇံ—

ဟူသော ၁၇-ဂါထာဖြင့် ပြည့်စုံစွာ နိဂုံးအုပ်တော်မူခဲ့သည်။ ယင်းဂါထာများဖြင့် ကျမ်းပြုဆရာတော်၏ ဝန်ခံခဲ့သည့်အတိုင်း ပြုလုပ်ပုံ၊ ကျမ်းစာပြီးရာ ချိန်ခါကာလသမယ၊ မိမိပြုခဲ့သော နေတ္တိဋီကာသစ်ကျမ်း၏ ပါဠိ၊ အဋ္ဌကထာနှင့် မဆန့်ကျင်သော အနက်အဓိပ္ပာယ်ရှိပုံ၊ ရတနာပုရ အင်းဝမြို့တော်ကြီး တင့်တယ်ခမ်းနားပုံ၊ ဆင်ဖြူရှင် ဘိုးတော်မင်းတရား၏တရားစောင့်ပုံ၊ နှိပ်သင့်သူ နှိပ်ပုံ၊ ချီးမြှောက်သင့်သူကို ချီးမြှောက်ပုံ၊ မောင်းထောင်ရွာ တောကျောင်း၌ စာပေချုပ်ဆိုခဲ့ပုံ၊ မူလနာမည်ရင်းမှာ "အရှင်ဉာဏဝံသ" မည်ပုံ၊

ရဟန်းသိက္ခာ ၆-ဝါရ ဤပေဋကာလင်္ကာရ အမည်ရှိသော နေတ္တိဋီကာ ကျမ်းကြီးကို ရေးသားစီရင်ခဲ့ပုံ စသည်တို့ကို ဖော်ပြတော်မူခဲ့လေသည်။

## သီလက္ခန်ဋီကာသစ်ကျမ်းကြီး

သီလက္ခန္ဓဝဂ္ဂအဘိနဝဋီကာ ခေါ် သီလက္ခန်ဋီကာသစ် ကျမ်းကြီးကိုလည်း ၂၈-ဝါတွင် အပြီးသတ် ရေးသားစီရင်တော်မူလေသည်။ အရှင်ခမ္မပါလ ရေးသားခဲ့သော သီလက္ခန်ဋီကာသည် ကျစ်လျစ်သည်၊ သိုသိပ်သည်၊ စေ့စပ်သည်၊ သိမ်မွေ့နက်နဲ ခက်ခဲသည်၊ အဆင့်ဆင့် ကူးပြောင်းရသည့်ပြင် ကာလလည်း ကြာညောင်းလှပြီ ဖြစ်သဖြင့် အချွတ်အယွင်း အကျအပေါက် များနေသည့်ပြင် ကျဉ်းလွန်းနေသဖြင့် စာသင်သားတို့အဖို့ မလွယ်ကူပါသဖြင့် ဋီကာသစ်ကျမ်းကြီး=သီလက္ခန္ဓဝဂ္ဂအဘိနဝ ဋီကာကျမ်းကြီးကို ရေးသားတော်မူခြင်း ဖြစ်သည်။

ဖော်ပြပါ သီလက္ခန် ဋီကာသစ်(သီလက္ခန္ဓဝဂ္ဂအဘိနဝဋီကာကျမ်း) ကျမ်းဦး၌—

၁။ ယော ဒေသေတွာန သဒ္ဓမ္မံ၊ ဂမ္ဘီရံ ဒုဒ္ဒသံ ဝရံ။
ဒီဃဒဿီ စိရံ ကာလံ၊ ပတိဋ္ဌာပေသိ သာသနံ။

၂။ ဝိနေယျဇ္ဈာသယေ ဆေကံ၊ မဟာမတိံ မဟာဒယံ။
နတွာန တံ သသဒ္ဓမ္မ-ဂဏံ ဂါရဝဘာဇနံ။

၃။ သင်္ဂီတိတ္တယမာရူဠှာ၊ ဒီဃာဂမဝရဿ ယာ။
သံဝဏ္ဏနာ ယာ စ တဿာ၊ ဝဏ္ဏနာ သာဓုဝဏ္ဏိတာ။

၄။ အာစရိယမ္မေပါလ-တ္ထေရေနေဝါဘိသင်္ခါတာ။
သမ္မာ နိပုဏဂမ္ဘီရ-ဒုဒ္ဒသတ္ထပ္ပကာသနာ။

၅။ ကာမဉ္စ သာ တထာဘူတာ၊ ပရမ္ပရာဘတာ ပန။
ပါဠတော အတ္ထတော စာပိ၊ ဗဟုပ္ပမာဒလေခနာ။

၆။ သခေ်ပတ္တာ စ သောတူဟိ၊ သမ္မာ ဉာတုံ သုဒုက္ကရာ။
တသ္မာ သပြဟ္မစာရီနံ၊ ယာစနံ သမနုဿရံ။

၇။ ယော နေကသေဘနာဂိန္ဒော၊ ရာဇာ နာနာရဋ္ဌိဿရော။
သာသနသောဓနေ ဒဠှံ၊ သဒါ ဥဿာဟမာနသော။

၈။ တံ နိဿာယ "မမေသာပိ၊ သတ္ထုသာသနဇောတနေ။
အပ္ပေဝ နာမုပတ္ထမ္ဘော၊ ဘဝေယျာ"တိ ဝိစိန္တယံ။

၉။ ဝဏ္ဏနံ အာရဘိဿာမိ၊ သာဓိပ္ပါယမဟာပယံ။
အတ္တံ တမုပနိဿာယ၊ အညဥ္စာပိ ယထာရဟံ။

၁၀။ စက္ကာဘိဝုဓုကာမာနံ၊ ဓီရာနံ စိတ္တတောသနံ။
သာဓုဝိလာသိနိံ နာမ၊ တံ သုဏာထ သမာဟိတာ—

ဟူသော ၁၀-ဂါထာဖြင့် ရတနတ္တယပဏာမ၊ ဋီကာအသစ် ရေးသားရခြင်း၏အကြောင်း၊ ဋီကာသစ်ရေးသားပုံ အခြင်းအရာ ပဋိညာဉ်၊ ဋီကာသစ်၏ သာဓုဝိလာသိနီဟူသော အမည်၊ ဥယျောဇဉ်တို့ကို ဖော်ပြ၍ ဂန္ထာရမ္ဘပြုတော်မူခဲ့လေသည်။

## မှတ်သားဖွယ်ရာတွေ တင်းကြမ်းပြည့်နေသောကျမ်း

ဖော်ပြပါ သီလက္ခန်ဋီကာသစ် (သီလက္ခန္ဓဝဂ္ဂအဘိနဝဋီကာသစ်) ကျမ်းကြီးမှာ မှတ်သားဖွယ် အချက်အလက်များစွာတို့ ပြည့်နှက်နေသည်။ ပါဒ၊ ဂါထာ၊ ဂန္ထ၊ ဘာဏဝါရနှင့်စပ်၍—

အဌက္ခရာ ဧကပဒံ၊ ဧကဂါထာ စတုပ္ပဒံ။
ဂါထာ စေကာ မတော ဂန္ထော၊ ဂန္ထော ဗာတ္တိံသတက္ခရော။

ဗာတ္တိံသက္ခရဂန္ထာနံ၊ ပညာသဒ္ဒိသတံ ပန။
ဘာဏဝါရော မတော ဧကော၊ သွဋ္ဌက္ခရသဟဿကော—

ဟူ၍ လိုရင်းဖော်ပြတော်မူခဲ့သည်။

ရင်းပြင် ဧကနာဠိကာသံဝဏ္ဏနာ၊ စတုရဿာသံဝဏ္ဏနာ၊ နိသိန္နဝတ္တိကာသံဝဏ္ဏနာတို့နှင့်စပ်၍ အကျဉ်းမှတ်သားဖွယ်ရန်ကိုလည်း—

ဧကနာဠိကာ ကထာ စ၊ စတုရဿာ ကဘာပိ စ။
နိသိန္နဝတ္တိကာစေဝ၊ တိဓာ သံဝဏ္ဏနာဝဒေ—

ဟူသော ဂါထာဖြင့် ဖော်ပြတော်မူခဲ့သည်။

ထို့ပြင် ဘေဒကထာ၊ တတ္တကထာ၊ ပရိယာယကထာသံဝဏ္ဏနာ ၃-ပါး မှတ်ရန်အချုပ်ကိုလည်း—

---

၁။ သီ၊ ဋီ၊ သစ်၊ ၁၊ ၈၁။

ဘောဒကထာ တတ္ထကထာ၊ ပရိယာယကထာပိ စ။
ဣတိ အတ္ထက္ကမေ ဝိဒ္ဒါ၊ တိခါ သံဝဏ္ဏနာ ဝဒေ[၁]—

ဟူသော ဂါထာဖြင့် ဖော်ပြတော်မူသည်။

ထိုမှတပါး ဖွင့်ပုံဖွင့်နည်း ၅-မျိုးနှင့်စပ်၍လည်း—

ပယောဇနဉ္စ ပိဏ္ဍတ္ထော၊ အနုသန္ဓိ စ စောဒနာ။
ပရိဟာရော စ သဗ္ဗတ္ထ၊ ပဉ္စခါ ဝဏ္ဏနံ ဝဒေ[၃]—

ဟူသောဂါထာဖြင့် ဖော်ပြတော်မူခဲ့သည်။

ရှင်းပြင် ဥမ္မုဂ္ဃါဘ(ဥဒပါဋ္ဌါဘ)စသော သံဝဏ္ဏနာ ၆-ပါးနှင့် စပ်၍ လည်း—

ဥမ္မုဂ္ဃါတော [၂] ပဒစ္ဆေဒ၊ ပဒတ္ထော ပဒဝိဂ္ဂဟော။
စာလနာ ပစ္စုပဋ္ဌာနံ၊ ဆခါ သံဝဏ္ဏနံ ဝဒေ[၄]—

ဟူသောဂါထာဖြင့် ဖော်ပြတော်မူခဲ့သည်။

ထိုမှတဆင့် ဖွင့်ပုံဖွင့်နည်း သမုဋ္ဌာနစသော ရှစ်နည်းကိုလည်း—

သမုဋ္ဌာနံ ပဒတ္ထော စ၊ ဘာဝါနုဘာဝဝိဓယော။
ဝိရောဓော ပရိဟာရော စ၊ နိဂမနန္တိ အဋ္ဌခါ[၅]—

ဟူသောဂါထာဖြင့် ဖော်ပြတော်မူခဲ့သည်။

ထိုမှတခန်း နိဒါန်းစသော ဖွင့်နည်းရှစ်နည်းကိုလည်း—

အာဒိတော တဿ နိဒါနံ၊ ဝတ္တဗ္ဗံ တပ္ပယောဇနံ။
ပိဏ္ဍတော စေဝ ပဒတ္ထော၊ သမ္ဗန္ဓော အဓိပ္ပါယတော။
စောဒနာ သောဓနာစေတိ၊ အဋ္ဌခါ ဝဏ္ဏနံ ဝဒေ—

ဟူ၍ ပါရှိ၏။

ဤသို့ စသည်ဖြင့် သီလက္ခန်ဋီကာသစ်ကျမ်းကြီး၌ မှတ်သားဖွယ်အခန်းခန်း တို့ဖြင့် ပြည့်လျှမ်းလှပေသည်၊ ဆရာတော်သည် ကျမ်းစာအဆုံး၌သည်း—

---

၁။ သီ၊ ဋီ၊ သစ်၊ ၁၊ ၁၄၀။ ၂။ ဥဒပါဋ္ဌါတဖြစ်မည်ဟု ထင်၏။
၃။ သီ၊ ဋီ၊ သစ်၊ ၁၊ ၁၄၁။

၁။ သဒ္ဓမ္မေ ပါဠွဝတ္တာယ၊ သာသနဿ စ ဝုဒ္ဓိယာ။
ဝဏ္ဏနာ ယာ သမာရဒ္ဓါ၊ သီလက္ခန္ဓကထာယ သာ။

၂။ သာဓုဝိလာသိနီ နာမ၊ သဗ္ဗသော ပရိနိဋ္ဌိတာ။
ပဏ္ဏာသာယ သာဓိကာယ၊ ဘာဏဝါရပ္ပမာဏတော။

၃။ အနေကသေတဘိန္နော ယော၊ အနန္တဗလဝါဟနော။
သိရိပဝရာဒိနာမော၊ ရာဇာ နာနာရဋ္ဌိဿရော။

၄။ ဇမ္ဗုဒီပတလေ ရမ္မေ၊ မရမ္မဝိသယေ အကာ။
တမ္ဗဒီပရဋ္ဌေ ပုရံ၊ အမရပူရနာမကံ။

၅။ မဏ္ဍလာစလသာမန္တံ၊ ရေဝတီနဒိဿိတံ။
နာနာဇနာနမာဝါသံ၊ ဟေမပါသာဒလင်္ကတံ။

၆။ တတြာဘိသေကပတ္တော သော၊ ရဇ္ဇံ ကာရေသိ ဓမ္မတော၊
ရာဇာဂါရမဟာထူပံ၊ အကာသိ သမ္ပသာဒနံ။

၇။ ဥဒ္ဓမ္မံ ဥဗ္ဗိနယဉ္စ၊ ပဟာယ ဇိနသာသနံ။
ဝိသောဓေသိ ယထာဘူတံ၊ သတတံ ဒဠှမာနသော။

၈။ တေနေဝ ကာရိတေ ရမ္မေ၊ ဆာယူဒကသမပ္ပိတေ။
ဒွိပါကာရပရိက္ခိတ္တေ၊ ဘာဝနာဘိရကာရဟေ။

၉။ မဟာမုနိသမညာ ယာ၊ သမ္ဗုဒ္ဓသမ္မုခါ ကတာ။
ပဋိမာ တံပါသာဒမှာ၊ ဥဇု အာသန္နဒက္ခိဏေ။

၁၀။ အသောကာရာမအာရာမေ၊ ပဋ္ဌဘူမိမှာလယေ။
ရတနာဘူမိကိတ္တိဝှယေ၊ ဓမ္မပါသာဒလင်္ကတေ။

၁၁။ တထာ ဒက္ခိဏဒေဝိယာ၊ နဂရသမိပေ ကတေ။
ပုဗ္ဗုတ္တရေ ဇယဘူမိ-ကိတ္တာဘိဓာနကေပိ စ။

၁၂။ တထေဝုတ္တရဒေဝိယာ၊ နဂရဗ္ဘန္တရေ ကတေ။
သောဏ္ဏဂုဟာထူပန္တိကေ၊ ပရိမာဏကနာမကေ။

၁၃။ တထာ စ ဥပရာဇေန၊ ကတေ နဂရပစ္ဆိမေ။
မဟာဂုဟာထူပန္တိကေ၊ မင်္ဂလာဝါသနာမကေ။

၁၄။ ဣတိ သောဏ္ဏဝိဟာရေသု၊ ဝသံ နေကေသု ဝါရတော။
သက္ကတော သဗ္ဗရာဇူနံ၊ တိက္ခတ္တုံ လဒ္ဓလဉ္ဆနော။

၁၅။ ဉာဏာဘိဝံသမ္မသေ–နာပတီတိ သုဝိချာတော။
ဒွေဝိဘင်္ဂါဒိဓာရဏာ၊ ဥပဇ္ဈာစရိယတံ ပတ္တော။

၁၆။ လင်္ကာဒီပါဂတာနမ္ပိ၊ ပရဒီပနိဝါသိနံ။
ဘိက္ခူနံ ဝါစကော ဓမ္မံ၊ ပဋိပတ္တိ နိယောဇကော။

၁၇။ ယံ နိဿာယ ဝိသောဓေသိ၊ သာသနံ သေ ဘူပတိ။
အတ္ထဗျဉ္ဇနသမ္ပန္နံ၊ သောကာသိ ဝဏ္ဏနံ က္လမံ။

၁၈။ သမ္ဗုဒ္ဓပရိနိဗ္ဗာနာ၊ ပဉ္စတာလီသကေဒ္ဓကေ။
တိသတေ ဒွိသဟဿေ စ၊ သမ္ပတ္တေ သာ သုနိဋ္ဌိတာ။

၁၉။ ပေဋကာလင်္ကာရင့ယံ၊ နေတ္တိသံဝဏ္ဏနံ သုဘံ။
က္လမဥ္စ သင်္ချေဝနေ၊ ယံ ပုည့ံ ပသုတံ မယာ။

၂၀။ အညမ္ပိ တေန ပုညေန၊ ပတ္တာန ဗောဓိမုတ္တမံ။
တာရယိတ္ဝာ ဗဟူ သတ္တေ၊ မောစေယျံ ဘဝဗန္ဓနာ။

၂၁။ သဒါ ရက္ခန္တု ရာဇာနော၊ ဓမ္မနေဝ ပဇံ က္လမံ၊
နိရတာ ပုညကမ္မေသု၊ ဇောတေန္တု ဇိနသာသနံ။

၂၂။ ဣမေစ ပါဏိနော သဗ္ဗေ၊ သဗ္ဗဒါ နိရုပဒ္ဒဝါ။
နိစ္စံ ကလျာဏသင်္ကပ္ပါ၊ ပပ္ပေါန္တု အမတံ ပဒံ—

ဟူသော ၂၂-ဂါထာဖြင့် မိမိကြီးပမ်းအားသစ်ခဲ့သော သာဓုဝိလာသိနီ မည်ရှိ တင့်ဆန်း ဋီကာကျမ်းကြီး အောင်လံစိုက်ဆောက် ပြီးမြောက်ပုံ၊ အမရပူရနန်းမြို့ တော်၌ မျှားစွာသော ဆင်ဖြူများပိုင် ဘိုးတော်တရားကြီးနန်းတက်ပုံ အမရ ပူရ နေပြည်တော်ကြီး၏ သာယာပြောစည်ပုံ၊ ဘိုးတော်မင်းတရား၏ သာသနာတော်ကို သုတ်သင်ပုံ၊ အသောကာရာမကျောင်းတိုက်ကြီးနှင့် ရတနာ ဘုံကျော် ရွှေကျောင်းတော်ကြီး၏ ခမ်းနားလှပုံ၊ တောင်နန်းမတော်ဒေဝီ၏ ဇေယျဘူမိရွှေကျောင်း၊ မြောက်နန်းမတော်မိဖုရား၏ ရွှေကျောင်း၊ အိမ်ရှေ့ မင်း၏ ရွှေကျောင်း စသည့် ရွှေကျောင်းတို့၌ လှည့်လည်သီတင်းသုံးပုံ၊ ဥဘ တောဝိဘင်းဆောင်ပုံ၊ကျမ်းစာပြီးလစ် သက္ကရာဇ်ကာလ ချိန်ခါသမယ၊ပေဋကာ လင်္ကာရမည်သော နေတ္တိမဟာဋီကာကြီးကို ပြုစုခဲ့ပုံ၊ ဘုရားဆုပန်ပုဂ္ဂိုလ် ဖြစ်ပုံ စသည်တို့ကို ပြည့်စုံစွာ ဖော်ပြ၍ နိဂုံးအုပ်တော်မူခဲ့လေသည်။

## စာမျက်နှာ ၉၃၇

ဖော်ပြပါ သာဓုဝိလာသိနီ အမည်ရှိသော သီလက္ခန္ဓဝဂ္ဂအဘိနဝဋီကာ သီလက္ခန်ဋီကာသစ်ကျမ်းကြီးမှာ ဆဋ္ဌသံဂါယနာ စာတော်မူ ပဌမတွဲ ၅၀၀၊

ဒုတိယတွဲ ၄၃၇၊ ၂-ရပ်ပေါင်း ၅၀၀+၄၃၇=၉၃၇ ရှိလေသည်။ အရှင်ဉာဏာဘိဝံသ မောင်းထောင်သာသနာပိုင်ဆရာတော်ကား အရှင်ဓမ္မပါလ အစရှိသော အိန္ဒိယတောင်ပိုင်းသား ပါဠိပညာရှင်တို့၏ အရည်အသွေးအောက် မကျသည့် ထိပ်တန်းပါဠိပညာရှင် ဖြစ်တော်မူသည်။

မောင်းထောင်မဟာစရိယော ဟိ၊ ပါဠိယာ အတိကောဝိဒေါ။
လေခနေ ဝါစနေ စာပိ၊ ဝိသိဋ္ဌော ပါရဂေါ သုဓိ။

## နေတ္တိဋီကာနှင့် သီလက္ခန်ဋီကာကို အလွန်ဂုဏ်ယူခဲ့

ဆရာတော်သည် ဖော်ပြပါ သီလက္ခန်ဋီကာသစ် (သီလက္ခန္ဓဝဂ္ဂအဘိနဝဋီကာ)နှင့် ပေဋကာလင်္ကာရမည်သော နေတ္တိဋီကာကျမ်းကြီး ၂-ကျမ်းကို အလွန်ကျေနပ်တော်မူသည်။ ဂုဏ်ယူတော်မူသည်။ သို့ဖြစ်၍ လူအဖြစ် မဟာဓမ္မသင်္ကြံအနေနှင့် ရေးသားအပ်သော မုဒ္ဒါဘိသေကဒီပနီနိဂုံးနှင့် လောကသင်္ကေတဒီပနီနိဂုံး၌—

နေတ္တိဋီကာ ကတာ ယေန၊ သီလက္ခန္ဓဋီကာ သုဘာ။
တေနေဝါယံ ကတာ တန္တိ-မုဒ္ဒါဘိသေကဒီပနီ။

နေတ္တိဋီကာ ကတာ ယေန၊ သီလက္ခန္ဓဋီကာ သုဘာ။
သံသကြိဋ္ဌနေကဂန္ထ-နိဿယာပိ စ ဒုလ္လဘာ။

မဟာဓမ္မသင်္ကြံတိ၊ နာမေန တေန မန္တိနာ။
ကတာယံ ပုရိမာ တန္တိ၊ လောကသင်္ကေတဒီပနီ—

ဟူ၍ မိန့်ဆိုခဲ့လေသည်။

## ရာဇာဓိရာဇဝိလာသိနီပါဠ်

ဆရာတော်သည် ရာဇာဓိရာဇဝိလာသိနီပါဠ်ကိုလည်း စီရင်တော်မူခဲ့လေသည်။ ပါဠိစာပေအသုံးအနှုန်းမှာ အံ့မဆုံးအောင် ချောမွေ့လှလေသည်။ ယင်း ကျမ်းငယ်၌—

ပိဋ္ဌကေသု စ ဝေဒေသု၊ ဝေဇ္ဇသတ္ထေသု ဆေကကော။
နိပုဏော ဟတ္ထိသိပ္ပါဒိ-နေကဝိဇ္ဇာသု သမ္ဗုတော။

စန္ဒောဝိယ နုဂ္ဂဟဏော၊ သူရိယော ဝိတာ ကိလန္ဒိယာ။
ဆမာ ဝိယ ကမ္မာကမ္မေ၊ ဂုဏေဟိ သာဂရော ဝိယ။

ဟူသော ၂-ဂါထာဖြင့် မင်းတရားသည် ပိဋကတ်ကျမ်း ပေဒင်ကျမ်း ဆေးကျမ်းတို့ကို လိမ္မာကျွမ်းကျင်၏။ ဆင်စီးအတတ် အစရှိသော သိပ္ပဝိဇ္ဇာတို့၌လိုလေသေးမရှိ တတ်မြောက်လိမ္မာ၏။ချီးမြှောက်ထောက်ပံ့မှု၌ လမင်းအလား၊ တန်ခိုးစွမ်းပကာသအားဖြင့် နေမင်းအလား၊ လုပ်ငန်းဆောင်တာအရာရာ၌ မဟာပထဝီမြေကြီးပမာ၊ ဂုဏ်ကျေးဇူးအနေအားဖြင့် သမုဒ္ဒရာပင်လယ်သဖွယ်ဖြစ်၏ဟူ၍ ဘိုးတော်မင်းတရား၏ ဂုဏ်ကို ချီးမွမ်းတော်မူခဲ့လေသည်။

## တိဂုမ္ဘစေတိယ ထောမနာစာတမ်း

"ဉာဏာဘိဝံသဓမ္မသေနာပတိ" သာသနာပိုင် မောင်းထောင်ဆရာတော်ဘုရားကြီးသည် သာသနာသက္ကရာဇ် ၂၃၃၇-ခုနှစ်၊ ကောဇာသက္ကရာဇ် ၁၁၅၅-ခု တန်ဆောင်မုန်းလဆန်း ၃-ရက် အင်္ဂါနေ့တွင် ရဟန်းရှင်လူတထောင်ကျော်အခြံအရံနှင့်တကွ အမရပူရရွှေမြို့တော်မှ ရွှေတိဂုံဆံတော်ရှင်စေတီတော်မြတ်ကြီးကို အဖူးမြော်ရောက်ရှိတော်မူလေရာ ဆံတော်ဓာတ်၏ အဋ္ဌုပ္ပတ္တိ အကြောင်းခြင်းရာကို ထုတ်ဖော်တော်မူ၍ ၁၁-ဂါထာတို့ဖြင့် ချီးမွမ်းထောမနာတော်မူရာ "တိဂုမ္ဘစေတိယထောမနာ စာတမ်း"ဟု ထင်ရှားလေရာ တွေ့ခဲ ကြုံခဲ ရှားလှသော ဤစာတမ်းကို ဤ၌ အောက်အတိုင်း ဖော်ပြအပ်ပါသည်—

၁။ ယော ဒီပင်္ကရမူလမှိ၊ ပဒံ ဟတ္ထဂတံ စဇိ။
သမ္မာသမ္ဗောဓိ မာကင်္ခံ၊ ဝန္ဒေ တဿ သိရော ရုဟံ—

ယော နာထော၊အကြင်မြတ်စွာဘုရားသည်။ဒီပင်္ကရမူလမှိ၊ဒီပင်္ကရာဘုရားရှင်ခြေတော်ရင်း၌။ သမ္မာသမ္ဗောဓိံ၊ သဗ္ဗညုဘုရားဆုကို။ အာကင်္ခံ၊အာကင်္ခန္တော၊ အလိုရှိတော်မူသည်ဖြစ်၍။ ဟတ္ထဂတံ၊ လက်တော်သို့ ရောက်လုဆဲသော။ ပဒံ၊ နိဗ္ဗာန်ချမ်းသာကို။ စဇိ၊စွန့်တော်မူလေပြီ။ တဿ နာထဿ၊ထိုမြတ်စွာဘုရား၏။ သိရောရုဟံ၊ ဦးခေါင်းတော်၌ရောက်သော ဆံတော်ဓာတ်ကို။ အဟံ၊ အကျွန်ုပ်သည်။ ဝန္ဒေ-ဝန္ဒာမိ၊ ရှိခိုးပါ၏။

၂။ ပူရေတွာ ဗောဓိသမ္ဘာရ-မသေသံ ယော အနုတ္တရ-
မလတ္ထ ဗုဒ္ဓတ္တံ တဿ၊ ကေသဓာတုဝရံ နမေ။

ယော နာထော၊ အကြင်မြတ်စွာဘုရားသည်။ ဗောဓိသမ္ဘာရံ၊ သဗ္ဗညုဘုဉာဏ်၏ အဆောက်အဦးပါရမီအပေါင်းကို။ အသေသံ၊ အကြွင်းမဲ့။ ပူရေတွာ၊ ဖြည့်တော်မူပြီး၍။ အနုတ္တရံ၊ အတုမရှိသော။ ဗုဒ္ဓတ္တံ၊ဘုရားအဖြစ်ကို။ အလတ္ထ၊ ရတော်မူလေပြီ။တဿ နာထဿ၊ ထိုမြတ်စွာဘုရား၏။ ကေသဓာတုဝရံ၊ ဆံတော်ဓာတ်မြတ်ကို။ အဟံ၊ အကျွန်ုပ်သည်။ နမေ-နမာမိ၊ ရှိခိုးပါ၏။

၃။ လဒ္ဓါ ဗုဒ္ဓတ္တံ ဆဋ္ဌာနံ၊ အတိက္ကမ္မ ပဥ္စဝဒိယိ။
ဝိမုတ္တိံ ရာဇာယတနေ၊ တဿ ကေသဝရံ နမေ။

ယော နာထော၊ အကြင်မြတ်စွာဘုရားသည်။ ဗုဒ္ဓတ္တံ၊ ဘုရားအဖြစ်ကို။ လဒ္ဓါ၊ ရတော်မူပြီး၍။ ဆဋ္ဌာနံ၊ ခြောက်ပါးသောဌာနကို။ အတိက္ကမ္မ၊ လွန်တော်မူ၍။ ရာဇာယတနေ၊ ခုနစ်ခုမြောက်သော လင်းလွန်ပင်ရင်း၌။ ဝိမုတ္တိံ၊ ဖလသမာပတ်ကို။ ပဥ္စဝဒိယိ၊ အထူးထူးအပြားပြား ခံစားတော်မူလေပြီ။ တဿ နာထဿ၊ ထိုမြတ်စွာဘုရား၏။ ကေသဝရံ၊ ဆံတော်မြတ်ကို။ အဟံ၊ အကျွန်ုပ်သည်။ နမေ–နမာမိ၊ ရှိခိုးပါ၏။

၄။ တတ္ထ သက္ကဒတ္တိယမ္ဗိ၊ နာဂလတံ ဟရီတကံ။
အနောတတ္တောဒကံ ဘုဥ္ဇိ၊ ဝန္ဒေ တဿ သိရောရုဟံ။

ယော နာထော၊ အကြင်မြတ်စွာဘုရားသည်။ တတ္ထ၊ ထိုရာဇာယတန သတ္တာဟ၌။ သက္ကဒတ္တိယံ၊ သိကြားမင်းလှူအပ်သော။ နာဂလတမ္ဗိ၊ ကွမ်းရိုးဒန်ပူကိုလည်းကောင်း။ ဟရီတကမ္ဗိ၊ ကြဇုသီးကိုလည်းကောင်း။ အနောတတ္တာ၊ အနောတတ္တအိုင်မှ။ ဥဒကမ္ဗိ၊ ရေကိုလည်းကောင်း။ ဘုဥ္ဇိ၊ သုံးဆောင်တော်မူပြီ။ တဿ နာထဿ၊ ထိုမြတ်စွာဘုရား၏။ သိရောရုဟံ၊ ဦးခေါင်းတော်၌ ရောက်သော ဆံတော်မြတ်ကို။ အဟံ၊ အကျွန်ုပ်သည်။ ဝန္ဒေ-ဝန္ဒာမိ၊ ရှိခိုးပါ၏။

၅။ တဒါ မုဂ္ဂသေလပတ္တံ၊ မဟာရာဇူဟိ ဒိန္နကံ။
တထာဂတော ပဋိဂ္ဂဏှိ၊ ဝန္ဒာမိ တဿ သီသဇံ။

ယော နာထော၊ အကြင်မြတ်စွာဘုရားသည်။ တဒါ၊ ထိုရာဇာယတန သတ္တာဟဝယ် နေတော်မူသော အခါ၌။ မဟာရာဇူဟိ၊ စတုမဟာရာဇ်နတ်မင်းကြီး လေးယောက်တို့သည်။ ဒိန္နကံ၊ လှူအပ်သော။ မုဂ္ဂသေလပတ္တံ၊ ပဲနောက်အဆင်းကျောက်ညိုသပိတ်ကို။ တထာဂတော၊ ရှေးဘုရားတို့ကဲ့သို့ အလားအကျင့်ရှိတော်မူသည်ဖြစ်၍။ ပဋိဂ္ဂဏှိ၊ ခံတော်မူပြီ။ တဿ နာထဿ၊ ထိုမြတ်စွာဘုရား၏။ သီသဇံ၊ ဦးခေါင်းတော်၌ ရောက်သောဆံတော်ကို။ အဟံ၊ အကျွန်ုပ်သည်။ ဝန္ဒာမိ၊ ရှိခိုးပါ၏။

၆။ တဒါ ဒိန္နံ ဒွေဘာတိက-ဇနေဟိ မဓုပိဏ္ဍိကံ။
ပရိဘုဥ္ဇိသိ မန္ထမ္ဗိ၊ တဿ သီသသိရိံ နမေ။

ယော နာထော၊ အကြင်မြတ်စွာဘုရားသည်။ တဒါ၊ ထိုရာဇာယတန သတ္တာဟဝယ် နေတော်မူသောအခါ၌။ တတ္ထ၊ ထိုလင်းလွန်းပင်ရင်းသို့။ ဥပဂတေဟိ၊

ဆည်းကပ်လာကုန်သော။ ဒွေဘာတိကဇနေယိ၊ တပုဿ ဘလ္လိက ညီနောင် နှစ်ယောက်တို့သည်။ ဒိန္နံ၊ ပေးလှူအပ်သော။ မဓုပိဏ္ဍိကံ၊ ပျားမုန့်ဆုပ်ကိုရင်း။ မန္ထမ္ပိ၊ မုန့်ကြွက်ကျစ်ကိုရင်း။ ပရိဘုဥ္ဇိသိ၊ ဘုဉ်းပေးတော်မူပြီ။တဿ နာထဿ၊ ထိုမြတ်စွာဘုရား၏။ သီသသိရိ၊ ဦးခေါင်းတော်၏ ကျက်သရေဖြစ်သော ဆံတော်ဓာတ်မြတ်ကို။ အဟံ၊ အကျွန်ုပ်သည်။ နမေ-နမာမိ၊ ရှိခိုးပါ၏။

၇။ ယော တပုဿဘလ္လိကာနံ၊ တဒါ ဒွိသရဏံ အဒါ။
လောကမှိ သဗ္ဗပဌမံ၊ တဿ သိရိဓရံ နမေ။

ယော နာထော၊ အကြင်မြတ်စွာဘုရားသည်။တဒါ၊ ထိုရာဇာယတနသတ္တာဟဝယ် နေတော်မူသောအခါ၌။ တပုဿဘလ္လိကာနံ၊ တပုဿ ဘလ္လိက ညီနောင်တို့အား။ လောကမှိ၊ လောကသုံးပါး၌။ သဗ္ဗပဌမံ၊ ခပ်သိမ်းသော သူတို့၏ လက်ဦးစွာ။ ဒွိသရဏံ၊ ဒွေဝါစိကသရဏဂုံကို။ အဒါ၊ ပေးတော်မူလေပြီ။ တဿ နာထဿ၊ ထိုမြတ်စွာဘုရား၏။ သိရိဓရံ၊ ကျက်သရေကို ဆောင်တတ်သော ဆံတော်မြတ်ကို။ အဟံ၊ အကျွန်ုပ်သည်၊ နမေ-နမာမိ၊ ရှိခိုးပါ၏။

၈။ တဒါ တတ္ထုပဋ္ဌာကာနံ၊ တေသံ ကေသေ အဒါ အဋ္ဌ။
လောကဟိတမပေက္ခန္တော၊ နာထော ယော တဿ တေ နမေ။

ယော နာထော၊ အကြင်မြတ်စွာဘုရားသည်။ တဒါ၊ ထိုရာဇာယတန သတ္တာဟဝယ် နေတော်မူသောအခါ၌။ တတ္ထ၊ ထိုလင်းလွန်းပင်ရင်းသို့။ဥပဋ္ဌာကာနံ ဆည်းကပ်လာကုန်သော။ တေသံ၊ ထိုတပုဿ ဘလ္လိကညီနောင်တို့ အား။ အဋ္ဌကေသေ၊ ဆံတော်ရှစ်ဆူတို့ကို။ လောကဟိတံ၊ သတ္တလောက၏ အစီးအပွားကို။ အပေက္ခန္တော၊ ထောက်ရှုတော်မူလျက်။ အဒါ၊ ပေးအပ်တော်မူလေပြီ။ တဿ နာထဿ၊ ထိုမြတ်စွာဘုရား၏။ တေ အဋ္ဌကေသေ၊ ထိုဆံတော် ရှစ်ဆူတို့ကို။ အဟံ၊ အကျွန်ုပ်သည်။ နမေ-နမာမိ၊ ရှိခိုးပါ၏။

၉။ တေပိ တံ အာဟရိတွာန၊ ပေါက္ခရဝတိယံ ကရုံ။
သဓာတုကေသစေတိယံ၊ နမေ တံ သဗ္ဗပူဇိတံ။

တေပိ၊ ထိုတပုဿ ဘလ္လိကညီနောင်တို့သည်လည်း။ တံ၊ ထိုဆံတော်ဓာတ် ကို။ အာဟရိတွာန၊ ဆောင်ကုန်၍။ ပေါက္ခရဝတိယံ၊ အသိတဥ္စနမည်သော ပေါက္ခရဝတီမြို့၌။ သဓာတုကေသစေတိယံ။ သက်တော်ထင်ရှားရှိသော သဗ္ဗညု မြတ်စွာဘုရား၏ ဆံတော်စေတီကို။အကရုံ၊ပြုလေကုန်ပြီ။ သဗ္ဗပူဇိတံ၊ ခပ်သိမ်း သော စေတီတို့၏ ရှေးဦးဖြစ်သော။ တံ၊ ထိုဆံတော်စေတီကို။အဟံ၊အကျွန်ုပ် သည်။ နမေ-နမာမိ၊ ရှိခိုးပါ၏။

၁၀။ ဥဒပေါသထုပေါသထမှိ၊ မုဠွန္တံ နီလရသ္မိယော။
ဘဂဝါ ဝ လောကအတ္ထံ၊ ကမရေန္တံ တံ သဒါ နမေ။

ဥပေါသထုပေါသထမှိ၊ ဥပုသ်နေ့တိုင်း ဥပုသ်နေ့တိုင်း၌။ နီလရသ္မိယော၊ ညိုသောရောင်ခြည်တော်တို့ကို။ မုဠွန္တံ၊ လွှတ်ပြလျက်။ ဘဂဝါဝ၊ သက်တော်ထင်ရှားရှိသော သဗ္ဗညုဘုရားကဲ့သို့။ လောကအတ္ထံ၊ လူတို့အကျိုးစီးပွားကို။ ကရေန္တံ၊ ပြုတော်မူတတ်သော။ တံ၊ ထိုဆံတော်စေတီကို။ အဟံ၊ အကျွန်ုပ်သည်။ သဒါ၊ အခါခပ်သိမ်း။ နမေ-နမာမိ၊ ရှိခိုးပါ၏။

၁၁။ စူဠာမဏိဒုဿစေတျံ၊ ကာလမှိ ဗောဓိသတ္တကေ။
ဗုဒ္ဓကာလေ ဣဒံ သဗ္ဗ-ပဌမံ တံ နမာမဟံ။

စူဠာမဏိဒုဿစေတျံ၊ တာဝတိံသာ စူဠာမဏိစေတီ ဗြဟ္မာ့ပြည် ဒုဿစေတီ ဤစေတီနှစ်ဆူသည်။ ဗောဓိသတ္တကေ၊ ဘုရားလောင်းလက်ထက်ဖြစ်သော။ ကာလမှိ၊ ကာလ၌။ သဗ္ဗပဌမံ၊ ခပ်သိမ်းသော စေတီတို့၏ ရှေးဦးစွာ ဖြစ်၏။ တံ-တာဒိသံ၊ ထိုသို့သဘောရှိသော ဆံဘော်စေတီကို။ အဟံ၊ အကျွန်ုပ်သည်။ နမာမိ၊ ရှိခိုးပါ၏။

၁၂။ နမာမဟံ ဝန္ဒာမဟံ၊ ပူဇေမဟံ သိရောရုဟံ။
ပုညမိဒံ ဘဝတု မေ၊ ပစ္စယော အာသဝက္ခယေ။

အဟံ၊အကျွန်ုပ်သည်။ သိရောရုဟံ၊ ဆံတော်ခေတ်မြတ်ကို။ နမာမိ၊ ရှိခိုးပါ၏။ အဟံ၊အကျွန်ုပ်သည်။ သိရောရုဟံ၊ ဆံတော်ခေတ်မြတ်ကို။ ဝန္ဒာမိ၊ ချီးမွမ်းပါ၏။ အဟံ၊ အကျွန်ုပ်သည်။ သိရောရုဟံ၊ ဆံတော်ခေတ်မြတ်ကို။ ပူဇေမိ၊ ပူဇော်ပါ၏။ ဣဒံ ပုညံ၊ ဤကောင်းမှုအပေါင်းသည်။ မေ၊ အကျွန်ုပ်အား။ အာသဝက္ခယေ၊ အာသဝေါတရားလေးပါးကုန်ခြင်း၌။ ဝါ၊ အာသဝေါတရားလေးပါးကုန်ခြင်း၏။ ပစ္စယော၊ အကြောင်းသည်။ ဘဝတု၊ ဖြစ်ပါစေသတည်း။

## သာမဏေကျော်လေးပါး ဝတ္ထု

သာမဏေလေးပါးဝတ္ထုသည် အမရပူရ မြို့တည်နန်းတည် ဘဝရှင်မင်းတရားကြီး လျှောက်ထားတောင်းပန်အပ်သည်ဖြစ်၍ ဆရာတော်သည် မြန်မာစာဟန်ကျကျ ရေးသားစီရင်တော်မူအပ်သော (၁) ဝနဝါသီတိဿသာမဏေ၊ (၂) ပဏ္ဍိတသာမဏေ၊ (၃) သံကိစ္စသာမဏေ၊ (၄) သုမနသာမဏေဟူသော သာမဏေ ၄-ပါးတို့၏ ဝတ္ထုကျမ်းစာကောင်းဖြစ်သည်။ နိဒါန်း၌—

"အတုမရှိ သိမ်မွေ့နက်နဲသော ခွဲခြမ်းထိုးထွင်းနိုင်သော ပညာတော်ဖြင့် ဘုရား၊ ပစ္စေကဗုဒ္ဓါ၊ အရိယာသူတော်ကောင်းတို့၏ ဂုဏ်ကျေးဇူးအထူးကို ဆင်ခြင်ဆွေးနွေးလေ့ ရှိတော်မူသော လက်နက်စကြာသခင် ဆင်ဖြူများရှင် အရှင်ဘဝရှင် မဟာဓမ္မရာဇ်မင်းကြီး၏ အမေးတော်ကို တိုင်တည်၍ သာမဏေကျော်လေးပါးတို့ ဂုဏ်ကျေးဇူးဝတ္ထု အထူပ္ပတ္တိများကို ဓမ္မပဒစသော ကျမ်းဂန်လာအတိုင်း ပဋိညာဉ်၊ ဥပမာ၊ ဟိတ်၊ ဥဒါဟရုဏ်၊ နိဂုံးဟူသော စကားအစိတ်အဖြာ အင်္ဂါငါးပါးဖြင့် တန်ဆာဆင်၍ ဆိုပေအံ့"—

ဟု ပဋိညာဉ်ပြုတော်မူခဲ့သည်။

နိဂုံး၌လည်း—

"အသမ္ဘိန္နခတ္တိယ အာဒိစ္စဝံသ မုဒ္ဓါဘိသေက ကေရာဇ် ဒီပရာဇ်မင်းစင်လည်း မြောက်သော မဟာအမရပူရမြို့တည်နန်းတည် လက်နက်စကြာသခင် ဆင်ဖြူများရှင် အရှင်ဘဝရှင်မဟာဓမ္မရာဇ်တရားမင်းကြီးသည် မဂ်ဖြင့်လာသော အရိယာတို့၏ သဒ္ဓါခြင်းကဲ့သို့ မတုန်မလှုပ်သက်ဝင်ယုံကြည်သောသဒ္ဓါဖြင့် ဘုရား၊အရိယာရဟန္တာတို့ကို ဖူးတွေ့လိုခြင်း အားကြီးရကား မျက်မှောက်ထင်ထင် မမြင်လိုက်ရသော်လည်း မြင်ရသကဲ့သို့ဖြစ်အောင် နှလုံးထားတော်မူ၍—

(၁) ပိုလ်အချိန် အသောင်းမက မာခက်လှသော သံစက်သံတွေကို အရည်ကျိုသဖြင့် သွန်းလုပ်သော စန္ဒာမုနိဘုရား ရုပ်ပွားတော်။

(၂) ရွှေအတိ မွမ်းမံထုလုပ်သော ရှစ်ဆယ်သော အသီတိမဟာသာဝက ရုပ်ပွားတော်—

တို့ကို ကိုယ်တိုင်ကိုယ်ကြပ် မပြတ်ကိုးကွယ်တော်မူ၏။ သာမဏေကျော်လေးပါးတို့ကို ရုပ်ပွားဆင်းတု ထုလုပ်ကိုးကွယ်တော်မူလိုသောကြောင့်လည်း ဂုဏ်ကျေးဇူးအထူးကို ဆွေးနွေးမေးမြန်းတော်မူ၏။

ဖော်ပြပါရှိလေရာ ဘိုးတော်မင်းတရား၏ ဘုရားသာသနာတော်နှင့် ရဟန္တာ ၃-ရပ်ကို လွန်စွာလေးမြတ်ပုံကို သိရလေသည်။ ယင်းကျမ်းကို ခရစ်သက္ကရာဇ် ၁၉၁၆-ခုနှစ်က ရန်ကုန်မြို့ ဟံသာဝတီ ပုံနှိပ်တိုက်၌ ပဌမအကြိမ် ရိုက်နှိပ်ထုတ်ဝေခဲ့လသည်။ တဖန် ၁၉၆၂-ခုနှစ်တွင် ဒုတိယအကြိမ် ထပ်မံရိုက်နှိပ်ထုတ်ဝေခဲ့ရာ ကရောင်း ၄၆-ချိုးဆိုက် စာမျက်နှာ ၁၆၀-ရှိလေသည်။

စတုန္နံ သာမဏေရာနံ၊ ဝတ္ထုမ္ပိ လေခကော ဝိဒ္ဓါ။
ယာစိတော ရာဇဲသေဋ္ဌေန၊ သမာသေန သုမိ အကာ။

## ဓမ္မောပဒေသကျမ်း

ယင်း ဓမ္မောပဒေသကျမ်းသည် သာသနာ့ပိုင် မောင်းထောင်ဆရာတော် လူအဖြစ်သို့ ရောက်မှ ရေးသောကျမ်း ဖြစ်သည်။ "အအာရဲအင် ဘကြီးဆင်ဖြူရှင်" ဟူသည်နှင့်အညီ သက္ကရာဇ် ၁၁၇၁-ခုနှစ်တွင် ဘကြီးတော်မင်းတရား နန်းတက်လေသည်။ ယင်း ဘကြီးတော် မင်းတရားလက်ထက် သက္ကရာဇ် ၁၁၉၁-ခုနှစ်တွင် အတွင်းဝန် ဆောမြို့စား မင်းကြီးသီရိမဟာနန္ဒသင်္ကြံက တုံ့ချင်မင်းမြတ်နှင့်တကွ အမျိုးလေးပါးတို့အတွက် သင့်လျော်လျောက်ပတ်သော ကျမ်းတစောင် ရေးသားပြုစုပါရန် တိုက်တွန်းဆင့်ဆိုခဲ့လေသည်။ သို့ဖြစ်၍ မဟာဓမ္မသင်္ကြံသည် လူမှုကိစ္စတွေ များပြားလှသော ဘုရင်နှင့်တကွသော အမျိုးလေးပါးတို့အား လျော်အောင် ဇာတ်တော် နိပါတ်တော်များမှ လိုရင်းအချက်အလက်များကို ထုတ်နုတ်၍ ဓမ္မောပဒေသကျမ်းကို ပြုစီရင်ခဲ့လေသည်။ မဟာဓမ္မသင်္ကြံသည် ကျမ်းဦး၌—

မုနိန္ဒက္ကော တမံမောဟံ၊ ဟန္တွာ ဗောဓေသိ ပင်္ကဇံ။
ဇနံ သဒ္ဓမ္မရံသီဟိ၊ သော သမ္ဘာသေတု မံ ဇိနော။

ယော မုနိန္ဒော၊ အကြင် ဘုရားတည်းဟူသော နေမင်းသည်။ သဒ္ဓမ္မရံသီဟိ၊ တရားတည်း ဟူသော ရောင်ခြည်တို့ဖြင့်။ တမံမောဟံ၊ အဝိဇ္ဇာမောဟတည်း ဟူသော အမိုက်ကို။ ဟန္တွာ၊ ပယ်ဖျောက်တော်မူ၍။ ပင်္ကဇံ ဇနံ၊ ဝေနေယျတည်းဟူသော ကြာကို။ ဗောဓေသိ၊ သစ္စာလေးပါး တရားကိုသိစေသဖြင့် ပွင့်စေတော်မူပြီး၊ ဇိနော၊ မာရ်ငါးပါးကို အောင်မြင်တော်မူပြီးသော။ သော မုနိန္ဒက္ကော၊ ထိုဘုရားတည်းဟူသော နေမင်းသည်။ မံ၊ အကျွန်ုပ်ကို။ သမ္ဘာသေတု၊ အန္တရာယ်ခပ်သိမ်း ကင်းငြိမ်းခြင်း အလိုဆန္ဒရှိသဖြင့် ပြီးစီးခြင်း အကျိုးငှာ ကောင်းစွာမစတော်မူစေသတည်း"—

ဟူသော ကစ္စာယနသာရ ကျမ်းဦးဂါထာဖြင့် ရေမြေ့သနင်း မင်းမှစ၍ မင်းညီမင်းသား မှူးတော်မတ်တော် မင်းချင်း မင်းခစား အမျိုးလေးပါးတို့၏ အကျိုးငှာ ကျမ်းဂန်လာအတိုင်း ဓမ္မောပဒေသကို ပြလိုသဖြင့် ထောမနာပုဗ္ဗင်္ဂမ အာသီသ ပြုခဲ့လေသည်။

မဟာဓမ္မသင်္ကြံသည် ဖော်ပြပါ ဓမ္မောဒေသကျမ်းကို အပိုင်းကဏ္ဍ ပရိစ္ဆေဒ ၄-ပါးတို့ဖြင့် တန်ဆာဆင်၍ ရေးသားစီရင်ခဲ့ရာ ယင်းအခန်း ၄-ခန်းတွင် ပဌမအခန်း ပဌမကဏ္ဍ၌ "ဓမ္မေန ပရေသံ ရဉ္ဇေတီတိ ရာဇာ" ယော ဘူပါလော၊ အကြင် ရေမြေရှင်သည်။ ဓမ္မေန၊ မင်းကျင့်တရား ဆယ်ပါးဖြင့်။ ပရေသံ၊ သူတပါးတို့အား။ ဝါ၊ သူတပါးတို့ကို။ ရဉ္ဇေတိ၊ စိုမက်မြတ်နိုး စေတတ်၏။ ဣတိတသ္မာ၊ ထိုသို့ စိုမက်မြတ်နိုးစေတတ်သော သတ္တိကြောင့်။ သော ဘူပါလော၊ ထိုရေမြေရှင်သည်။ရာဇာ၊ ရာဇာမည်၏ ဟူ၍ရှင်း၊

စတူဟိ သင်္ဂဟဝတ္ထူဟိ ဇနံ ရဉ္ဇတီတိ ရာဇာ၊ ဝိသေသေန ရာဇတေ ဒိပ္ပတေတိ ရာဇာ စသည်ဖြင့်ရှင်း ရာဇသဒ္ဒါ၏ဝိဂြိုဟ်ဝစနတ္တကိုလည်း ဖော်ပြ ထား၏။

ရှင်းပြင် အပရိယာနိယတရား ၇-ပါးကို—

သန္နိပါတော သမဂ္ဂေါ စ၊ ပညတ္တိ ပဋိပဇ္ဇနံ။
သုဝစော အပသယော စ၊ ဗလိ ဂုတ္တိ စ သတ္တိမေ။

သန္နိပါတော၊ အစည်းအဝေးများခြင်း။ သမဂ္ဂေါ စ၊ တညီတညွတ် စည်းဝေးကြခြင်း။ ပညတ္တိ ပဋိပဇ္ဇနံ၊ ရှေးမင်းတို့ ထားခဲ့တိုင်းသာ ကျင့်ခြင်း။သုဝစော၊ ကြီးသောသူတို့ ဆုံးမဆုံနာခံခြင်း။ အပသယော စ၊ အမျိုးသမီး တို့ကို အနိုင်အထက် မသိမ်းခြင်း။ဗလိ စ၊ ထုံးစံအတိုင်း နတ်တို့ကို ပသခြင်း။ဂုတ္တိ စ၊ ရဟန်းသံဃာတို့အား စောင့်ရှောက်ခြင်း။ ဣမေ သတ္တ၊ ဤခုနစ်ပါးတို့တည်း—

ဟူ၍ အကျဉ်းချုပ် ပြထားသည်။

ရှင်းပြင် မင်းကျင့်တရား ၁၀-ပါး၊ အသက်ရှည်ကြောင်းများ ပါရှိလေ သည်။ ဒုတိယကဏ္ဍ၌ အိမ်ရှေ့မင်းအင်္ဂါ ၅-ပါး၊ အမတ်များ၊ ရာဇသတိ အခန်း၊ အင်္ဂုလိကပဉှာ၊ သူယုတ်မာအကြောင်း၊ ပျက်စီးကြောင်း စသည်တို့ လာရှိသည်။ တတိယကဏ္ဍ၊ စတုတ္ထကဏ္ဍတို့၌ ဇာတ်တော်လာ မှတ်သားဖွယ် များကို အကျဉ်းချုပ်၍ ပြသည်။ မြန်မာစာပေ အကျဉ်းချုပ်ရေးပုံ အတုယူ စရာ ကျမ်းစာကောင်း ဖြစ်လေသည်။

ရှင်းကျမ်း၏အဆုံး၌—ဤဆိုခဲ့ပြီးသော ဂုဏ်ကျေးဇူးအပေါင်းနှင့် အံ့ဖွယ် သရဲ ပြည့်စုံတော်မူသော စတုဗ္ဘရတနာပူရ မြို့တည်နန်းတည် ဆဒ္ဒန်မင်းသခင် ဆင်ဖြူများရှင် ဘဝရှင်မင်းတရားကြီးဘုရား ရွှေလက်ထက်တော် ကျွန်တော် ရှင်း အတွင်းသေနာပတိဖြစ်သော လောကဓမ္မ ရာဇအရေးအကြောင်းများ၌



ရတနာပုရ စတုတ္ထမြို့တည် ဘကြီးတော်မင်းတရားနှင့်
နန်းမတော်မိဖုရားကြီး မယ်နုထံ မဟာဓမ္မသင်္ကြံ
နေမိတ္တကဝိဇ္ဇာကျမ်း တင်သွင်းဖတ်ပြပုံ

အကြားအမြင် ဗဟုသုတပညာကို ရှာမှီးလေ့ရှိသဖြင့် သဒ္ဓါ၊ သီလ၊ သုတ၊ စာဂ၊ ပညာ ဟူသော ဆုတောင်းကိုင်းပြည့်စုံရာ အင်္ဂါငါးပါးရှိသော ဆော့မြို့စားအတွင်းဝန် မင်းကြီး သီရိမဟာနန္ဒသင်္ကြံသည် ရေမြေသခင် အရှင်မင်းကေရာဇ် အကျိုးစီးပွားတော် သက်တော်ရှည်ရာသောအကြောင်း မင်းညီမင်းသား မှူးတော် မတ်တော် မင်းချင်း မင်းခစား အကျိုးလေးပါး မှတ်သားကျင့်ဆောင်ရန် ထုံးစံဥပဒေသ အကြောင်းများကို လက်ဆုပ်လက်ကိုင် နှုတ်တက် အာဂုံ လေ့လာမှတ်သားလိုပ ကြောင်းနှင့် ဆင့်ဆိုပန်ကြားလာသည် ဖြစ်၍ အပိုင်း အခန်း လေးပါးဖြင့် မင်းတိုင်ပင်အမတ် မဟာဓမ္မသင်္ကြံ ထုတ်နုတ်ရေးသားသော ဓမ္မောပဒေသ စကားလေးတွဲတည်း။

ဤတွင် မင်းကေရာဇ် အိမ်ရှေ့မင်း မင်းညီမင်းသား မှူးတော်မတ်တော် မင်းချင်း မင်းခစား စသော အမျိုးလေးပါးတို့ ကျင့်ဆောင်ရန်ကို ပြရာ ပြကြောင်းဖြစ်သော ဓမ္မောပဒေသကျမ်းသည် အပြီးကမွတ် အဆုံးသတ်သတည်း။ ဖော်ပြရာကျမ်းကို အဆုံးသတ်လိုက်လေသည်။ ယင်းဓမ္မောပဒေသ ကျမ်းကို ခရစ်သက္ကရာဇ် ၁၉၁၀-ခုနှစ်က မန္တလေးမြို့ မြန်မာ့တာရာသတင်းစာတိုက်မှ စတင်ရိုက်နှိပ် ထုတ်ဝေခဲ့၍ မြန်မာသက္ကရာဇ် ၁၃၂၃-ခုနှစ်တွင် ရန်ကုန်မြို့ ရန်အောင်ပုံနှိပ်တိုက်၌ ရိုက်နှိပ်ခဲ့ရာ ကရောင်း ၁၆-ချိုးဆိုက် စာမျက်နှာ ၂၁၁-ရှိလေသည်။

## နေမိတ္တကဝိဇ္ဇာကျမ်း

ဖော်ပြပါကျမ်းများအနက် နေမိတ္တကဝိဇ္ဇာကျမ်းသည်လည်း ဗေဒင်ဆရာ လောကီနိမိတ် တိတ္ထုံဟောသူတို့အဖို့ လက်ကိုင်ပြုရမည့် ကျမ်းကောင်း ဖြစ်သည်။ ဤနေမိတ္တကဝိဇ္ဇာကျမ်းက သာသနာပိုင် မောင်းထောင်ဆရာတော် တဖြစ်လဲ မဟာဓမ္မသင်္ကြံ၏ လောကီနက္ခတ် ဗေဒင် ရာဇဝင်ဗဟုသုတ အတွေ့ အကြုံကို ပြောနေသည်။

ယင်း နေမိတ္တကဝိဇ္ဇာကျမ်းကို ရတနာပူရ စတုတ္ထ ရွှေဝမြို့တည် ဘကြီးတော် ဖန်နန်းရှင် မင်းတရား၏ နိမိတ်နည်းနာရှိသမျှ ပေါင်းစုရေးသားဆက်သွင်းရ မည်ဟူသော အမိန့်အရ မင်းတိုင်ပင်အမတ်ကြီး မဟာဓမ္မသင်္ကြံသည် နေမိတ္တကဝိဇ္ဇာနိမိတ်နည်းနာ မသေမချာ အကွဲကွဲအပြားပြား တဖြင့် တပါးရှိသည်များကို တစောင်တကျမ်း စာတမ်းတချက်တည်း သိပ်သည်း သေချာစွာ ပိဋကတ်ကျမ်း သက္ကတကျမ်း အာကာသသုတ္တရ ပါရာတိတ္ထုံ ရာဇဝင် အစဉ်စာတမ်း ထုံးစံ ရှိသည့်အတိုင်း ထုတ်နုတ်စီရင်ရေးသားခဲ့လေသည်။ ယင်းနေမိတ္တကဝိဇ္ဇာကျမ်း၌ အပိုင်းပေါင်း ၉-ပိုင်းပါရှိ၏။ ၉-ပိုင်းအနက် ပဌမပိုင်းတွင် ဗျဂ္ဃစရိယာ သီဟဇာ

နိယထုံသွားရာ၌ အဟောလင်္ကာ၊ ဂြိုဟ်ချင်း အပူးအယှဉ်အသွားကို ပြဆိုချက်၊ နက္ခတ်၌ အစီအရင်အသွားကို ပြဆိုချက်၊ ဂြိုဟ်ဘို့၏အမျိုး တိတ်စွဲကို ပြဆိုချက်၊ ဂြိုဟ်တို့၌ တိတ်နိမိတ် ထင်မြင်ဘူးသော အတိတ်ထုံးစံ သာဓကအမြွက် စကားကို ပြဆိုခြင်းအကြောင်းတို့ ပါဝင်လေသည်။ ဖော်ပြပါ အကြောင်း အရာ အချက်အလက်များတွင် ပါရာသျှတ္တရာကျမ်းမှ ထုတ်နုတ်ပြဆိုသည့် ဗျဿ ဧရိယာ၊ သီဟဇာ၊ နိယထုံသွားရာ အဟောလင်္ကာမှာ—

(၁) ပန္နရသ၊ ကျယ်စွာသင်္ချာ၊ ဘုံသာရိပ်လယ်၊ မြူးစံပယ်သား၊ တင့်တယ်ရောင်ဝါ၊ ဂြိုဟ်အင်္ဂါကား၊ မာသာဒွယ၊ သဘာဝဖြင့်၊ ပြောင်းကြွမှန်၊ လျင်ထန်သွားခြင်း၊ မင်း၏မိဘ၊ သေကုန်ကြအံ့၊ ထိုမှတဖန်၊ ပြောင်းပြန်ဗျဿဧရိယာ၊ အမတ်လျာတို့၊ များစွာပုန်ကန်၊ ပြည်စွန်မလုံ၊ နိယထုံဟု၊ နေတုံအမြဲ၊ လွန်ပြောင်းခဲမူ၊ မလွဲဥပါဒ်၊ ဖြစ်ချင်တတ်သည်။ ။သူမြတ်ဟောနှင်း ကြမ္မာတည်း။

(၂) ဆယ့်ငါးယူဇနာ၊ မန်စွာကျဝ်လစ်၊ ဘုံကျောင်းဖြစ်သား၊ စုလစ်သွယ်သွယ်၊ ဗိမာန်လယ်၌၊ စံယ်ပထ၊ ဂြိုဟ်ဗုဒ္ဓဟူး၊ တလ သွားမြဲ၊ မသွားပဲလျှင်၊ ဖွဲ့ခဲ့လျှင်စွာ၊ သီဟဇာကား၊ ရာဇဥပါဒ်၊ ဖြစ်ချင်တတ်၏၊ ယွင်းချွတ်တဖန်၊ နောက်သို့ပြန်မူ၊ ပုန်ကန်လည်း ရောက်၊ အနှောက်ပျက်နှာ၊ ဗိုလ်ပါမကြွင်း၊ အချင်းချင်းတို့၊ သတ် လျှင်းကြတုံ၊ နိယထုံမြဲစွာ၊ နေခြင်းရာမူ၊ သူပုန်တန္တ၊ ခိုးသူထအုံ၊ ကြောင့်ကြဗျာပါ၊ မရှိမ်းသာသည်။ ။ပူဆာအရှေ့မြောင့်ထောင့် တည်း။

(၃) သတ္တရသ၊ ယောဇနဖြင့်၊ မိုးဝတိမ်ယံ၊ ဗိမာန်ပျံနှင့်၊ သာငံထွန်းထ၊ ဂြိုဟ်ဗိဝကား၊ ဒွါဒမာသာ၊ သွားမြဲရာထက်၊ သင်္ကာ လျှင်းခြင်း၊ သွားပေလျှင်းက၊ မင်း၏ခန္ဓာ၊ ဆေးစာလည်းရောက်၊ နောက်သို့တဖန်၊ ရာသီပြန်မှ၊ မကျန်းသသူ၊ နတ်လူရောမျှ၊ မင်းမိန်း မနှင့်၊ နှမမကြွင်း၊ ခပင်းများစွာ၊ ဗိုလ်ပါထိတ်လှ၊ ဖြစ်ကြစစ်မက်၊ အကုန်ပျက်အံ့၊ နေ့ရက်လည်းစေ့၊ မရွှေတုံဘဲ၊ အမြဲစခေတ၊ နိယထုံ နေမူ၊ သပြေကျွန်းခွင်၊ လျှင်တော်လည်း၊ ပွဲတင်ကြည်းမျှ၊ ရိုက် သည်းမပြေ၊ ထိန့်ထိန့်ရှင်သည်။ ။ကောင်းကင်နိမိတ်ဩဘာတည်း။

(၄) ဆယ့်ကိုးယူဇနာ၊ ရောင်ခြည်ဖြာသား၊ ထွန်းဝါကွန့်မြူး၊ ပထူးကြယ်ချင်း၊ ပရောင်လင်းသည်၊ ဂြိုဟ်မင်းသောကြာ၊ သီဟစာရ၊ ဆောစွာကြွမူ၊ ရောင်းချဖောက်ကား၊ ကုန်သည်သားတို့၊ ပျက်ပြား

တုံရာ၊ တခါနောက်နှစ်၊ ပြန်သည်ဖြစ်မူ၊ ပြည်သူစိုးရိမ်၊ မငြိမ်ချောက်ချား၊ ပျက်စီးများအံ့။ ပြောင်းသွားခဲ့တုံ၊ နိယထုံမြဲစွာ၊ နေခြင်းရာကား၊ ဝန္ဒာရှိခိုး၊ မြတ်နိုးတနာ၊ မင်းဆရာတို့၊ ခန္ဓာပြိုကွဲ၊ ဘဝလဲသည်။ ။မလွဲကျမ်းဂန်မိန့်မှာတည်း။

(၅) ဆယ့်သုံးယူဇနာ၊ ချင့်သချာလည်း၊ မှန်စွာမယွင်း၊ဗိမာန်တွင်းက၊ စက်မင်းယာဉ်သာ၊ စီး၍ပါသား၊ နေဆူဂြိုဟ်မင်း၊ နေခြင်းတိံသ၊ သုံးဆယ်လမှ၊ ထခဲ့လျင်စွာ၊ သီဟဇာကား၊ စောရခိုးသား၊ ပုန်ကန်များအံ့၊ ပြန်သွားဗျက္ခစရိယာ၊ ပြတုံဆုကား၊ စိုးတုံပြည်ရွာ၊ ထိုရာဇာတို့၊ သူစွာမင်းကြီး၊ ဖျက်ဆီးနှိပ်စက်၊ ကုန်အောင်ပျက်သည်။ တို့ဘက်ရပ်ခွင်မသာတည်း ။

ရင်းပြင် ဒုတိယပိုင်း ဒုတိယကဏ္ဍ၌ နက္ခတ်အပိုင်းအခန်းမာတိကာ နက္ခတ်တို့၏အဆင်းဖောက်ပြန်ခြင်းကို ပြဆိုချက်၊ နက္ခတ်တို့၏ အမျိုးတိတ်စွဲကို ပြဆိုခြင်းအကြောင်း နက္ခတ်တို့၏ အရပ်တိတ်စွဲကို ပြဆိုခြင်းအကြောင်း၊ သရောဒယကျမ်း၊ ဇောတိသတ္တစသော သက္ကတကျမ်းများ၌လာသော နက္ခတ်တို့၏ အရပ်တိတ်စွဲ၊ အတိတ်ထိုးစံဉပမာသာကေတို့ကို ပြဆိုထား၏။

တတိယပိုင်း၌ အတွင်းတာရာ အပိုင်းအခန်းမာတိကာစဉ်၊ အတွင်းတာရာတို့၏ အရပ်တိတ်စွဲကို ပြဆိုချက်၊ အတိတ်ထိုးစံ ဉပမာသာခကေတို့ ပြချက်တို့ ပါရှိ၏။

စတုတ္ထပိုင်း၌ကား ပြင်တာရာပိုင်း မာတိကာစဉ်၊ ပြင်တာရာတို့၏ အရပ်တိတ်စွဲကို ပြဆိုချက်၊ ပြင်တာရာတို့၏အမျိုးတိတ်စွဲကို ပြဆိုချက်တို့ ပါရှိသည်။

ပဥ္စမပိုင်း၌ အလွတ်တာရာအပိုင်းအခန်းကို ပြဆိုချက်၊ အလွတ်တာရာတို့၏ ဖောက်ပြန်ပုံကို ပြဆိုချက်၊ အလွတ်တာရာတို့၏ အမျိုးတိတ်စွဲအကြောင်းတို့ ပါရှိသည်။

ဆဋ္ဌပိုင်း၌ အတိတ်နိမိတ် အပိုင်းအခန်းကို ပြဆိုချက်၊ နေတွင်ထင်သော တိတ်နိမိတ်၊ လတွင်ထင်သော တိတ်နိမိတ် အလွတ်ကောင်းကင်တွင် ထင်သော တိတ်နိမိတ်တို့ကို ပြဆိုချက်များ ပါရှိသည်။

သတ္တမပိုင်း၌ ကိတ် ၃-ပါး အပိုင်းအခန်း၊ မြေလျှင်လှုပ်ရာ၌ လစွဲ၊ ရက်စွဲ၊ နေ့စွဲအလို သျှတ္တရာပါရကျမ်းများအရ အဟောလက်ာ၊ ဒိဗျကိတ်၊

၁။ နေမိတ္တကဝိဇ္ဇာ၊ ၂၉။ ၃၀၊

အန္တလိက္ခုကိတ် ဘောမကိတ်အကြောင်းတို့ ပါရှိ၏။ ဤသတ္တမပိုင်းလာ မြေလျှောက်လွှာရာ၌ အဟောလင်္ကာမှာ အောက်ပါအတိုင်း ဖြစ်သည်—

## မြေလျှောက်လွှာ အဟောလင်္ကာ

(၁) စိတြဟု၊ အစရာသီ၊ ပထဝီလျှင်၊ ချောက်ချီ ချောက်ချား၊ လှုပ်သက်ငြားမူ၊ ရန်ပွားပျောက်ကုန်၊ လကဆုန်တွင်၊ လျှောက်လွှာပြီး၊ သစ်သီးစပါး၊ ပျက်သည်များအံ့၊ လကား ဇေဌ၊ မိန်းမကိုယ်ဝန်၊ ပျက်သည်မှန်၏၊ အာသဠ်လမှာ၊ ရာဇဥပဒ်၊ လှုပ်လတ်ဝါခေါင်၊ လုပ်ဆောင် စပါး၊ လျော့ပါးညှိဖျင်း၊ တော်သလင်းကား၊ သီဘင်းမြတ်လွန်း၊ လူရဟန်းတို့၊ စိတ်မှန်းချောက်ချား၊ စိုးရိမ်များအံ့၊ ဘုရားမိန့်မှတ်၊ လဝါကျွတ်ကား၊ အမြတ်လောကီ၊ ဒေဝီစုတေ့၊ ဖြစ်လေ့နိစ္စ၊ ကထိန်လကား၊ သူရမှန်ပြီး၊ စစ်သူကြီးတို့၊ ပျက်စီးတွေ့မျှော်၊ လနတ်တော်မူ၊ ရန်သူသွက်ဆို၊ ပြာသိုသဘော၊ ဝပြောပြည်ထဲ၊ တပို့တွဲမူ၊ မလွဲလူ့ပြည်၊ ပညာသည်တို့၊ ပျက်မည်မှန်လှ၊ တပေါင်းလကား၊ ပျက်စီးများအံ့၊ မှတ်သားစိမ့်ငှာ၊ မိန့်ခဲ့မှာသည်၊ ကျမ်းလာရသေ့ အထွတ်တည်း။

(၂) ရာသီလစ္ဆဲ၊ ဆိုပြီးရဲမှ၊ ဆက်ရက်မှာ၊ အတိတ္တာ၌၊ လှုပ်ပါလမူ၊ ပြည်သူဝပြော၊ ချမ်းသာမောစွာ၊ ထွန်းပရောင်ဝါ၊ စန္ဒရာကား၊ တက်လာမြေဆီ၊ ကောက်ညီသစ်သီး၊ ဖြင်ညီးရန်ပေါင်း၊ သားကောင်းဖွားရာ၊ အင်္ဂါနေ့မူ၊ ပြည်သူပင်ပန်း၊ ခိုးသူထွန်း၍၊ ကြင့်နှမ်းဒေဝ၊ စိုးရိမ်ရလိမ့်၊ ထိုမှဘထူး၊ ဗုဒ္ဓဟူးကား၊ ရပ်ထူးအခြား၊ ပြည်တပါးမှ၊ သနားမြတ်လေ၊ ပေးသည့်သမီး၊ ကညာကြီးလည်း၊ အသီးရောက်လာ၊ ဆင်ဖြူပါအံ့၊ ဇိဝါနေ့မူ၊ ပစ္စေကဗုဒ္ဓါ၊ စကြာအလောင်း၊ မင်းကောင်းသနေ၊ ယူစေဖွယ်ရာ၊ ခြောက်နေ့ကြာပြီး၊ ဘုန်းကြီးရောက်လာ ပြည်ရွာတိုင်းကား၊ ချောက်ချားဖြစ်ဟန်၊ သီလဝန်တို့၊ ပျက်တန်စုတေ့၊ စနေနေ့ဝယ်၊ သူကြွယ်သဌေး၊ ပုဏ္ဏား ပုဏ္ဏား၊ ရဟန်းများနှင့်၊ ဟူးရားဂဏန်း၊ ပျက်ဘို့ညွှန်းသည်။ ။ထက်ဝန်းလူတို့ကြုံမှာတည်း။

အဋ္ဌမပိုင်း၌ ဥပဒ်ရှစ်ပါးကို ပြဆိုချက်၊ ဣန္ဒဥပဒ်၊ အဂ္ဂိဥပဒ်၊ ယမဥပဒ်၊ နရာယနဥပဒ်၊ ဝရုဏဥပဒ်၊ ဝါယုဥပဒ်၊ သောမဥပဒ်၊ သောမဥပဒ်အကြောင်း ဥပဒ်ရှစ်ပါး ငြိမ်းအောင် ဗလိနတ်စာ ပူဇော်ရာနည်း အစီရင်နှင့် ဂါထာမန္တာန်တို့ ပါရှိ၏။

---

၁။ ခြောက်ကြာနေ့ ဟူ၏။

နဝမပိုင်း၌ စံနည်း၊ တဘောင်၊ သိုက်၊ ဓာတ်၊ နိမိတ်၊ ဗျာဒိတ်တို့၏ အကြောင်းကို ရေးပြွမ်း၍ ပြဆိုထားလေသည်။ မဟာဓမ္မသင်္ကြံသည် နေမိတ္တက ဝိဇ္ဇာကျမ်း၏ အဆုံး၌—

နေတ္တိဋ္ဌိကာ ကတာ ယေန၊ သီလက္ခန္ဓဋ္ဌိကာ သုဘာ။
သံသကြိဋ္ဌာ နေကဂန္ထ-နိဿယာပိ စ ဒုလ္လဘာ။

မဟာဓမ္မသင်္ကြံက္လတိ၊ နာမေန တေန မန္တိနာ။
ကတာယံ ပုရိမာ တန္တိ၊ လောကသင်္ကေတဒီပနီ။

ယေန မန္တိနာ၊ အကြင် မင်းတိုင်ပင် အမတ်ကြီးသည်။ သုဘာ၊ အာဂုံကျမ်းဂန်များနှင့် မဆန့်ကျင်သဖြင့် တင့်တယ်သော။ နေတ္တိဋ္ဌိကာ စ၊ နေတ္တိဋ္ဌိကာကိုရင်း။ သီလက္ခန္ဓဋ္ဌိကာ စ၊ သီလက္ခန်ဋ္ဌိကာကိုရင်း။ ဒုလ္လဘာ၊ ရခဲစွာကုန်သော။ သံသကြိဋ္ဌာနေကဂန္ထ နိဿယာပိ စ၊ များစွာသော သင်္သကြိုဋ်ကျမ်း နိဿျည်းတို့ကိုရင်း။ ကတာ၊ ပြုစုစီရင်အပ်ကုန်ပြီ။ မဟာဓမ္မသင်္ကြံက္လတိနာမေန၊ မဟာဓမ္မသင်္ကြံ ဟူသော ဘွဲ့မည်ဖြင့် ထင်ရှားသော။ တေန မန္တိနာ၊ ထိုမင်းတိုင်ပင် အမတ်ကြီးသည်။ ပုရိမာ၊ ရှေးဆရာ ရှေးသူဟောင်း အဆက်ဆက်တို့ကလာသော။ လောကသင်္ကေတဒီပနီ၊ လောကသင်္ကေတ အစဉ်ထုံးစံကိုပြရာပြကြောင်းဖြစ်သော။ အယံ တန္တိ၊ ဤသည့်နေမိတ္တက ဝိဇ္ဇာစာတမ်းကို။ ကတာ၊ ထုတ်နုတ်သုတ်သင် စီရင်ပြုစုထားသတည်း—

ဟူသော ၂-ဂါထာပါ၌အနက်ဖြင့် နိဂုံးအုပ်ခဲ့လေသည်။

ဖော်ပြပါ နေမိတ္တက ဝိဇ္ဇာကျမ်းကို မန္တလေးမြို့ တောင်ပြင် ဆီးပန်းနီတိုက် ဦးနိဗြောဓက သုတ်သင်၍ ၁၂၉၂-ခုနှစ်က မန္တလေးမြို့ ဓားတန်း(ဂုဏဝတီ) ပုံနှိပ်တိုက်၌ ရိုက်နှိပ်ခဲ့လေသည်။ ဦးနိဗြောဓသည် မိမိတည်းဖြတ် သုတ်သင် ပြင်ဆင်ခဲ့ကြောင်းကိုလည်း—

အောင်မြို့ မင်္ဂလာ၊ ခြိမ့်ခြိမ့်သာစိမ့်၊ သပြေညာတိုက်၊ ဇေယျာသိုက်ဖြင့်၊ မကိုဋ်မြန့်ပေါင်၊ ကြွင့်နန်းထောင်သည်၊ ဘုန်းဘောင်မန္တတ်၊ ဘေးတော်မြတ်မှ၊ နေနတ်နွယ်ပွင့်၊ ဆယ်ကြိမ်ဆင့်လျက်၊ စုံဘင့်သမ္ဘာ၊ မုံရင့်မာ၍၊ ရိုက်ရာတော်ဆက်၊ စောဘုန်းတက်လျှင်၊ ရံလက်ယာနေ၊ ညာမဟေနှင့်၊ အောင်ဘိသေပန်း၊ ဇွေသဖန်းဝယ်၊ ရေဖျန်းခံယူ၊ စံတော်မူသည်၊ ဇမ္ဗူလုံးဗျား၊ မင်းနှစ်ပါးတို့၊ ပွားကုသိုလ်တော်၊ အဟိုမျှော်၍၊ လှိ ကျော်ဝေးနီး၊ တိုက်တော်ကြီးတွင်၊ သင်မှီးကျမ်းဂန်၊

အတန်တန်ကို၊ပြန်လှန်ရွရွ၊ ခါရဏကြောင့်၊ ပဌမမဏ္ဍိ၊ ဂုဏ်ထူးရှိသည့်၊ ဇာတိမည့်ိုး၊ ဆင့်ဆင့်တိုး၍၊ ရှေးရိုးပညတ်၊ ကျေပွန်နပ်အောင်၊ အပတ်တကုတ်၊ အားအန်ထုတ်သည်၊ လောကုတ်လောကီ၊ ကျမ်းထိုဤကို၊ ပါရမီအခြေ၊ ဖြစ်ပစေဟု၊ သေချွေသိပ်သည်း၊ ရှေးထုံးနည်းကို၊ နိသျည်းမှန်ဟု၊ စံဥဒါဟရဏ်၊ ဉာဏ်ဖွယ်စုံကို၊ ဂုဏ်အဆိပြု၊ နိဂြောဓဟု၊ နာမရှန်းစို၊ မထေရ်ပျိုလျှင်၊ ပုဂ္ဂိုလ်အကျော်၊ ဆရာတော်ဟု၊ ထင်ပေါ်ကြေငြာ၊ သုခမ္မာဝယ်၊ သိင်္ဂါရောင်ချိပ်၊ ဘွဲ့ရွှေလိပ်နှင့်၊ တံဆိပ်တော်ခံ၊ မင်းစံရောင်မြူး၊ ဂုဏ်နှံ့ကြူးသည့်၊ ဆူးခါးဆရာတော်၊ မြန်နှံလုံးကျော်သား၊ အဟောဘ်အစ္ဆရိ၊ ဂုဏ်သိဒ္ဓိကို၊ နှံ့သိများဖြင်၊ ကျေးဇူးရှင်ထံ၊ နည်းနာခံ၍၊ စက်ပုံအစုံ၊ ခြေပဒုံကို၊ ထိပ်မုံပန်ဆင်၊ ရှိဦးတင်လျက်၊ သင်ကြံပြီးခါ၊ ကျမ်းများစွာကို၊ စွမ်းပါသမျှ၊ ပြစ်မရှအောင်၊ ကျနပ်ပြုပြင်၊ ဤကျမ်းသျှင်မူ၊ ဗေဒင်ဝေါဟာ၊ နှစ်ကောဇာမူ၊ စမ္မာနုဝ၊ နေတ္တာဘတွင်၊ ပြုဗ္ဗနက္ခတ်၊ မွန်းမတ်ကြယ်မင်း၊ ဝါဆိုတွင်းဝယ်၊ စန်းမင်းကျော်ရှိန်၊ မာဃဝိန်လျှင်၊ မနိမ်စိတ်ဥ်၊ နှိုးဆော်ကြိုက်၍၊ သိုက်မြိုက်စီရင်၊ ကျမ်းစုံသင်ကို၊ လူရှင်အကျိုး၊ စက်တင်နှိုးသည်။ ။"ကျမ်းရိုးမတိမ်စေကြောင်းတည်း"—

ဟူသော သံပိုင်းလင်္ကာဖြင့် ဖော်ပြတော်မူခဲ့လေသည်။ ယင်း နေမိတ္တကာဝိဇ္ဇာကျမ်းမှာ တည်းဖြတ်သုတ်သင်ပြင်ဆင်ကြောင်း ဖော်ပြသည့်နိဂုံးလင်္ကာနှင့်တကွ ဒီမိုင်းဆိုက် ၁၃၁-မျက်နှာ ရှိလေသည်။

## သာသနာလင်္ကာရစာတမ်း

သာသနာလင်္ကာရစာတမ်းသည် သာသနာ့သမိုင်း သုတေသီတို့အတွက် မရှိလျှင် မဖြစ်သည့် လက်ဝဲသမိုင်းကျမ်းစာစောင်း ဖြစ်သည်။ ရတနာပူရ စတုတ္ထမြို့တည်နန်းတည် ဘဝရှင်မင်းတရားကြီး အမိန့်တော်မြတ်ဖြင့် အတွင်းဝန်မင်းကြီး သီရိမဟာနန္ဒသင်္ကြံမ်းဆိုချက်ကို မင်းတိုင်ပင်အမတ်ကြီး မဟာဓမ္မသင်္ကြံသည် ဖြေဆိုသည့်အနေဖြင့် ရေးသားစီရင်သည့်ကျမ်း ဖြစ်သည်။ စင်စစ်တမူကား မြန်မာပြည်သာသနာဝင်ကျမ်းပင် ဖြစ်လေသည်။ သက္ကရာဇ် ၁၁၉၃-ခုနှစ်၊ နယုန်လပြည့်ကျော် ၅-ရက်နေ့မှစ၍ အထူးထူးသော ပိဋကတ်ကျမ်းဂန်များ၊ ကျောက်စာ၊ ရာဇဝင်အစောင်စောင်သော ဆရာစဉ်သမိုင်းစာတမ်းများကို နှိုင်းယှဉ်နှီးနှောတိုက်ဆိုင်စေ့စပ်၍ သင်္ဂါယနာ ၃-တန်မှစ၍ မဇ္ဈိမတိုက်၊ သီဟိုဠ်၊ သထုံ၊ မွန်ပြည် ယွန်းပြည်၊ မြန်မာပြည်၊ ပုဂံ၊ မြင်းစိုင်း၊ ပင်းယ၊ စစ်ကိုင်း၊ အင်းဝ၊ ကုန်းဘောင်အမရပူရ၊ ရာဇဓာနီ ပြည်ကြီးများ

တိုင်အောင်သော သာသနာနွယ် သာသနာဆက် ဆရာစဉ်ဆက်ကို ထုတ်နုတ်ဖော်ပြ၍ ရေးသားစီရင်ခဲ့ရာ ၁၁၉၃-ခုနှစ်၊ ဝါခေါင်လပြည့်ကျော် ၁၄-ရက်နေ့တွင် ပြီးခဲ့လေသည်။

မဟာဓမ္မသင်္ကြံသည် ကျမ်းဦး၌—

ယော နေကဝါရမှိ မရမ္မမဏ္ဍလံ၊
အာဂမ္မ သဒ္ဓမ္မဇုတိံ အကာ စိရံ။
ဇနတ္ထိနမတ္ထံ ဒီဃဒဿီ တဿိဒံ၊
ဇောတေတု မောဟန္ဓဝိဒ္ဓံသိ သာသနံ။

ယောတထာဂတော၊ အကြင်ရှေးဘုရားတို့ကဲ့သို့ လာခြင်းကောင်းတော်မူသော မြတ်စွာဘုရားသည်။ မရမ္မမဏ္ဍလံ၊ သုနာပရန် တမ္ဗဒီပမည်သော မြန်မာတိုင်းပြည်သို့။ အနေကဝါရမှိ၊ အကြိမ်များစွာလည်း။ အာဂမ္မ၊ ကြွလာတော်မူ၍။ ဇနတ္ထိနံ၊ မြန်မာပြည်သူလူအပေါင်းတို့၏။ အတ္ထံ၊ အကျိုးစီးပွားကို။ ဒီဃဒဿီ၊ အရှည်အမြော် ခေါ်တော်မူလျက်။ စိရံ၊ ကြာမြင့်စွာ။ သဒ္ဓမ္မဇုတိံ၊ သာသနာတော်မြတ်ထွန်းလင်းအံ့သော အကြောင်းကို။ အကာ၊ ပြုတော်မူလေပြီ။ တဿတထာဂတဿ၊ ထိုရှေးဘုရားတို့ကဲ့သို့ လာခြင်းကောင်းတော်မူသော မြတ်စွာဘုရား၏။ ဣဒံ သာသနံ၊ ဤသာသနာတော်မြတ်သည်။ မောဟန္ဓဝိဒ္ဓံသိ၊ မောဟာဘည်းဟူသော အမိုက်မှောင်ကို ပယ်ဖျောက်လျက်။ စိရံ၊ ရှည်မြင့်စွာ။ ဇောတေတု၊ စည်ပင်သန့်ရှင်း ထွန်းလင်းပါစေသတည်း—

ဟူသော အာသီသပုဗ္ဗကဂန္ထာရမ္ဘပါဌ်အနက်ဖြင့် စတင်၍ ကျမ်းစာကို စီရင်ခဲ့လေသည်။ မဟာဓမ္မသင်္ကြံသည် ကျမ်းစာဆုံးကာနီးတွင် ဘုရားသဗ္ဗညုသာသနာတော်ကို ပြုစုသုတ်သင်ခဲ့ကြကြောင်းကို—

၁။ ပုရာ သောကောဓမ္မရာဇာ၊ အတုလဝိဘဝေါဒယော။
သာသနံ ပိယတာယ သ-မလံ ဒဿနကမ္ပိတော။

၂။ မောဂ္ဂလိပုတ္တတိဿထေရ-မုပနိဿာယ သောဓနံ။
ဘိက္ခူ ဆန္နဝုတေ ကာသိ၊ ဥပ္ပဗ္ဗာဇိယ ပါပကေ။

၃။ လင်္ကာဒီပေ သိရိသင်္ဃ-ဗောဓာဒိပဒနာမကော။
ပရက္ကမဗာဟု စာပိ၊ ဗုဒ္ဓသာသနမာမကော။

၄။ ဧလိနံ သာသနံ ဒိသွာ၊ သံဝေဂါပနမာနသော။
ပါပကေ ဇဟဝေါ ဘိက္ခူ၊ ခံသိယာဓမ္မဝါဒိနော။

၅။ မဟာဝိဟာရဝါသိနံ၊ ပစေဏိဓမ္မဝါဒိနံ။
သံဃမေကနိကာယဥ္စ၊ ဌပေတွာ သောဓနံ အကာ။

၆။ တတော ပစ္ဆာ ပုနစဍော၊ ဝိဇယဗာဟု ဘူပတိ။
ပရက္ကမရာဇာ စာပိ၊ တထာ သာသနသောဓနံ။

၇။ အမှာကံ ဗောဓိသတ္တောပိ၊ ပူရေန္တော ပါရမီ ပုရာ။
တိဒသာလယသဂ္ဂမှိ၊ ဒေဝရဇ္ဇံ မကာရယိ။

၈။ တဒါ အာနန္ဒထေရောပိ၊ ဗာရာဏသီ ပုရေ အကာ။
ရဇ္ဇမုသိန္နရော ဟုတွာ၊ ကဿပဗုဒ္ဓသာသနေ။

၉။ မလံ ဒိသွာပိ မဇ္ဈတ္တော၊ န ကာ သာသနသောဓနံ။
တဒါ သက္ကော ဒေဝရာဇာ၊ ဒိဗ္ဗသုခပရံ မုခေါ။

၁၀။ ဣဏျသုံနံခဝဏ္ဏေန၊ ဂန္တွာ မာတလိနာ သဟ။
ဥတ္တာသေတွာန ရာဇာနံ၊ တဒုသိန္နရနာမကံ။

၁၁။ သာသနသောဓနတ္တာယ၊ လဒ္ဓါ တပ္ပတိဇာနနံ။
ပဋ္ဌာနုသာသနံ ကတွာ၊ ပစ္စဂါ တိဒသာလယံ။

(၁) ပုရာ၊ ရှေးအခါ၌။ အတုလဝိဘဝေါဒယော၊ အတုမဲ့ စီးပွားစည်းစိမ်ရှိသော။ အသောကော ဓမ္မရာဇာ၊ ဓမ္မာသောကမင်းတရားသည်။ သမလံ၊ အညစ်အကြေးရှိသော။ သာသနံ၊သာသနာကို။ဒဿန ကမ္ပိတော၊ မြင်သဖြင့် တုန်လှုပ်ခြင်းရှိ၍။ ပိယတာယ၊ စုံမက်မြတ်နိုးသဖြင့်။

(၂) မောဂ္ဂလိပုတ္တတိဿထေရံ၊ ရှင်မောဂ္ဂလိပုတ္တတိဿမထေရ်ကို။ ဥပနိဿာယ၊ အမှီပြု၍။ ဆန္နဝုတော၊ ခြောက်သောင်းကုန်သော။ ပါပကေ၊ ယုတ်မာကုန်သော။ ဘိက္ခူ၊ ရဟန်းယောင်တို့ကို။ ဥပ္ပဗ္ဗာဇိယ၊ လူထွက်စေ၍။ သောဓနံ၊ သာသနာပြုစုသုတ်သင်ခြင်းကို။ အကာသိ၊ ပြုဘူးလေပြီ။

(၃) လင်္ကာဒီပေ၊ သီဟိုဠ်ကျွန်း၌။ သိရိသင်္ဃဗောဓာဒိပဒနာမကော၊ သိရိသင်္ဃဗောဓိဟူသော အစပုဒ်ဖြင့် အမည်ရှိသော။ ပရက္ကမ

ဗာဟုစာပိ၊ ပရက္ကမဗာဟုမင်းသည်လည်း။ ငုဒ္ဓသာသန မာမကော၊ ဘုရားသာသနာကို စုံမက်မြတ်နိုးသည်ဖြစ်၍။

(၄) မလိနံ၊ ညစ်ညူးသော။ သာသနံ၊ သာသနာကို။ ဒိသွာ၊ မြင်၍။ သံဝေဂါပန္နမာနသော၊ ထိတ်လန့်ခြင်းသို့ ရောက်သော နှလုံး ရှိလေရကား ။ ပါပကေ၊ ယုတ်မာကုန်သော။ ဗဟဝေါ၊ များစွာကုန်သော။ အခမ္မဝါဒိနော ဘိက္ခူ၊ အခမ္မဝါဒီရဟန်းတို့ကို။ ခံသိယ၊ ဖျက်ဆီးပြီးမှ။

(၅) မဟာဝိဟာရဝါသိနံ၊ မဟာဝိဟာရကျောင်း၌ နေသော။ ပဝေဏိဓမ္မဝါဒိနံ၊ အစဉ်ဓမ္မဝါဒီဖြစ်သော။ သံဃဥ္စ၊ သံဃာကိုရင်း။ ကေနိကာယဥ္စ၊ မဟာဝိဟာရဝါသီ နိကာယ်တပါးတည်းကိုရင်း။ ဌပေတွာ၊ ထား၍။ သောခနံ၊ သာသနာ သုတ်သင်ခြင်းကို။ အကာ၊ ပြုဘူးလေပြီ။

(၆) တတောပစ္ဆာ၊ ထိုမှနောက်၌။ ပုန စ၊ တဖန်လည်း။ အညော၊ တပါးသော။ ဝိဇယဗာဟု ဘူပတိရာဇာစာပိ၊ ဝိဇယဗာဟု မင်းသည်ရင်း။ ပရက္ကမ ရာဇာစာပိ၊ ပရက္ကမဗာဟု မင်းသည်ရင်း။ တထာ၊ ထို့အတူ။ သာသနသောခနံ၊ သာသနာသုတ်သင်ခြင်းကို။ အကာ၊ ပြုဘူးလေပြီ။

(၇) အမှာကံဗောဓိသတ္တောပိ၊ ငါတို့ဘုရားလောင်းသည်လည်း။ ပုရာ၊ ရှေးအခါ။ ပါရမီပုရေန္တော၊ ပါရမီဖြည့်သည်ရှိသော်။တိဒသာလယ သဂ္ဂမှို၊ တာဝတိံသာနတ်ပြည်၌။ ဒေဝရဇ္ဇံ၊ သိကြားမင်းအဖြစ်ကို။ အကာရယိ၊ ပြုလေစေပြီ။

(၈) တဒါ၊ ထိုရှေအခါ။ ကဿပဗုဒ္ဓသာသနေ၊ ကဿပဘုရားရှင် သာသနာတော်၌။ အာနန္ဒထေရောပိ၊ အရှင်အာနန္ဒာ မထေရ်အလောင်းသည်လည်း။ ဗာရာဏသိပုရေ၊ ဗာရာဏသီပြည်ဝယ်။ ဥသိန္နရော၊ ဥသိန္နရမည်သော မင်းသည်၊ဟုတ္တွာ၊ ဖြစ်၍။ ရဇ္ဇ ၊မင်းအဖြစ်ကို။ အကာ၊ ပြုတော်မူလျက်။

(၉) မလံ၊ သာသနာတော် အညစ်အကြေးကို။ ဒိသွာပိ၊ မြင်၍လည်း။ မဇ္ဈတ္တော၊လျစ်လျူသာနေလျက်။သာသနသောခနံ၊သာသနာသုတ်သင်ခြင်းကို။ နကာ-န ကာရယေ၊ မပြုလေ။ တဒါ၊ ထိုအခါ၌။ သက္ကောဒေဝရာဇာ၊ သိကြားနတ်မင်းသည်။ ဒိဗ္ဗသုခပရံမုခေါ၊ နတ်စည်းစိမ်ချမ်းသာကို မျက်ကွယ်ပြုလျက် မငဲ့ကွက်ပဲ။

(၁၀) ဇဏ္ဍုသုနခဝဏ္ဏေန၊ ခွေးနက်ကြီးအဟန် ဖန်ဆင်းသော။ မာတလိနာ၊ မာတလိနတ်သားနှင့်၊ သဟ၊ တကွ။ ဂန္တွာ၊ ဗာရာဏသီသို့ သွား၍။ ဥသိန္နရန၊မကံ၊ ဥသိန္နရမည်သော။ တံ ရာဇာနံ၊ ထိုဗာရာဏသီမင်းကို။ ဥတ္တာသေတွာန၊ ထိတ်လန့်စေ၍။

(၁၁) သာသနသောဓနတ္ထာယ၊ သာသနာကို သုတ်သင်ခြင်း အကျိုးငှာ။ တပ္ပတိဇာနနံ၊ ထိုဗာရာဏသီမင်း၏ ဝန်ခံခြင်းကို။ လဒ္ဓါ၊ ရပြီးမှ။ ပစ္ဆာ၊ နောက်၌။ အနုသာသနံ၊ ဆုံးမသွန်သင်ခြင်းကို။ကတွာ၊ ပြု၍။ တိဒသာလယံ၊ တာဝတိံသာနတ်ပြည်သို့။ ပစ္စဂါ၊ ပြန်သွားလေ၏—

ဟူသော ၁၁-ဂါထာပါဠိနိဿယဖြင့် ဖော်ပြခဲ့လေသည်။

ကျမ်း၏အဆုံး၌လည်း—

၁။ ရာဇာဓိရာဇာ ယော အသိ၊ သဗ္ဗိသာသဂဇမ္ပတိ။
ရတနပ္ပုရေ တမ္ပဒိပ-ရဋ္ဌေ သာသနဇောတနေ။

၂။ မဟာရာဇသိရိမဟာ၊ နန္ဒသကြမ္ပနာမိနာ။
တဿ မစ္စေန သဒ္ဓေန၊ သာသနေ ဟိတကာမိနာ။

၃။ တဿေဝ့ သေနဗျူဟသိတော၊ ရာဇမန္တီ အကာသိ မံ။
သာသနာလင်္ကာရနာမံ၊ သာသနေ ဝရမင်္ဂလံ။

၄။ ယံ ပတ္တံ ကုသလံ တေန၊ ကာတုံ သာသနဇောတနံ။
သမတ္ထေတု အစေရေဝ၊ ရာဇာယံ နော တုဒမ္ပတိ။

၅။ သဗ္ဗေပိ သတ္တာ သဒါဝ၊ ဓမ္မေ ဟောန္တု သဂါရဝါ။
ဒေဝေါ ဝဿတု ကာလေန၊ သတ္တာနံ သုခိတံ ကရံ။

၆။ ယထာ ရက္ခိံသု ပေါရာဏာ၊ သုရာဇာနော တထေဝိမံ။
ရာဇာ ရက္ခတု ဓမ္မေန၊ အတ္တနောဝ ပဇံ ပဇံ—

ဟူသော ၆-ဂါထာပါဠိအနက်ဖြင့် နိဂုံးအုပ်ခဲ့လေသည်။ မဟာဓမ္မသင်္ကြန် ကား လူ့ဘဝဖြင့်လည်း ကျေပွန်စွာ စာပေတာဝန်ကို ထမ်းဆောင်ခဲ့လေ သည်။

---

၁။ သာသနာလင်္ကာရစာတမ်း။ ၂၄၂-၂၄၄။

## နိုင်ငံခြားမှ စာပေများ ဆောင်ယူစေ၍ အမိမြန်မာ စာပေဘဏ္ဍာတိုက်ကို ဖြည့်ပေးခြင်း

သက္ကရာဇ် ၁၁၄၇-ခုနှစ်တွင် ဝဂ်ဘိုင်း၊ နဝဒီပကျွန်း၊ သီဟိုဠ်ကျွန်းတို့၌ သာသနာရေး၊ လောကရေးရာနှင့်စပ်သည့် စာပေကျမ်းဂန်များကို ဆောင်ယူစေသင့်ကြောင်း မင်းတရားထံ စာဆက်သွင်းသဖြင့် မင်းမြတ်က ရာပြတ် သီရိစန္ဒရနှင့် ဇယနာရာမ၊ ပုရိသာမ အစရှိသော ပုဏ္ဏားတို့ကို သင်္ဘောနှင့် စေလွှတ်၍ ၁၁၄၈-ခုနှစ်က ဆောင်ယူ ဆက်သလေသည်။ ထို့နောက် နဝဒီပနှင့် သီဟိုဠ်ကျွန်း အစရှိသော အရပ်များက ၇-ကြိမ်တိုင်အောင် ဆောင်ယူဆက်သ လေသည်။

သဒ္ဒါဗျာကရုဏ်း၊ ဓာတ်ကျမ်း၊ အသက်ာကျမ်း၊ ဆန်းကျမ်း၊ အဘိဓာန် ကျမ်းတို့နှင့် ဗေဒင်ကျမ်း၊ ဆေးကျမ်း၊ ဓမ္မသတ်ကျမ်း၊ နီတိကျမ်း၊ ဣတိဟာသ ကျမ်းအားဖြင့် စုစုပေါင်း ၁၁-မျိုး မစောင်ရေ ၂၅၃-ပါရဲ့ စက္ကူချပ်ရေ ၂၃၇၃၁-မြန်မာအရေး ပေအင်္ဂါရေ ၁၁၁၅-အင်္ဂါမျှ ရှိလေသည်။ ဤသို့ဖြင့် အမိဘဏ္ဍာ စာပေတိုက်ကို ဖြည့်စွက်ပေးတော်မူခဲ့သည်။

### ပြုစုတော်မူသော ကျမ်းဂန်များ

ဆရာတော်သည် အသက်နှင့်အမျှ သာသနာရေးလုပ်ငန်း၊ စာပေလုပ်ငန်း တို့ဖြင့်ချည်း ပျော်မွေ့ခဲ့ရာ ကျမ်းစာပေါင်း မြားမြောက်စွာကိုလည်း ရေးသား ပြုစုတော်မူသည်ဖြစ်ရာ သိရှိသမျှ အောက်ပါအတိုင်း စုပေါင်း၍ ဖော်ပြအပ် ပါသည်—

၁။ ပေဋကာလင်္ကာရ ခေါ် နေတ္တိမဟာဋီကာသစ်။

၂။ သီလက္ခန္ဓဝဂ္ဂအဘိနဝဋီကာ။

၃။ အရိယဝံသာလင်္ကာရကျမ်း။

၄။ ဇာတ်အဋ္ဌကထာနိဿယ။

၅။ စတုသာမဏေရဝတ္ထု (သာမဏေကျော် ၄-ပါး)

၆။ ရာဇောဝါဒဝတ္ထု။

၇။ တိဂုမ္ဘစေတီယထောမနာစာတမ်း။

၈။ ဆဒ္ဒန္တနာဂရာဇုပ္ပတ္တိကထာကျမ်း။

၉။ ရာဇာဓိရာဇဝိလာသိနီပါဠိ။

၁၀။ မဟာသက္ကျသီဟာသမိုင်းပါဠိအနက်။

၁၁။ သာရသွသက္ကတဗျာကရုဏ်း နိဿယ။

၁၂။ ဗာလပ္ပဗောဓနနိဿယ။

၁၃။ အမရကောသအဘိဓာန်နိဿယ။

၁၄။ ကေက္ခရကောသနိဿယ။

၁၅။ နာနတ္ထဒွန်နိဿယ။

၁၆။ ရာဇမတ္တဏ်နိဿယ။

၁၇။ ဗြို့ဟတ်နိဿယ။

၁၈။ ဇောတိသုဇာတကနိဿယ။

၁၉။ လဂုသင်္ဂဟနိဿယ။

၂၀။ သုပိနာညာယနိဿယ။

၂၁။ လက္ခဏာကျမ်း။

၂၂။ သူရိယသိဒ္ဓန္တနိဿယ။

၂၃။ ဘာသုတိနိဿယ။

၂၄။ ဘာသုတိဋီကာပြေကျမ်း။

၂၅။ ဘာသုတိကိန်း။

၂၆။ ရာဇာဘိသေကနိဿယ။

၂၇။ ဒဗ္ဗဂုဏ်းနိဿယ။

၂၈။ သာရကောမုဒီနိဿယ။

၂၉။ ဩသဓရတနာကရနိဿယ။

၃၀။ သရရတုကထနကျမ်း။

၃၁။ ဓာတုပသံသနိဿယ။

၃၂။ ကာမဓရတနနိဿယ။

၃၃။ ဝုတ္တောဒယနိဿယ။

၃၄။ သာသနာလင်္ကာရစာတမ်း။

၃၅။ မောင်းထောင်နိယံ။

၃၆။ ရာဇိန္ဒရာဇသုမ္မာစာရဒီပနီ၊

၃၇။ မာတိကာဂဏ္ဌိ။

၃၈။ ဓာတုကထာဂဏ္ဌိ။

၃၉။ ပိဋကတ်ဆင်ကြန်တော် (ပိဋကတ်မြင်းကြန်တော်)

၄၀။ ဓံနုဓမ္မဒစာတမ်း။

၄၁။ ဆေးသစ်ပင် ၇၀၀-ကျော် စာတမ်း။

၄၂။ ပရမတ္ထရတနာဝလိကျမ်း။

၄၃။ တေသကုဏဇာတ်ဝတ္ထု။

၄၄။ အမေးတော်ဖြေကျမ်း။

၄၅။ ဓမ္မာပဒေသဝတ္ထု။

၄၆။ ရာဇာဘိသေကစာတမ်း။

၄၇။ လောကသင်္ကေတဒီပနီ။

၄၈။ သာသနာဝံသစာတမ်း။

၄၉။ သရဏာဒိဝိနိစ္ဆယကျမ်း။ (၂-စောင်)

၅၀။ ပါရာဇိကဏ်ဂဏ္ဌိ။

၅၁။ နေမိတ္တကဝိဇ္ဇာကျမ်း—

စသောအားဖြင့် များပြားလှကုန်၏။ ဖော်ပြပါကျမ်းများအနက် ဆေးသစ်ပင် ၇၀၀-ကျော်စာတမ်းနှင့် သာသနာလင်္ကာရစာတမ်း၊ သရဏာဒိဝိနိစ္ဆယ၊ ဓမ္မာပဒေသ နေမိတ္တကဝိဇ္ဇာကျမ်းတို့မှာ လူ့ဘဝရောက်ပြီးမှ ရေးသောကျမ်းတို့ ဖြစ်သည်။ ၎င်းပြင် ကလပ်ကျမ်းအစရှိသော သက္ကတဗျာကရုဏ်းကျမ်း ဘာသာပြန်များ၊ တက္ကသိရေမဏိအစရှိသော တက်ကျမ်းများနှင့် ဆေးကျမ်း ဗေဒင်စသော မြားမြောက်စွာသော ကျမ်းတို့ကိုလည်း မြန်မာဘာသာပြန်ဆို ရေးသားတော်မူခဲ့သည်။ ဤသို့ဖြင့် မောင်းထောင်သာသနာပိုင်သည် ဘာသက္ကရဝိဒူကျမ်းပြုဘာသက္ကရဝိဒူဘာသာပြန်ပုဂ္ဂိုလ်ကြီးလည်း ဖြစ်တော်မူသည်။

ဇဝံ မောင်းထောင်သပည္ဍော ဟိ၊ အနေကာဂန္ထကာရကော။
နိရုတ္တိယာ မြန်မိကာယ၊ အနေကပရိဝတ္တကော။

## ကွမ်းတောင်းဘုရားနှင့် သိမ်တော်

ဆရာတော်သည် သက္ကရာဇ် ၁၁၅၄-ခုနှစ်တွင် မိမိ၏ ဇာတိချက်ကြွေ မွေးရပ်မြေဖြစ်သော မောင်းထောင်၏မြောက်ဘက် ကိုက်တထောင်လောက် ခြားကွာသောအရပ်၌ ကြွရောက်၍ ကွမ်းတောင်းဘုရားကြီးကို တည်တော်မူ ခဲ့သေးသည်။ ၎င်းဘုရားကြီးမှာ ထီးတော်အလွတ် ဉာဏ်တော် ၇၅-တောင် ခန့် ရှိသည်။ ၎င်းဘုရားကြီးမှာ ကွမ်းတောင်းကြီး မှောက်ထားသည်နှင့် သဏ္ဍာန်တူသောကြောင့် ကွမ်းတောင်းဘုရားဟု အမည်နာမတော်ရသော ဟူ၏။ ၎င်းဘုရား၏မြောက်ဘက်၌ ရဟန်းတော်တို့ ကံကြီး ကံငယ် လွယ်ကူစွာ ပြုနိုင်ရန် သိမ်တလုံး သမုတ်တော်မူခဲ့လေသည်။

သာသနာပိုင်လောင်းလျာ ငယ်စဉ်က မိခင်ဒေါ်ခွေးနှင့်အတူ ၎င်းဘုရား ကြီးတည်မည့်နေရာသို့ မိခင်နှင့် ရောက်ရှိဘူးသည်။ ထိုစဉ်က သာသနာပိုင် လောင်းလျာ လူမငယ်ကလေး မောင်မြတ်နေက "မေမေ၊ ကျွန်တော်ကြီးလျှင် ဤနေရာ၌ ဘုရားတည်မည်"ဟု ပြောရာ မိမိက သားကလေး ကျေနပ်နှစ်သိမ့် စေရန် "အေး အေး၊ လူကလေးကြီးလို့ လူလားမြောက်တော့ ဘုရားတည်တာ ပေါ့"ဟု ပြုံး၍ ဖြေပေးလေ၏။

လောကေ ဥဿာဟဝန္တာနံ၊ ဇနာနံ ကိမသာဓိယံ။

လောကဘ၌ လုံ့လရှိသူတို့အား မပြီးသောအလုပ်ဟူသည် မရှိ။ (မဟာဝံသ၊ ၆၇၊၁၉။)

## ရဟန်းဘဝမှ လူဘဝသို့

မောင်းထောင်ဆရာတော်သည် ပုထုဇဉ်ဂတိအလျောက် ဝိနည်းနှင့်စပ်၍ ကုက္ကုစ္စသံသယတွေဝင်သဖြင့် ရဟန်းဘဝ ဒုလ္လဘမှ လူ့ဘဝသို့ ပြောင်းလိုစိတ် တွေ ဖြစ်ပေါ်လာလေသည်။ သို့ဖြစ်၍ မင်းတရားကြီးအား လူဝတ်လဲမည် အကြောင်း ခွင့်တောင်း အကြောင်းကြားခဲ့သည်။ ထိုအခါ မင်းတရားကြီး အထင်တော်တမျိုးရောက်သဖြင့် ရင်းရင်းနှီးနှီး ကိုယ်တော် မိန်းမအတွက် ကြောင့်များနဲ့ လူထွက်ပါနှင့်ဘုရား၊ မိဖုရားကြီးများကိုချန်လှပ်၍ ဘယ် မိန်းမမဆို အလိုပြည့်ပါစေမည်၊ ညလူထွက်ပြီး နံနက် ရဟန်းပြန်ခံပါ။ အရှင် ဘုရားလူထွက်လျှင် တပည့်တော် သာသနာဘယ်နှယ်ပြုမှာလဲ၊ သာသနာ တော်အရှုပ်အထွေးတော် ပေါ်လာလျှင် ဖြေရှင်းဘို့ ခက်ခဲပါလိမ့်မည် စသည် ဖြင့် လျှောက်ထားလေရာ ဆရာတော်က အို-ဒကာတော်ရေမြေ့ရှင်၊ မိန်းမ

ကြောင့် မဟုတ်ပါဘူး။ လူထွက်ပြီးလဲ မိန်းမယူပါဘူး၊ လူ့ဘဝ လူ့အဖြစ်နှင့် နေလိုလို့ပါပဲ၊ လူဖြစ်ပေမဲ့ မင်းတရားတာဝန်ပေးတဲ့ ဓမ္မရေးရာ လောကရေးရာများကို ဆောင်ရွက်ပေးပါမည် ဟူသည့် အဖြေပေးတော်မူသည်။ သို့ရာတွင် မင်းတရားက ကိုယ်တော် ထွက်ကိုမထွက်နှင့် ဟူသည်ဖြင့် လျှောက်ထားသဖြင့် လူထွက်လိုစိတ် ပျောက်လိုပျောက်ငြား သဘောထား၍ ဇာတိချက်ကြွေ မွေးရပ်မြေဖြစ်သော မောင်းထောင်ရွာသို့ ကြွတော်မူ၍ မောင်းထောင်ရွာမြောက်ဘက် ကိုက်တထောင်ခန့် ကွာလှမ်းသည့် အရပ်တွင် ကွမ်းတောင်းဘုရားကြီး ကြွရောက်၍ တည်တော်မူသည်ဟုလည်း အဆိုရှိသည်။ ယင်းဘုရားကြီးကား ဖိနပ်တော် အတောင် ၄၀-စီ ပတ်လည်ရှိသည်။ ကုလားကျောင်း ၂၅-တောင်မြင့်သောဟူ၏။ ၎င်းအထက်ပစ္စယာ ၄-ဆင့်ရှိသည်တွင် ပဉ္စမပစ္စယာမှာ ၄-တောင်ကျော်ကျော်ကျယ်၏၊ ၎င်းအထက်၌ ကွမ်းတောင်းကြီးကို မှောက်ထားသည့်ပုံဖြစ်သဖြင့် ကွမ်းတောင်းဘုရားဟု တွင်သည်။ အမြင့် ဉာဏ်တော်ထီးတော်အလွတ် ၇၅-တောင် အမြင့်ဆောင်တော်မူသည်။ ၎င်းဘုရားကြီး၏မြောက်ဘက်၌လည်း သိမ်တလုံးသမုတ်တော်မူခဲ့သည်။

ယင်းသို့အရပ်ပြန်ကြွ သီတင်းသုံးသော်လည်း လူထွက်လိုစိတ်ကား မပျောက်ပဲ ရှိတော်မူသည်။ သို့ဖြစ်၍ ၁၁၇၄-ခုနှစ်အရောက် သက်တော် ၅၉-၆၀-နှစ်လောက်တွင် ၂၂၇-သွယ် ကိုယ်ဝယ်ဆင်မြန်း ရဟန်းဘဝမှ လူ့ဘဝသို့ ကူးပြောင်းတော်မူခဲ့လေသည်။

## သံဝေဂယူဖွယ်

သံသာရဒေါဠ္ဌအာရုဠှော၊ နရော ဥစ္စမ္ပိ ဂစ္ဆတိ။
နီစမ္ပိ ဂစ္ဆတိ ယာတိ၊ ဝဋ္ဋံ ပုထုဇ္ဇနတ္တနံ။

အို-စာရှုသူတို့၊ သံသရာတည်းဟူသော ပုခက်၊ သံသရာတည်းဟူသော ယောင်ပံ သံသရာတည်းဟူသော ဒန်းသို့ တက်စီးရောက်ရှိရသော သတ္တဝါသည် တခါတလေ အမြင့်ရောက်လိုက်၊ တခါတလေ အနိမ့်ရောက်လိုက်နှင့် အရှည်စွဲကာ မတည်မြဲပါတကား၊ ဤသို့ မြင့်ချည်နိမ့်ချည် မတည်မြဲရခြင်းသည် ပုထုဇဉ်ဘဝ၏ အဖြစ်သာတည်း။

## ရဟန်းရှင်လူတို့ တရားသံဝေဂရကြ အုတ်အုတ်ကျက်ကျက်ဖြစ်ကြခြင်း

သာသနာပိုင် မောင်းထောင်ဆရာတော် လူ့ဘဝပြောင်းပြီဟူသော သတင်းမှာ အမရပူရမြို့တော်နှင့် နန်းတော်တွင်းသို့ တမုဟုတ်ချင်း ပျံ့နှံ့သွားရာ အား

လုံး မယုံရအခက် ယုံရအခက် ဖြစ်ကြရာ နောက်အမှန်ပင်ဖြစ်နေ၍ အားလုံး သံဝေဂရကြသည်။ ဟိုနားတိုးတိုး သည်နားတိုးတိုးနှင့် အုတ်အုတ်ကျက်ကျက် ဖြစ်ကြလေသည်။ မကြာမီပင် တနိုင်ငံလုံးနှင့် ပြည်ပအထိ သတင်းပျံ့နှံ့သွားရာ အားလုံးသံဝေဝေဂရကြ၊ အုတ်အုတ်ကျက်ကျက် ဖြစ်ကြကုန်သည်။

အန္တေပုရေ စ ရဋ္ဌေ စ၊ ရာဇဒ္ဓာနီဝရေပိ စ။
မနုဿာ သံဝေဂပတ္တာ၊ ကောတုဟလာ အဇာယိသုံ။

## မဟာစမ္မသကြီး

မင်းတရားသည် လူထွက်ပြီးနောက်၌လည်း မဟာစမ္မသကြီးဘွဲ့ပေးအပ်ပြီး မင်းတိုင်ပင်အမတ်ကြီးအဖြစ် ခန့်အပ်တော်မူပြီး စံအိမ်တော်နှင့် ကျွနစ္စာထား၍ ချီးမြှင့်မြှောက်စားတော်မူပြန်သည်။

## မဟာစမ္မသကြီး၏ ဦးဆောင်လုပ်ငန်းများ

၁၁၇၁-ခုနှစ် ဖန်နန်းရှင်ဘကြီးတော်မင်းတရား အဘိသိက်သွန်းသော အခါ လောကုတ္တရာလောကီကျမ်း ပုဏ္ဏားတို့ ဆက်သသော သက္ကတအဘိသိက်စာတမ်း မွန်အဘိသိက်စာတမ်း ယွန်းအဘိသိက်စာတမ်း သထုံအဘိသိက်စာတမ်း မြန်မာအဘိသိက်စာတမ်း ဒိသာဗေယစာတမ်း ရာဇာမင်္ဂလာစာတမ်းစသော ဤတဆဲ့ရှစ်စောင်အဘိသိက်စာတမ်း အစောင်စောင်ကို ၃-နှစ်ကျော် ညှိနှိုင်းတိုက်ဆိုင်စေ၍ ယုတ္တာယုတ္တိသဘောသကန် ညီညွတ်သင့်မြတ်ရာ ရွေးချယ်စီစစ်လျက် မယိုမယွင်း မယုတ်မလွန် သင့်မြတ်မှန်ကန်စွာ အစီအရင်ဖြစ်အောင် မဟာစမ္မသကြီးက ဦးဆောင်ခဲ့ရသည်။

သက္ကရာဇ် ၁၁၈၁-ခုနှစ် နယုန်လဆန်း ၁-ရက်နေ့မှ စ၍ ကြာမြင့်စွာသောကာလပတ်လုံး မှန်နန်းဆောင်တော်ဦး နန်းမစနှ၌ သုတ်သင်ပြုစီရင်သော မှန်နန်းရာဇဝင်တော်ကြီးကို ပြုစုသူပုဂ္ဂိုလ် (၁၃) ဦးအနက် မဟာစမ္မသကြီး ဦးဆောင်ပါဝင်ခဲ့ရသည်။

သက္ကရာဇ် ၁၁၈၂-ခုနှစ်တွင် ဘုရားရှင်၏ သွားတော် ၄၀-စွယ်တော် ၄-ချောင်းဟူသော စကားသည် တခြားဖြစ်မည်၊ စွယ်တော် ၄-ချောင်းသည် သွားတော် ၄၀-တွင်ပါဝင်မည်၊ ၎င်းကို မကွဲပြားသဖြင့် ဘကြီးတော်ဖန်နန်းရှင်က ဆရာတော် သံဃာတော်များကို မေးမြန်းလျှောက်ထားရာ မပြတ်မသား မသဲမကွဲဖြစ်နေရာ မဟာစမ္မသကြီးကို မေးရာ စွယ်တော် ၄-ချောင်း

သည် သွားတော် ၄၀-တွင်အပါအဝင်ဖြစ်ကြောင်း သုတ်မဟာဝါအဋ္ဌကထာ စသည်များဆောင်၍ တင်လျှောက်ရာ မင်းတရားနှင့်တကွ အားလုံးများစွာ သဘောကျကျေနပ်ကြသည်။

ဤသို့စသည်ဖြင့် မဟာမေ့သကြီးသည် လူဖြစ်၍လည်း များစွာသော ခက်ရာခက်ဆစ်လုပ်ငန်းတို့၌ ဦးဆောင်ပါဝင် ပြုလုပ်ခဲ့လေသည်။

## ကွယ်လွန်ခြင်း

ကုန်းဘောင်ခေတ် အလယ်ပိုင်း၌ ထူးခြားစွာပေါ်ပေါက်လာသော မောင်းထောင်ပညာရှင်သည် ရဟန်းဘဝဖြင့် သာသနာ့လုပ်ငန်းအမျိုးမျိုး၊ လူဖြစ်ပြန်သောအခါ၌လည်း သာသနာ့အကျိုး တိုင်းပြည်အကျိုး အမျိုးမျိုးကို အားကြိုးမာန်တက် ဆောင်ရွက်ခဲ့ပြီး သက္ကရာဇ် ၁၁၉၄-ခုနှစ် ပြာသိုလဆုတ် ၄-ရက်နေ့တွင် ရတနာပူရရွှေမြို့တော် သဒ္ဒေးတန်းရပ်ဝင်းတွင် ကွယ်လွန်အနိစ္စရောက်ခဲ့လေသည်။ ဘိုးကြီးတော်မင်းတရားသည် အလောင်းကို မှူးကြီးမတ်ကြီးကို သင်္ဂြိုဟ်မြဲအတိုင်း ထီးဖြူသံလျှင်းများနှင့် ခမ်းနားကြီးကျယ်စည်ကားသိုက်မြိုက်စွာ ဂုဏ်ပြုသင်္ဂြိုဟ်တော်မူသည်။

## သံဝေဂယူရန်

ယထာပိ သေလာ ဝိပုလာ၊ နဘံ အာဟစ္စ ပဗ္ဗတာ။
သမန္တာ အနုပရိယေယျုံ၊ နိပေါထေန္တာ စတုဒ္ဒိသာ။

ဧဝံ ဇရာ စ မစ္စု စ၊ အဓိဝတ္တန္တိ ပါဏိနေ။
ခတ္တိယေ ဗြာဟ္မဏေ ဝေဿ၊ သုဒ္ဒေ စဏ္ဍာလ ပုက္ကုသေ။

န ကိဉ္စိ ပရိဝဇ္ဇေတိ၊ သဗ္ဗမေဝါဘိ မဒ္ဒတိ။
န တတ္ထ ဟတ္ထီနံ ဘူမိ၊ န ရထာနံ န ပတ္တိယာ။
န စာပိ မန္တယုဒ္ဓေန၊ သက္ကာ ဇေတုံ ဓနေန ဝါ[၁]။

နဘံ အာဟစ္စ၊ မိုးတိမ်ပေါက်မြောက် ဆိုက်ထိရောက်အောင်။ ဝိပုလာ၊ ကြီးမားကုန်သော။ သေလာ၊ ကျောက်အတိပြီးကုန်သော။ ပဗ္ဗတာ။ တောင်

၁။ သံ၊ ၁။ ၁၀၂။

လေးလုံးတို့သည်။ သမန္တာ၊ ထက်ဝန်းကျင်မှ။ စတုဒ္ဒိသာ၊ အရပ်လေးမျက်နှာမှ။နိပ္ပေါ်ထေန္တာ၊ သတ္တဝါတို့ကို မှုန့်မှုန့်ညက်ညက်ကြိတ်ချေဖျက်ဆီးကုန်လျက်။ အနုပရိယာယန္တိ၊ဖျဉ်းဖျဉ်းလှည့်လည်ကုန်ရာသကဲ့သို့သာလျှင်။ ဧဝံ၊ထို့အတူ။ ဇရာ စ၊ သွားကြိုးဆံဖြူ ယယ်မူယိုယွင်း အိုမင်းရင့်ရော် မှည့်ပျော်မှုဇရာသည်၎င်း။ မစ္စု စ၊ စုတိပြတ်ကြွေ သေလွန်ခြင်းသည်၎င်း။ ခတ္တိယေ၊ ရေမြေပိုင်စိုး မင်းမျိုးဖြစ်သူတို့ကို၎င်း။ ဗြာဟ္မဏေ၊ ဇာတိမာန်ဟုန် ခက်ထန်ကြွားသည့် ပုဏ္ဏားမျိုးဖြစ်သူတို့ကို၎င်း။ ဝေဿေ၊ဥစ္စာဓနကုံလုံပြည့်သစ် သူကြွယ်မျိုးဖြစ်သူတို့ကို၎င်း။ သုဒ္ဒေ ဥစ္စာမဲ့ သူဆင်းရဲမျိုးတို့ကို၎င်း။စဏ္ဍာလပုက္ကုသေ၊ ဒွန်းစဏ္ဍားပန်းမှိုက်သွန်မျိုးတို့ကို၎င်း။ ပါဏိနေ၊ ဖော်ပြထုတ်ဆို ပုဂ္ဂိုလ်သတ္တဝါဘို့မှ ကြွင်းသောလောကမှီတင်း သတ္တဝါခပင်းတို့ကို၎င်း။ အဓိဝတ္တန္တိ၊ လွှမ်းမိုးကြိတ်ဖျက်နှိပ်စက်ညှဉ်းပန်းသတ်ဖြတ်ကုန်၏။ ကဉ္စိ၊ တစုံတယောက်သူကိုမျှ။ န ပရိဝဇ္ဇေတိ၊မရှောင်ကြဉ်။ သဗ္ဗမေဝ၊ တယောက်မကြွင်း ခပင်းဥဿုံ အလုံးစုံသောသတ္တဝါကိုသာလျှင်။အဘိမဒ္ဒတိ၊ကြိတ်ခြေနှိပ်စက်၏။ တတ္ထ၊ ထိုသေခြင်းတရားနှိပ်စက် ဖျက်ဆီးရာ၌။ဟတ္ထီနံ၊ ဆင်စီးသူရဲတို့၏။ ဘူမိ၊ အောင်နိုင်ရာသည်။ ဝါ အောင်ရာကေန် အောင်မြေမှန်သည်။န အတ္ထိ၊ ပုံသေမှုချ မရှိပါချေ။ ရထာနံ၊ ရထာစီးသူရဲတို့၏။ ဘူမိ၊ အောင်နိုင်ရာသည်။ ဝါ၊ အောင်ရာကေန် အောင်မြေမှန်သည်။ န အတ္ထိ၊ ပုံသေမုချမရှိပါချေ။ ပတ္တိယာ၊ ခြေသည် သူရဲဘပ်သားများ၏။ ဘူမိ၊ အောင်နိုင်ရာသည်။ ဝါ၊ အောင်ရာဧကန် အောင်မြေမှန်သည်။ န အတ္ထိ၊ မုချပုံသေ မရှိပါချေ။ မန္တယုဒ္ဓေနပိ၊အာထဗ္ဗဏဗေဒင် စီရင်ဆောင်ရွက်ချက်ဖြင့်လည်း။ ဇေတုံ၊ အောင်မြင်ခြင်းငှာ။ န သက္ကာ၊ မတတ်ကောင်းချေ။ ဓနေနဝါ။ ဥစ္စာပစ္စည်းပေး၍သော်လည်း။ ဇေတုံ၊ အောင်နိုင်ခြင်းငှာ။ န သက္ကာ၊ မတတ်ကောင်းပါချေ။

### အသောကာရာမတိုက်ထွက် ကြည်းကန်သာမဏေကျော် ရှင်နန္ဒဓဇ

ကြည်းကန် ကိုရင်ကြီးဟူ၍ ကျော်စောသော ရှင်နန္ဒဓဇကို ဤ၌ ယဉ်ကျေးစွာ ကြည်းကန်သာမဏေကျော် ရှင်နန္ဒဓဇဟု ဆိုပါသည်။

ရှင်နန္ဒဓဇကား မောင်းထောင်သာသနာပိုင် အရှင်ဉာဏာဘိဝံသထံ တပည့်ခံ၍ ပညာရပ်အချို့ကို ဆည်းပူးခဲ့လေသည်။ သို့ဖြစ်၍ မောင်းထောင်ဆရာတော်၏ အဆက်အနွယ်အနေဖြင့် ဤသာသနာဝင်တွင် မှတ်တမ်းတင်ပါသည်။

ရှင်နန္ဒဓဇသည် မြိုင်မြို့နယ် လက်တောဆယ်ရွာ အဝင်အပါ (ယခင်က ပခန်းကြီးမြို့နယ် အနောက်ဘက်တိုက်အတွင်း)ကြည့်ကန်ရွာ၌[၁] အဖ သံတော်ခံ မင်းကြီး[၂]နှင့် အမိ သံတော်ခံ မင်းကြီးကတော် ဒေါ်အိုးပုတ်တို့မှ သက္ကရာဇ် ၁၁၁၉-ခုနှစ်တွင် ဖွားမြင်တော်မူသည်။ ငယ်မည် မောင်နုဖြစ်သည်။ မောင်နု၏ ဘေးကား တောင်ငူပြည်ကြီးကို အစိုးရသော ရေမြွေသခင် ရွှေနန်းရှင်၏ အဆောင်မြမင်း ဖြစ်သည်။ အရွယ်ရောက်သော် ကျောင်းနေပညာ သင်ကြားတော်မူခဲ့သည်။ သာမဏေအရွယ်တွင် သာမဏေဝတ်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။ ဘွဲ့တော် ရှင်နန္ဒဓဇ ဖြစ်လေသည်။

## ဆရာသမားများစွာတို့ထံ ပညာသင်ကြားခဲ့ခြင်း

ရှင်နန္ဒဓဇသည် "နည်းပေါင်းစုံမှ ဉာဏ်ဟုန်ပြင်း" ဟူသည်နှင့်အညီ နည်းပေါင်းစုံ ပညာရပ်စုံစုံလင်လင် ရရှိတတ်မြောက်လိုသဖြင့် ကြည့်ကန်ရွာ မြောက်မျက်နှာ မင်္ဂလာကျောင်းတိုက် ဆရာတော်ထံတွင် အခြေခံကျမ်းစာများကို သင်ယူတော်မူပြီးနောက်—

(၁) မင်းအိုဆရာတော်၊ (၂) မင်းရွာဆရာတော်၊ (၃) ဥပရာဆရာတော်၊ (၄) ကျောက်ကာဆရာတော်၊ (၅) မြေထူးဆရာတော်၊ (၆) လက်တောဆရာတော်၊ (၇) စကုဆရာတော်၊ (၈) ကျွဲဘက်ဆရာတော်၊ (၉) ဝချက်ဆရာတော်၊ (၁၀) ပိုက်သင်ဆရာတော်၊ (၁၁) ရွှေကြာပင်ဆရာတော်၊ (၁၂) ဗုဒ္ဓကုံချဆရာတော်၊ (၁၃) အင်တိုင်းဆရာတော်၊ (၁၄) ပလိုင်းဆရာတော်၊ (၁၅) ရွာကိုင်းဆရာတော်၊ (၁၆) ငှက်ပျောကိုင်းဆရာတော်၊ (၁၇) ဆုံထားဆရာတော်၊ (၁၈) ငါးရာဆရာတော်၊ (၁၉) ရွာထောင်ဆရာတော်၊ (၂၀) မောင်းထောင်သာသနာပိုင် အရှင်ဉာဏာဘိဝံသဆရာတော်၊ (၂၁) သမတောဆရာတော်—

တို့ထံတွင် လောကီ လောကုတ္တရာပညာအရပ်ရပ်ကို တတ်မြောက်အောင် သင်ယူတော်မူခဲ့လေသည်။

---

၁။ အဒ္ဓလောင်းစည်သူဘုရင် ကြည့်ရှု၍ တူးသောကန် ဖြစ်သောကြောင့် ကြည့်ကန်၊ ယင်းကန်၏ အနီးရွာကြီးကို ကြည့်ကန်ရွာဟု ခေါ်သည်။ ယင်းရွာကား ယခင်က ပခန်းကြီးမြို့နယ် အနောက်ဘက် တိုက်နယ်အတွင်းဝင် ဖြစ်သည်။ မြိုင်မြို့ အရှေ့ဘက် ၁၂-မိုင်ခန့်ရှာ၏။ ပခုက္ကူမှ မြောက်စူးစူး ၂၄-မိုင်ခန့် ကွာလှမ်းသည်။

၂။ ဖခင်နာမည်ကို မသိရချေ။ သံတော်ခံမင်းကြီးဖြစ်ကြောင်းသာ သိရ၏။

## မောင်းထောင်ဆရာတော်ထံ ကြာမြင့်စွာ ပညာဆည်းပူး

ကြည့်ကန်သာမဏေကျော် ရှင်နန္ဒမေဓာသည် မောင်းထောင်သာသနာပိုင် အရှင်ဉာဏာဘိဝံသအောက် သက်တော် ၄-နှစ်ခန့်ငယ်သည်။ ရှင်နန္ဒမေဓာသည် ဘိုးတော်မင်းတရား၏ ပင့်ဆောင်ချက်အရ အမရပူရနေပြည်တော်သို့ ကြွတော်မူ၍ အသောကာရာမတိုက်၌ ကြာမြင့်စွာ သီတင်းသုံးတော်မူ၍ သာသနာပိုင် မောင်းထောင်ဆရာတော်ထံ၌ လောကီ လောကုတ္တရာပညာရပ်များကို ဆည်းပူးတော်မူသည်။ မောင်းထောင် သာသနာပိုင်ဆရာတော်သည် ရှင်နန္ဒမေဓာအား အလိုလိုက်၍ လောကီ လောကုတ္တရာ ပညာရပ်များကို သင်ကြားပေးတော်မူသည်။ ရှင်နန္ဒမေဓာမှာ ဒေသန္တရ ဗဟုသုတ နှံ့စပ်သူဖြစ်ရကား ရှင်နန္ဒမေဓာကို အလိုလိုက်ထားရသဖြင့် သာသနာပိုင်အဖို့လည်း အကျိုးရှိလေသည်။

## တိုက်တွန်းသော်လည်း ရဟန်းမခံခဲ့

အပေါင်းအဖော် ဆရာသမားတို့က ရဟန်းဘောင်တက်ရန် အဘန်တန် တိုက်တွန်းပြောကြားကြသော်လည်း အကြောင်းအမျိုးမျိုးပြ၍ ငြင်းဆန်တော်မူခဲ့သည်။

## မေလ့ထုံးစံမှာ၍ ဆည်းပူးလေ့လာခြင်း

"ပညာရှာ ပမာသူဖုံးစား" ဟူသည်နှင့်အညီ ရှင်နန္ဒမေဓာသည် သမိုင်း ရာဇဝင် အရပ်ဒေသဓလေ့ထုံးစံမှာ၍ သိစရာသိပ္ပအဝဝကို တတ်သိလိုစိတ် ပြင်းထန်သဖြင့် မြန်မာပြည်အောက်ပိုင်း အထက်ပိုင်းအရပ်ဒေသအနှံ့အပြား လှည့်လည်တော်မူ၍ သမိုင်းရာဇဝင်မှတ်ရာအကြောင်း ဓလေ့ထုံးစံများကို လေ့လာဆည်းပူးတော်မူခဲ့လေသည်။ စဉ့်ကူးမင်း၊ ဘိုးတော်ဘုရား နှစ်လက်ဆက်စလုံး၌ လွှတ်ရုံးများတွင် လှည့်လည်တော်မူ၍ အုပ်ချုပ်ရေး မင်းရေးမင်းရာ အဖြာဖြာသော သိပ္ပပညာကို ဆည်းပူးတော်မူခဲ့လေသည်၊ သို့ဖြစ်၍ ရှင်နန္ဒမေဓာသည် လောကီ လောကုတ္တရာ ၂-ဖြာလုံးတွင် ထူးချွန်သောပုဂ္ဂိုလ် ဖြစ်လာလေသည်။

## စာပေချပို့တော်မူခြင်း

လောကီ လောကုတ္တရာ ပညာသိပ္ပ စုံလုံပြီးမြောက်၍ အသက် ၃၀-ကျော် လောက်ကစ၍ ကြည့်ကန်ရွာ ဘုံသာထွန်းကျောင်း၌ သီတင်းသုံးတော်မူ၍ ရဟန်းသာမဏေတို့အား စာပေချပို့၍ ပရိယတ္တိသာသနာကို ချီးမြှောက်တော်မူသည်။ မင်းပိုင်းစိုးပိုင်းမှုပုဂ္ဂိုလ်များကိုသည်း လောကီသိပ္ပအဝဝကို သင်ကြားပေးတော်မူသည်။

## ကျမ်းစာများကို ပြုစီရင်တော်မူခြင်း

ရှင်နန္ဒမာလသည် စာပေကျမ်းဂန်များစွာတို့ကိုလည်း ပြုစီရင်တော်မူခဲ့သည်။ ၎င်းတို့မှာ—

၁။ သုတ်ပါဠိတော်နိဿယ၊

၂။ မုံရွေးအမေး ကြည့်ကန်အဖြေ၊

၃။ ဗျဥ္ဇနာဒိဋီကာ၊

၄။ ဇေယျာဝန္တနိဿယကျမ်း၊

၅။ ဆန္ဒဝုတိကျမ်း၊

၆။ ဗေဒင်လက်ရိုးကျမ်း၊

၇။ မနောဇာကျမ်း။

၈။ ပစ်တိုင်းထောင်ကမ္မဋ္ဌာန်းကျမ်း၊

၉။ သတ္တောဝါဒီကမ္မဋ္ဌာန်းကျမ်း၊

၁၀။ စွယ်စုံကျော်ထင် သတ်ပုံပုစ္ဆာကျမ်း၊

၁၁။ ကျည်းကန်ရှင်ကြီးမေတ္တာစာ (မေတ္တာစာဒဿမျိုးမျိုး)

၁၂။ စကားပုံမေတ္တာစာ၊

၁၃။ ဦးယာသို့ ပေးသောစကားပုံမေတ္တာစာ—

စသည်တို့ ဖြစ်ကုန်၏။

## သတ္တောဝါဒီကမ္မဋ္ဌာန်းကျမ်း

ယင်းကျမ်းများအနက် သတ္တောဝါဒီကမ္မဋ္ဌာန်းကျမ်းကို—

သတ္တောဝါဒိံ ဂန္ထံ လိက္ခံ၊ ဗုဒ္ဓံ နတွာ ဟိတ္ထာဒံ။
သတ္တာနတ္တာယ တာရေန္တံ၊ နာနာဂန္ထံ ဥဒ္ဓရိတံ။

အဟံ၊ ငါသည်။ ဝါ၊ နန္ဒမာလ နာမသမုတ် အကျွန်ုပ်သည်။ တာရေန္တံ၊ နိဗ္ဗာန်သို့ ကူးစက်တော်မူတတ်သော။ ဝါ နိဗ္ဗာန်သို့ ကယ်တင်တော်မူတတ်ထသော။ ဟိတ္ထာဒံ၊ နိဗ္ဗာန်နှင့်တကွ လိုသမျှချပ်သိမ်းကို ပြီးမြောက်အောင်ပေးတော်မူတတ်ထသော။ ဗုဒ္ဓံ၊ ဘုရားတရားသံဃာ ရတနာသုံးပါးကို။ နတွာ၊ ရှိခိုးဦး၍။ သတ္တာနံ၊ သတ္တဝါတို့၏။ အတ္ထာယ၊

> အကျိုးငှာ၊ နာနာဂန္ထံ- နာနာဂန္ထေဟိ၊ အထူးထူးသောကျမ်းတို့မှ။ ဥဒ္ဓရိတံ၊ ထုတ်နုတ်အပ်ထသော။ သတ္တောဝါဒိံ၊ သတ္တောဝါဒီအမည်ရှိသော။ ဝါ၊ သတ္တဝါတို့ကို ဆုံးမကြောင်း အနက်ရှိသောကြောင့် သတ္တောဝါဒီအမည်ရှိသော။ ဝါ သတ္တာနံ ဩဝါဒေါ ဧတသ္မိံ အတ္ထီတိ သတ္တောဝါဒီ-ဟူသော ဝစနတ္ထကြောင့် သတ္တောဝါဒီအမည်ရှိသော။ ဂန္ထံ၊ ကျမ်းကို။ ဝါ၊ ပြောင်းချင်း တမ်းချင်း လွမ်းချင်း ပျော့ချင်း လင်္ကာချက်ကျ ပါဠိပဒဖြင့် ဝင်္ဂရှုထွက်လွယ် အနက်သွယ်သော ဆယ်လွန်းတင်ဂါထာကျမ်းကို။ လိက္ခံ၊ ရေးလိုက်အံ့။ ဝါ၊ ကောဇ္ဇရ နိယမစသည်ဖြင့် အသင့်ရေးလိုက်အံ့-

ဟူသော ဂါထာပါဠိနိဿယဖြင့် ရာဇနတ္တာသပဏ္ဏာမ ပဋိညာဉ်ပြုတော်မူခဲ့လေသည်။ ယင်းသတ္တောဝါဒီကျမ်းပြီးချိန်မှာ သက္ကရာဇ် ၁၁၆၉-ခုနှစ်က ဖြစ်သည်။ ယင်းသတ္တောဝါဒီကျမ်းမှာ ဒီမိုင်း ၁၆-မျက်နှာရှိ ကျမ်းငယ်ဖြစ်သည်။

## စွယ်ဝိုံကျော်ထင် သတ်ပုံပုဏ္ဏာကျမ်း

စွယ်စုံကျော်ထင်ဟူသောအမည်မှာ ကျည်းကန်ရှင်ကြီး ရှင်နန္ဒမေဓာကိုယ်တိုင် ပေးခဲ့သောအမည် ဖြစ်သည်၊ ဂန္ထော၊ ကျမ်းသည်။ ဝါ၊ သတ်ပုံသည်းပါ ပုဏ္ဏာလည်းရ သိပ္ပကုံသုံ နှစ်ချက်ဆုံသောကြောင့် စွယ်စုံကျော်ထင်အမည်ရှိသောကျမ်းသည်-ဟု နိဂုံး၌ မိန့်ဆိုတော်မူ၏၊ ရှင်နန္ဒမေဓာသည် ကျမ်းအမည်နှင့်စပ်၍ တပါးသူ ဓာဒကမဝင်နိုင်အောင် ဖော်ပြတော်မူခဲ့ခြင်း ဖြစ်သေသည်။ စွယ်စုံကျော်ထင်ကျမ်း၌ ပုဏ္ဏာပေါင်း ၁၁၁၇-ပုဒ်ပါရှိသည်။ ဤကျမ်းသာ အာဂုံဆောင်၍ အဖြေကိုပါ ပိုင်နိုင်စွာ လေ့လာကြည့်ရှုပါက တကာယ်ပင် အာဂပုဂ္ဂိုလ် ထိပ်တန်းပုဂ္ဂိုလ် ဖြစ်နိုင်ပါသည်၊ ယင်းစွယ်စုံကျော်ထင်ကျမ်းတွင် အစဆုံး သတ်ပုံပုဏ္ဏာကား“သဘိကီပင်နွယ်၊ စေတုန်းကြွယ်၊ မင်းဘယ်မျှတွင် ပွင့်သနည်း”ဖြစ်၍ အဆုံးသတ်ပုံပုဏ္ဏာမှာ—လူနတ်ကွယ်ကိုး၊ စေတုန်းဖြိုး၊ တိုင်းရိုးလုံးပတ် ဘယ်မျှနည်း” ဖြစ်သည်။ နိဂုံး၌သည်း—အနောက်ဘက်တိုက်အတွင်း ကျည်ကန်ရွာဇာတိဖြစ်ပုံ၊ ဘုံသာထွန်းကျောင်းနေစဉ်ရေးသားပုံ မိမိ၏ဘိုးကား ဘောင်သူခင်းလက်ထက် ဆောင်မြဲမင်းဖြစ်ပုံစသည်တို့ကို-

> ကျည်းကန်ဣာဘိဝှယေ ဂါမေ၊ အနောက်ဘက်တိုက် အဗ္ဘန္တရေ။
> ဘုံသာထွန်း ဣာဘိဝေါဟာရေ၊ ဝသန္တေန ရမာသနေ။
> တောင်ငူဝှ နဂရိန္ဒဿ၊ ဇောနိဏ္ဏာနုနေတ္တော။
> နန္ဒမေဓော ကတော ဂန္ထော၊ အနာကုလံ သုနိဋ္ဌိတံ-

ဟူသော ၂-ဂါထာဖြင့် ဖော်ပြတော်မူခဲ့လေသည်။

## ကျည့်ကန်ရှင်ကြီးမေတ္တာစာ

ကျည့်ကန်ရှင်ကြီး မေတ္တာစာကျမ်းမှာ အမိက တရပ်သွားသားထံ ပေးသည့် မေတ္တာစာ၊ အမိက သား မောင်ရွှေအောင်ထံ ပေးသည့်မေတ္တာစာ၊ လက်တော ဆယ်ရွာဂိုဏ်းအုပ်က သာသနာပိုင်ထံ လျှောက်စာစသည့် စာကောင်းပေ ကောင်းများ ပါရှိလေသည်။ ကျမ်းဦး၌—

မဥ္ဇိတိချာတုပုဏ္ဏံ မေ၊ ရမ္မေ မဇ္ဈေ စတုဂါမေ။
ဝရယာစာပုဇ္ဇော သောဘော၊ ပူဇေ သဗ္ဗိမိနာ ဣစ္ဆံ—

ဟူသော မဥ္ဇိရွာရှိ ဆုတောင်းပြည့်ဘုရား ဆုဆောင်းစာဖြင့် ပဏာမပတ္ထနာ ပြု၍ ဖော်ပြပါရှိ၏။ ယင်းကျည့်ကန်ရှင်ကြီး မေတ္တာစာကို ရန်ကုန်မြို့ ပြည် ကြီးမဏ္ဍိုင်ပုံနှိပ်တိုက်မှလည်း ၁၉၅၇–ခုနှစ်က ရိုက်နှိပ်ရာ ဦးဖေမောင်တင် တည်းဖြတ်၍ မြန်မာသုတေသနအသင်းက ထုတ်ဝေဘူးသည်။ ဒီမိုင်းဆိုက် စာမျက်နှာ ၁၀၄–ရှိသည်။

### စကားပုံမေတ္တာစာ

စကားပုံမေတ္တာစာမှာ ရေမြေ့ရှင် မင်းတရားထံ ရေးသား၍ ဆက်သွင်း သည့် မေတ္တာစာကောင်း ဖြစ်သည်။ ယင်းသို့ဖြစ်ကြောင်း—

"ငံဇွာခရေ၊ သိမ်းခြုံပြုလျက်၊ လောကဝိည္ဆူ၊ ဖြစ်စိမ့်ဟူသား၊ နှိုင်း တူပမာ၊ ကြယ်တာရာကုံ၊ တွယ်ကာအလျှံ၊ နန်းကြိုးစဉ်သို့၊ ဘက် ယှဉ်လောကီ၊ ဖွံ့ကုံးသီပိမ့်၊ ဇမ္ဗူဒိပ၊ အတုလဆုဇာခိ၊ ရာဇဂုရု၊ အမှုမှုကို၊ တခုမကျန်၊ တက်ကျော်ပြန့်အောင်၊ အမှန်နိစ္စ၊ နေ့ညမသွေ၊ စွဲမှတ် စေဟု၊ ရေမြေသခင်၊ ဘဝရှင်အား၊ ကြားရောက်မေတ္တာ၊ ဆက်သွင်း ပါသည်"—

ဟု မေတ္တာစာ စာဦး၌ ဖော်ပြခဲ့သည်။

ယင်း မေတ္တာစာသည် အလွန်လျှင်ကောင်း၏။ ပညာရှိ သတိဖြစ်ခဲဆိုသည့် အတိုင်း အမှတ်တမဲ့နေမိသော ပညာရှင်အား သတိရ နိုးကြားစေသည်။ ဥပမာ ကြည့်ရှုစမ်းပါ၊ စဉ်းစားစမ်းပါ။ "ချစ်သည် ခင်သည် ကြင်သည် ကျွမ်းသည် မှန်စေ ရန်သူတွေက စွန့်စားခဲ့သည်"ဟူသော စကားပုံမေတ္တာစာတပုဒ်ကပင် လူသားအများစု၏သဘောကို ပြောနေသည်။ လောက ချစ်တယ် ခင်တယ်ဆို ပေမဲ့ သာတုန်း ချမ်းသာတုန်း ပေးနိုင်ကမ်းနိုင်တုန်း ချစ်တတ်ခင်တတ်ကြသည်။

အရေးမသား လျှင် မခင်တတ်ကြပုံ ရန်သူနှင့်တွေ့လျှင် မိတ်ဆွေကို မကူညီတတ်ကြပုံကို ပြောသည်။

## စာချ ဂဏဝါစက နည်းပြဆရာတို့၏ အင်္ဂါ

ယင်း စကားပုံ မေတ္တာစာ၌ စာချ ဂဏဝါစကတို့၏ အင်္ဂါကို—

စာသင်ဆရာတို့၏အင်္ဂါသည် သဒ္ဒါအဘိဓာန်ကျမ်းဂန်သိလှ၊ မုချဥပစာ၊ သေချာဓိပ္ပာယ်၊ လေးဆယ်နယ၊ သို့ချသို့ငင်၊ သို့သင်သို့ပစ်၊ အရစ်အပင့်၊ အဆင့်အသတ်၊ အမှတ်သညာ၊ လာသည်ပါဠိ၊ သိသည့်အနက်၊ အထွက်အသန်၊ အမှန်သဘော၊ ချောမောအာဂုံ၊ အင်ပြည့်စုံမှု၊ များလှသောင်းသောင်း၊ တပည့်ပေါင်းတို့၊ ညွတ်ပျော်းကြည်လင်၊ ချစ်ခင်ရိုသေကြမြဲ ဖြဲချေသည်—

ဟူ၍ ဖော်ပြခဲ့လေသည်။

## စာသင်တပည့်တို့၏ အင်္ဂါ

၎င်းပြင် စာသင်တပည့်တို့၏ အင်္ဂါကိုလည်း “တပည့်တို့အင်္ဂါမှာ လျှင်မြန်ပေါ့ပါး၊ စကားပြေချော၊ သဘောချိုသာ၊ ဝေယျာဝစ္စ၊ ခဲယမ်းယမ်း၊ ရှင်လန်းစေတနာ၊ သေချာမှုမျိုး၊ ရိုးရိုးဆောင်ရွက်၊ မျက်မှောက်မျက်ကွယ်၊ မပယ်တရံ၊ သင်အံကြဲကြည့်၊ ဝံသောင်းပြည့်ပညာ၊ ဆရာသင်နည်း၊ နိဿယည်းမပျက်၊ ပါဠိအနက်က၊ ထွက်သည့်ဓိပ္ပာယ်၊ သည်ဝယ်ပုဒ်ဖြတ်၊ သေသတ်မုချ၊ တကြိမ်ပြလျှင်၊ မခွမှတ်သား၊ တပည့်အားကို၊ သင်ကြားဆရာ၊ မြတ်နိုးရာ၏” ဟူ၍ လာရှိ၏။

## ဘုရားဆုပန်ပုဂ္ဂိုလ်

ကျည့်ကန်ရှင်ကျော် ရှင်နန္ဒဇေကား သမ္မာသမ္ဗုဒ္ဓ သဗ္ဗညုဆုကြီးပန် ပုဂ္ဂလဇာနည် ဖြစ်တော်မူသည်။ သက်တော် ၄၀-ကျော်တွင် ငါတို့ဂေါတမဘုရားရှင်ကို ဖူးတွေ့ရ၍ ကျွန်ုပ် ဘုရားဖြစ်ပါအံ့လောဟူ၍ လျှောက်သည်တွင် သင်သည် နောင်သောအခါ ငါကဲ့သို့ ဘုရားစင်စစ်ဖြစ်ပေလတံ့ဟု ဗျာဒိတ်ပေးတော်မူသည်ကို ခံရမည်ဟု ၃-ကြိမ်တိုင် အိပ်မက်မြင်ကြောင်း သုတ်နိဿယ၌ ပါရှိသော ဟူ၏။

## စိတ်ထက် ငုံ့မခံတတ်

ကြည့်ကန်ရှင်ကြီးကား စိတ်ထက်သည်၊ ပြတ်ပြတ်သားသား ပြောဆိုလေ့ရှိသည်။ တခါက ဆရာဖြစ်သောမောင်းထောင်သာသနာပိုင် အရှင်ဉာဏာဘိဝံသက ဦးရင်ကြီး၊ ပါတိမောက်ပြန်ရမည်ဟု စေခိုင်းလေရာ ကိုယ်တော်ပြန်လျှင် ယခုပြန်မည်ဟု ပြန်၍လျှောက်သတတ်။ ယင်းသို့ စသည်ဖြင့် သာသနာပိုင်အား မာမာဆတ်ဆတ်၊ ကြမ်းကြမ်းလျှောက်သည်မှာ အကြိမ် ၁-ခါ၊ ၂-ခါမက သောဟူ၏။ မဟုတ်မခံ အာဇာနည်ပုဂ္ဂိုလ်ဖြစ်၏။

## စက်တော်ရာဘုရားဖူးကြွ ပျံလွန်

ကြည့်ကန်ရှင်ကြီး ရှင်နန္ဒဓဇသည် သက်တော် ၅၄-နှစ်ရှိ၍ ၁၁၇၃-ခုနှစ်တွင် မန်းစက်တော်သို့ ဘုရားရှင်၏ခြေတော်ရာနှစ်ဆူကို ဖူးမြော်အံ့ငှာ ကြွတော်မူ၍ ဖူးမြော်အပြီး မန်းစက်တော်ရာအနီး မရှက်ရွာ၌ ခေတ္တသီတင်းသုံးတော်မူစဉ် ပျံလွန်တော်မူခဲ့လေသည်။

## သံဝေဂယူရန်

ဧဝံ အဒ္ဓုဝါ ခေါ အာနန္ဒ သင်္ခါရာ၊
ဧဝံ အနဿာသိကာ ခေါ အာနန္ဒ သင်္ခါရာ[၁]။

အာနန္ဒ၊ ညီတော်ချစ်လိမ္မာ အာနန္ဒာ။ သင်္ခါရာ၊ သက်ရှိသက်မဲ့ တွင်းပြင်လုံ့၍ ကြွင်းမဲ့ဥဿုံ အလုံးစုံသော သင်္ခါရတို့သည်၊ ဧဝံ အနိစ္စာ ခေါ၊ ဤသို့ဖြစ်ပေါ်ပြီးက ပျက်စီးတတ်သဖြင့် မမြဲကုန်သည်သာ။ အာနန္ဒ၊ညီတော်ချစ်လိမ္မာ အာနန္ဒာ။ သင်္ခါရာ၊ ကံ- စိတ်- ဥ- ဟာ ကြောင်းလေးဖြာတို့ ပေါင်းကာပြုပြင် စီရင်အပ်သမျှ သင်္ခါရတို့သည်။ ဧဝံ အနဿာသိကာ၊ ဤသို့ အိပ်မက်၌သောက် ရေကြည်ရေပေါက်ပမာ သက်သာရာ ရှာမရကုန်သည်သာ။

## သာသနာပိုင် မောင်းထောင်ဆရာတော်၏တပည့်
## ဂုဏမုနိန္ဒာဘိသဒ္ဓမ္မ မဟာဓမ္မရာဇာဓိရာဇဂုရု အရှင်ဂုဏမုနိန္ဒထေရ်

ဆရာတော်သည် အသောကာရာမတိုက် သာသနာပိုင် မောင်းထောင်ဆရာတော် အရှင်ဉာဏာဘိဝံသထံ ပညာသင်ကြားတော်မူခဲ့သည့် မထေရ်မြတ်ဖြစ်တော်မူသည်။

---

၁။ ဒီ၊ ၂။ ၁၆၁။ (မဟာသုဒဿနသုတ်)

ကောလင်းမြို့ အဖဦးတော၊ အမိ ရှင်ထွေးတို့မှ သက္ကရာဇ် ၁၁၂၈-ခုနှစ် တပို့တွဲလဆန်း ၁၀-ရက်နေ့တွင် ဖွားမြင်တော်မူခဲ့လေသည်။

အရွယ်ရောက်သော် ရှင် ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူသည်။ သာမဏေဘွဲ့ ရှင်ကဝိဖြစ်၍ ရဟန်းဘွဲ့မှာ အရှင်ဂုဏမုနိန္ဒဖြစ်သည်။

ဘိုးတော်မင်းတရားလက်ထက် အသောကာရာမတိုက် မောင်းထောင် သာသနာပိုင် ဆရာတော်ဘုရားကြီး အရှင်ဉာဏာဘိဝံသထံ ရောက်ရှိ၍ သင်အပ် သင်သင့် သင်ထိုက်သည့် ပညာရပ်များကို သင်ယူတော်မူခဲ့သည်။

## ဘုတ်ကန်ဆရာတော်ဟု ထင်ရှားခြင်း

မြို့တော်အရှေ့မြောက် ဘုတ်ကန်ကြီးရွာတွင် သီတင်းသုံးဘူးသဖြင့် ဘုတ်ကန်ကြီး ဆရာတော်ဟု တွင်လေသည်။ ဘကြီးတော်မင်းတရားလက်ထက် အင်းဝမြို့တော် ခါးပန်းနီကျောင်းတိုက်တွင် ကျောက်ဆောက်မြို့စား ဝန်ကြီးမင်းကြီး မဟာသီဟသူက ပြင်ဆင်ဆောက်လုပ် လှူဒါန်းသော အုတ်ကျောင်းတွင် သီတင်းသုံးတော်မူ၍ ခုနှစ်ပါးကို ကြိုးစားအားသစ်တော်မူခဲ့လေသည်။ သာယာဝတီ မင်းတရားလက်ထက်တွင် မြို့တော်အရှေ့တောင်ထောင့် ကျောက်မြောင်းတိုက်၌ အသည်ဝန်ထောက်မင်းကြီး မဟာစည်သူ ဆောက်လုပ်လှူဒါန်းသည့် လေးထပ်ကျောင်းတွင် သီတင်းသုံးတော်မူသည်။

မင်းကြေးရာဇ် လှူဒါန်းဆက်ကပ်သည့် "ဂုဏမုနိန္ဒာဘိသဒ္ဓမ္မမဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော်မူသည်။

သက္ကရာဇ် ၁၂၁၂-ခုနှစ် ပဌမဝါဆိုလဆုတ် ၁၃-ရက်နေ့တွင် ဘာနတ်ထံ ပျံလွန်တော်မူသည်။

## သံဝေဂယူရန်

ဥပနီယတိ ဇီဝိတမပ္ပမာယု၊
ဇရူပနီတဿ န သန္တိ တာဏာ[၁]။

သတ္တာနံ၊ ဇွဲလာသန္တေ တည်နေဖြစ်လာ သတ္တဝါတို့၏။ ဇီဝိတံ၊ အသက် ဇီဝိန်ကို။ ဥပနီယတိ၊ ဇရာတရားသည် သေခြင်းသို့ရောက်အောင် ပို့ဆောင်အပ်၏။ အာယု၊ အသက်သည်။ အပ္ပံ၊ အပ်ပေါ်မုန်ညင်း မြက်ပေါ်နှင်းသို့

၁။ သံ၊ ၁။ ၂။ ဥပနီယသုတ်။ သံ၊ ၁။ ၅၃-ဥတ္တရသုတ်။

နည်းကျဥ်းတိုတောင်းလှချေ၏၊ ဇရုပနီတသာ၊ အိုမင်းရင့်ရော် မှည့်ပျော်ခြင်း ဇရာတရားသည် သေခြင်းသို့ရောက်အောင် ဆောင်ယူအပ်သော သတ္တဝါ အား။ တာဏာ၊ စောင့်ရှောက်တားမြစ်နိုင်သော မြေးမြစ် သားသမီးနှင့် ဇနီးလင်သား မိဘစသူတို့သည်။ န သန္တိ၊ မုချပုံသေ မရှိပါကုန်ချေ။

## အသောကာရာမတိုက် သာသနာပိုင် စလင်းဆရာတော် အရှင်ပညာသီဟမဟာထေရ်

ဆရာတော်သည် အသောကာရာမကျောင်းတိုက်ကြီး၌ သီတင်းသုံးတော်မူ၍ ပဥ္စမမောင်းထောင်ဆရာတော်၏ ပြုလုပ်စ သာသနာပြုလုပ်ငန်း၊ သာသနာပိုင်လုပ်ငန်းကို ဆက်လက်ပြုလုပ်ခဲ့သောဆရာတော် ဖြစ်လေသည်။ ရတနာပူရစတုတ္ထမြို့တည် ဘကြီးတော်မင်းတရားလက်ထက်တွင် အမြင့်မြတ်ဆုံး သံဃရာဇာ ရဟန်းဘုရင်၊ ရဟန်းမင်းလည်း ဖြစ်လေသည်။

## ဇာတိချက်ကြွေ မွေးရပ်မြေ

ဆရာတော်သည် စကုမြို့အဝင်အပေါ် ကန်ကလာရွာ အဘ အသည်ကြီး မောင်ညိုသီလ၊ အမိ ရှင်မိတို့မှ သက္ကရာဇ် ၁၁၂၅-ခု၊ တော်သလင်းလဆန်း ၈-ရက်၊ ကြာသပတေးနေ့ နံနက် နေဝန်းပေါ်ထွန်းထွက်ပြူ ဥဒည်မူသည်နှင့် တပြိုင်နက် ဖွားမြင်တော်မူသည်။ မိဖတို့က မောင်ချစ်လောက်ဟု မှည့်ခေါ် သတ်မှတ်ကြသည်။

## ကျောင်းနေ သာမဏေဝတ် ရဟန်းပြု စာသင် စာချ

သက်တော် ၈-နှစ်သားအရွယ်တွင် ကြက်သွန်ခင်းဆရာတော်၏ တပည့်ရင်း ပဥ္စမဆရာတော် အရှင်မေဓိယမထေရ်မြတ်ထံ မိဖဘို့က အပ်နှံကြသဖြင့် ပညာ သင်ကြားရသည်။ အသက် ၁၆-နှစ်အရွယ်တွင် ဆရာတော်အရှင်မေဓိယထံဘွင် ရှင်သာမဏေဝတ်ခဲ့လေသည်။ သာမဏေဘွဲ့နာမတော်မှာ ရှင်ပညာသီဟဖြစ်လေသည်။ သာမဏေသိက္ခာ ၅-ဝါရသောအခါ သက်တော် ၂၀-ပြည့် မြောက်သဖြင့် သက္ကရာဇ် ၁၁၄၆-ခုနှစ်တွင် ဆရာတော် အရှင်မေဓိယကို ဥပဇ္ဈာယ်ပြု၍ ဥဒကုက္ခေပသိမ်၌ ကာရကသံဃာတော် ၂၅-ပါးတို့ ဥပသမ္ပဒ ကံ စီမံရွက်ဆောင်တော်မူကြသဖြင့် ရဟန်းဘာဝ ဒုလ္လဘကို ရရှိတော်မူသည်။ ရဟန်းဘွဲ့တော်မှာ အရှင်မုနိန္ဒဖြစ်လေသည်။

ဥပဇ္ဈာယ်ဆရာ အရှင်မေဓိယထံတွင် အောက်ခြေစာများမှစ၍ ပါဠိ၊ အဋ္ဌကထာ ဋီကာကျမ်းများကို သင်ယူတတ်မြောက်တော်မူခဲ့သည်။ ဥပဇ္ဈာယ်ဆရာတော်၏ စေခိုင်းချက်အရ လက်အောက်ငယ်သား စာသင်သားရဟန်းငယ်တို့ကိုလည်း စာပေပို့ချတော်မူရသည်။ နောက် ပန်းလှာဂိုဏ်းအုပ်ဆရာတော် အဘိဓမ္မတ္ထသင်္ဂဟဒီပနီစသောကျမ်းဂန်များစွာတို့ကို ပြုစီရင်တော်မူသော ဂုဏာဝန္တဓဇ မဟာဓမ္မရာဇဂုရု ဘွဲ့တံဆိပ်တော်ရ အရှင်ဂုဏာဝန္တထံ၌လည်း ပါဠိ၊ အဋ္ဌကထာ၊ ဋီကာစသော စာပေကျမ်းဂန်များကို သင်ယူတတ်မြောက်တော်မူခဲ့လေသည်။

## ဘုံလေးဆင့် ရွှေသစ်စေးကျောင်းသို့

ရဟန်းသိက္ခာ ၈-ဝါအရတွင် စလင်းမြို့သူကြီး သားမက် မောင်(င)ပန်းညို၏ ကွန်းသုံးစဉ်၊ ဘုံ၃(၄)ဆင့်ရှိသော ကျောင်းဆောက်၍ ရွှေသစ်စေးမွမ်းမံခြယ်လှယ်လှူဒါန်း ကိုးကွယ်ခြင်းကို ခံယူတော်မူရလေသည်။

## ဥဘတောဝိဘင်း ပြန်ဆိုအောင်မြင်ခြင်း

ရဟန်းသိက္ခာ ၉-ဝါအရ သက္ကရာဇ် ၁၁၅၅-ခုနှစ်တွင် အမရပူရနန်းမြို့တော် သုဓမ္မာဇရပ်၌ ဥဘတောဝိဘင်းကို ပြန်ဆိုအောင်မြင်တော်မူသဖြင့် ဉာဏာဘိဝံသ ဓမ္မသေနာပတိ သာသနာပိုင် မောင်းထောင်ဆရာတော်ဘုရားကြီးက နိဿယည်းတိုက်အုပ် အမိန့်တော်စာချွန်ပေးအပ်၍ နေရင်းမြို့ရွာကျောင်းသို့ ပြန်ကြွတော်မူပြီး သီတင်းသုံးမြဲ သီတင်းသုံးရသည်။

## ကျောင်းများစွာတို့၌ လဲလှယ်သီတင်းသုံးခြင်း

သက္ကရာဇ် ၁၁၆၄-ခုနှစ်တွင် စလင်းမြို့သူကြီးသား ဦးချင်းက ကွန်း ၃-စဉ် ဘုံ ၄-ဆင့်ရှိသော ကျောင်းကြီး ၁၊ ငင်းမနားရွာသူကြီး အမိ ဒေါ်ဖွယ်က ကွန်း ၃-ဆင့် ဘုံ ၄-ဆင့်ရှိသော ကျောင်းကြီး ၁၊ ဆင်ဖြူကျွန်းအရပ်နေ လျှော်စီး ဦးငကာ ကွန်းသုံးစဉ် ဘုံ ၄-ဆင့်ရှိသော ကျောင်းကြီး ၁-တို့ကို ရွှေသစ်စေး မွမ်းမံခြယ်လှယ် ဆောက်လုပ်လှူဒါန်းကြသည်။ သို့ဖြစ်၍ အလှူခံတော်မူပြီး ထိုကျောင်းတို့၌ ဓူရ ၂-ပါး ပွားများကာ အလှည့်ကျ သီတင်းသုံးတော်မူသည်။

ဉတိနေကဝိဟာရေသု၊ ဝသံ ထေရော ထိရာသယော။
ကရောန္တော သုဓူရေစာပိ၊ ဝသိ သံသုဒ္ဓစေတသာ။

## ဘိုးတော်မင်းတရား၏ ချီးမြှောက်မှုခံယူခြင်း

သက္ကရာဇ် ၁၁၇၈-ခုနှစ်တွင် ဘိုးတော်မင်းတရားကြီးက ပင့်သဖြင့် ရွှေနန်းတော်သို့ ရောက်တော်မူလျှင် တရားစကားဆွေးနွေးပြီးနောက် ရဟန်းဒါယကာခံတော်မူ၍ ဆင်ကြိုးရွှေဂူမြတ်စွာဘုရားခရှ သုဓမ္မာဇရပ်တော်၌ အိမ်ရှေ့မင်းထွက်တော်မူ၍ မင်းညီမင်းသား ဝန်ကြီး ဝန်ထောက် မှူးတော် မတ်တော် သဌေးသူကြွယ် အစုံအညီဝယ် အလှူတော်များကို ကိုယ်တိုင် ရွှေကရားဖြင့် ရေစက်သွန်းလောင်းတော်မူပြီးလျှင် ဆုတောင်းတော် စာဖတ်လျှောက်၍ ရဟန်းတော်အဖြစ်ဖြင့် ထပ်၍ ချီးမြှင့်တော်မူသည်။

## သာသနာပိုင် ဖြစ်တော်မူခြင်း

ဘိုးတော်မင်းတရား၏ ချီးမြှောက်မှုကို ခံယူပြီးနောက် မြို့ကျေးရွာသို့ ပြန်၍ သီတင်းသုံးတော်မူရာ ကျောင်းမှာ ပရိယတ်၊ ပဋိပတ်တရားကိုအားထုတ်နေသည်အတွင်း ဘိုးတော်မင်းတရားကြီး နတ်ရွာစံတော်မူလျှင် သက္ကရာဇ် ၁၁၈၁-ခုနှစ် ရတနာပူရ စစ်ကိုင်းမြို့တည်နန်းတည် မင်းတရားကြီးကပင့်တော်မူသဖြင့် အမရပူရ ရာဇဓာနီ မင်းနေပြည်တော်သို့ ကြွတော်မူသည်။ အမရပူရ နန်းမြို့တော်သို့ ရောက်လျှင် ဘိုးတော်မင်းတရားကြီး ကုသိုလ်တော် အသောကာရာမတိုက်အတွင်း ရဘနာဘုံကျော် ကျောင်းကြီးကို တင်လှူခြင်းကို ခံတော်မူရလေသည်။ "မုနိန္ဒာဘိသိရိသဒ္ဓမ္မ ဓဇမဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ကိုလည်း အလှူခံရရှိတော်မူလေသည်။

သက္ကရာဇ် ၁၁၈၂-ခုနှစ် တန်ခူးလဆန်း ၁-ရက် စနေနေ့နံနက် သုဓမ္မာဇရပ်တော်၌ ဆရာတော် သံဃာတော် မင်းညီမင်းသား ဝန်ကြီး ဝန်ထောက် မှူးတော် မတ်တော် သဌေး သူကြွယ် ရဟန်းပရိသတ် လူပရိသတ်တို့ အစုံအညီ၌ သံဃာ့ဦးကိုင် သာသနာပိုင်အဖြစ် သာသနာပြုအရာအပ်နှင်း၍ ချီးမြှောက်တော်မူသည်။

ဤသို့ဖြင့် စလင်းဆရာတော်အရှင်ပညာသီဟသည် သက်တော် ၅၇-နှစ်တွင် ရှေးဘုန်း ရှေးကံတို့သည် ဖန်လာ၍ အထွတ်အမြတ် သာသနာပိုင်အဖြစ်သို့ ရောက်လေသည်။

သတ္တပညာသဝဿမှိ၊ သံဃရာဇပဒံ လဘိ။
ပညာသီဟော မဟာထေရော၊ ပုညကမ္မေန စောဒိတော။

## မဟာအောင်မြေဘုံသာ ရွှေကျောင်းကို အလှူခံရခြင်း

ရတနာပူရ အဝရွှေမြို့တော်ကြီးသို့ ရောက်သောအခါ၌လည်း မြို့တော် အနောက်ဘောင်ယွန်း ရွှေစည်းခုံဘုရားအနီး တံတိုင်းမီးတား မုခ်လေးမျက်နှာ နှင့်တကွ ဝါဆိုကျောင်း၌ သီတင်းသုံးတော်မူသည်။

သက္ကရာဇ် ၁၁၉၀-ပြည့်နှစ် တပေါင်းလဆန်း ၁၃-ရက်နေ့တွင် ကျောင်း ဦး ပြာသာဒ်ဘုံ ၇-ဆင့် ကျောင်းမ အမိုးစမြင်ပါ ဘုံ ၄-ဆင့် ဥကင်ရာဇပလ္လင် တည် ဝဲယာထီးဖြူစိုက် တွင်းပြင်ထက်အောက် ရွှေနာရဏီဗိန်း ဖန်မှန်တို့ဖြင့် မွမ်းမံခြယ်လှယ်အပ်သော စံကျောင်းတော်ကို မဟာအောင်မြေဘုံသာ ကမ္ပည်း မော်ကွန်းထိုးမှတ် သမိုက်တော်မူ၍ ထွက်တော်မူကြီး ထွက်တော်မူပြီးလျှင် ဘုရားအမှူးရှိသော သာသနာပြုဆရာတော် တံဆိပ်ရ၊ မရ ဆရာတော် သံဃာ တော်တို့အား ပရိက္ခရာရှစ်ပါးနှင့်တကွ ရဟန်းတို့ အသုံးအဆောင် ပဒေသာပင် ရေ ၁၀၀-ကျော်ကို ရတနာကျောင်းအတွင်း အရှင်နှစ်ပါး ရေစက်သွန်းချ လှူဒါန်းတော်မူ၍ ကျောင်းတော်ကြီးအတွင်း ပတ္တမြားကျောက်မျက်ရွဲ အစ ရှိသည်တို့ဖြင့် ပြည့်နှက်စေလျက် သာသနာပိုင် ဆရာတော်ဘုရားကြီးကို ထီးဖြူ အုပ်ပြီးလျှင် မဟာအောင်မြေဘုံသာ စံကျောင်းတော်ကို မင်းကေရာဇ် ကိုယ်တော်တိုင် ရွှေကရားဖြင့် ရေစက်သွန်းချ၍ တင်လှူတော်မူသည်။

"မုနိန္ဒာဘိဝံသ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု" တံဆိပ်နာမံ တော်ကိုလည်း ဆက်ကပ်လှူဒါန်းတော်မူသည်၊ တံဆိပ်တော်ရ ဖြစ်သော သာသနာရေး၌ သတ္တိ ဗျတ္တိ ဇွယ်စုံရှိတော်မူကြသော ပိဋကတ်မ စာတည်း စာကြည့် ဆရာတော်များအားလည်း အသီးအသီး တံဆိပ်နာမံ ကပ်လှူတော်မူ သည်။ မင်းညီမင်းသား မှူးတော် မတ်တော် တိုင်းသူပြည်သားတို့အား မစေ့ မငဲ မရှိစေရ၊ အထိုက်အလျောက် ပေးကမ်းစွန့်ကြဲတော်မူသည်။ အပြစ် အလျောက် ထောင်တန်းအကျဉ်းခံနေရသူတို့ကိုလည်း ဘေးမဲ့ချမ်းသာပေး တော်မူ၍ အကျဉ်းမှ လွှတ်တော်မူသည်။

## မဟာအောင်မြေဘုံကျော်ကျောင်းကို အလှူခံပြန်ခြင်း

သက္ကရာဇ် ၁၁၉၇-ခုနှစ် တန်ခူးလဆုတ် ၈-ရက် တနင်းလာနေ့ ရတနာ ပူရ အဝရွှေမြို့တော်ကြီးအတွင်း အနောက်တောင်ထောင့်၊ ဘိုးတော် ဆင်ဖြူ ရှင်ဘုရား ကုသိုလ်တော် ဘုံကျော်ကျောင်းတော်ကြီးကို အသစ်ထပ်မံ ခိုင်ခန့် အောင် စရိတ်ကံကျွေးလက်ခ ငွေတော် ပိဿာချိန် ၁-ထောင် ထုတ်ပေးတော်

မှု၍ ကျောင်းဦးပြာသာဒ် ဘုံ ၇-ဆင့် ကျောင်းမ အမိုး ဘုံ ၅-ထပ်၊ မာရဘင် ဆီး ဥကင်ရစ်ပလ္လင်တည့် ဝဲယာထီးဖြူလေးစင်း စိုက်ဆောက်၍ တွင်းပြင် ထက်အောက် ဖန်မှန်အစုံ မွမ်းမံခြယ်လှယ် လုပ်ဆောင်ပြီးလျှင် ထွက်တော်မူကြီး ထွက်တော်မူ၍ မဟာအသဒိသအလှူတော်ကြီးကို ဖြစ်စေတော်မူလျက် ဘုရား အမှူးရှိကုန်သော သံဃာတော်အရှင်မြတ်တို့အား သင်္ကန်း သပိတ် စသော ရဟန်းတို့၏ အသုံးအဆောင် ပဒေသာပင်ရေ (၁၂၀) ရွှေရေး မင်ရေး ကညစ်ရေး စာတော်အင်္ဂါ ၃-ထောင် ၆-ရာကျော်ကို လှူတော်မူပြီးလျှင် တိုက်တော်ကို သီရိမဟာအသောကာရာမတိုက်၊ ဘုံကျော်ကျောင်းတော်ကြီးကို "မဟာအောင်မြေဘုံကျော်" ကမ္ပည်းမော်ကွန်း ထိုးမှတ် သမိုက်တော်မူ၍ သာသနာပိုင်ဆရာတော်ကြီးကို ထီးဖြူအုင်ကာ မင်းကရာဇ် ကိုယ်တိုင်တော် ဘုံ ၇-ဆင့်ရှိသော ပြာသာဒ်တော်တွင်း၌ ရွှေကရားဖြင့် ရေစက်သွန်းလောင်း တင်လှူတော်မူသည်။

"မုနိန္ဒာဘိဝံသဓမ္မသေနာပတိ သီရိသဒ္ဓမ္မပါလ မဟာဓမ္မရာဇာဓိရာဇဂုရု" ဟူသော တံဆိပ်နာမံတော်ကိုလည်း ပေးအပ်တော်မူသည်။ သာသနာရေး၌ သတ္တိဗျတ္တိရှိကုန်သော ပိဋကတ်မ စာကြည့်စာတည်းဆရာတော်တို့အားလည်း အသီးအသီး အထိုက်အလျောက် တံဆိပ်အလှူတော်ကပ်၍ ချီးမြှောက်တော် မူသည်။ သေပြစ် သေဒဏ်နှင့်တကွ ထောင်တန်းအကျဉ်းကျသူတို့ကိုလည်း တယောက်မျှ မကြွင်းစေပဲ ဘေးမဲ့ ချမ်းသာပေးတော်မူသည်။ သာသနာပိုင် စလင်းဆရာတော်ဘုရားကြီးသည် ဤကျောင်းတော်ကြီး၌ တပည့်ပညာသာမိ သီရိသဒ္ဓမ္မမဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်ရ ဆရာတော် အရှင်ပညာသာမိ ကို သီတင်းသုံးစေ၍ စာပေပို့ချ သင်ကြားစေတော်မူသည်။

### တတိယနန်းစံ မင်းတရား ဆက်လက်ကိုးကွယ်ခြင်း

အမရပူရ တတိယနန်းစံ ညီတော်မင်းတရားလက်ထက်တော်၌လည်း မနိမ့် မကျစေရပဲ နောင်တော်မင်းတရား ကိုးကွယ်တော်မူမြဲအတိုင်းပင် ကိုးကွယ် တော်မူ၍ "မုနိန္ဒာဘိဝံသဓမ္မသေနာပတိသီရိသဒ္ဓမ္မပါလ မဟာဓမ္မရာဇာဓိရာဇ ဂုရု" တံဆိပ်နာမံတော်ကိုလည်း ထပ်၍ လှူတော်မူပြီး အမရပူရရွှေမြို့တော် မြောက်မျက်နှာ အသောကာရာမတိုက် ရတနာဘုံကျော်ကျောင်းတော်ကြီး ကို ထပ်၍ တင်အပ်လှူဒါန်းတော်မူသည်။

## ကျမ်းဂန်ပြုစု အားထုတ်မှု

ဆရာတော်သည် ကျမ်းဂန်များကိုလည်း ပြုစီရင်တော်မူခဲ့လေသည်။ ၎င်းတို့မှာ—

၁။ အဘိဓမ္မာဝတာရအဋ္ဌကထာနိဿယသစ်ကျမ်း၊

၂။ ရာဇာဓိရာဇပုညဒီပနီကျမ်း—

စသည်တို့ ဖြစ်ကုန်၏။

ယင်းကျမ်းစာများအနက်အဘိဓမ္မာဝတာရအဋ္ဌကထာနိဿယသစ်ကျမ်းမှာ အဘိဓမ္မာကို လေ့လာသူတို့ ကြည့်ရှုလေ့လာသင့်သော ကျမ်းကောင်းတဆူ ဖြစ်လေသည်။ သက္ကရာဇ် ၁၁၁၅–ခုနှစ်၊ ရဘနသိမ်မြို့တည် အလောင်းမင်းတရားလက်ထက် ပဌမကျော် အရှင်ဉာဏ်ပြုစီရင်ခဲ့သော အဘိဓမ္မာဝတာရ အဋ္ဌကထာနိဿယရှိခဲ့သဖြင့် ဆရာတော်၏နိဿယမှာ နိဿယသစ်ဟု တွင်လေသည်။

သာသနာပိုင် စလင်းဆရာတော်သည် ကျမ်းဦး၌—

၁။ ဝိသုဒ္ဓကရုဏာဉာဏံ၊ ဗုဒ္ဓံ သမ္ဗုဒ္ဓပူဇိတံ။
ဓမ္မံ သဒ္ဓမ္မသမ္ဘူတံ၊ ဝန္ဒေ သံဃံ နိရင်္ဂဏံ။

၂။ ဝန္ဒိတွေန မယာ ဧဝံ၊ ယာ လဒ္ဓါ ပုညသမ္ပဒါ။
ဟိတွာ တဿာနုဘာဝေန၊ အန္တရာယေ အသေသတော။

၃။ ထေရေန ဗုဒ္ဓဒတ္တေန၊ ရစိတံ ယံ မနောရမံ။
ပိဋကေ အဘိဓမ္မသ္မိံ၊ သြဘာရူပါယဘာဝတော။

၄။ အဘိဓမ္မာဝတာရော တိ၊ လဒ္ဓနာမေန ဝိသုတံ။
နာနာနိပုဏဂမ္ဘီရ-နယံ ပကရဏုတ္တမံ။

၅။ နိဿာယာဟံ သုဘာန္တဿ၊ အာရဘိဿံ ယထာဗလံ။
ပါဠိမော္ဇဇနန္တထာယ၊ အဘိဓမ္မိကာဘိက္ခုနံ—

ဟူသော ၅-ဂါထာပါဌ်အနက်ဖြင့် ဂန္ထာရမ္ဘပြုတော်မူခဲ့လေသည်။ ကျမ်း၏ အဆုံး၌လည်း—

၁။ ဧတ္တာဝတာ စ နိဿယေ ကိစ္စံ၊ ပဒတ္ထယောဇနာဒိတော။
အယုတ္တံ ဝါ ဝိရုဒ္ဓံ ဝါ၊ ယဒိ ဒိဿတိ တံ ပန။

၂။ ဝဏ္ဏနာဒိံ ဝိလောကေတွာ၊ ဝိစာရေတွာ ပုနပ္ပုနံ။
ဝိဇာနတာ ဂဟေတဗ္ဗံ၊ ယုတ္တံယေဝ န ဒေါသကော။

၃။ သာသနေ အဋ္ဌလိက္ခေ စ၊ သက္ကရာဇေ ဇိယာဒကေ။
နိဿယေသိ သမာရဒ္ဓေါ၊ ပဌမာသာဠှ သုက္ကတော။

၄။ ဒုတိယာသာဠှမာသဿ၊ ဒသမေ နိဋ္ဌမာဂတော။
ပဋ္ဌပညာသဒိနေ ဟိ၊ကာဠပက္ခေ သုခေန စ။

၅။ အန္တရာယံ ဝိနာစာယံ၊ ယထာ သိဒ္ဓ မုပါဂတော။
တထာ ကလျာဏာ သင်္ကပ္ပါ၊ သိဒ္ဓံ ဂစ္ဆန္တု ပါဏိနံ။

၆။ ဖိတေ သဗ္ဗင်္ဂသမ္ပန္နေ၊ ရာဇာဓိရာဇမာပိတေ။
ဒဿနေယျေ မနောရမ္မေ၊ နာနာဇနသမာကုလေ။

၇။ နာနာရတနသမ္ပုဏ္ဏေ၊ သဗ္ဗကာမ မုပါဂတေ။
နာဂရေ ရတနာပူရေ၊ ဝိဟာရစေတျသောဘိတေ။

၈။ တေနေဝ ဓမ္မရာဇေန၊ သာသနုဇ္ဇောတကာရိနာ။
တာရိတေ ဝိဝိခာကာရ–စာရုပါသာဒလက်တေ။

၉။ ရွှေစည်းခုံ စန္ဒမောင်အောင်ရ–တနာဒိစွပကာသိတေ။
ပုညကမ္မိနမာဝါသေ၊ စံကျောင်းဟိ အာလယေ သုတေ။

၁၀။ သဒါ မယာ ဝသန္တေန၊ ယာစိတေန သုသာဒရံ။
သီလာဒိဂုဏသောဘေတိ၊ ကတောယံ သာဓုနိဿယော။

၁၁။ ယာဝ တိဋ္ဌတိ နာမမ္ပိ၊ လောကသ္မိံ မေရုဇိနော။
ဒဿယန္တော ပရမတ္ထံ၊ နိဿယော ယမ္ပိ တိဋ္ဌတု–

ဟူသော ၁၁–ဂါထာဖြင့် ပြည့်စုံစွာဖော်ပြ၍ နိဂုံးအုပ်တော်မူခဲ့လေသည်။

သာသနာပိုင် စလင်းဆရာတော် အရှင်မုနိန္ဒသည် ထိပ်တန်းပညာရှင် အာဏာတန်ခိုးထက်မြက်သော ဆရာတော်ကြီးဖြစ်လင့်ကစား နှိမ့်ချသောစိတ်ရှိသော ပုဂ္ဂိုလ်မြတ်ဖြစ်ကြောင်း (၁) (၂) ဂါထာတို့ဖြင့် သိသာသည်။

ယင်းအဘိဓမ္မာဝတာရ နိဿယသစ်ကို သက္ကရာဇ် ၁၁၈၈-ခုနှစ်၊ ပဌမဝါဆိုလဆန်း ၁-ရက်နေ့ ၃-ချက်တီးအချိန် ကြို့ကြားအားလပ်သောအချိန်မှစ၍ ရေးသားစီရင်တော်မူရာ ဒုတိယဝါဆိုလဆုတ် ၁၀-ရက်နေ့တွင် ပြီး ဆုံးလေသည်။ ကျမ်းစာရေးရက် ၅၅-ရက် ကြာသောဟူ၏။

(၆)ဂါထာနှင့်(၇)ဂါထာမှာ ရတနာပူရ အင်းဝမြို့တော်ကို ဖွဲ့ဆိုသည့် ဂါထာများ ဖြစ်သည်။ ထိုစဉ်က အင်းဝမြို့တော်ကြီး၏ ခမ်းနားပုံကို ဤ ၂ ဂါထာဖြင့်လည်း သိနိုင်လေသည်။ ၈–၉–ဂါထာတို့ဖြင့် သီတင်းသုံးရာ စံကျောင်းတော်၏ တင့်တယ်ခမ်းနားပုံကို ဖော်ပြတော်မူသည်။

ဖော်ပြပါ အဘိဓမ္မာဝတာရအဋ္ဌကထာနိဿယသစ်ကို ၁၃၃၃-ခုနှစ်က မြန်မာနိုင်ငံ ဗုဒ္ဓသာသနာအဖွဲ့ ပုံနှိပ်တိုက်၌ ရိုက်နှိပ်ခဲ့ရာ ရှိုင်ဆိုက် စာချက်နှာ ၆၆၅-ရှိလေသည်။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

မင်းတရားသည် ကျောင်းတိုက်အတွင်းဘော် မုခ်အဝင် အရှေ့ဘက်၌ ဝါဆို ကျောင်းသစ် ဆောက်လုပ် လှူဒါန်းတော်မူ၍လည်း ကိုးကွယ်တော်မူသည်။ သက်တော် ၇၈-နှစ်၊ သိက္ခာတော် ၅၉-ဝါရရှိသော်၊ သက္ကရာဇ် ၁၂၀၂-ခုနှစ်၊ တော်သလင်းလဆုတ် ၈-ရက်နေ့တွင် ဝါဆိုကျောင်းတော်၌ ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည်။

## သံဝေဂယူရန်

ဇရာဓမ္မော စ ဗျာဓိ စ၊ အဒေသာပိ မရဏဓမ္မော။
ကမ္မတ္တိ နေသံ စတုန္နံ၊ ပါဠိဓာဘာဝေါ န ဝိဇ္ဇတိ။

ဇရာဓမ္မော စ၊ သွားကျိုး ဆံဖြူ ငယ်နှုသိုယွင်း အိုမင်းရင့်ရော် မှည့်ပျော် ခြင်း သဘောတရားရှင်း။ ဗျာဓိ စ၊ မကျန်းမမာ ဖျားနာခြင်းသဘောရှင်း။ အထောပိ မရဏဓမ္မော၊ သို့ပြင်ဘဲ သေခြင်းသဘောတရားရှင်း။ ကမ္မံ၊ မိမိပြုဖန် အကုသိုလ်ကံရှင်း။ ဣတိ၊ ဤသို့၊ နေသံ စတုန္နံ၊ ထိုသို့ဖော်ပြ အိုနာ သေရ အကုသိုလ်ဓမ္မတို့အား။ ပါဠိဓာဘာဝေါ၊ မအိုရန် မနာရန်နှင့် တဖန် မသေရေး အကျိုးမပေးရန် အာခံနိုင်သူသည်။ န ဝိဇ္ဇတိ၊ မုချပုံ သေ မရှိပါချေ။

## စလင်းသာသနာပိုင်ဆရာတော် အရှင်ပညာသီဟ၏တပည့် အရှင်ကလျာဏဝံသာဘိဓဇ မဟာဓမ္မရာဇဂုရု အရှင်ကလျာဏဝံသထေရ်

ဆရာတော်သည် "မုနိန္ဒာဘိဝံသ ဓမ္မသေနာပတိသိရီသဒ္ဓမ္မပါလ မဟာဓမ္မရာဇာဓိ ရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ စလင်းသာသနာပိုင် ဆရာတော်ဘုရားကြီး အရှင်ပညာသီဟ၏တပည့်ဖြစ်သည်။ ပင်းမြို့ကျေး ပဲသီးရွာ၌ သက္ကရာဇ် ၁၁၃၁ ခုနှစ်တွင် ဖွားမြင်တော်မူခဲ့လေသည်။ ငယ်မည် မောင်ဝက်ဖြစ်သည်။

အရှယ်ရောက်သော် ရှင် ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ ရဟန်းဘွဲ့ အရှင် ကလျာဏဖြစ်လေသည်။ ရတနာပူရ အင်းဝမြို့တော် အနောက်တောင်ထောင့်၌ ရှိခဲ့သော မဟာအောင်မြေဘုံစံကျောင်းတိုက်တွင် "ဂုဏမုနိန္ဒာဘိဝံသ ဓမ္မသေနာပတိ သီရိသဒ္ဓမ္မပါလ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ စလင်းသာသနာပိုင် ဆရာတော်ဘုရားကြီး အရှင်ပညာသီဟထံ ပိဋကတ်ကျမ်းဂန်အရပ်ရပ်ကို သင်ယူတတ်မြောက်တော်မူခဲ့လေသည်။

၎င်းနောက် သူကြွယ်ဒါယကာ ဦးရွှန်း ဆောက်လုပ်လှူဒါန်းသည့် ကျောင်း၌ သီတင်းသုံး၍ ဓူရနှစ်ပါးကို ကြိုးစားအားသစ်တော်မူခဲ့လေသည်။ ထို့နောက် ကောင်ဟန်ဝန် မောင်ဖာ ဆောက်လုပ်လှူဒါန်းသည့် ကျောင်းတွင် သီတင်းသုံးတော်မူသည်။

## အသောကာရာမတိုက်၌ သီတင်းသုံးတော်မူခြင်း

၎င်းနောက် အသောကာရာမတိုက်သို့ ကြွဆောက်တော်မူ၍ ရတနာဘုံကျော်ကျောင်းတော်ကြီးတွင် သီတင်းသုံး၍ ပညာဆက်လက်သင်ကြားတော်မူပြီးနောက် မဟာရံတံတိုင်းအတွင်း အနောက်တောင်ထောင့် သုံးထပ်ကျောင်း၌ စာပေချပို့ သီတင်းသုံးတော်မူသည်။ "ကလျာဏဝံသာဘိဓဇ မဟာဓမ္မရာဇဂုရု" ဘွဲ့တံဆိပ်တော်ကိုလည်း အလှူခံရရှိတော်မူခဲ့လေသည်။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ယင်းသို့ ဘုရားမြတ်စွာ သာသနာတော် စည်ပင်ရာ စည်ပင်ကြောင်းကောင်းမြတ်သော ပရိယတ္တိချပို့မှုအလုပ်ကို ချပို့ဆောင်ရွက်ဆဲဖြစ်ရာ သက္ကရာဇ် ၁၂၁၂-ခုနှစ်၊ နတ်တော်လတွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည်။

## သံဝေဂယူရန်

အစ္စေန္တိ ကာလာ တရယန္တိ ရတ္တိယော၊
ဝယော ဂုဏာ အနုပုဗ္ဗံ ဇဟန္တိ ။

**ကာလာ**၊ နံနက်နေ့လယ် အသွယ်သွယ်ပိုင်းခြား ကာလများတို့သည်။ **အစ္စေန္တိ**၊ တရွေ့ရွေ့စား လွန်သွားကုန်၏။ **ရတ္တိယော**၊ ပဌမယံ မဇ္ဈိမယံ ပစ္ဆိမယံ

---

၁။ သံ၊ ၁၊ ၃။ အစ္စေန္တိသုတ်။

သုံးယံပိုင်းခြား ညွှန်အများတို့သည်။ တရယန္တိ၊ တညွှန်ပြီးတည့်၍ ဆင့်ကာ ဆက်ကာ ကုန်လွန်သွားကုန်၏။ ဝယောဂုံအား၊ ပဌမ မဇ္ဈိမ ပစ္ဆိမ ဟု ခေါ်ရှယ် အစုတို့သည်။ အနုပုဗ္ဗံ၊ အစဉ်အတိုင်း။ ဗျာန္တိ၊ စွန့်ကုန်၏။

## စလင်းသာသနာပိုင် ဆရာတော်ဘုရားကြီး၏တပည့် အရှင်ဂုဏာဓဇမဟာထေရ်

အရှင်ဂုဏာဓဇသည် လယ်ကိုင်းမြို့ကျေး ဦးနိုး ဒေါ်အိုဘို့မှ သက္ကရာဇ် ၁၁၅၃–ခုနှစ် ပြာသိုလဆန်း ၂–ရက်နေ့တွင် ဖွားမြင်တော်မူခဲ့လေသည်။ ငယ်မည် မောင်ကံပေးဖြစ်လေသည်။

အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ သာမဏေဘွဲ့ ရှင်ကရဝိကဖြစ်၍ ရဟန်းဘွဲ့တော် အရှင်ဂုဏာဓဇ ဖြစ်လေသည်။ သာယာဝတီမင်းတရားလက်ထက်တွင် အင်းဝမြို့ အနောက်တောင်ထောင့် မဟာအောင်မြေဘုံသာစံကျောင်းတိုက် "ဂုဏမုနိန္ဒာဘိဝံသဓမ္မသေနာပတိသိရီသဒ္ဓမ္မပါလမဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ စလင်းသာသနာပိုင်ဆရာတော်ဘုရားကြီး အရှင်ပညာသီဟထံ စာပေကျမ်းဂန် သင်ယူတော်မူခဲ့လေသည်။ ဒါယကာသူကြွယ် ဦးနိုးဆောက်လုပ်သည့် ကျောင်း၌လည်း သီတင်းသုံး၍ စာပေချပို့တော်မူခဲ့လေသည်။

## အသောကာရာမတိုက်၌ သီတင်းသုံး စာပေချပို့

နောက်တွင် အသောကာရာမတိုက်၊ ရာဇနာဘုံကျော်ကျောင်း၌ ကျေးဇူးရှင် စလင်းသာသနာပိုင်ဆရာတော်ကြီးနှင့်အတူ သီတင်းသုံးတော်မူ၍ မိမိကိုယ်တိုင်လည်း ပညာဆက်လက်ဆည်းပူး သင်ယူတော်မူသည်၊ တပည့်ဘပန်း ရဟန်း သာမဏေတို့အား စာပေချပို့၍ သာသနာပြုတော်မူခဲ့လေသည်။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ယင်းသို့ စာပေချပို့ သီတင်းသုံးဆဲဖြစ်ရာ သက္ကရာဇ် ၁၂၁၃–ခုနှစ်လောက်တွင် ပျံလွန်တော်မူခဲ့လေသည်။

သင်္ခါရာ အနဿာသိကာဝတ= သင်္ခါရတရားတို့ကား တစုံတရာ သက်သာရာ ရှာမရကုန်စွတကား။

## စလင်းသာသနာပိုင်ဆရာတော်ဘုရားကြီး၏တပည့် တတိယ မဲထီးဆရာတော် အရှင်ဉာဏသီရိဓဇ

ဆရာတော်သည် ကျောက်ပန်းတောင်းမြို့နယ် လက်ပန်ချဉ်ရွာ၌ အဖ ဦးအိပ် အမိ ဒေါ်ပွားတို့မှ သက္ကရာဇ် ၁၁၅၈-ခုနှစ်တွင် ဖွားမြင်တော်မူသည်။ ငယ်မည် မောင်ကြွယ်ဖြစ်လေသည်။

အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ ရှင်ဘွဲ့ (သာမဏေဘွဲ့) ရှင်ဉာဏသီရိဖြစ်၍ ရဟန်းဘွဲ့မှာ အရှင်ဉာဏသီရိဓဇ ဖြစ်သည်။

သာယာဝတီမင်းလက်ထက်တွင် အင်းဝမြို့တော် အနောက်တောင်ထောင့် ရွှေစည်းခုံဘုရားအနီး မဟာအောင်မြေဘုံသာစံကျောင်းတွင် စလင်းသာသနာပိုင် ဆရာတော်ဘုရားကြီး "မုနိန္ဒာဘိဝံသ ဓမ္မသေနာပတိ သီရိသဒ္ဓမ္မပါလ မဟာဓမ္မရာဇာဓိရာဇဂုရု"ဘွဲ့တံဆိပ်တော်ရ အရှင်ပညာသီဟထံ စာပေသင်ကြားတော်မူခဲ့လေသည်။

### အသောကာရာမတိုက်၌ သီတင်းသုံး စာချခြင်း

နောက်တွင် အမရပူရမြို့တော် အသောကာရာမတိုက် ရတနာဘုံကျော် ကျောင်းတော်ကြီး၌ သာသနာပိုင် စလင်းဆရာတော်ဘုရားကြီး အရှင်ပညာသီဟနှင့်အတူ လိုက်ပါသီတင်းသုံးတော်မူ၍ ကိုယ်တိုင်လည်း စာပေဆည်းပူးသင်ကြား၍ တပည့်တပန်း ရဟန်းသာမဏေတို့အားလည်း စာပေချပို့တော်မူခဲ့လေသည်။ မဲထီးတိုက်၌လည်း သီတင်းသုံးဘူးသဖြင့် တတိယ မဲထီးဆရာတော်ဟုလည်း ထင်ရှားလေသည်။ သက္ကရာဇ် ၁၂၁၃-ခုနှစ်တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည်။

ဉာဏသိရိဓဇော ထေရော၊ ထိရော သမ္ဗုဒ္ဓသာသနေ။
ဓုရေ သော ပူရယိတွာန၊ သမ္ဗုဒ္ဓစက္က ဇောတကော။

### ရာဇာဓိရာဇဂုရု ဓမ္မသေနာပတိ ဘွဲ့တံဆိပ်တော် လေးထပ်ရ ဒုတိယ ဗားကရာ သာသနာပိုင်ဆရာတော် အရှင်ပညာဇောတ

ဒုတိယ ဗားကရာ သာသနာပိုင် ဆရာတော်ဘုရားကြီးသည်လည်း အသောကာရာမတိုက်၌ ပျံလွန်တော်မူသည့်အထိ သီတင်းသုံးတော်မူခဲ့သော သာသနာတော်၌ များစွာကျော်ကြားထင်ရှားသည့် အသောကာရာမတိုက် ပညာရှင်မထေရ်မြတ် ဖြစ်တော်မူသည်။

## ဇာတိချက်ကြွေ မွေးရပ်မြေ

ဆရာတော်သည် ပခန်းကြီးမြို့အဝင်အပေါ် မြိုင်ရွာ၌[၁] အဖ ဦးကြင် အမိ ဒေါ်ကြင်တို့မှ ၁၁၄၇-ခုနှစ်၊ ကဆုန်လဆုတ် ၁၃-ရက် ကြာသပတေးနေ့တွင် ဖွားမြင်တော်မူခဲ့သည်။ မိဖတို့က မောင်အင်ဟု မှည့်ခေါ်တော်မူကြသည်။

## သာသနာ့ဘောင်သို့

သက်တော် ၁၅-နှစ်သားအရွယ်တွင် "သူရိယဝံသာဘိသိရိပဝရာလင်္ကာရ ဓမ္မသေနာပတိမဟာဓမ္မရာဇာဓိရာဇဂုရု"ဘွဲ့တံဆိပ်ခတော်ရ သံအင်းသာသနာပိုင် ဆရာတော်ဘုရားကြီး အရှင်သူရိယကို ဥပဇ္ဈာယ်ပြု၍ ရှင်သာမဏေဝတ်ခဲ့သည်။ သာမဏေဘွဲ့တော်မှာ ရှင်ပညာ ဖြစ်လေသည်။ သာမဏေ ၅-ဝါရ၍ သက်တော် ၂၀-စေ့သောအခါ သက္ကရာဇ် ၁၁၆၇-ခုနှစ်တွင် နေရင်းမြို့ကျေးရွာမင်းကောင်းမင်းမြတ်တို့ ကောင်းမှုတော် ရွှေမြင်တင်သိမ်တော်၌ သံအင်းဆရာတော်ကြီးကိုပင် ဥပဇ္ဈာယ်ပြု၍ မိဖ ၂-ပါးတို့၏ ပစ္စယာနုဂ္ဂဟဖြင့် ရဟန်းဘဝ ဒုလ္လဘကို ရရှိတော်မူခဲ့သည်။ မြေခဲဘောင်ဆရာတော် ထခနောင်းခါးလှဆရာတော်၊ ခင်ကြီး ဦးတုဘ်စံ၊ ခင်ကြီး ဦးပြေတို့က ကမ္မဝါစာ ဖတ်ရွတ်တော်မူကာ ချီးမြှောက်တော်မူကြသည်။ ဥပဇ္ဈာယ်ဆရာတော် သံအင်းသာသနာပိုင် ဆရာတော်ဘုရားကြီးကိုယ်တိုင်လည်း ကမ္မဝါဖတ်၍ ချီးမြှောက်တော်မူသည်။

## သံအင်းသာသနာပိုင်၏ ၅-ပါးသော ချီးမြှောက်မှု

သူရိယဝံသာဘိ သိရိပဝရာလင်္ကာရဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု"ဘွဲ့တော်ရ သာသနာပိုင် ဆရာတော်ဘုရားကြီးသည် ဗားကရာသာသနာပိုင်ဆရာတော်အား ငယ်ရွယ်စဉ်ကမှစ၍ သရဏဂုံပေးခြင်း၊ သိက္ခာပုဒ်ဝတ်ပေးခြင်း၊ ရဟန်းခံသောအခါ ဥပဇ္ဈာယ်ပြုလုပ်တော်မူခြင်း၊ ကမ္မဝါစာ ဖတ်ပေးခြင်း၊ နိဿရည်းပေးခြင်း၊ စာပေကျမ်းဂန်ပို့ချပေးခြင်း ဟူသော ငါးပါးသော ချီးမြှောက်မှုဖြင့် ချီးမြှောက်တော်မူခဲ့သည်၊ သံအင်းသာသနာပိုင်ဆရာတော်သည် "စာတတ်ငါးခုန်၊ စာကုန် မန်ကျည်းတော၊ စာပြော သံအင်း"ဟူသော ဥဒါန်းအားလျော်စွာ စာပြောအလွန်ကောင်းလှသည်ဟူ၏။

---

၁။ ယခုအခါ မင်္ကွေးတိုင်း မြိုင်မြို့အရှေ့မြောက်သွန်း ၁-တမိုင်ခန့်ကွာဝေးသည်။ ငွေးပင်လယ်ရွာအနီး ဖြစ်သည်၊ ဒုတိယ ဗားကရာဆရာတော် ကား ပဌမ ဗားကရာဆရာတော်နှင့် သားပသွေးတော်သည်။

ဗားကရာသာသနာပိုင်သည် သဲအင်းဆရာတော်၏ စာပြောနည်းကို ကျနစွာ ရရှိခဲ့သဖြင့် စာချကောင်းသော ဆရာတော်အဖြစ်လည်း လွန်စွာကျော်ကြား ခဲ့သည်။ ထို့ကြောင့်ပင် မိမိရေးခဲ့သမျှသော ကျမ်းဂန်များ၏ ဂန္ထာရမ္ဘ၌ သဲအင်း သာသနာပိုင် ဆရာတော်ဘုရားကြီးက ချီးမြှောက်ခဲ့သမျှကို တခမ်း တနား ဖော်ပြဂုဏ်ပြု ဦးချတော်မူခဲ့ရာ အင်္ဂုတ္တိုရ် ပါဠိတော်နိဿယ ဂန္ထာရမ္ဘ ၌လည်း—

လဒ္ဓိတော အဘိဓာနေန၊ ပရိယတ္တိ ဝိသာရဒေါ။
ဝိသုဒ္ဓါစာရသီလော ယော၊ ပရဝါဒပ္ပမဒ္ဒနော။

ဟုတွာ ပဉ္ဇဟာကာရေဟိ၊ အာစေရော သာသနေ မမံ။
ဝုဍ္ဍိံ ဖီတံ စ ပါပေသိ၊ နိရန္တရံ နုမာနယိ။

တံ နတွာ သိရသာ ဓီရံ၊ မဟာထေရံ သုသံဝုတံ။
သာသနေ မူလညာဏီနံ၊ နုဂ္ဂဟတဉ္စ မေ ဂရုံ—

စသော ဂါထာများဖြင့် ချီးကျူးပဏာမ ပြုတော်မူခဲ့သည်။

## စာပေသင်ကြား ချပို့တော်မူခြင်း

ဆရာတော်သည် ပခန်းကြီးမြို့ အရှေ့ဘက် သဲအင်းရွာ၌ ဥပဇ္ဈာယ် သဲအင်း ဆရာတော်ဘုရားကြီးထံ ပိဋကတ် အခြေခံကျမ်းဂန်များနှင့်တကွ ပိဋကတ် ပါဠိအဋ္ဌကထာ၊ ဋီကာများကို သင်ယူတော်မူခဲ့သည်။ သာမဏေဘဝကတည်း ပင် စာပေကျမ်းဂန်တတ်လှသည်ဟု လွန်စွာကျော်စောခဲ့လေသည်။ စာပေ ကျမ်းဂန် တတ်မြောက်ပြီးနောက် ဥပဇ္ဈာယ်ဆရာတော်ထံ၌ သီတင်းသုံးတော် မူ၍ စာပေကျမ်းဂန် ချပို့တော်မူခဲ့လေသည်။

## နန်းအမရမြို့တော်သို့

သက္ကရာဇ် ၁၁၇၀-ပြည့်နှစ်တွင် အမရပူရ နန်းမြို့တော်သို့ ကြွရောက်၍ ဆရာတော်အသီးသီးတို့ထံ ချဉ်းကပ်ပြီး ပါဠိ၊ အဋ္ဌကထာ၊ ဋီကာစသည့် ကျမ်း များစွာကို သင်ချပို့တော်မူခဲ့သည်။

ဘကြီးတော် ရတနာပူရ စတုတ္ထရွှေမြို့တော်ကြီး ရွှေထီး ရွှေနန်းတည် မင်းတရားကြီးလက်ထက်၌ ဥပဇ္ဈာယ်ဆရာရင်း ဖြစ်တော်မူသော ကျေးဇူးရှင် သဲအင်းဆရာတော်ဘုရားကြီး အထံတော်၌ စာပေသင်ကြား ပို့ချနေသည့် အခါ ညီတော် သာယာဝတီမင်း သားတော်အကြီး တောင်တွင်းချောင် မင်းသားက ကိုးကွယ်တော်မူသည်။

## ဘွဲ့တံဆိပ်တော် အလှူခံရရှိခြင်း

ညီတော် သဲ့ယာ၀ဇီမင်း အထွတ်အထိပ်သို့ ရောက်တော်မူလျှင် ဆရာရင်း ဖြစ်သော သဲအင်းဆရာတော်ဘုရားကြီးအား သာသနာတော်ကို အပ်တော်မူ သောအခါ အရှင်ပညာဇောတသည် "ပညာဇောတာဘိ သီရိသဒ္ဓမ္မဇ မဟာဓမ္မရာဇာဓိရာဇဂုရု" တံဆိပ်တော်ကို အလှူခံရရှိတော်မူသည်။

သာယာ၀တီသု ဘူပါလော၊ ဒေါသည်ုံ ထေရကုဥ္စရံ။
ဥပါဓိနာဘိ ပူဇေသိ၊ ပူဇာ ဝိဓိသု ကောဝိဒေါ။

## သာသနာပိုင်ဖြစ်ပြီ

၁၂၀၀-ပြည့်နှစ် အမရပူရ နန်းမြို့တော် အနောက်မျက်နှာ ဗားကရာ ကျောင်းတိုက်အတွင်း ဒကာတော်ရင်းဖြစ်သော ပုဂံမင်းသားက ဆောက်လုပ် လှူဒါန်းအပ်သော အရွှေတောင်ထောင့်ကျောင်းတော်၌ သီတင်းသုံးတော်မူ သည်။

ခမည်းတော်မင်းတရားကြီး မကျန်းမာတော်မူသဖြင့် သာသနာရေး တိုင်း ပြည်ရေးမှစ၍ စီရင်ခင်း စီရင်ဖွယ်တို့ကို တရားဥပဒေနှင့်အညီ လွှတ်တော်သို့ တက်၍ စီရင်ရန် သားတော်ကြီး ပုဂံမင်းသား သီရိသုဓမ္မမဟာဓမ္မရာဇာအား လွှဲအပ်တော်မူသောအခါ သက္ကရာဇ် ၁၂၀၇-ခု တပို့တွဲလဆန်း ၁၅-ရက်နေ့ ဆင်ကြီးရွှေဂူဘုရား မဟာရံအတွင်း သုဓမ္မာဇရပ်တော်၌ ဆရာတော် သံဃာ တော် ၀န်ကြီး ၀န်ထောက် မှူးတော်မတ်တော် ရဟန်းပရိသတ် လူပရိသတ် အစုံအညီ၀ယ် ဓမ္မသေနာပတိအဖြစ်ဖြင့် ချီးမြှင့်တော်မူပြီးလျှင် သာသနာ တော်ကို အပ်တော်မူ၍ "ပညာဇောတာဘိဝံသ သီရိပဝရာလင်္ကာရဓမ္မသေနာ ပတိ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော်မူသည်။ ဤသို့ဖြင့် ဗားကရာဆရာတော်ဘုရားကြီးသည် သက်တော် ၆၀-အရွယ်တော် ခေတ်တွင် ဘုရားရှင်သာသနာကို စိတ်တိုင်းကျ သုတ်သင်၍ စည်ပင်အောင်ပြုစုရန် သာသနာပိုင်ဖြစ်ရေးကို ဘုန်းကံပါရမီတော်တို့က နှိုးဆော်ပေးပို့ခဲ့ခြင်းဖြစ်လေ သည်။

၀ယသာ သဋ္ဌိကာလမှိ၊ သံဃပတိပဒံ လဘိ။
ဗားကရာထေရ သေဋ္ဌောဟိ၊ ပုဗ္ဗကမ္မသုစောဒိတော။

## မှဟာဝိဇယာရာမတိုက် မဟာဝေယန်ဘုံသာကျောင်းကို ခံယူခြင်း

ကုန်းဘောင်မင်းတရားကြီး နတ်ရွာစံတော်မူ၍ သားတော်ကြီး ပုဂံမင်းသား နန်းတက်တော်မူလျှင် ရွှေမြို့တော် မြောက်မျက်နှာ ဗားကရာကျောင်းတိုက်ကြီးအတွင်း မင်းအဆက်ဆက် မဆောက်မလုပ်ခဲ့ဘူးသော တသိန်းကိုးသောင်း ကိုးထောင်ရှစ်ရာ့ခုနှစ်ဆယ့်ငါးခုသော အရုပ်တို့ဖြင့် နတ်နန်းနတ်ဘုံမက ဆန်းကြယ်လှစွာသော အထူးအဆန်း အပြောက်အမွမ်းတို့ဖြင့် နှစ်ကာလကြာရှည်လေးမြင့်စွာ လုပ်ဆောင်အပ်သော မဟာရံတံဘိုင်းမီးတားအရံ (၄၈) ကျောင်းနှင့် တကွ ကျောင်းဦးပြာသာဒ် ဘုံ ၇-ဆင့် ငါးထပ်မာရဘင်ဆီး ဥကင်ရာဇပလ္လင်တည် ဝဲယာထီးဖြူစိုက် တွင်းပြင်ထက်အောက် ရွှေမိန်းဖန် မှန် ကျောက်မျက်ရွဲတို့ဖြင့် တင့်တယ်စွာသော စံကျောင်းတော်ကြီးပြီးပြေလျှင် သက္ကရာဇ် ၁၂၁၀-ပြည့်နှစ် တန်ခူးလဆန်း ၁၅-ရက်၊ စနေနေ့ နံနက် လေးချက်တီးအချိန် စစ်အင်္ဂါလေးပါးဖြင့် ခမ်းနားကြီးကျယ်စွာ ထွက်တော်မူကြီး ထွက်တော်မူ၍ စံကျောင်းတော်၌ ဆရာတော် သံဃာတော် ၁၀၀-တို့အား ပရိက္ခရာရှစ်ပါးနှင့်တကွ ရဟန်းတို့အသုံးအဆောင် ပရိဘောဂများ လှူဒါန်း၍ ကျောင်းတော်ကို မဟာဝေယန်ဘုံသာ၊တိုက်တော်ကို မဟာဝိဇယာရာမတိုက် ကမ္ပည်းမော်ကွန်းထိုးမှတ်သမိုက်တော်မူ၍ သာသနာပိုင် ဆရာတော်ကြီးအား မင်းကေရာဇ်ကိုယ်တိုင်တော် ရွှေကရားဖြင့် ရေစက်သွန်းလောင်း တင်လှူတော်မူသည်။ "ပညာဇောတာဘိသီရိပဝရလင်္ကာရဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု" ဟူသော တံဆိပ်နာမံတော်ကို လှူတော်မူ၍ သာသနာတော်ကို ဒုတိယအကြိမ် အပ်ဘောင်မူပြန်သည်။

ရင်းပြင် တပည့်ကြီး ၂၁-ပါးတို့အားလည်း တံဆိပ်နာမံ လှူတော်မူသည်။ ထောင်တန်းအကျဉ်းအမြောင်းခံရသူ၊ နှောင်ထားသူတို့ကိုလည်းဘေးမဲ့ချမ်းသာပေးတော်မူသည်။

### ဗိမာန်ရတနာ ရွှေကျောင်းတော်များကို အသျှခံတော်မူပြန်ခြင်း

ထိုတိုက်တော်၌ပင်လျှင် အလယ်နန်းမိဖုရား ဆောက်လုပ်အပ်သော တသိန်းမကသော အရုပ်တို့ဖြင့် ဆန်းကြယ်သော ကျောင်းဦးပြာသာဒ် ဘုံ ၇-ဆင့်၊ ကျောင်းမအမိုး ဘုံလေးဆင့်ရှိသော ဗိမာန်ရတနာရွှေကျောင်းတော်ကိုလည်း ထိုနေ့ပင် အပ်လှူခြင်းခံတော်မူရသည့်ပြင် ထိုတိုက်တော်၌ပင်လျှင် ရွှေတိုက်ဝန်မင်းသား ဆောက်လုပ်အပ်သော အနောက်ဘောဂဆောင်နှင့် တကွဖြစ်သော အရုပ်အမျိုးမျိုးတို့ဖြင့် ဆန်းကြယ်သော ကျောင်းဦးပြာသာဒ် ဘုံခုနစ်

ဆင့် ဧမြင်နှင့်တကွ ကျောင်းမအမိုး ဘုံလေးဆင့်ရှိသော ဗိမာန်ရတနာ ရွှေကျောင်းတော်ကိုလည်း ထိုနေ့ပင် အလှူခံတော်မူရသည်။

## အသောကာရာမတိုက်ကျောင်းတော်ကြီးကို အလှူခံတော်မူခြင်း

သက္ကရာဇ် ၁၂၁၄-ခု၊ ဝါဆိုလဆန်း ၁၀-ရက်နေ့ ဆဒ္ဒန်ဆင်မင်းအရှင် ဘဝရှင်မင်းတရားကြီးနှင့် မယ်တော်ဘုရား၊ နှမတော်ဘုရားတို့ သုံးပါး မင်းမိဖုရားတို့နှင့် ထွက်တော်မူပြီးလျှင် ဘဝရှင်မင်းတရားကြီးဘုရားလည်း မင်္ဂလာရှိသော အခမ်းအနား၌ ဝတ်ဆင်တော်မူအပ်သော အဖိုးအနဂ္ဃထိုက်တန်သော ရတနာမျိုးခြယ်လှယ်အပ်သော ရွှေသားမကိုဋ်တော်၊ ရွှေသားဒုရင်တော်များကို ဘုံသုံးပါး၌ အတုမဲ့သော သမ္မာသမ္ဗောဓိဆုမြတ်ကို ပန်ဆင်တော်မူပြီးလျှင် မဟာမုနိရုပ်ရှင်တော်မြတ်အား လှူတော်မူ၍ အသောကာရာမတိုက်ကျောင်းတော်ကြီးနှင့် ကျောင်းရံလေး၊ မဟာရံတံတိုင်း မီးတားတို့ မွမ်းမံပြင်ဆင် ပြီးပြေသည်ကို သာသနာပြုဆရာတော်ကို အမှူးထား၍ ပဒေသာပင်တရားဆရာတော်ကြီးမှာ သီးမျိုးစုံ သုံးရာကျော်သီးသည့် ပဒေသာပင်များနှင့်တကွ ကျောင်းအပ်တင်လှူတော်မူသည်။ "ပညာဇောတာဘိ သီရိသဒ္ဓမ္မပါလအရိယဝံသ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု" တံဆိပ်နာမံကိုလည်း လှူဒါန်းတော်မူသည်။ အသောကာရာမတိုက် ရတနာဘုံသာ ကမ္ပည်းတပ်တော်မူ၏။ ကျောင်းဦးပြာသာဒ်နှင့်တကွ အရုပ်အမျိုးမျိုးတို့ဖြင့် ဆန်းကြယ်စွာ ဆောက်လုပ်အပ်သော အလယ်နန်းမတော်မိဖုရား၊ စမ္ပာနဂိုမိဖုရား၊ မကွေးမြို့စားမိဖုရား၊ အင်ပူမြို့စား မိဖုရားတို့၏ ကျောင်းကြီးလေးရပ်ကိုလည်း ကျောင်းတော်ကြီးနှင့်တကွ ရေစက်သွန်းချ တင်လှူတော်မူသည်။

## ဆွမ်းဆန်တော် တင်းတရာအလှူ

၁၂၁၄-ခု၊ ဝါဆိုလဆုတ် ၆-ရက်နေ့မှစ၍ အသောကာရာမတိုက်တော်ရှိ သံဃာတော်တို့အား တလလျှင် ဆွမ်းဆန်တော် တင်းတရာ လစဉ် ကျွေတော်မှုပို့သလှူဒါန်းတော်မူသည်။

အသောကာရာမိကာနမ္ပိ၊ ထေရာနံ ထိရသီလိနံ။
အနုမာသံ တဏ္ဍုလာနိ၊ ရာဇာ သော ယောဝ ဒါပယိ။

## မင်းအိုဆရာတော်ကြီးကျောင်း အလှူခံခြင်း

အရှင်မိဖုရားခေါင်ကြီးကလည်း မြို့တော်အရှေ့မြောက်၌ မင်းအိုဆရာတော်ဘုရားကြီး၏ ကျောင်းတော်ဟောင်းကို ရွှေဇမ္ဗူရစ်တို့ဖြင့် သစ်သစ်မကျန် မွန်းမံခြယ်လှယ် တင့်တယ်အောင်ပြုပြင်၍ သာသနာပြု ဆရာတော်ကြီးအား ရွှေကရားဖြင့် ရေစက်သွန်းချ လှူဒါန်းတော်မူသည်။

## မင်းတုန်းမင်းတရားကြီး၏ အလှူတော်

ပဋ္ဌမသံဂါယနာတင် မင်းတရားကြီး မင်းဖြစ်တော်မူလျှင် သက္ကရာဇ် ၁၂၁၅ ခုနှစ် ဝါမဝင်မီ ရတနာသိင်္ဃမြို့တော် အရှေ့မျက်နှာ ဇလန္ဓာတံခါးပြင်ကျောင်းတိုက်အတွင်း ဗားကရာဆရာတော်ကြီးအား ဝါဆိုကျောင်းဆောက်၍ လှူဒါန်းတော်မူသည်။ ၁၂၁၆-ခု ဝါဆိုလဆန်း ၂-ရက်နေ့တွင် "ပညာဓဇာဘာဘိဓမ္မသီရိကဝိဓဇမဟာဓမ္မရာဇာဓိရာဇဂုရု" တံဆိပ်နာမံတော်ကိုလည်း လှူဒါန်းတော်မူသည်၊ မင်းတုန်းမင်းလက်ထက်တွင် သာသနာပိုင်မဟုတ်သော်လည်း မင်းမြတ်က ကောင်းစွာလေးမြတ် ကိုးကွယ်တော်မူသည်။

## အင်္ဂုတ္တရနိကာယ် ပြင်ဆင်သွင်း

မင်းတုန်းမင်းတရားကြီး၏ ပစ္စယာနုဂ္ဂဟဖြင့် သာသနာ သက္ကရာဇ် ၂၄၀၄ ခု၊ ကောဇာသက္ကရာဇ် ၁၂၂၂-ခုနှစ် တန်ဆောင်မုန်းလမှစ၍ ပိဋကတ်ကို ပေထက်အက္ခရာတင်ရာအခါ ဆရာတော်သည် အင်္ဂုတ္တရနိကာယ် ၁၁-ကျမ်း ပါဠိအဋ္ဌကထာကို ပြင်ဆင်၍ သွင်းတော်မူသည်။

## ကျမ်းဂန်ပြုစုတော်မူခြင်း

ပိဋကတ်၌ လွန်စွာကျမ်းကျင်တတ်မြောက်တော်မူသည့် ဆရာတော်ဖြစ်သည့်အလျောက် ကျမ်းဂန်များကိုလည်း ပြုစုတော်မူခဲ့သည်။ ၎င်းတို့မှာ—

၁။ သုတ်မဟာဝါအဋ္ဌကထာ နိဿယ၊
၂။ သုတ်ပါထေယျအဋ္ဌကထာ နိဿယ၊
၃။ အင်္ဂုတ္တိုရ်ပါဠိတော်နိဿယ၊
၄။ အင်္ဂုတ္တိုရ်အဋ္ဌကထာနိဿယ၊
၅။ ဋီကာကျော်နိဿယ၊
၆။ ပစ္စဝေက္ခဏာဂဏ္ဌိကျမ်း၊

၇။ ဗိုလ်ဋီကာ၊

၈။ မကာရန္တဗေဒင်လက်ရိုး—

စသည်တို့ ဖြစ်လေသည်။

## တပည့်ကောင်းတို့၏ ဆရာ

ဆရာတော်သည် မိမိကိုယ်တိုင် ပညာရှိပုဂ္ဂိုလ်တဆူဖြစ်တော်မူ၍သာလျှင် များမြောက်စွာသော တပည့်တို့ကိုလည်း ပညာရှိအဖြစ်သို့ ရောက်စေတော်မူခဲ့သည်။ ဆရာတော်၏ တပည့်များအနက် ဒီပနီ၊ နိဿယ၊ ယောဇနာ၊ ဋီကာ၊ ဂဏ္ဌိ၊ နိယံကျမ်းပြု ဘုရားကြီးဆရာတော် အရှင်ဇာဂရာဘိဝံသ၊ ဝိနယဝိနိစ္ဆယညွှန်း နာမည်ကျော် ဗန်းမော်ဆရာတော် အရှင်ပဏ္ဍိတ၊ ငါးခုန်ဆရာတော် အရှင်ဒီပင်္ကရ၊ အုဂ်ဖိုရ်ဆရာတော် အရှင်ဥက္ကံသမာလာ၊ ရေစကြိုဆရာတော် အရှင်ဝရသမ္ဘောဓိ စသည်တို့သည် ဒုတိယဗာဏရာ သာသနာပိုင် ဆရာတော်၏ တပည့်များ ဖြစ်ကြသည်။ ၎င်းဆရာတော်တို့သည် ဆရာတော်ကြီးအနီးသီတင်းသုံးယင်း စာချရာ စာလိုက်သံဃာ ၂၀၀၊ ၃၀၀၊ ၄၀၀ စသည်ရှိသည်ဟု ဆိုရိုးရှိလေသည်။ လီလာဝတီကျမ်း၊ လိပိဒီကာကျမ်း၊ အဿဘေဒကျမ်း၊ သဒ္ဒသင်္ဂဟကျမ်း၊ ဥတုဘောဇနကျမ်း၊ အလင်္ကာနိဿယစသော ကျမ်းများစွာကို ပြုစုခဲ့သော ယောအတွင်းဝန် ဦးဖိုးလှိုင်သည်လည်း ဗာဏရာသာသနာပိုင်ထံ နည်းခံတပည့် ဖြစ်သည်။

## သုတ်မဟာဝါ အဋ္ဌကထာ နိဿယသစ်

ဗာဏရာသာသနာပိုင် ဆရာတော် အရှင်ပညာဇောတသည် သုတ်မဟာဝါ အဋ္ဌကထာပါဠ်၏ မှီရာ အတ္ထနိဿယကိုလည်း ကျန်စွာ အနက်ယောဇနာခြင်း၊ စာစပ်ကို ပြဆုံခြင်း၊ ပုဒ်ပါဌ်တို့ကို သုတ်သင်ခြင်း၊ အနုသန္ဓေကိုပြခြင်း၊ ပါဌ်သေသထည့်စွက်၍ အနက်ယောဇနာခြင်း၊ အလိုက်အခံပြု၍ အနက်ယောဇနာခြင်း ဝတ-စသော နိပါတ်ပုဒ်များကို ယှဉ်သင့်ယှဉ်ထိုက်သော ကြိယာပုဒ်များနှင့် ယှဉ်စင်၍ ယောဇနာခြင်း စသည်တို့ဖြင့် တန်ဆာဆင်လျက် သုတ်မဟာဝါ အဋ္ဌကထာ နိဿယသစ်ကြီးကို ခမ်းနားစွာ စီရင်တော်မူခဲ့သည်။ ကျမ်းဦး၌—

၁။ မဟာကာရုဏိကော နာထော၊ သတ္တေသု ပဋိကာရုညံ။
ဟိတွာ အစ္စန္တအသာဒံ၊ အနုသာသကရာ ဩသာ။

၂။ လောကနိတ္ထရဏတ္ထာယ၊ သုဒုက္ကရံ ကရိတ္ဝာန။
ပတ္တော သမ္ဗောဓိ မောဠိဝါရံ၊ ဝန္ဒေ ဝိဘာဝပါပေန္တံ။
၃။ ကိလေသခံသကံ ဓမ္မံ၊ သမ္မာစာရိယာ ရက္ခကံ။
သမ္ဗုဒ္ဓေန သုအက္ခာတံ၊ ဝန္ဒေ သမ္ဗုဒ္ဓပူဇိတံ။
၄။ ဝဋ္ဋစာရကဝိမုတ္တံ၊ သဒ္ဓမ္မဝံသ ပါလကံ။
သီလာဒိဂုဏသမ္ပန္နံ၊ ဝန္ဒေ သမ္ဗုဒ္ဓသာဝကံ။
၅။ သူရိယံ မေ မဟာထေရံ၊ မေဓတ္တာဒကေန တေစနံ။
ဂုရုဍ္ဍ သိဿဝဇ္ဇနံ၊ ဝန္ဒာမိ သိရသာ မိရံ။
၆။ ဗုဒ္ဓဃောသာစရိယော နာမေန၊ ပတ္ထဋေန မဟီတလေ။
ထေရေန သုဋ္ဌု ရစိတာ၊ မဟာဝဂ္ဂဿ ဝဏ္ဏနာ။
လိခါမိ နိဿယံ တဿာ၊ သာဓု ပဿန္တု သာဓဝေါ။
၇။ ပေါရာဏေဟိ ကတော တဿာ၊ နိဿယော ပန တေန ပိ။
ဝဋ္ဋဠေတုံ န သက္ကောန္တိ၊ မန္ဒဘိက္ခူ ဝိရဒ္ဓတ္တာ။
၈။ တသ္မာ စ တေန အာဏတ္တာ၊ နာနာဂန္ထေဟိ သန္ဒိယ။
ဝိပဒက္ခရံ သောဓေန္တော၊ လိခိဿံ နဝနိဿယံ—

ဟူသော ၈-ဂါထာဖြင့် ရတနတ္တယပဏာမ၊ အာစရိယပဏာမ၊ အဘိဓာစက၊ ပကရဏဟေတု၊ ပဋိညာဉ်၊ ဥယျောဇဉ်တို့ကို ပြဆိုတော်မူခဲ့လေသည်။ ဆရာတော်သည် သူရိယံ မေ မဟာထေရံစသော (၅) နံပါတ်ဂါထာ၌ "သူရိယံ၊ သုံးကျွန်းပဝင်းသော နေမင်းကဲ့သို့ တပည့်အပေါင်းတို့၏ အလယ်၌ တင့်တယ်ထွန်းလင်းသဖြင့် နေမင်းသဖွယ်ဖြစ်၍ သူရိယဟူသော အနွတ္ထအမည်လည်း ရှိထသော။ မေ၊ ငါ၏။ ဂုရုဍ္ဍ၊ သီလ သမာဓိအစရှိသော ဂုဏ်တို့ကြောင့် ကျောက်ထီးကဲ့သို့ အလေးအမြတ်ပြုအပ်သော ဆရာမြတ်ကိုလည်း။ သိရသာ၊ ဦးခေါင်းဖြင့်။ ဝန္ဒာမိ၊ ရှိခိုးပါ၏" ဟူ၍ သူရိယ ဂုရုပုဒ်တို့ကို ကျနစွာ အနက်ယောဇနာတော်မူခဲ့လေသည်။ ဆရာတော် အနက်ပေးပုံမှာ စေ့စပ်သေချာလှသည်။ ဆရာတော်၏အနက်ဉာဏ်ကို ရိပ်စားမိရန် အောက်ပါ အနေကဇာတိသံသာရဂါထာနိဿယကို လေ့လာဖတ်ရှုရာ၏။

၁။ အနေကဇာတိသံသာရံ၊ သန္ဓာဝိဿံ အနိဗ္ဗိသံ။
ဂဟကာရံ ဂဝေသန္တော၊ ဒုက္ခာ ဇာတိ ပုနပ္ပုနံ။
၂။ ဂဟကာရက ဒိဋ္ဌောသိ၊ ပုန ဂေဟံ န ကာဟသိ။
သဗ္ဗာ တေ ဖာသုကာ ဘဂ္ဂါ၊ ဂဟကူဋံ ဝိသင်္ခတံ။
ဝိသင်္ခါရဂတံ စိတ္တံ၊ တဏှာနံ ခယမဇ္ဈဂါ[၁]။

---

၁။ ဓမ္မပဒ။ ၃၆၊ ဒီ၊ ဋ္ဌ၊ ၂၊ ၅၄။

၃။ အယောဃနဟတသောဝ၊ ဇလတော ဇာတဝေဒတော။
အနုပုဗ္ဗူပသန္တဿ၊ ယထာ န ဉာယတေ ဂတိ၊

၄။ ဧဝံ သမ္မာဝိမုတ္တာနံ၊ ကာမဗန္ဓောဃတာရိနံ။
ပညာပေတုံ ဂတိ နတ္ထိ၊ ပတ္တာနံ အစလံ သုခံ[၁]။

ဂဟကာရက၊ အတ္တဘောတည်းဟူသော အိမ်ကို ပြုတတ်သော တဏှာ-ယောက်ျား လက်သမား။ တံ၊ သင့်ကို။ ဂဝေသန္တော၊ ရှာသောငါသည်။ ယေန ဉာဏေန၊ အကြင်သဗ္ဗညုတဉာဏ်တော်ဖြင့်။ တံ၊ သင့်ကို။ ဒဋ္ဌုံ၊ မြင်ခြင်းငှာ။ သက္ကာ၊ တတ်ကောင်း၏။ တံ ဉာဏံ၊ ထိုဉာဏ်ကို။ အဝိန္ဒန္တော၊ မရသည်ဖြစ်၍။ ဝ၊ မရခြင်းကြောင့်။အနေကဇာတိသံသာရံ၊ များစွာသော အရေအတွက်ရှိသော သံသရာဝဋ္ဋပတ်လုံး။ သန္ဓာဝိဿံ—သံသရိံ၊ ကျင်လည်ရလေပြီ။ ပုနပ္ပုနံ၊ အဖန်တလဲလဲ။ ဇာတိ၊ ပဋိသန္ဓေနေရခြင်းသည်။ ဒုက္ခာ၊ ဆင်းရဲ၏။ ဝ၊ ဆင်းရဲခြင်း၏အကြောင်းဖြစ်၏။ ဂဟကာရက၊ အတ္တဘောတည်းဟူသော အိမ်ကိုပြုတတ်သော တဏှာယောက်ျား လက်သမား။ ဣဒါနိ၊ ဤအခါ၌။ သဗ္ဗညုတဉာဏံ၊ သဗ္ဗညုတဉာဏ်ကို။ ပဋိဝိဇ္ဈန္တေန၊ ထိုးထွင်း၍ သိသဖြင့်။ ဝ၊ သိသော။ မယာ၊ ငါသည်။ တွံ၊ သင်သည်။ ဝ၊ သင့်ကို။ ဒိဋ္ဌော၊ မြင်အပ်သည်။ အသိ၊ ဖြစ်ပြီ။ ပုန၊ တဖန်။ ဂေဟံ၊ အတ္တဘောတည်းဟူသောအိမ်ကို။ န ကာဟသိ၊ သင်မပြုရလတံ့။ တေ၊ သင်၏။ သဗ္ဗာ၊ အလုံးစုံကုန်သော။ ဖာသုကာ၊ ကိလေသာဟူသောအိမ်၏ အခြင်တို့ကို။ ဘဂ္ဂါ၊ ချိုးဖျက်အပ်ကုန်ပြီ။ ဂဟကူဋံ၊ အဝိဇ္ဇာဟူသော အိမ်၏ အထွတ်ကို။ ဝိသင်္ခတံ၊ ငါဖျက်ဆီးအပ်ပြီ။ ဝ၊ ငါချအင်ပြီ။ မေ၊ ငါ၏။ စိတ္တံ၊ စိတ်သည်။ ဝိသင်္ခါရဂတံ၊ အာရုံပြုသော အားဖြင့် နိဗ္ဗာန်သို့ ရောက်ပြီ။ အဟဉ္စ၊ ငါသည်လည်း။ တဏှာနံ၊ တဏှာတို့၏။ ခယံ၊ ကုန်ရာကုန်ကြောင်းဖြစ်သော နိဗ္ဗာန်သို့။ အဇ္ဈဂါ—အဓိဂတော ပတ္တော၊ ရောက်ပြီ။

အယောဃနဟတဿေဝ၊ ပန်းပဲတို့၏ သံတူသံညှပ်တို့ဖြင့် ခတ်အပ်သော (ဧဝ သဒ္ဒါ အနက်မရှိ)။ ဇလတော၊ တောက်ပသော။ အနုပုဗ္ဗူပသန္တဿ၊ အစဉ်အတိုင်းငြိမ်းပြီးသော။ ဇာတဝေဒတော၊ မီး၏။ ဂတိ၊ ဖြစ်ရာအရပ်ကို။ ဝ၊ ဖြစ်ရာအရပ်သည်။ န ဉာယတေ ယထာ၊ မသိအပ်သကဲ့သို့။ ဝ၊ မထင်ရှားသကဲ့သို့။ ဧဝံ၊ ဤအတူ။ သမ္မာ၊ ကောင်းစွာ။ ဝ၊ အသင့်အားဖြင့်။ ဝိမုတ္တာနံ၊ ကိလေသာတို့မှ ကောင်းစွာလွတ်ကုန်ပြီးသော။ ကာမဗန္ဓောဃတာရိနံ၊ ကာမအနှောင်အဖွဲ့ဟူသော ဩဃကိုလွန်မြောက်ကုန်ပြီးသော။ အစလံ၊ တုန်လှုပ်ခြင်း မရှိသော။ သုခံ၊ နိဗ္ဗာန်ချမ်းသာသို့။ ပတ္တာနံ၊ ရောက်ကုန်ပြီးသော

---

၁။ ဥဒါန၊ ၃၉၃၊ ဒီ၊ ဋ္ဌ၊ ၂၊ ၅၄။

ဝိသောဓေမိ၊ ပါဠိအဋ္ဌကထာ ဋီကာစသော ဂန္ထန္တရနှင့်အညီ ကျစ်လစ်စေ့ငုံ ကြည့်ရှုပြင်ဆင် သုတ်သင်တော်မူ၏။

သော၊ ထိုအင်္ဂုတ္တရနိကာယ် ပါဠိတော်ကျမ်း၏။ အတ္ထယောဇနာ၊ မြန်မာဘာသာသည်။ သက္ကရာဇေ၊ လူတို့ဝေါဟာ ကောဇာ သက္ကရာဇ်သည်။ ဝယက္ခာယေ၊ တထောင်နှစ်ရာ့တဆယ့်လေးခုနှစ်သို့။ သမ္ပတ္တေ၊ ရောက်သည်။ သတိ၊ ရှိသော်။ မာဂသိရေ၊ မိဂသီဇန်း နှစ်နန်းယှဉ်ကျ နတ်တော်လ၌။ ဇုဏှပက္ခေ၊ ငွေဝန်းနီလာ ရောင်ဝါတက်မြန်း လဆန်းပက္ခ၏။ တေရသေ၊ တဆယ့်သုံးရက် ရေတွက်မြောက်ညီ တိထိသာမြွေ အင်္ဂါနေ့၌။ အနာယာသံ အနာယာသေန၊ အဇ္ဈုပဟိဒ် ကင်းဆိတ်ဘေးဘျမ်း မပင်ပန်းသဖြင့်။ နိဋ္ဌိတော၊ ချက်တိုင်ပြီးမြောက် အဆုံးရောက်၏။

စ၊ ဤသည်ခုနှစ် သက္ကရာဇ်၌ ချက်တိုင်ပြီးနောက် အဆုံးရောက်သော ကျမ်းကို ညွှန်းပြသည်မှတပါး ရှေးအတီးက ပြီးမြောက်ခဲ့ညောင်း ကျမ်းစာဟောင်းကို ပေါင်း၍ဤတွင် ပြဦးအံ့။ ပုရေ၊ လက်မှန်မဆွ ရှေးကာလ၌။ တံ ဇဏ္ဍနာယ၊ ထိုအင်္ဂုတ္တရနိကာယ် ပါဠိတော်ကျမ်း၏ အဖွင့်သံဝဏ္ဏနာ မနောရထ ပူရဏီမည်သော အဋ္ဌကထာကျမ်း၏။ နိဿယော စ၊ မြန်မာလူတို့၏ မှီရာ အတ္ထယောဇနာ မြန်မာဘာသာကိုရင်း။ ဒီဃေ၊ ဒီဃနိကာယ် ပါဠိတော်ကျမ်း၌။ ဥတ္တရိဒ္ဓိဝဏ္ဏနာ—ဥတ္တရိဒ္ဓိဝဏ္ဏနာယ၊ သုတ်သီလက္ခန် ပါဠိတော်ကျမ်း၏ အထက်ဖြစ်သော သုတ်မဟာဝါ သုတ်ပါထေယျ ပါဠိတော်ကျမ်း၏ အဖွင့် သံဝဏ္ဏနာ သုမင်္ဂလဝိလာသိနီ မည်သော အဋ္ဌကထာကျမ်း၏။နိဿယော စ၊ ကိုရင်း။ မယာ၊ မဟာထေရ် သင်္ဃရာဇ်ဖြစ်သော ငါသည်။ လိက္ခိတော၊ ပါဠိ အဋ္ဌကထာ ဋီကာ စသော ဂန္ထန္တရာဖြင့် နှိုင်းရှည်ဆင်ခြင်၍ ရေးစီရင်အပ်ပြီ။ ပဋိသမ္ဘိဒါယ၊ ပစ္စည်းလေးပါးတို့ကို ဉာဏ်ဖြင့်ဆင်ခြင်၍ သုံးဆောင်ကြောင်း ဖြစ်သော ပစ္စဝေက္ခဏာ ပါဠိတော်၏။ ဂဏ္ဌိ စ၊ ခဲရာခဲဆစ် ငုပ်နစ်လှီကတ် သဒ္ဒါပုဒ်ပါဠ် အဆုံးအဖြတ်ကို သိသောဉာဏ်၏ တည်ရာဖြစ်သော ဂဏ္ဌိကျမ်းကိုလည်း။ မယာ၊ သည်။ လိက္ခိတော၊ အပ်ပြီ။

ဘော၊ ထိုဆိုအပ်ခဲ့ပြီးသော အင်္ဂုတ္တရနိကာယ်ပါဠိတော်နိဿယ မနောရထ ပူရဏီမည်သော အင်္ဂုတ္တိုရ်အဋ္ဌကထာနိဿယ သုမင်္ဂလဝိလာသိနီမည်သော သုတ်မဟာဝါ သုတ်ပါထေယျအဋ္ဌကထာနိဿယ ပစ္စဝေက္ခဏာဂဏ္ဌိကျမ်းတို့သည်။ အနာယာသံ—အနာယာသေန၊ သဖြင့်။ နိဋ္ဌိတာယထာ၊ ချက်တိုင်ပြီးမြောက် အဆုံးရောက်ကုန်၏သို့။ တထေဝ၊ ထိုအတူသာလျှင်။ ပါဏိနံ၊ ပေယယ် များစွာ သတ္တဝါတို့၏။ ဟိတသက်ပ္ပါ၊ ဣစ္ဆာသယတ် များမြတ်စီးပွား တရားမြင်မြော် မြတ်သူတော်တို့ နှလုံးပြည့်ကြောင်း ကောင်းသောအကြံအစည်

တို့သည်။ မနောရထပူရဏောနှ၊ မနောမယိဒ္ဓိ တန်ခိုးတို့၏သို့ စိတ်ကလိုတိုင်း မဆိုင်းမှုပဲ ပြည့်သဖြင့်၊ သီဿ၊ တဖြုတ်မထင် ရှောင်တခင်။ ဣဋ္ဌန္တိ၊ ခပင်း ဥဿုံ ပြည့်စုံစေကုန်သတည်း။

အဟံ၊ ဂန္ထကာရက ပါမောက္ခကြီး မထေရ်ထီးသဿဆာဇ် ဖြစ်သော ငါသည်။ အဓိဂတေန၊ ဆိုအပ်ခဲ့ပြီးသော အင်္ဂုတ္တရနိကာယ်ပါဠိတော် မနောရထပူရဏီမည်သော အင်္ဂုတ္တိုရ်အဋ္ဌကထာ သုမင်္ဂလဝိလာသိနီမည်သော သုတ် မဟာဝါ သုတ်ပါထေယျ အဋ္ဌကထာတို့၌ ချီးကျူးဖောက်ပြန် မမှန်ယွင်းမှား ပမာဒလေခများသဖြင့် ကာလမြင့်ရှည်ဘည်သော ပုဒ်ပါဌ်အက္ခရာတို့ကို မှန်ကန်သေချာစွာ နိုင်းရှည်ဆင်ခြင် သစ်လင်းသုတ်သင်လှ၍ အတ္ထယောဇနာ မြန်မာဘာသာကို ရေးသားစီရင်ခြင်း၊ ပစ္စဝေက္ခဏာဂဏ္ဌိကျမ်းကိုလည်း မန္တ ဗုဒ္ဓိတို့၏အလို့ငှာ ရေးသားစီရင်ခြင်းဖြင့် ရအပ်သော။ ပုညေန၊ တိဟိတ် ဥက္ကဋ္ဌ မြတ်သောကောင်းမှုကြောင့်၊ ဇာတိဇာတိသု၊ ပါရမီပုည ချိန်မတန်၍ ဉာဏ်မေးရင့် အခွင့်မသင့်သမျှ ကျင်လည်ရသောဘဝတို့၌။ သပရတ္ထသမ္ပာ ဒကော၊ ကိုယ်မှုစားရ နိယျာနိက ဓမ္မအမြိုက် တိုက်ကျွေးသဖြင့် အတ္တဟိတ ပရဟိတ နှစ်ဝအကျိုးကို ပြီးစေနိုင်သည်။ ဘဝေယျံ၊ ဖြစ်ရလို၏။ ဇိန သာသနဉ္စ၊ ငါးမာရ်နှိပ်နင်း တရားမင်း၏ ပရိယတ် ပဋိပတ် ပဋိဝေဓ သုံးဝ သော သာသနာတော်ကိုလည်း၊ သောဘေယျံ၊ သဒ္ဓမ္မဧောင်ဖြင့် အလင်္ဂီ ဒုဿီလ သာသနုပဒ္ဒဝဖြစ်သော အလဇ္ဇီမှုမှေး အညစ်အကြေးကို လျှော်ဆေး သုတ်သင် ဖြူစင်စေသဖြင့် ငွေဝင်းမဏ္ဍလ သသက်နှင်းပန်း ကွန့်ကွန့်ရှန်းအောင် တောက်ထွန်းစင်ကြယ် တင့်တယ်စေရလို၏၊ ဣတိ၊ ဤသည်လျှင် ရတနာ သရဖူဘန်ဆာမြတ်ကို မကိဋ္ဌကျောက် တပ်ဘိ၏သို့ ဆိုအပ်ခဲ့ပြီးသော အင်္ဂုတ္တရ နိကာယ်ပါဠိတော်ကျမ်း၏မှီရာ အတ္ထယောဇနာ မြန်မာဘာသာကို ရေးသား စီရင်သော နိဂုံးကမွတ် အပြီးသတ်သတည်း။

## အင်္ဂုတ္တိုရ်အဋ္ဌကထာနိဿယ

မနောရထပူရဏီအမည်ရှိသော အင်္ဂုတ္တရနိကာယ်အဋ္ဌကထာကြီးမှာ လွန်စွာ ကျယ်ပြောသော အဋ္ဌကထာကြီးဖြစ်သည်။ စာချက်နှာအနေနှင့် ဖော်ပြရလျှင် ပဌမအုပ် ဆဋ္ဌသံဂါယနာစာဘော်မူ ၄၁၆၊ ဒုတိယအုပ် ၃၉၇၊ တတိယအုပ် ၃၅၇-ရှိလေသည်။ ဘာဏဝါရအရေအတွက်အားဖြင့် ၉၄-ဘာဏဝါရ ရှိသည်။ ယင်းသို့ ၉၄—ဘာဏဝါရရှိကြောင်း မနောရထပူရဏီမည်ကြောင်းကို အရှင်မဟာဗုဒ္ဓဃောသဆရာတော်ကိုယ်တိုင်—

သာ ဟိ မဟာအဋ္ဌကထာယ၊ သာရမာဒါယ နိဋ္ဌိတာ သော။
တေနုဝုတ်ပရိမာဏာယ၊ ပါဠိယာ ဘာဏဝါရေဟိ။

သဗ္ဗာဂမသံဝဏ္ဏနံမနောရထော၊ ပူရိတော စ မေ ယသ္မာ။
တေယ မနောရထပူရဏီတိ၊ နာမံ ဌတော အဿာ—

ဟူသော ၂၂—ဂါထာဖြင့် ဖော်ပြတော်မူခဲ့လေသည်။

ဒုတိယ ဗားကရာသာသနာပိုင် ဆရာတော်ဘုရားကြီး အရှင်ပညာဇောတသည် ဖော်ပြပါ ပြောကျယ်နက်ဝှမ်း အင်္ဂုတ္တရနိကာယ်အဋ္ဌကထာကျမ်းကြီး၏ မှီရာ အင်္ဂုတ္တနိဿယကိုလည်း ဆန္ဒ စိတ္တ ဝီရိယ ဝီမံသတို့ဖြင့် ကြိုးပမ်းစီရင်တော်မူခဲ့လေသည်။ ၎င်းကျမ်းကြီးမှာ ပေထုပ်ငယ် ပေထုပ်လတ်များနှင့်မူ တနိပါတ် ၉ ထုပ်ဖြစ်၍ ၁၁—ထုပ်ရှိလေသည်။ ပေါင်း၍ ထုပ်လိုက်လျှင် အလွန်ကြီးသော ပေထုပ်ကြီး ၄–ထုပ်ခန့်ရှိ၏။ ဆရာတော်ကား အလွန်ဝီရိယလွန်ကဲလှချေ၏။ ယင်း အင်္ဂုတ္တိုရ်အဋ္ဌကထာနိဿယကျမ်းဦး၌—

၁။ နမဿိတွာန သမ္ဗုဒ္ဓံ၊ မဟာကာရုဏိကံ သဒ္ဓံ။
အနန္တဉာဏသမ္ပန္နံ၊ ဘဝသာဂရမုတ္တိဏ္ဏံ။

၂။ သဒ္ဓမ္မဥ္စဿ ပူဇေတွာ၊ သီဝံ သန္တံ သုဒုဒ္ဒသံ။
သဏှဉာဏေန ဉာတဗ္ဗံ၊ ဝိသုဒ္ဓံ သုဒ္ဒိဒါယကံ။

၃။ သံဃဿ စဥ္စလိံ ကတွာ၊ သီလာဒိဂုဏဇောတိနော။
ရာဂါဒိဒ္ဓိအနင်္ဂဏာဿ၊ ပုညခေတ္တဿ တာဒိနော။

၄။ ဒုတိယဓမ္မရာဇေန၊ ဆဒ္ဒန္တနာဂသာမိနာ။
ဥပိတော သောဓနတ္ထာယ၊ ဇိနသာသနစက္ကသ။

၅။ လဒ္ဓိတော အဘိဓာနေန၊ ပရိယတ္တိ ဝိသာရဒေါ။
ဝိသုဒ္ဓါစာရသီလော ယော၊ ပရပ္ပဝါဒမဒ္ဒနော။

၆။ ဟုတွာ ပဋ္ဌဟာကာရေဟိ၊ အာဇေရော သာသနေ မမံ။
ဝုဒ္ဓိံ ဖီတံ စ ပါပေသိ၊ နိရန္တရံ နုမာနယိ။

၇။ တံ နတွာ သိရသာ မိရံ၊ မဟာထေရံ သုသံဝုတံ။
သာသနေ မူလဉာဏီနံ၊ နုဂ္ဂါဟကဥ္စ မေ ဂရုံ။

၈။ ဓရမာနကာလေ၀ သော၊ အင်္ဂုတ္တရာပမံ သမာ။
ဝိသ္သာဓေဟီတိ အပွေသိ၊ သံသန္ဒေတွာန ပါဠေဟိ။

၉။ နိရောဓိကောသု ခန္ဓေသု၊ တသာ သိဿေသွေနေကေသု။
ဥေ ယျဓမ္မာဒိသဥ္စာရံ၊ ပရိယတ္တိဝိသာရဒံ။

၁၀။ ဝိသုဒ္ဓဝစနံ ဆေကံ၊ သံဃပည့် မဟာထေရံ။
သာသနေ မောက္ခဘာဝေန၊ သော ဌပေသိ သကိဒ္ဓဇံ။

၁၁။ သော၀ ယာစိ မဟာထေရော၊ သာသနေ မလသောဓကော။
ဒုတိယမ္ပိ သဘာမဇ္ဈေ၊ တံ နိကာယံ ဝိသောဓိယ။

၁၂။ ကရောတု တမ္ပဝသနတ္ထံ၊ ဝဏ္ဏနာယ စ နိဿယံ။
တေသမဇ္ဈသနာဂမ္မ၊ ကရိဿံ တံ ဝိခါရိတံ—

ဟူသော ၁၂-ဂါထာဖြင့် ကျယ်ဝန်းရှည်လျားစွာ ဂန္ထာရမ္ဘ ပြုတော်မူခဲ့လေသည်။ ဖော်ပြပါ အင်္ဂုတ္တိုရ်ပါဠိတော်နိဿယ၊ အင်္ဂုတ္တိုရ်အဋ္ဌကထာနိဿယတို့ကို ပြုစီရင်တော်မူစဉ်က ဘုရားကြီး ဆရာတော်သောင်းလျှ အရှင်ဇာဂရ၊ အုဂ်ဖိုရ်ဆရာတော်လောင်းလျာ အရှင်ဥက္ကံသမာလာ၊ ပခန်းမင်းကြီး ဦးရန်ဝေးလောင်းလျာ ဦးဝိသုဒ္ဓတို့ကို လက်ပါးထား၍ ပြုစီရင်တော်မူခဲ့သည်။

## ဋီကာကျော်နိဿယကျမ်း

သီဟိုဠ်ကျွန်း ပုလတ္ထိမြို့တော်၌ သာသနာသက္ကရာဇ် ၁၇၀၀-ကျော်တွင် ပေါ်ထွန်းသော ဝိနယသင်္ဂဟအဋ္ဌကထာ၊ သာရတ္ထဒီပနီဋီကာစသည့် ကျမ်းပေါင်းများစွာတို့ကို ပြုစီရင်တော်မူခဲ့သော အရှင်သာရိပုတ္တရာ၏ဘပည့် အရှင်သုမင်္ဂလသာမိသည် မိမိ၏ ဆရာရင်းဖြစ်တော်မူသော အရှင်သာရိပုတ္တရာ၏ သီဟိုဠ်ဘာသာရေး သင်္ဂြိုဟ်နိဿယကို မှီငြမ်းပြု၍ ဋီကာကျော်ပါဠ်ကိုလည်း ရေးသားစီရင်တော်မူခဲ့သေသည်။ ယင်းဋီကာကျော်ပါဌ်မှာ သာသနာရေး ဦးစီးဌာနပုံနှိပ်တိုက်ရိုက် ရှိုင်ဆိုက်စာမျက်နှာ ၂၇၀-ရှိသည်။ ဒုတိယဗားကရာ သာသနာပိုင်ဆရာတော် အရှင်ပညာဇောတသည် ဖော်ပြပါ ဋီကာကျော်၏ မှီရာ အတ္ထနိဿယကိုလည်း စာချ စာသင်တို့ အကျိုးများစိမ့်သောငှာ စီရင်တော်မူခဲ့လေသည်၊ ယင်းဋီကာကျော်နိဿယသည် ကုန်းဘောင်ခေတ် စာချနည်းကို မီးမောင်းထိုးပြသည့် ကျမ်းစာကောင်းဖြစ်လေသည်။

## ပဋ္ဌာနေကွဓာ ဂဏ္ဌိကျမ်း

ထိုစဉ်က သင်္ကန်း၊ ဆွမ်း၊ ကျောင်း၊ ဆေး၊ သေးပါးသောပစ္စည်းကို သုံးစွဲရာ၌ ဆင်ခြင်ခြင်းနှင့်စပ်၍ အချီးမျိုးယူဆမှုများ ရှိခဲ့သည်၊ တချိုက စာပေ

လေ့ကျက်၊ တရားအားထုတ်နေလျှင် ပစ္စဝေက္ခဏာ မဆင်ခြင်သော်လည်း ကိစ္စပြီးသည်စသည်ဖြင့် အယူအဆ ဝိဝါဒကွဲပြားမှုများ ရှိခဲ့သည်။ သို့ဖြစ်၍ "သူရိယဝံသာဘိသီရိပဝရာလင်္ကာရ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ သဲအင်းသာသနာပိုင်ဆရာတော်ဘုရားကြီးသည် မိမိ၏တပည့် သာသနာပိုင်လောင်းလျာ အရှင်ပညာဇောတအား ခေါ်တော်မူ၍ ငါ့ရှင် ပညာဇောတ၊စိတ်ထားဖြူစင်ကောင်းမွန်မြတ်ဆန်းသော အကျင့်ရှိသော ရဟန်း သာမဏေတို့ အကျိုးငှာ ပစ္စဝေက္ခဏာ ၄-ပုဒ်၏နှင့်စပ် မှတ်သားဖွယ် လိုက်နာဖွယ် ဂဏ္ဌိကျမ်းစာစောင်ရေးရမည်ဟု အမိန့်ရှိတော်မူသည်။

အရှင်ပညာဇောတသည် ကျေးဇူးတော်ရှင် ဥပဇ္ဈာယ်သဲအင်းသာသနာပိုင် ဆရာတော်ဘုရားကြီး၏ အမိန့်တော်မြတ် သတပတ်ရွှေကြာကို ဦးထိပ်ရွက် ပန်ဆင်၍သက်ဆိုင်ရာကျမ်းဂန်တို့ကို ချဉ်းနင်းသက်ဝင်မှီငြမ်းပြု၍ ပစ္စဝေက္ခဏာ ဂဏ္ဌိကျမ်းကို ပြုစုစီရင်တော်မူခဲ့လေသည်။ ဆရာတော်သည် ဖော်ပြပါ ပစ္စဝေက္ခဏာဂဏ္ဌိကျမ်းဦး၌—

၁။ သီလမ္ဗုဟဒယံ နာထံ၊ မဟာကာရုဏိကံ နမေ။
ဓမ္မဥ္စ ဘဝုဒ္ဓါရံ၊ သံဃံ သီလာဒိသမ္ပဒံ။

၂။ သူရိယံ မေ မဟာထေရံ၊ မေတ္တာဒကေန သေစနံ။
ဂရုံ စ သိဿဝေမေန္တံ၊ နမာမိ သိရသာ စိရံ။

၃။ ကုလပုတ္တာနမတ္ထာယ၊ တေနေဝါ သမိဗ္ဗိတော။
ဂဏ္ဌိဌာနံ ပကာသိဿံ၊ ပစ္စဝေက္ခဏပါဠိယာ—

ဟူသော ၃-ဂါထာဖြင့် ပဏာမ ပဋိညာဉ်ဂန္ထာရမ္ဘပြုတော်မူခဲ့လေသည်။ ကျမ်းစာအဆုံး၌လည်း—

၁။ ကူးခန်းတျှဝှယပုရေဿ၊ ပုရတ္ထိမဒိသာယ စ။
ဒိယစုယင္ဂိကာသိမှိ၊ သဲအင်းတျှဝှယ ဂါမကေ။

၂။ သဲအင်းတိုက်ဣတိဝိဿုတေ၊ ရမ္မေ သာဓုန မာလယေ။
ဝသတျာနေကသိဿာနံ၊ ဝါစေန္တော ပိဋကတ္တယံ။

၃။ သူရိယောတိ မဟာထေရော၊ ဇိနစက္ကေ ဓိသေိယော။
သဓိလဇ္ဇဝဒမ္မေဟိ၊ မာနိတော သဗ္ဗဝိညူဟိ။

၄။ တဿုပဒေသ လဒ္ဓေန၊ ပညာဇောတောတိ နာမိနာ။
ဂဏ္ဌိဌာနံ ပကာသိတံ၊ ပစ္စဝေက္ခဏပါဠိယာ။

၅။ ယထာယိဒံ အနာယာသံ၊ နိဋ္ဌိတံ သဗ္ဗပါဏိနံ၊
သီဃံ သိဇ္ဈန္တု သင်္ကပ္ပါ၊ စန္ဒော ပန္နရသော ယထာ—

ဟူသော ၅-ဂါထာဖြင့် အကြောင်းအရာပြည့်စုံစွာ ဖော်ပြ၍ နိဂုံးအုပ်တော်မူခဲ့လေသည်။ ယင်း ပစ္စဝေက္ခဏာဂဏ္ဌိ ကျမ်းမှာ ရှိုင်ဆိုက်စာမျက်နှာ ၄၀-ခန့် ရှိ၏။

အင်္ဂုတ္တရနိကာယ် ပါဠိအဋ္ဌကထာကို
သုတ်သင်ပြင်ဆင် တင်သွင်းတော်မူခြင်း

သက္ကရာဇ် ၁၂၁၈-ခုနှစ် တန်ခူးလပြည့်ကျော် ၈-ရက်နေ့မှစ၍ ပဥ္စမသံဂါယနာ အကြိုအဖြစ်ဖြင့် စာဘ်ပြုလုပ်အပ်သော ပိဋကတ်တော်များကို ရွှေရေး မင်ရေး ကညစ်ရေးတို့ဖြင့် ရေးကူးစေရာတွင် အရှင်ပညာဇောတသည် အင်္ဂုတ္တရ နိကာယ် ပါဠိတော် အဋ္ဌကထာကို သုတ်သင်ပြင်ဆင်၍ တင်သွင်းတော်မူခဲ့လေ သည်။

မြိုင်မြို့ ရွှေမြင်တင်စေတီ ရွှေသင်္ကန်းကပ်လှူ ခေါင်းလောင်းလှူခြင်း

ဆရာတော်သည် သက္ကရာဇ် ၁၂၁၃-ခုနှစ်တွင် ဇာတိချက်ကြွေ မွေးရပ်မြေ ဖြစ်သော မြိုင်ရွာ(ယခုမြိုင်မြို့) ရှိ ရွှေမြင်တင်စေတီတော်မြတ်ကြီးကို လုံးပတ် တော်ပြည့် ရွှေသင်္ကန်းကပ်လှူတော်မူခဲ့လေသည်။ ၎င်းပြင် ဖန်သား မှန်သား ရွှေသားကျောက်မျက် အမိုးအနဂ္ဃထိုက်သော သလွန်တော်၊ သပိတ်တော်၊ ကနက္ကဒဏ်ထီ တို့ဖြင့် ပူဇော်တော်မူခဲ့လေသည်။ ထိုပြင်တပါး ကြေးပိဿာချိန် ၁၆၀-ပိဿာရှိ ခေါင်းလောင်းကြီးကိုလည်း ပူဇော်တော်မူခဲ့လေသည်။ ဖော်ပြပါခေါင်းလောင်းကြီး၌ အောက်ပါစာတမ်းကိုလည်း ဆရာတော်သည် သတိရှိစွာ ရေးထိုးစေတော်မူခဲ့လေသည်။

ဒုတိယ ဗားကရာသာသနာပိုင် ခေါင်းလောင်းစာ

စိရံ တိဋ္ဌတု သဒ္ဓမ္မော။ ။မြတ်စွာဘုရားသာသနာတော် ၂၃၉၆-ခုနှစ်၊ သက္ကရာဇ် ၁၁၄၄-ခုအလွန် ဘုရင်ဘကာဘို့၏ဆခိပတိဖြစ်တော်မူသော ဘိုးတော်ဘုရားသည် သားတော်အစဉ် မြေးတော်အဆက်မြစ်တော်အညွန့်အဖွန့်ရှည်စွာ တည်စေခြင်းငှာ သိုက်သာမာတ်ရ ထာဝရကိန်းခန်းကို စိတ်လျက်ဗျာဒိတ် တော်ပန်းမြတ်အတိုင်း—

မန္တလေးတောင်၏လက်ယာမြေမျက်နှာတွင် ဖန်စီရင်အပ်သော သုနာပရန္တ တမ္ဗဒီပစသော တိုင်းကြီး ပြည်ကြီးတို့၏ ခွန်သွင်းဆက်ပို့ရာ မဟာအမရပူရရွှေမြို့

၁။ ဝိနယသမုဟာဝိနိစ္ဆယ။ ၁- ၄၃-ကြည့်။

တော်ကြီးကို ဒုတိယ ၂–ကြိမ်မြောက် တည်ထောင်ထပ်မံစံတော်မူသော ကုန်းဘောင်ဘုရင် ဆဒ္ဒန်ဆင်မင်းသခင် ဘဝသျှင်မင်းတရားကြီး၏ သားတော် နန်းလျာ ဥပရာအလောင်းသည်၎င်း၊

အကြောင်းအကျိုးကိုပြု၍ ဆုံးမစေခြင်းငှာ တာရန်း ၃–ရာရှိသော ဗားကရာတိုက်တော်ကို ဝတ္ထုကံမိုးမြေနှင့်တကွ လှူတော်မူ၍ ပူဇော်ကိုးကွယ် အပ်သော လဇ္ဇီပေသလ သိက္ခာကာမ သီလ သမာဓိ ပရိယတ္တိဝိသာရဒစသော ဂုဏ်နှင့်ပြည့်စုံသော ၆–ရာမကသော တပည့်သံဃာတို့၏ဆရာ ဂဏာစရိယ ဂဏ ပါမောက္ခ ဂိုဏ်းအကြီးအမှူးဖြစ်တော်မူသော

ပညာဇောတာဘိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရုဟူသော တံဆိပ်နာမံတော်၏ တည်ရာ ဗားကရာဆရာတော်သည် မဂ်ဉာဏ် ဖိုလ်ဉာဏ် နိဗ္ဗာန်၏အကျိုးငှာ ပရိ နိဗ္ဗာန်လွန်တော်မူပြီးသော မြတ်စွာဘုရား၏ ၄-ပါးသော စေတီတော်တို့၌ တွက်ကျုံးဝင်သောစေတီအား သက်တော်ထင်ရှားဘုရားရှင်ကဲ့သို့ မှတ်ပြီး လျှင် သဒ္ဓါနအလှူကို ရည်ညွှန်း၍ သွန်းလုပ်အပ်သော အဝန်း ၃–ထွာ၊ အစောက် ၂ အဝင်ဒ်၊ ၄။ ကြေးချိန် ၁၆၁–ပိဿာ ရှိသော ခေါင်းလောင်း ဃန တူရိယာကို သာသနာတော် ၂၀၇၅–နှစ် သက္ကရာဇ် ၁၂၀၃–တွင် တင်လှူ ပါ၏။ ဤသို့လှူရ မြတ်ပုညကြောင့် ရာဂဒေါသ သေည်မီးလျှံ ငြိမ်းရာမှန်သည့် နိဗ္ဗာန်ရွှေမြို့ ရောက်စေသောင်[၂]။

## မိခင်ကြီးကို မျှားစွာပြုစု စောင့်ရှောက်တော်မူခြင်း

သာသနာပိုင် ဆရာတော်ဘုရားကြီး အရှင်ပညာဇောတသည် မိမိ၏ မွေးသမိခင် ကျေးဇူးရှင်ကြီး ဒေါ်ကြင်အား လျောက်ပတ်သင့်တင့်သော ပစ္စည်းဝတ္ထုပေး၍ မျှားစွာပြုစု စောင့်ရှောက်တော်မူသည်။ မိခင်ကွယ်လွန်ရာ အခါ၌သည်း ပင့်သံဃာ ၁၁၃–ပါး ပင့်တော်မူ၍ ပင့်သံဃာတပါး တပါး လျှင် သီးမျိုးစုံပဒေသာပင် ၁–ပင်ကျစီ လှူဒါန်းတော်မူ၍၎င်း၊ ပြာသာဒ် တလား ရထားခင်းကျင်း ထီးဖြူသံလျှင်းတို့ဖြင့်၎င်း ခမ်းနားစွာ သင်္ဂြိုဟ်တော် မူခဲ့လေသည်။

မာတရံ ဇနေတ္တိဥ္စာပိ၊ ပေါသနံ ရက္ခနံ တရီ။
မာ တုယာ ကာလကိံဘာယ၊ မဟုဿဝေန ဈာပယီ၊

---

၁။ ကြေးချိန် ၁၀၀၆၀၁။ (ဆိုလိုရင်းကား ၁၆၁-ပိဿာတည်း)။
၂။ မြန်မာ့ရှုခင်း။ ၂၃၆-၂၃၇–ကြည့်။

## မိခင်ချော ပနသဘင်ကျင်းပရာ စေတီဘည်တော်မူခဲ့

ရင်းပြင် မိခင်ဒေါ်ကြင်၏ ဥတုဇရုပ်ကလာပ်ကို မီးသင်္ဂြိုဟ်ရာ အရပ်၌လည်း ပြာသာဒ်ရှစ်ဘုံတို့ဖြင့် တန်ဆာဆင် ဝန်းရံကာ တံဘိုင်းမီးဘားဖြင့် စိုက်သန်းကာရံစေ၍ စေတီတော်ကြီးကိုလည်း တည်ထားကိုးကွယ်တော်မူခဲ့လေသည်။ ယင်းစေတီကား အခြားမဟုတ်၊ မြို့မြို့ အနေ့ရှေ့မြောက်ယွန်း ၁-မိုင်သာသာခန့်ကွာ ငွေပင်လယ်ရွာ အနောက်ဖက်ရှိ စေတီပင် ဖြစ်လေသည်[၁]။

ဇနေ့ဘ္တိ ဒေဟချာပန-ဌာနေပိ ဌာနကောဝိဒေါ။
ထေရသေဋ္ဌော သံဃရာဇာ၊ စေတိယံ အကရိ ဟိ ခေါ။

## မြိုင်ရွာ၌ ကျောင်းဆောက် သိမ်သမုတ်တော်မူခြင်း

သာသနာပိုင် ဒုတိယဗားကရာဆရာတော်ဘုရားကြီး အရှင်ပညာဇောတသည် ဇာတိချက်ကြွေ မွေးရပ်မြေဖြစ်သော မြိုင်ရွာ၌ ရံခါကြိုးကြား ကြွတော်မူ၍ ဉာတတ္ထစရိယအကျင့်ကို ကျင့်တော်မူသည်။

ဆရာတော် သီတင်းသုံးနေတော်မူရန် ကျောင်းတော်ကိုလည်း ရေမြေရှင်အား ဆောက်စေတော်မူခဲ့ရာ မြိုင်ရွာ၌ (ယခုမြိုင်မြို့ မြောက်ဘက် ငွေပင်လယ်ရွာအနီး၌) ကျောင်းတော်ဟု ကြာမြင့်စွာ ထင်ရှားခဲ့သည်။ ယခုမူ ကျောင်းရာမျှသာ ရှိတော့၏။

## သိမ်သမုတ်တော်မူခြင်း

သာသနာပိုင် ဆရာတော်ဘုရားကြီး အရှင်ပညာဇောတသည် ကျေးဇူးရှင် မိခင်ကြီး ဒေါ်ကြင် ကွယ်လွန်စဉ်က "ပဏ္ဍိဘဝံသာဘိဓဇမဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ ဗန်းမော်ဆရာတော်စသည့် တပည့်ကြီးများ အပါအဝင် သံဃာတော် ၁၀၀-ခန့်နှင့်အတူ မိခင်၏ ဥတုဇရုပ်ကလာပ်ကို သင်္ဂြိုဟ်ရန် မြိုင်ရွာသို့ ကြွတော်မူခဲ့သည်။ ထိုစဉ်က ဥပုသ်ပြုရန် ဥပုသ်နေ့နှင့်လည်း ကြုံကြိုက်သည်။ သို့ဖြစ်၍ ချက်ချင်း သိမ်သမုတ်တော်မူ၍ သံဃာ့ဥပုသ်ပြုတော်မူသည်[၂]။ ယင်းသိမ်မှာ နောက်တွင် သားနားလှပသော သိမ်တန်ဆောင်းဝန်းဖြင့် ကြာမြင့်စွာ တည်ရှိခဲ့၏။ ယခုမူ နေရာမျှသာ တည်ရှိလေတော့၏။

---

၁။ ဆရာတော်၏ မိဘများမှ အဆက်အသွယ်၌ရှိရာ ကိုင်းရွာရွှေ့ပြောင်းနေဟန်တူ၏။

၂။ ရေမြေ့ရှင် မင်းတရားထံမှ ဝိသုံဂါမအမိန့် ကြိုဘင်ယူခဲ့ကြောင်း ယူခဲ့ပါမည်။

သင်္ချိုင်းအစိရင်ဒွိတိကာ၊ ရုပ်နာမ်ဓမ္မ သင်္ဂြိုဟ်တို့ကား ကြာရှည်လေးမြင့်မတည်ကုန်စွ တကား။

## ပိဋကတ်တော်များ ရေးကူး ပူဇော်စေခြင်း

ဆရာတော်ကား စာပေကို အလွန်တရာ မြတ်နိုးတော်မူသည်။ ပရိယတ္တိ သာသနာ ကာလကြာရှည် တည်ပါမှ ပဋိပတ္တိသာသနာ ကာလမြင့်ရှည်တည်မည်။ ပဋိပတ္တိရှိမှ ပဋိဝေဓချိုနိုင်သည်ကို ပိုင်ပိုင်မိမိ သဘောပေါက် သိတော်မူပါသဖြင့် ပင်မပရိယတ္တိ သာသနာတည့်တံ့ရေး ရည်မှန်းတော်မူ၍ ဘုရားမုခပါဠိ ပါဠိ၊ အဋ္ဌကထာ၊ ဋီကာ ပိဋကတ်ကျမ်းစာများကို ရေးကူးစေတော်မူ၍ ပူဇော်တော်မူခဲ့လေသည်။

## မနောရမ္မ ကန်တော်ကြီး ဆည်ဖို့တော်မူခြင်း

ဆရာတော်သည် ရှံဖန်ရံခါ ဇာတိရပ်မြေသို့ ကြွလာတော်မူသည်။ ယင်းသို့ ကြွလာတော်မူစဉ် ကိုင်း မုန်ညင်း ကျေးရွာတဝိုက်၌ ရေရှားသဖြင့် ဆင်းရဲဒုက္ခရောက်နေကြသော လူအပေါင်း၊ ကျေးငှက်တိရစ္ဆာန် သတ္တဝါအပေါင်းတို့ကို တွေ့မြင်သိရှိတော်မူလေရကား များစွာ သနားကြင်နာခြင်း ဖြစ်တော်မူသဖြင့် သက္ကရာဇ် ၁၂၀၉-ခုနှစ် နတ်တော်လပြည့်ကျော် ၉-ရက်နေ့မှစ၍ ကိုင်းရွာမြောက်ဘက်တွင် အရှေ့အနောက် တာ-၁၀၀၊ တောင်မြောက် တာ ၉၀-အရပ်ကို ရှင်းလင်းသုတ်သင် ပြင်ဆင်စေတော်မူပြီး မနောရမ္မ အမည်ရှိသော ကန်တော်ကြီးကို ဆည်ဖို့စေတော်မူခဲ့လေသည်။ ယင်းမနောရမ္မ ကန်တော်ကြီး ဆည်ဖို့ရာ၌ ကာလကြာရှည် ခိုင်ခံ့ရန် သံနှင့်အင်ကြင်းခေါက်တို့ကိုလည်း များစွာအသုံးပြုတော်မူသည်။ ယင်း ကန်ကြီးဆည်ဖို့စဉ် ဆရာတော်၏ အမိန့်အရ ဆရာတော်၏ တပည့်ဖြစ်သော ဦးပညာရသီ ဦးစီးဆောင်ရွက်ရလေသည်။

ရင်းပြင် မနောရမ္မကန်တော်ကြီး ပြုပြင်ရန်အတွက် ကန်အောက် အရှေ့အနောက် တာ ၂၀၊ တောင်မြောက် တာပြန် ကန်အမျှပမာဏရှိသော မြေကို ဥယျာဉ်စိုက်ပျိုးစေ၍ ဝတ္ထုကံအဖြစ် လှူဒါန်းတော်မူခဲ့လေသည်။

ထိုမှတဖြာ တာ ၂-ထောင်စီအတွင်း မှီတင်းသွားလာ ပျံသန်းကျက်စားကြသော သားတိရစ္ဆာန်ငှက်တို့အား ပစ်ခတ်ဖမ်းဆီး ဘေးဘျမ်းမရှိစိမ့်သော ငှာ ရေမြေရှင် မင်းမြတ်ကို သိစေတော်မူ၍ ကျောက်တိုင်စိုက်၍ ဘေးမဲ့အဖြစ် သတ်မှတ်တော်မူခဲ့လေသည်။

## ကျောက်စာထိုးမှတ်စေတော်မူခြင်း

ဆရာတော်သည် ဇာတိရပ်မြေ၌ ပြုခဲ့သမျှ ကောင်းမှုဥဿုံအလုံးစုံကို အနာဂတ် ကာလ သမယအစဉ် မော်ကွန်းထွန်းရစ်စေခြင်းငှာ အရာခင်သိမ်းတို့၌ ကိုယ်စားပြု၍ လှူအပ်တော်မူသော တပည့်ကြီး ၄-ပါးအနက် "ဝိမလဗုဒ္ဓိ-ဝံသာဘိဇေမဟာဓမ္မရာဇာဓိရာဇဂုရု"တံဆိပ်နာမံတော်ရှိသော ပန်းထူး ဆရာတော်ကို ရေးစီရင်စေတော်မူ၍ တံဆိပ် ဝန် မင်းလှရာဇကျော်ထင်ကို ထိုးမှတ်စေတော်မူခဲ့လေသည်။ ယင်းကျောက်စာမှာ ပြည့်စုံရှည်လျား၏။ အဆုံးနိဂုံးသံပိုင်းမှာ—

မင်္ဂလာရောင်ညီး၊ အောင်ပြီးစီးစိမ့်၊ စောစီးဝရ၊ ဝိဇယကိတ္တိ၊ ဘိသိက်ညီလျက်၊ ကက္ကိပါဒ်သေးမျိုး၊ ရှိန်းရှိန်းတို သား၊ ဘုန်းကျိုးရောင်ဖြန့်၊ လောင်ဘနန့်တည်၊ အောင်ခွန်းချုန်းသံ၊ ဖြန်းဖြန်းညံမျှ၊ ဘုန်းလျှံထွန်းပ၊ ဝန်းသည့်လသို့၊ အမရပူရ၊ စတုတ္ထအကြိမ်၊ ရိပ်ငြိမ်စံမွေ့၊ ဘုရင်တွေ့လျှင်၊ မြူငွေ့ဝေငိုင်၊ မပေါ်နိုင်အောင်၊ တံဆိပ်အက္ခရာ၊ ကမ္ပည်းစာနှင့်၊ သာသနာမေးဟူ၊ ဆောင်နှင်းလှူသည်၊ သယမ္ဘူမြတ်၊ ဝိဒူနတ်၏၊ ဩရသ်ပရိဏာယက၊ သဃ်လျှင်ထွတ်၊ ခေါင်တမွတ်လျှင်၊ အောင်ဝတ်ဆင်ပန်၊ ဗောဓိဉာဏ်၏ ကေန်မြစ်ခြေ-ဖြစ်ပွဲစေဟု၊ စေရာသဘော၊ ဖန်ဖန်စောလျက်၊ မနောရမ္မာ၊ နှုတ်သညာဖြင့်၊ ဩဘာလျှောက်ပတ်၊ ကန်တော့မြတ်ကို၊ နာဂတ်နောင်လာ၊ သိစိမ့်ငှာလျှင်၊ ရွှေစာကသိုဏ်း၊ တင်ပြလှိုင်းသည်။ ။သံပိုင်းကျောက်စာ နိဒါန်းတည်း။

## ထိပ်တန်းပညာရှင် တပည့်ကောင်းတို့၏ ဆရာ

သာသနာ့ဝင်တမ်း ပြောန်းများသည် ပိဋကတ်ကျမ်းဂန်များကို ခေါက်ချ၍ ချုပ်ပိုသင့်သည်။ ယင်းသို့ ပိဋကတ်ကျမ်းဂန်များကို ကြီးကြီးမားမား ချုပ်ပိုမှ သာသနာစောင့် ပညာရှိ တပည့်များစွာ ထွန်းကားသည်။ ဒုတိယ ဗားကရာ သာသနာပိုင် ဆရာတော်ဘုရားကြီး အရှင်ပညာဇောတသည် မဟာသာဟ ဇွဲလုံ့လဖြင့် စာပေကျမ်းဂန် ချုပ်ပိုတော်မူသည်။ ယင်းသို့ ချုပ်ပိုတော်မူသဖြင့် ထိပ်တန်းပညာရှိ တပည့်များစွာတို့ ပေါ်ထွန်းခဲ့ကုန်၏။ ၎င်းတို့ကား—

---

၁။ အကျယ် မြန်မာ့ရှုခင်း၊ ၃၂၄-၃၃၆ ကြည့်။

ပါစိတျာဒိယောဇနာပါဠိ၊ ဒီပဝံသပါဠိအစရှိသော ကျမ်းပေါင်း ၂၀-ခန့်တို့ကို ပြုစီရင်တော်မူခဲ့သော ပဌမသံဂါယနာ သံဃမှုဟာ နာယက "တိပိဋကဓရ မဟာဓမ္မရာဇာဓိရာဇဂုရု"စသော ဘွဲ့တံဆိပ် တော် ၃-ထပ်ရ ဒက္ခိဏာဘုရားကြီး ဆရာတော် အရှင်ဇာဂရ၊ ကထိန ဝိသောဓနီကျမ်း၊ ဝိနယဓရပဟုဿုတဝိနိစ္ဆယကျမ်း၊ ဝိဝဋ္ဋဘေဒနီ ကျမ်း၊ သီမဘေဒဝိဘာဝနီကျမ်း၊ အသုဘဒဿန ဝိနိစ္ဆယကျမ်း၊ ဥပုသ်အဆုံးအဖြတ်ကျမ်းစသည်တို့ကို ပြုစီရင်တော်မူခဲ့သော "ပဏ္ဍိတ ဝံသာဘိဓဇမဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ ဗန်းမော် ဆရာတော် အရှင်ပဏ္ဍိတ၊ "ဒီပါလင်္ကာရာဘိသီရိဓဇမဟာဓမ္မရာဇာဓိ ရာဇဂုရု"ဘွဲ့တံဆိပ်တော်ရ ဒုတိယငါးခုနှ်ဆရာတော် အရှင်ဒီပါလင်္ကာ ရ၊ သေမင်းတမန်စာတမ်း၊ နိယာမဒီပနီစသော ဘွဲ့တံဆိပ် ... အာ ချာတ်သာမိနိယံအဖြေ စသော ကျမ်းဂန်များစွာတို့ကို ပြုစီရင်တော်မူ ခဲ့သော အုဂ်ဖိုရိဆရာတော် အရှင်ဥက္ကံဝံသမာလာ၊ ဓမ္မပဒမဟာဋီကာ ပါဠိ၊ ပဋ္ဌာနဝိနိစ္ဆယစသော ကျမ်းပေါင်းများစွာတို့ကို ပြုစီရင်တော် မူခဲ့သော ရေစကြို အောင်မြေသာယာတိုက် ဆရာတော် အရှင်ဝရ သမ္ဘောဓိ—

စသည်တို့ ဖြစ်ကုန်၏။

အာစေရော ပဏ္ဍိတော သစေ၊ သီသောပိ ပဏ္ဍိတော ဘဝိ။
ဗားကရာသံဃနာဇဿ၊ သီသာပိ ပဏ္ဍိတာ ဗဟူ၊

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ဤသို့ဖြင့် ဖော်ပြခဲ့သည့်အတိုင်း သာသနာကျိုး၊ လောကကျိုးကို သည်ပိုး ရွက်ဆောင်တော်မူခဲ့သော ရာဇာဓိရာဇဂုရု၊ ဓမ္မသေနာပတိဘွဲ့တံဆိပ်တော် ၅-ထပ်ရ ဒုတိယဗားကရာသာသနာပိုင် ဆရာတော်ဘုရားကြီး အရှင်ပညာ ဇောတသည် သက်တော် ၇၅-နှစ်၊ သိက္ခာတော် ၅၅-ဝါ ရရှိရာ သက္ကရာဇ် ၁၂၂၂-ခုနှစ် တန်ဆောင်မုန်းလပြည့်နေ့တွင် ပျံလွန်တော်မူခဲ့လေသည်။

အပ္ပမာယုမနုဿာနံ၊ ဟီဠေယျ နံ သုပေါရိသော။
စရိယျာဒိတ္တသီသောဝ၊ နတ္ထိ မစ္စုဿ နာဂမော[၁]။

မနုဿာနံ၊ ခုခေတ်ပေါက်ဖွားပုဂ္ဂိုလ်များတို့၏။ အာယု၊ အသက်ဇီဝိန် သည်။ အပ္ပံ၊ လွန်စွာခဏ တိုတောင်းလှချေ၏။ သုပေါရိသော၊ တရား သက်

၁။ သံ၊ ၁၊ ၁၀၉။

ဝင် သူတော်စင် သူတော်ကောင်းသည်။ နှံ့၊ ထိုအသက်ကို။ ဟီဠေယျ၊ ကဲ့ရဲ့ ရှုတ်ချရာ၏။ အာဒိတ္တသီသောဝ၊ ရဲရဲပြောင်ပြောင် ခေါင်းမီးလောင်ခံရသူ ကဲ့သို့။ စရေယျ၊ မနားမနေ တအားဖွေ၍ ကျင့်ကြံပေရာ၏။ မစ္စုယာ၊ သုံးဆဲ တစ်ဘုံ အကုန်ခွင်းသည့် သေမင်း၏။ နာဂမော၊ မလာမရောက်ရာသည်။ နတ္ထိ တကွက်ကမျှ မရှိပါချေ။

### ပဋ္ဌမသံဂါယနာတင်မင်းတရား ကောင်းစွာသင်္ဂြိုဟ်

ဆရာတော်၏ ဥတုဇရုပ်ကလာပ်ကို ပဋ္ဌမသံဂါယနာတင် ဘင်ရှင်မင်းတုန်း မင်းတရားသည် ဘကြီးတော်မင်းတရားလက်ထက် သာသနာပြုသာသနာပိုင် စလင်းဆရာတော်ဘုရားကြီး ပျံလွန်တော်မူရာ သင်္ဂြိုဟ်သည့်နည်းတူ ခမ်းနား ကောင်းမွန်စွာ သင်္ဂြိုဟ်တော်မူခဲ့လေသည်။

မဟာတာ ဥဿဝေနေဝ၊ ရာဇာ ရုဇ်ဓမ္မ ဌိတော။
ဗားကဆု ထေရသာရိုရံ ပါဝကစ္စာပနံ ကရီ။

---

### ဒုတိယ ဗားကရာသာသနာပိုင်ဆရာတော်
### အရှင်ပညာဇောတ၏တပည့်
### ဒီပါလင်္ကာရာဘိသီရိဓဇမဟာမေ္ဓရာဇာဒိရာဇဂုရု
### ဒုတိယငါးခုနှ်ဆရာတော် အရှင်ဒီပါလင်္ကာရ

ဆရာတော်အရှင်ဒီပါလင်္ကာရသည် ပန္နက္ကျုခရိုင် မအူလေးရွာ အရှေ့ဘောင် ပရိန်သာရွာ၌ သက္ကရာဇ် ၁၁၅၀-ခုနှစ်တွင် ဖွားမြင်တော်မူခဲ့လေသည်။ ထိုစဉ်က ပရိန်သာရွာ၌ သီတင်းသုံးသော ထင်ရှားသော ဆရာတော်ကြီး အရှင်နန္ဒမေဓာ၏ တူမ၏ သားထွေးဖြစ်သည်။

အရွယ်ရောက်သော် ရှင် ရဟန်းပြု၍ သာသနာ့ဝန် ထမ်းဆောင်တော်မူခဲ့သည်။ အရွယ်ငယ်စဉ်ကပင် အမရပူရမြို့ မဟာဝိဇယာရာမတိုက် ဒုတိယ ဗားကရာသာသနာပိုင်ဆရာတော်ဘုရားကြီး အရှင်ပညာဇောတထံ ရောက်ရှိ၍ နှစ်ပေါင်းကြာမြင့်စွာ ကျမ်းကြီးကျမ်းငယ် အဆူဆူကို သင်ယူ တတ်မြောက် တော်မူခဲ့လေသည်။ သာသနာပိုင်ဆရာတော်ဘုရားကြီး၏ အမိန့်အရ ရဟန်း သာမဏေများစွာတို့အား စာပေကျမ်းဂန်တို့ကို ချပို့၍ သာသနာပြုတော်မူခဲ့ လေသည်။

## ဒုတိယငါးခုန်ဆရာတော်ဟု အမည်တွင်ခြင်း

အရှင် ဒီပါလင်္ကာရသည် သလ္လာဝတီမြစ်ထိပ် ငါးခုန်ရွာဘောင်ဘက် ရွှေဥမင်တိုက်၌ သီတင်းသုံးတော်မူခဲ့ရာ သီတင်းသုံးရာရွာကို အစွဲပြု၍ ငါးခုန်ဆရာတော် "အာဒိစ္စဝံသာဘိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ ပဌမငါးခုန်ဆရာတော်ကြီးကိုထောက်၍ ဒုတိယမြောက်ဖြစ်ရကား ဒုတိယ ၂-မျိုးပေါင်းစပ်၍ ငါးခုန်ဆရာတော်ဟု တွင်လေသည်။

## ကျမ်းဂန်များ ပြုစုတော်မူခြင်း

ကျမ်းဂန်များစွာတို့ကို ပြုစီရင်တော်မူခဲ့သည်။ ၎င်းတို့မှာ—

၁။ သဒ္ဒလက္ခဏဝိဘာဝိနီခေါ် သဒ္ဒါကြီးဂဏ္ဌိ၊

၂။ မဟာဗောဓိဝံသနိဿယ၊

၃။ ဝုတ္တောဒယဆန်းနိဿယ၊

၄။ အဘိဓမ္မတ္ထသင်္ဂဟ... 

စသည်တို့ဖြစ်ကုန်၏။ ယင်းကျမ်းများအနက် ဝုတ္တောဒယဆန်းနိဿယကို သုမနာစာရအမည်ရှိသော နေရင်းဆရာတော် တောင်းပန်သဖြင့် စီရင်တော်မူခဲ့သည်။ အဇဗဂ္ဂုသာရဒီပနီနိဿယကို အရှင်သီလာစာရအမည်ရှိသော ရဟန်းတော် တောင်းပန်၍ စီရင်တော်မူခဲ့လေသည်။ ကျမ်းဦး၌—

၁။ ဝိတဖေဂ္ဂုဟိ သာရေဟိ၊ ပရိဝါရံ သမန္တတော။
ဝနပ္ပတိ ယထာ ဗုဒ္ဓံ၊ သိရသာဟံ ဘိဝါဒိယ။

၂။ သီလာစာရေန နာမေန၊ သာသနတ္ထာဘိကင်္ခိနာ။
ယာစိတောဝ ကရိဿာမိ၊ အဇဗဂ္ဂုသာရဒီပနီ။
ယံ နိဿယံ ရစယိဿာမိ၊ နိသာမေထ တံ သာဓဝေါ—

ဟူသော ၂-ဂါထာခွဲဖြင့် ပဏာမ၊ အဘိဓာန၊ ပဋိညာဉ်ပြုတော်မူခဲ့လေသည်။ ကျမ်း၏အဆုံး၌လည်း—

စက္ကဝါဠေသွနန္တေသု၊ ဗုဒ္ဓါဒီနံ ဝိကာသိဘံ၊
ပျာယံ ဒီပေသု ဥက္ကဋ္ဌံ၊ တဇ္ဇ နဝသဘာဓယာဇနံ—

စသော ၁၅-ဂါထာခွဲဖြင့် နိဂုံးအုပ်တော်မူခဲ့လေသည်၊

## သမ္မာသမ္ဗုဒ္ဓဘုရားအလောင်းတော်

ဆရာတော်သည် သမ္မာသမ္ဗုဒ္ဓသဗ္ဗညုဆုကြီးပန် ပုဂ္ဂိုလ်မြတ်ဖြစ်တော်မူသည်။ ယင်းသို့ဖြစ်ကြောင်း—

နာယကဿေန သုသမ္ဗုဇ္ဈံ၊ သီဟဒိနေ သုနိဋ္ဌိတော။
ဣဒံ ပုညဗလ မေ သေဋ္ဌံ၊ သမ္မာသမ္ဗောဓိ အာဝဟံ။
ယာဝ သိဝံ အပ္ပတ္တောမိ၊ ပရိပူရေယျ ပါရမီ—

ဟူသော ၁-ဂါထာခွဲဖြင့် ကိုယ်ဘိုင် ဖော်ပြတော်မူခဲ့လေသည်။

ဆရာတော်သည် သက္ကရာဇ် ၁၂၁၀-ခုနှစ်၊ တန်ခူးလဆန်း ၁၅-ရက်နေ့တွင် ပုဂံမင်းတရားလှူဒါန်းသည့် "ဒီပါလင်္ကာရအဘိသိရိဓဇ မဟာဓမ္မရာဇဂုရု"ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော်မူခဲ့လေသည်။

### ဘဝနေတ်ထံ ပျံလွန်တော်မူခြင်း

ဆရာတော်သည် စာပေကျမ်းဂန်ချပို့တော်မူခြင်း၊ ကျမ်းစာရေးသားစီရင်ခြင်းစသောကိစ္စကို အပတ်တကုတ် ပြုလုပ်တော်မူခဲ့လေသည်။ ယင်း သာသနာအလုပ်များကို ကြိုးကုတ်အားထုတ်စဉ် ပစ္ဆိမအရွယ်တွင် ဘဝနတ်ထံ ဝင်စံတော်မူခဲ့လေသည်။

### သံဝေဂယူရန်

ဒီပင်္ကရော သမ္ဗုဒ္ဓေါပိ၊ ပယာတော သုဒီပံ သုခီ။
သုခီ ဒီပါလင်္ကာရောပိ၊ ပဝိဋ္ဌော မစ္စုနော မုခံ။
တပ္ပဂုဏပုဂ္ဂလေသု၊ မာဒိသေသု ကထာဝ ကာ။

ဒီပင်္ကရော၊ ပညာအရောင်အလင်းကို ပြုတော်မူတတ်သော။ သုခီ၊ ငြိမ်းဖက်မငြိုး ပညာရှင်တဆူ ဖြစ်တော်မူသော။ သမ္ဗုဒ္ဓေါပိ၊ သမ္မာသမ္ဗုဒ္ဓ မည်ရထင်ရှား ဘုရားရှင်သည်လည်း။ သုဒီပံ၊ ကိုင်းကျွန်းပမာ မှီရာကောင်း မြတ်သောနိဗ္ဗာန်ကျွန်းအင်သို့။ ပယာတော၊ ကြွရောက်တော်မူချေပြီ။ သုခီ၊ ပညာရှိကဝိဖြစ်တော်မူသော။ ဒီပါလင်္ကာရောပိ၊ အရှင်ဒီပါလင်္ကာရ ငါးခုန်ဆရာတော်သည်လည်း။ မစ္စုနော မုခံ၊ သေမင်းခံတွင်းသို့။ ပဝိဋ္ဌော၊ ဝင်ရောက်တော်မူရချေသေး၏။ တပ္ပဂုဏပုဂ္ဂလေသု၊ ဂုဏ်ငယ်သောပုဂ္ဂိုလ်ဟုဆိုအပ်ကုန်သော။ မာဒိသေသု၊ ငါနှယ်ပုဂ္ဂိုလ်တို့၌။ ကထာဝ၊ ဆိုဖွယ်သည်သာလျှင်။ ကာ၊ အဘယ်မှာရှိပါအံ့နည်း။

## ဒုတိယဗားကရာသာသနာပိုင်ဆရာတော်ဘုရားကြီး၏ တပည့် ဗန်းမော်ဆရာတော် အရှင်ပဏ္ဍိတ

ဗန်းမော်ဆရာတော် အရှင်ပဏ္ဍိတသည် ရွှေတောင်မြို့ ကွပ်ညှပ်ရွာ၌ သက္ကရာဇ် ၁၁၆၈–ခုနှစ်တွင် ဖွားမြင်တော်မူခဲ့သည်။ ငယ်မည် မောင်ဖြူဝင် ဖြစ်သည်။ အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန် ထမ်းဆောင် တော်မူခဲ့သည်။

စာပေအရာ လွန်စွာနိုင်နင်းတော်မူသော ဒုတိယ ဗားကရာသာသနာပိုင် ဆရာတော်ဘုရားကြီး အရှင်ပညာဇောတထံ ရောက်ရှိ၍ နှစ်ပေါင်းများစွာ ဆိုဝါ လိုက်ဝါဖြင့် ပိဋကတ်ကျမ်းဂန်အရပ်ရပ်ကို တတ်မြောက်အောင် သင် ယူတော်မူခဲ့သည်။

ဘိုးတော်မင်းတရား၏ မိဖုရား ဝေသာလီမင်းသမီး ဗန်းမော်မြို့စား ဥပေါ တရာ ဆောက်လုပ်လှူဒါန်းသော ဗန်းမော်ကျောင်းတိုက်၌ သီတင်းသုံးတော် မူသဖြင့် ဗန်းမော်ဆရာတော်ဟု ထင်ရှားလေသည်။ စာပေကျမ်းဂန်တတ် မြောက်ကျွမ်းကျင်တော်မူသဖြင့် "ပဏ္ဍိတဝံသာဘိဓဇမဟာဓမ္မရာဇဂုရု" ဟူ သော မင်းတုန်းမင်းတရား လှူဒါန်းသည့် ဘွဲ့တံဆိပ်တော်ကို အလှူခံ တော်မူရလေသည်။

ဆရာတော်သည်—

၁။ ကထိနဝိသောဓနီကျမ်း၊
၂။ ဝိနယဓရေဗဟုဿုတဝိနိစ္ဆယကျမ်း၊
၃။ ဝိဝဋ္ဋဘေဒနီကျမ်း၊
၄။ သီမာဘေဒဝိဘာဝနီကျမ်း၊
၅။ အသုကဒဿနဝိနိစ္ဆယကျမ်း၊
၆။ ဥပုသ်အဆုံးအဖြတ်ကျမ်း—

စသည်တို့ကိုလည်း ပြုစုစီရင်တော်မူခဲ့သည်။

သက်တော် ၇၁–နှစ်ရှိရာ သက္ကရာဇ် ၁၂၃၉–ခုနှစ်၊ ဝါဆိုလတွင် သီတင်း သုံးရာ စစ်ကိုင်းတောင်ရိုး ခိုတောင်တောရ (ဗန်းမော်ချောင်)၌ ပျံလွန်တော် မူခဲ့လေသည်[၁]။

---

၁။ အကျယ် ဗဟန်းမော်တိုက် သာသနာဝင်ကြည့်၊ စစ်ကိုင်းသာသနာဝင် ၁၃၇၊ ၁၃၉–လည်း ကြည့်။

## သံဝေဂယူရန်

ပညာရှိသူ၊ မရှိသူ၊ သေသူများလှပြီ။
သေနေ့စေ့က၊ တနေ့ကျ၊ သေရကြပေမည်။

## ဒုတိယ ဗားကရာသာသနာပိုင်ဆရာတော် အရှင်ပညာဇောတ၏တပည့် ဇာဂရာဘိဝံသ တိပိဋကရေမဟာဝမ္ပဇာဇာဓိရာဇဂုရု အရှင်ဇာဂရ

ဆရာတော်သည် မန္တလေးမြို့ ဒက္ခိဏာရာမဘုရားကြီးတိုက်ကြီး၏ သမုဋ္ဌာပက ဆရာတော် ဖြစ်တော်မူသည်။ ရာဇာဓိရာဇဂုရု ဘွဲ့တံဆိပ်တော် ၃-ထပ်ရ ပုဂ္ဂိုလ်မြတ် ဖြစ်တော်မူလည်။

မိတ္ထီလာမြို့နယ် ကဖြူရွာ၌ အဖ ဦးရွှေဘ အမိ ဒေါ်မင်းရတို့မှ သက္ကရာဇ် ၁၁၇၂-ခုနှစ်တွင် ဖွားမြင်တော်မူခဲ့သည်။ အမရပူရမြို့ ဝိဇယာရာမတိုက်တော် ဒုတိယ ဗားကရာသာသနာပိုင်ဆရာတော်ထံ ကြာမြင့်စွာ သီတင်းသုံးတော်မူ၍ ပညာသင်ကြားတော်မူခဲ့သည်။ သာသနာပိုင်ဆရာတော်ကြီး အသောကာရာမထိုက်သို့ ပြောင်းရွှေ့သီတင်းသုံးတော်မူရာအခါ၌သည်း ဆရာတော်နှင့်အတူ လိုက်ပါသီတင်းသုံး၍ စာပေချပို့တော်မူခဲ့သည်။ သက္ကရာဇ် ၁၂၀၉-ခုနှစ်တွင် ဒက္ခိဏာရာမဘုရားကြီးတိုက်ကို အလှူခံတော်မူ၍ စာပေချပို့ကျမ်းဂန်ရေးသား သာသနာပြုတော်မူခဲ့သည်။ ပါစိတျာဒိယောဇနာ ဒီပဝံသ ဋီကာ စသည့်ကျမ်းပေါင်း ၂၀-ကျော်ကို ပြုစုစီရင်တော်မူခဲ့သည်။ ၁၂၃၆-ခုနှစ်တွင် ဘဝနတ်ထံ ပျံလွန်တော်မူသည်။ ဒုတိယ ဗားကရာသာသနာပိုင်ဆရာတော် အရှင်ပညာဇောတ၏ ထိပ်တန်းတပည့် ဖြစ်တော်မူသည်။[၁]

## အသောကာရာမတိုက် စာချ ရေစကြိုဆရာတော် အရှင်ဝရသမ္ဘောဓိ

ရေစကြိုဆရာတော်ဟု ထင်ရှားသော ဆရာတော် အရှင်ဝရသမ္ဘောဓိသည် ဒုတိယ ဗားကရာသာသနာပိုင် ဆရာတော်လက်ထက်က အသောကာရာမတိုက်၌ စာပေကျမ်းဂန် ချပို့ သီတင်းသုံးတော်မူခဲ့သည့် ဆရာတော် ဖြစ်တော်မူသည်။

---

၁။ အကျယ် မန္တလေးသာသနာဝင်ကျမ်း ဒုတိယတွဲ ဒက္ခိဏာရာမသာသနာဝင် ကြည့်။

ရဟန္တာပုဂ္ဂိုလ်တို့၏။ ဂတိ၊ ဖြစ်ရာအရင်ကို။ ပညာပေ့တို၊ အပြားအားဖြင့် သိစေခြင်းငှာ။ ဝါ၊ ပြည့်တင်ခြင်းငှာ။ နတ္ထိ-န ဥပလဗ္ဘတိ၊ မရအပ်။ ဝါ၊ မသိအပ်။

ဤသည်လျှင် ဆရာတော့်အနက်ဉာဏ်ကို ရိပ်စားမိရန် အနေကဇာတိသံသာ ရံစသော ဂါထာ ၄-ဂါထာအနက် ဖော်ပြချက်တည်း။

ယင်းသုတ်မဟာဝါအဋ္ဌကထာနိဿယသစ်၏ အဆုံး၌—

"သီလဖြူစွာ သမာဓိတည်ကြား ပညာအားကြောင့် ကြီးမား မြင့်မြတ် ဂုဏ်သတ္တိသတင်း နေသို့ဝင်းသား သဲအင်းဘုန်းဘုရား၏ ပညာရင်နို့ မပြတ်စို့သော မြိုင်ရွာဌာန အရှင်ပညာဇောတ အမည်ရှိသော ငါသည် ထိုဆရာသခင် ကျေးဇူးရှင်ဘုန်းဘုရား၏ တိုက်တွန်းခြင်းကို အကြောင်းပြု၍ရင်း၊ သာသနာတော်၏ မြင့်ရှည်စွာ တည်အံ့သည်ကို အကြောင်းပြု၍ရင်း စီရင်အပ်သော သုတ်မဟာဝါအဋ္ဌကထာ နိဿယ ဒုတိယအုပ်သည် ပြီးဆုံးခြင်းသို့ ရောက်သည်"

၁။ ကူးခန်းတျှဝှယပ္ပူဋ္ဌေ၊ ပုရတ္ထိမဒိသာယ စ။
ဒိယစုယဋ္ဌိကာသီမှိ၊ သဲအင်းတျှဝှယဂါမကေ။

၂။ သဲအင်းတိုက်ဣတိ ဝိဿုတေ၊ ရမ္မေ သာဓူနမာလယေ။
ဝသတျာနေကသိဿာနံ၊ ဝါစေန္တော ပိဋကတ္တယံ။

၃။ သူရိယောတိ မဟာထေရော၊ ဇိနစက္ကေဝိသေဝိယော။
သဓိလဇ္ဇဝဒမ္မေဟိ၊ မာနိတော သဒ္ဓိဝိညူဟိ။

၄။ တဿူပဒေသလဒ္ဓေန၊ ပညာဇောတောတိ နာမိနာ။
သာသနံတ္ထာဘိကာမေန၊ ဒသာဘဿေန ဘိက္ခုနာ။

၅။ မဟာဝဂ္ဂဏ္ဏနာယ၊ နိဿယော သုဋ္ဌု သာဓိတော။
သန္တာရေတ္ဗာန တိက္ခတ္တုံ၊ ဦနာဓိကနိဝါရဏံ။

၆။ ပဋ္ဌာ လေခါ စရိယာ စ၊ သဒ္ဒမ္မံသပါလကာ။
သန္တာရေန္တု ဒွတ္တိက္ခတ္တုံ၊ သာသနဿ သုဗုဒ္ဓိယာ—

ဟူသော မြန်မာလင်္ကာစကားပြေနှင့် ၆-ဂါထာပါ၌ နိဿယတို့ဖြင့် နိဂုံးအုပ်တော်မူခဲ့လေသည်။ ယင်း ၆-ဂါထာပါ၌နိဿယတွင် ဒိဃစုကာသိမ်၊ အခွဲနှင့်တကွ တာနှစ်ထောင်ခန့်ပမာဏရှိသော။ ဝါ၊ တာတထောင့်ငါးရာခန့်

၁။ သုတ်မဟာဝါအဋ္ဌကထာနိဿယ၊ ၁၊ ၁၂၉-၁၃၀။

အတိုင်းအရှည်ရှိသော။ (ကာသိ သဒ္ဒါထောင်ပေါ။ ထိုကာသိသဒ္ဒါနှောင် ပမာဏကျေ။ ခုနစ်ထောင်တာ တထောင်လျှင် တတိုင်ဖြစ်သောကြောင့် တတိုင်ခွဲခန့်ရှိ၏ဟူလို၊) "သခိလဇ္ဇဝဒမ္မေဟိ၊ ပြေပြစ်သည်အဖြစ် ဖြောင့်မတ်သည်၏အဖြစ် စက္ခုအစရှိသော ဂုဏ်ခြေတို့ကို ဆုံးမခြင်းတို့ဖြင့်။ သဗ္ဗဝိညူဟိ၊ ခပ်သိမ်းသောပညာရှိတို့သည်။ မာနိတော၊ မြတ်နိုးအပ်သော။ သူရိယောတိ။ သူရိယဟူသော။ ယော မဟာထေရော၊ အကြင်မဟာထေရ်မြတ်သည်။ အနေကသိဿာနံ၊ များစွာသော တပည့်သားတို့အား။ ပိဋကတ္တယံ၊ သုံးပုံပိဋကတ်၌ အကျုံးဝင်သောပါဠိ အဋ္ဌကထာ ဋီကာလက်သန်း ဆန်းအလင်္ကာ သဒ္ဒါ ကလပ် ဖြိုးဟတ်ရာဇမတ္တဏ် အစရှိသော ကျမ်းဂန်အထူးကို။ ဝါစေန္တော၊ ချပို့လျက်။ ဝသတိ၊ သီတင်းသုံးနေတော်မူ၏" ဟူသော စကားရပ်ဖြင့် ဆရာတော် အရှင်ပညာဇောတ၏ ဉာဏ်ရည် ဉာဏ်သွား စွမ်းပကားထက်မြက်ပုံ၊ သဲအင်းသာသနာပိုင် ဆရာတော်ဘုရားကြီး အရှင်သူရိယ၏ ကျမ်းမျိုးစုံ နိုင်နင်း ချပို့ပုံကိုလည်း သိနိုင်ပေသည်။

## အလွန်လျှင် ဉာဏ်ထက်မြက် ငယ်စဉ်က စာပေတတ်မြောက်

ဤနိဂုံးလာ "သာသနတ္ထာဘိကာမေန၊ ဒသဝဿေန ဘိက္ခုနာ" ဟူသော ၄-နံပါတ်လာ ဂါထာစကားရပ်ဖြင့် ဆရာတော် အရှင်ပညာဇောတ၏ ဉာဏ်ဝဇီရ လက်လက်ယှပုံ အသက်အရွယ် နုနယ်ငယ်လျစဉ်က စာပေကျမ်းဂန်တတ်မြောက်ပုံကို သိနိုင်ပေသည်။ ငယ်စဉ်က စာပေတတ်မြောက်သဖြင့် ဤသုတ်မဟာဝါ အဋ္ဌကထာ နိဿယသစ်ကို ၁၀-ဝါရက ရေးနိုင်ခြင်း ဖြစ်သည်။

## သတ္တိဗျတ္တိစွယ်စုံရှိသော ဆရာတော်

ဗားကရာဆရာတော် အရှင်ပညာဇောတကား ငယ်စဉ်ကတည်းကပင် သတ္တိဗျတ္တိ စွယ်စုံရှိသော ပုဂ္ဂိုလ်အာဇာနည် ဖြစ်တော်မူသူပေတည်း။ ပုဂံမြို့ ရွှေကျောင်းဆရာတော် အရှင်ဂုဏာဝဋ္ဋံသက၏ သုတ်မဟာဝါ အဋ္ဌကထာနိဿယ ပခန်းကြီးမြို့ စီရင်စု နေရင်းရွာဇာတိ မဏိရတနာတိုက် ဆရာတော် အရှင်အရိယာလင်္ကာရ၏ သုတ်မဟာဝါ အဋ္ဌကထာနိဿယတို့ ရှိပါလျက် ဤသုတ်မဟာဝါ အဋ္ဌကထာနိဿယကို ရေးသားစီရင်ရသည်မှာ သာမန် သတ္တိ ဗျတ္တိ ပိုင်ရှင်မဟုတ် အလွန်လျှင် ထူးခြားပြောင်မြောက်သည့် သတ္တိဗျတ္တိပိုင်ရှင်ဖြစ်ကြောင်း သိသာသည်။

## ပေ ၂-ထုပ်၊ စာအုပ် ၂-အုပ်

ဆရာတော်သည် မဟာပဓာနသုတ်၊ မဟာနိဒါနသုတ်၊ မဟာပရိနိဗ္ဗာနသုတ် ၃-သုတ်၊ ပေတထုပ် စီစဉ်တော်မူခဲ့သည်။ မဟာသုဒဿနသုတ်အစရှိသော ကျန် ၇-သုတ်ကို တထုပ်စီ စီစဉ်တော်မူခဲ့သည်။ ခရစ်သက္ကရာဇ် ၁၉၁၈ ခုနှစ်တွင် ရန်ကုန်မြို့ ဇမ္ဗူမိတ်ဆွေ ပိဋကတ်ပုံနှိပ်တိုက်က ရိုက်နှိပ်သောအခါတွင်လည်း ဆရာတော်စီစဉ်ခဲ့သည့်အတိုင်း ရှေ့ ၃-သုတ် ပဌမအုပ်၊ နောက် ၇-သုတ်ကို ဒုတိယအုပ်အဖြစ်ဖြင့် ရိုက်နှိပ်ထုတ်ဝေခဲ့ရာ ပဌမအုပ် ရှိုင်ဆိုက် စာမျက်နှာ ၄၇၈-ရှိလေသည်။ ဒုတိယအုပ် ၄၁၃-ရှိလေသည်။ ဒုတိယအုပ်အစ၌ "ဘာဝံ ပူရေတု မေ ဇိနော" ဇိနော၊ ငါးပါးမာရ်အောင် မြတ်ဘုန်းခေါင်သည်။ မေ၊ ငါ၏။ ဘာဝံ၊ အလိုဆန္ဒကို။ ပူရေတု၊ ပြည့်ဝစေသတည်း— ဟူသော အာသီသပတ္ထနာစကား ပါရှိ၏။ စာပေကျမ်းဂန် ပါရဂူပေါက်တတ်မြောက်လိုသူသည် ဖော်ပြပါ သုတ်မဟာဝါ အဋ္ဌကထာနိဿယသစ်ကြီးကို ကြည့်ရှုလေ့လာရာ၏။

မဟာဝဂ္ဂနိဿယော ဟိ၊ သမ္ပုဏ္ဏော သာဓုမာနိတော။
အာကင်္ခတာ ဟိ ပဏ္ဍိစ္စံ၊ တမ္ပိ ပဿန္တု သာဓဝေါ။

### သုတ်ပါထေယျအဋ္ဌကထာနိဿယသစ်

ဆရာတော်သည် ပါထိကဝဂ္ဂအဋ္ဌကထာ (သုတ်ပါထေယျအဋ္ဌကထာ)၏ မှီရာ အတ္ထနိဿယကိုလည်း သက္ကရာဇ် ၁၁၉၅-ခုနှစ်၊ တော်သလင်းလပြည့်ကျော် ၈-ရက်နေ့တွင် ပုရပိုက်သို့ ရေးတင်၍ အပြီးတိုင် စီရင်တော်မူခဲ့သည်။ ယင်း နိဿယသည်လည်း ပုဂံမြို့ ရွှေကျောင်းဆရာတော် အရှင်ဂုဏဝဍ္ဎသက၏ သုတ်ပါထေယျအဋ္ဌကထာနိဿယ နေရင်းဆရာတော် အရှင်အရိယာလင်္ကာရ၏ သုတ်ပါထေယျအဋ္ဌကထာနိဿယကို ထောက်၍ သုတ်ပါထေယျအဋ္ဌကထာနိဿယသစ်ဟု တွင်လေသည်။ ဆရာတော်သည် ဖော်ပြပါ သုတ်ပါထေယျအဋ္ဌကထာနိဿယသစ်ကို အနုသန္ဓေကျမ်းတက်၊ ပဒဝိနိစ္ဆယစသည်ဖြင့် တန်ဆာဆင်၍ ရေးသားစီရင်တော်မူခဲ့လေသည်။ ယင်းအဋ္ဌကထာကိုလည်း ခရစ်သက္ကရာဇ် ၁၉၁၈-ခုနှစ်တွင် ရန်ကုန်မြို့ ဇမ္ဗူမိတ်ဆွေပုံနှိပ်တိုက်က ရိုက်နှိပ်ခဲ့၍ ပဌမတွဲ ဒုတိယတွဲ ၂-တွဲရှိရာ ပဌမတွဲမှာ ရှိုင်ဆိုက် စာမျက်နှာ ၂၃၉၊ ဒုတိယတွဲမှာ ၃၃၈-ရှိလေသည်။ ဆရာတော်သည် ယင်း သုတ်ပါထေယျအဋ္ဌကထာနိဿယကျမ်းဦး၌လည်း—

၁။ မဟာကာရုဏိကော နာထော၊ သတ္တေသု ပဋိကာရုဉ်။
ဟိတွာ အစ္စန္တအဿာဒံ၊ အနဿာသကရာ ဩဿာ။

၂။ လောကနိတ္ထရဏတ္ထာယ၊ သုဒုက္ကရံ ကရိတွာန။
ပတ္တော သမ္ဗောဓိမောဠာရံ၊ ဝန္ဒေ ဝိဘဝပါပေန္တံ။

၃။ ကိလေသမ်သကံ ဓမ္မံ၊ သမ္မာစာရီသု ရက္ခကံ။
သမ္ဗုဒ္ဓေန သုအက္ခာတံ၊ ဝန္ဒေ သမ္ဗုဒ္ဓပူဇိတံ။

၄။ ဝဋ္ဋာစာရကဝိမုတ္တံ၊ သဒ္ဓမ္မဝံသပါလကံ။
သီလာဒိဂုဏသမ္ပန္နံ၊ ဝန္ဒေ သမ္ဗုဒ္ဓဩရသံ။

၅။ သူရိယံ မေ မဟာထေရံ၊ မေတ္တာဒကေန သေစနံ။
ဂရုံ စ သိဿဝစ္ဆန္တံ၊ ဝန္ဒာမိ သိရသာ မီရံ။

၆။ ဗုဒ္ဓဃောသာဘိဓာနေန၊ ပဋ္ဌာနေန မဟီဘလေ။
ထေရေန သုဋ္ဌု ရစိတာ၊ ပါဠိယတ္ထ ဝဏ္ဏနာ။

၇။ ကရိဿံ ယောဇနံ တဿာ၊ ဂဏ္ဍိဋ္ဌာနာ နုသန္ဓိကံ။
အဓိပ္ပာယံ ပကာသေန္တော၊ တံ နိသာမယထ သာဓဝေါ—

ဟူသော ၇-ဂါထာဖြင့် ရတနတ္တယ ပဏာမ၊ အာစရိယပဏာမ၊ ကရဏပ္ပကာရ၊ ပဋိညာဉ်၊ ဥဿျောဇဉ်တို့ကို ဖော်ပြတော်မူခဲ့လေသည်၊ ကျမ်း၏အဆုံး၌လည်း—

၁။ ကူးခန်းတျော့သပုရဿ၊ ပုရတ္ထိမ ဒိသာယ စ။
ဒိသစုယဋ္ဌိကာသိမှိ၊ ဝါလုဝါပိဝှဂါမကေ[၁]။

၂။ တေန နာမေန ဝိဿုတေ၊ ရမ္မေ သာဓူနမာလယေ။
ဝသတော နေကာသိဿာနံ၊ ဝါစေန္တော ပိဋကတ္တယံ။

၃။ ပညာဇောတော မဟာထေရော၊ ဇိနစက္ကေခိသေဝိယော။
သခိလဇ္ဇဝမုဒူဟိ၊ မာနိတော သဗ္ဗဝိဒူဟိ။

၄။ တေန ထေရေန သာခိတော၊ သုဋ္ဌု ပါထေယျဝဂ္ဂဿ။
သံဝဏ္ဏနာယ နိဿယော၊ တိက္ခတ္တုံ သန္ဓာရေတုန။

၅။ ပစ္ဆာ လေခါ စရိယာ စ၊ သဒ္ဓမ္မဝံသပါလကာ။
သန္ဓာရေန္တု ဒ္ဓိဘိက္ခတ္တုံ၊ သာသနဿ ဝိသုဒ္ဓိယာ—

ဟူသော ၅-ဂါထာဖြင့် နိဂုံးအုပ်တော်မူခဲ့လေသည်။

---

၁။ ဝါလုဝါပိဝှဂါမကော=သဲအင်း ဟူသော အမည်ရှိသော ရွာငယ်၌။

## အင်္ဂုတ္တိုရ်ပါဠိတော် နိဿယ

အင်္ဂုတ္တရနိကာယ် (အင်္ဂုတ္တိုရ်ပါဠိ) သည် သုတ်ပေါင်း ၉၅၅၇-သုတ်ရှိ၍ ကျယ်ဝန်းသော နိကာယ်ကြီး (ပါဠိတော်ကြီး) ဖြစ်လေသည်။ ပဉ္စမသံဂါယနာတင်ပြီးချိန်မှစ၍ ကြားမြင့်စွာ အရှင်အနုရုဒ္ဓါ၏ တပည့်စဉ်ဆက်တို့ ချုပ်ကိုင်ထိန်းသိမ်းတော်မူခဲ့ကြကုန်၏။ ဧကကနိပါတ်အစ ဧကာဒသကနိပါတ်အဆုံး ၁၁-နိပါတ် ရှိလေသည်။ ယင်းနိကာယ်ကြီး (ပါဠိတော်ကြီး) မှာ ၃-တွဲ ရှိလေရာ ဧကက၊ ဒုက၊ တိက၊ စတုက္ကနိပါတပါဠိ ၁-တွဲ၊ ပဉ္စက၊ ဆက္က၊ သတ္တကနိပါတပါဠိ ၁-တွဲ၊ အဋ္ဌက၊ နဝက၊ ဒသက၊ ဧကာဒသကနိပါတပါဠိ ၁-တွဲအားဖြင့် ၃-တွဲဖြစ်၏။ ထိုတွင် အင်္ဂုတ္တိုရ် ဧကက၊ ဒုက၊ တိက၊ စတုက္ကနိပါတပါဠိကို အင်္ဂုတ္တိုရ်ပါဠိတော် ပဌမတွဲဟု ခေါ်ကြသည်။ ပဉ္စက၊ ဆက္က၊ သတ္တကနိပါတပါဠိကို အင်္ဂုတ္တိုရ်ပါဠိတော် ဒုတိယတွဲဟု ခေါ်ကြသည်။ အဋ္ဌက၊ နဝက၊ ဒသက၊ ဧကာဒသကနိပါတပါဠိကို အင်္ဂုတ္တိုရ်ပါဠိတော် တတိယတွဲဟု ခေါ်ကြသည်။ ဗားကရာသာသနာပိုင် ဆရာတော် အရှင်ပညာဇောတသည် ဖော်ပြပါ အင်္ဂုတ္တရနိကာယ်ကြီး (အင်္ဂုတ္တိုရ်ပါဠိတော်ကြီး) ၏ မှီရာ အတ္ထနိဿယကို ရေးသား စီရင်တော်မူခဲ့လေသည်။ ဆရာတော်သည် ကျမ်းဦး၌—

၁။ မဟာကာရုဏိကော သတ္ထာ၊ သဗ္ဗေသံ ပဋိကာရုညံ။
ဟိတွာ အစ္စန္တအသာဒံ၊ အနဿာဒကရာ သြဿာ။

၂။ လောကနိဒ္ဒရဏတ္ထာယ၊ သုဒုက္ကရံ ကရိတွာန။
ပတ္တော သမ္ဗောဓိ မောဋ္ဌာရံ၊ ဝန္ဒေ ဝိဘဝပါပေန္တံ။

၃။ ကိလေသမံသကံ ဓမ္မံ၊ သမ္မာစာရိသ ရက္ခကံ။
သမ္ဗုဒ္ဓေန သုအက္ခာတံ၊ ဝန္ဒေ သမ္ဗုဒ္ဓပူဇိတံ။

၄။ ဝဋ္ဋစာရကဝိမုတ္တံ၊ သဒ္ဓမ္မဝံသပါလကံ။
သီလာဒိဂုဏသမ္ပန္နံ၊ ဝန္ဒေ သမ္ဗုဒ္ဓသြရသံ။

၅။ ဒုတိယမ္ဗရာဇေန၊ ဆဒ္ဒန္တနာဂသာမိနာ။
ဌပိတော သောမနေတ္တာယ၊ ဇိနသာသနစက္ကသာ။

---

၁။ နဝသုတ္တသဟဿာနိ၊ ပဉ္စသုတ္တသတာနိ စ။
သတ္တပညာသသုတ္တာနိ၊ သင်္ချာအင်္ဂုတ္တရေ အယံ။ (ဒီ၊ ဋ္ဌ၊ ၁၊ ၂၄။)
နပသုတ္တသဟဿာနိ၊ ပဉ္စသုတ္တသတာနိ စ။
သတ္တပညာသသုတ္တာနိ၊ ဟောန္တိ အင်္ဂုတ္တရာဂမေ။ (အံ၊ ဋ္ဌ၊ ၁။ ၃။)

၆။ လဋ္ဌိတော အဘိဓာနေန၊ ပရိယတ္တိ ဝိသာရဒေါ။
ဝိသုဒ္ဓါစာရသီလော ယော၊ ပရပ္ပဝါဒမဒ္ဒနော။

၇။ ဟုတွာ ပဋ္ဌာကာရေဟိ၊ အာစေရော သာသနေ မမံ။
ဝုဍ္ဎိံ ဖီတိံ စ ပါပေသိ၊ နိရန္တရံ နုမာနယိ။

၈။ တံ နတွာ သိရသာ ဓီရံ၊ မဟာသေရံ သုသံဝုတံ။
သာသနေ မူလဉာဏီနံ၊ နုဂ္ဂါဟကာဋ္ဌ မေ ဂရုံ။

၉။ ဓရမာနကာလေ သော၊ အင်္ဂုတ္တရာဂမံ သမ္မာ။
ဝိသောဓေဟိဘိ အပ္ပေသိ၊ သံသန္ဒေတွာန ပါဠိဟိ။

၁၀။ သာတ္ထကံ တံ ဝိသောဓေန္တော၊ တမ္ဗဏ္ဏနာယ နိဿယံ။
ကတွာန တဿာဂမဿ၊ သာဓုံ ကရောမိ နိဿယံ။
တံ မေ သက္ကစ္စ သာဓဝေါ၊ နိဿာမန္တု မဟာဓီရေ—

ဟူသော ၁၀-ဂါထာခွဲဖြင့် ရာဇနတ္တာယပဏာမ၊ အာစရိယပဏာမ၊ ဆရာဖြစ်တော်မူသော သဲအင်းသာသနာပိုင် ဆရာတော်ဘုရားကြီးက သရဏဂုံပေး၍ ရှင်ပြုပေးခြင်း၊ ကမ္မဝါဖတ်၍ ပဉ္စင်းခံပေးခြင်း၊ ဥပဇ္ဈာယ်ပေးခြင်း၊ နိဿယည်းပေးခြင်း၊ စာပေကျမ်းဂန် ချပို့ခြင်း ဟူသော ၅-ပါးသော အခြင်းအရာတို့ဖြင့် ချီးမြှောက်ပုံ၊ သဲအင်းဆရာတော်ဘုရားကြီး သက်တော်ထင်ရှားရှိစဉ်ကပင် အင်္ဂုတ္တရနိကာယ်ကို အဖွင့်သံဝဏ္ဏနာ အဋ္ဌကထာ ဋီကာတို့နှင့် တိုက်ဆိုင်၍ ပြင်ဆင်သုတ်သင်ရန် တိုက်တွန်းတော်မူကြောင်း ကျမ်းပြုပုံ အခြင်းအရာ၊ ပဋိညာဉ် ဥယျောဇဉ်တို့ကို ဖော်ပြ၍ ခမ်းနားစွာ ဂန္ထာရမ္ဘ ပြုတော်မူခဲ့လေသည်။ ဖော်ပြပါ အင်္ဂုတ္တိုရ်ပါဠိတော် စတုက္ကနိပါတ်နိဿယကြီး ပြီးချိန်မှာ သက္ကရာဇ် ၁၂၂၁-ခုနှစ် ဝါခေါင်လဆန်း ၉-ရက်နေ့က ဖြစ်သည်။

ပဉ္စကနိပါတ်အဆုံး အဌမထုပ် သတ်မှတ်တော်မူခြင်း

ကျမ်းပြုဆရာတော် ဗားကရာသာသနာပိုင်ဆရာတော်ဘုရားကြီး အရှင်ပညာဇောတသည် ပဉ္စကနိပါတ်အဆုံးတွင် ပဌမထုပ်အဖြစ် သတ်မှတ်တော်မူခဲ့လေသည်။ ယင်းသို့ဖြစ်ကြောင်း—

ဇမ္ဗူဒိပ်ကျွန်း၏ အချက်အချာ အမရပူရရွှေမြို့တော်၌ ကုန်းဘောင်အလောင်းမင်းတရားကြီးအဆက်အနွယ်မှ ဆင်းသက်လာသော ကိုးဆက်မြောက်ဖြစ်သော အမရပူရ စတုတ္ထနန်းစံ ကနောင်ဇမင်းမြတ်သည် မင်္ဂလာအိမ်တော်စံသည်မှစ၍ အစဉ်အတိုင်း ကိုးကွယ်တော်မူ၍ အထွတ်အမြတ်သို့ရောက်လျှင် သက္ကရာဇ် ၁၂၁၃-ခုနှစ် နတ်တော်လပြည့်

တနင်္ဂနွေနေ့ သာသနာတော်မြတ်ကို ကြည့်ရှုစောင့်မစိမ့်သောငှာ "ပညာဓဇော တာဘိဝံသသိရိပဝရာလင်္ကာရ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု" ဟူသော တံဆိပ်တော်နှင့်တကွ သာသနာတော်မြတ်ကို အပ်နှင်းတော်မူသဖြင့် ကိုးကွယ်တော်မူအပ်သော သံဃာဓိပတိသံဃရာဇာ ဖြစ်သောဆရာတော်သည် စီရင်ရေးသားအပ်သောအင်္ဂုတ္တရနိကာယ် ပါဠိတော်၌ ဧကကအစ[၁] ပဉ္စကအဆုံးရှိသော ပါဠိတော်မြတ်၏ မြန်မာတို့၏ မှီရာနိဿယ ပဌမထုပ်သည် သာသနာတော် ၂၃၉၅-ခုနှစ်၌ ပဉ္စင်္ဂုတ္တရပါဠိတော်နိဿယမူသစ်ကို ရေးကူး၍ ပြီးအောင်မြင်သည်—

ဟု ပါရှိသောစကားဖြင့် သိသာသည်[၂]။

ဆရာတော်သည် ပဉ္စကနိပါတ်အင်္ဂုတ္တိုရ်ပါဠိတော်နိဿယအပြီး ဆက္ကနိပါတ်နိဿယစသည်ကို မပြုမစီရင်မီ ရှေးဦးစွာ—

၁။ ဆသာဓာရဏဳကော ဗုဒ္ဓါ၊ ဒေသော အင်္ဂုတ္တရာဂမံ။
ဆင္ဂုဏ်ပါဠိအာဒိကံ၊ အာဂမံ သုဝိသောဓိယ။

၂။ ကရိဿံ သံဃရာဇာဟံ၊ ဒုတိယံ နိဿယံ သုဘံ။
တံ သာဓဝေါ နိသာမေထ၊ ပဿထ ဉာဏစက္ခုနာ။

ဆသာဓာရဏဳကော၊ အာသယာနုသယဉာဏ်အစရှိသော ခြောက်ပါးသော အသာဓာရဏဉာဏ်နှင့် ပြည့်စုံတော်မူသော။ ဗုဒ္ဓေါ၊ မြတ်စွာဘုရားသည်။ ဆင္ဂုဏ်ပါဠိအာဒိံ၊ ခြောက်ပါးသောအင်္ဂါနှင့် ပြည့်စုံသော ဆင္ဂုဏ်တ္တရပါဠိ အစရှိသော။ ယံ အင်္ဂုတ္တရာဂမံ၊ အကြင်အင်္ဂုတ္တရနိကာယ်ကျမ်းကို။ ဒေသေသိ၊ ဟောတော်မူပြီ။ သံဃရာဇာ၊ သံဃရာဇာဖြစ်သော။ အဟံ၊ ငါသည်။ တံ အာဂမံ၊ ထိုဆင္ဂုဏ်တ္တရပါဠိအစရှိသော အင်္ဂုတ္တရနိကာယ်ကျမ်းကို။ သုဝိသောဓိယ၊ ပုဒ်ပါဌ်အက္ခရာ မှန်ကန်စွာ သုတ်သင်၍။ တဿ အာဂမဿ၊ ထိုဆင္ဂုဏ်တ္တရပါဠိအစရှိသော အင်္ဂုတ္တရနိကာယ်ကျမ်း၏။ သုဘံ၊ အနက်သဒ္ဒါ မှန်ကန်စွာပြ၍ ကောင်းမြတ်သော။ ပဋ္ဌဗန္ဓေန၊ အထုပ်ဖွဲ့သောအားဖြင့်။ ဒုတိယံ၊ နှစ်ခုမြောက်သော။ နိဿယံ၊ မြန်မာတို့၏ မှီရာနိဿယကို။ ကရိဿာမိ၊ ပြုပေအံ့။ တံ၊ ထိုမြန်မာတို့၏မှီရာနိဿယကို။ သာဓဝေါ၊ သူတော်ကောင်းဖြစ်ကုန်သော။ တုမှေ၊ သင်တို့သည်။ နိသာမေထ၊ စိတ်နှလုံး၌ သိမ်းထားကုန်လော့။ ဝါ၊ ထားကုန်လင့်။ ဉာဏစက္ခုနာ စ၊ ဉာဏ်တည်းဟူသော မျက်စိဖြင့်လည်း။ ပဿထ၊ ရှုကြည့်ကုန်လော့—

---

၁။ ထိုစဉ်က ဧကကကို ဧကွေ-ဟု ရေးသည်။

၂။ အင်္ဂုတ္တိုရ်ပါဠိတော်နိဿယ၊ ၂။ ၂၀၇။

ဟူသော ၂-ဂါထာပါဠိနိဿယဖြင့် ပဌိညာဉ် ဥဒါန်းကျူးတော်မူခဲ့လေသည်။ ဆရာတော်သည် အင်္ဂုတ္တိုရ်သတ္တကနိပါတ်နိဿယရေးအပြီး အောက်ပါအတိုင်း ဆုတောင်းပန်ထွာ ပတ္ထနာပြုတော်မူခဲ့လေသည်။

## သတ္တကနိပါတ်နိဿယ အပြီးဆုတောင်း

ဤကမ္မိနာ ပုညကမ္မေန စ၊ ဤသို့ ယခု ရေးသားပြုစုရသော ကောင်းမှုကုသိုလ်ကံကြောင့်။ နိဗ္ဗာနဂတံ၊ နိဗ္ဗာန်သို့ ရောက်သည့်တိုင်အောင်။ ဘဝါဘဝေ၊ ဘဝတိုင်း ဘဝတိုင်း၌။ ဓမ္မိကမနုဿဒေဝရာဇာနံ၊ တရားစောင့်သော လူမင်း နတ်မင်း ဗြဟ္မာမင်းတို့၏။ ဗြဟ္မဝိဟာရံ၊ မေတ္တာကရုဏာ မုဒိတာ ဥပေက္ခာ အစရှိသော ဗြဟ္မစိုရ်တရားကို။ ပုရက္ခိတ္တွာ၊ ရှေ့သွား၍။ ဓမ္မေန သမေန၊ တရားနှင့်အညီ၊ ရက္ခိတဗ္ဗာနေ၊ ကြည့်ရှုစောင့်ရှောက်ရာဖြစ်သော။ ကုလသေဋ္ဌေ၊ မြတ်သောအမျိုး၌။ သုရူပယောသဘောဂေဟိ၊ လွန်ကဲထူးမြတ်သော အဆင်းအသံ အခြံအရံစည်းစိမ်ဥစ္စာ ရာဇနာမျိုးအပေါင်းတို့နှင့်ရှင်း။ တိက္ခိန္ဒြိယေဟိ၊ ထက်မြက်လွန်ကဲသော သဒ္ဓါပညာဝီရိယသမာဓိဟု ဆိုအပ်သော ဣန္ဒြေတို့နှင့်ရှင်း။ သမ္ပန္နော၊ ပြည့်စုံသည်။ ဘဝါမိ၊ ဖြစ်ရပါလို၏။ အသန္တေ၊ စဉ်းလဲကောက်ကျစ် ဆိုးညစ်ကြမ်းတမ်းသော လူ နတ်ယုတ်တို့ကို။ ဇိဂုစ္ဆိတော၊ စက်ဆုပ်လျက်။ အာရကာ၊ ဝေးစွာ။ ပရိဝဇ္ဇေမိ၊ ရှောင်ကြဉ်နိုင်ရပါလို၏။

## အင်္ဂုတ္တိုရ်ပါဠိတော်နိဿယ ပြီးချိန်

အင်္ဂုတ္တိုရ်ပါဠိတော်နိဿယ ပြုစီရင်၍ပြီးချိန်မှာ သက္ကရာဇ် ၁၂၀၅-ခုနှစ်က ဖြစ်သည်။ ဆရာတော်သည် ဤစာရေးရ မြတ်ပုညကြောင့် အင်္ဂုတ္တိုရ်ဝက၏ အခြေအမြစ် အရင်းစစ် ဖြစ်ရလိုကြောင်း "အင်္ဂုတ္တိုရ်ဝကပါဒကံ၊ အင်္ဂုတ္တိုရ်ဝက၏ အခြေအမြစ် အရင်းစစ်သည်။ ဟောတု၊ ဖြစ်စေသတည်း" ဟူသော စကားဖြင့် တောင်းဆုခြွေတော်မူခဲ့သည်[၁]။ ဆရာတော်သည် ယင်းအင်္ဂုတ္တိုရ်ပါဠိတော်နိဿယကို "တေဇာဘိဓဇမဟာဓမ္မရာဇဂုရု" တံဆိပ်တော်ရ တပည့်ကြီးကို လိုက်နာရေးကူးစေ၍ စီရင်တော်မူသည်[၂]။

---

၁။ အင်္ဂုတ္တိုရ်နိဿယ၊ ၂၊ ၄၉၀။

၂။ အင်္ဂုတ္တိုရ်ပါဠိတော် နိဿယ၊ ၃၊ ၅၂၀။

## ဘွဲ့တံဆိပ်တော် ၅-ထပ်ရ ဆရာတော်

ဆရာတော်သည် ပညာလည်းလွန်စွာတတ်မြောက် အလွန်လျှင် ဘုန်းကံကြီးမား ထူးခြားသော ပုဂ္ဂိုလ်မြတ်ဖြစ်တော်မူသည့်အလျောက်—

၁။ ပညာဇောတာဘိဓဇမဟာဓမ္မရာဇာဓိရာဇဂုရုဘွဲ့တံဆိပ်တော်။

၂။ ပညာဇောတာဘိသီရိပဝရာလင်္ကာရဓမ္မသေနာပတိမဟာဓမ္မရာဇာဓိရာဇဂုရုဟူသော တံဆိပ်တော်။

၃။ ပညာဇောတာဘိသီရိပဝရဝိဇယာလင်္ကာရဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရုဟူသော တံဆိပ်တော်။

၄။ ပညာဇောတာဘိသီရိသဒ္ဓမ္မပါလအရိယဝံသဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်။

၅။ ပညာဇောတ ဓမ္မသီရိကဝိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်—

အားဖြင့် ဘွဲ့တံဆိပ်တော် ၅-ကြိမ် အလှူခံရရှိတော်မူရခြင်း ဖြစ်လေသည်။ ဒုတိယ ဗားကရာသာသနာပိုင်ဆရာတော် အရှင်ပညာဇောတ၏ အင်္ဂုတ္တိုရ်ပါဠိတော် နိဿယ နိဂုံးလာ အောက်ပါအထုပ္ပတ္တိစာတမ်းကို ဖော်ပြကြည့်ညိုရာ၏။

### ဒုတိယဗားကရာသာသနာပိုင် အရှင်ပညာဇောတ၏ အထုပ္ပတ္တိစာတမ်း

၁။ ကုန်းဘောင်ရာဇကုံရကုလာ၊ အာဂတော နဝမော ဝံသာ။
စတုတ္ထံ အမရပူရေ၊ ရဇ္ဇံ ကာရေသိ ယော ဘူပေါ။

၂။ နိပုဏော မုဒုကော ခန္တိ၊ သဏ္ဍိတော ရာဇဓမ္မသု။
မုတ္တာစာဂေါ မဟာပုညော၊ သင်္ဂဟော ဉာတိသေဋ္ဌာနံ။

၃။ သော ဟိ ဘူမိယာ ပစ္ဆိမေ၊ ဗားကရာက္ခတိ သမ္မတံ။
ပုနလက္ခံ ဌပေတုန၊ ဝိဟာရံ တတ္ထ နိဋ္ဌပေတိ။

၄။ သပါသာဒါနုဝိဟာရံ၊ ဝိစိတြံ ဝသုရူပေဟိ။
မဇ္ဈာဘူမိမဟေသီ စ၊ တထာ တတ္ထေဝ နိဋ္ဌာပေတွာ။

၅။ ဘဏ္ဍာဂါရိပိ ကာရေတွာ၊ အပွေသိ တဿ ရာဇိနော။
သော မယှံ ဟတ္ထေ ပါတေတွာ၊ နိယျာဒေသိ ကောက္ခဏော။

၆။ ဥဇ္ဇာရေ စာသောကာရာမေ၊ စာဘဿ အာသိ ဒေဝိယော။
တထေဝ ဝိသုံ ကာရေတွာ၊ အပ္ပေသိ တဿ ရာဇိနော။

၇။ သော ဘူပေါ မေ တထာ တေပိ၊ အင္ဂဒေဝီ စ သေဒ္ဒေ။
ပုရေ ဏံ မင်းအိုတိချာတေ၊ ပုန ပါကတိကံ ကတ္ဝာ။

၈။ ဝါရံဝါရံ ဝသံ တေသု၊ ပညာဇောတော တိ နာမိကော။
စတုက္ခတ္တုံ လဒ္ဓလဒ္ဓော၊ ထေရော သာသနဇေဋ္ဌကော။

၉။ အင်္ဂုတ္တရနိကာယဿ၊ ဂဏ္ဌိ ဝါစေသိ နိဿယံ။
သိက္ခာပေသိ ဧတံ စေဝ၊ အဟဋ္ဌ တံ ဝိသောဓေမိ။

၁၀။ သက္ကရာဇေ ဝယက္ခာယေ၊ သမ္ပတ္တေ ဇုဏှပက္ခေ။
တေရသေ မာဂသိရဿ၊ နိဋ္ဌိတော သ အနာယာသံ။

၁၁။ ပုရေ စ တံ ဝဏ္ဏနာယ၊ ဒီဃုတ္တရိဒ္ဓိဝဏ္ဏနာ။
နိဿယော ပဋ္ဌိသခ်ါယ၊ ဂဏ္ဌိ စ လိက္ခိတာ မယာ။

၁၂။ နိဋ္ဌိတာ တေ အနာယာသံ၊ တသေဝ ဟိတသက်ပ္ပါ။
မနောရထပူရဏေန၊ သိဿမိစ္ဆန္တု ပါဏိနံ။

၁၃။ ပုညေနာ ဓိဂတေနာဟံ၊ သပရတ္ထသမ္ပာဒကော။
ဘဝေ ဘဝေ ဇာတိဇာတိသု၊ သောဘေယျံ ဇိနသာသနန္တိ။

ကုန်းဘောင်ရာဇကုံရကုလာ၊ ပေ်သိမ်းရန်စစ် ပယ်လှစ်အောင်ရာ ရတနာ-သိခမည်သော ကုန်းဘောင်ရွှေပြည်တော်၌ သမ္မာလှုံ့ညီး လိုတော်ပြီး၍ ဘုန်းမီးရှိန်ပြောင် ကုန်းဘောင်အာဟိန် နရာသိန်ဟု သမုတ်အပ်သော ဘေးတော်မြတ်ဖျား အလောင်းမင်းတရားကြီး၏ ညွန့်ညှောက်ဆက်သွယ် မျိုးနွယ်တော်မှ။ အာဂတော၊ ဥဘတော သုဇာတ် သုဒ္ဓတ်ဂဟဏ်ိတ် အင်စုံဟိတ်ဖြင့် ကျော်ထိတ်ဆူလှိုက် ရှရိုက်ဆက်ခံ စိုးစံလှည့်ကာ လာတော်မူထသော။ ဝံသာ၊ ဘေးလောင်းတော်မှစ၍ တေဇလွှမ်းခြုံ သဗ္ဗဘုံသို့ တရာ့တစင်း အမင်းမင်းတို့ ဝပ်စင်း ခညောင်းရာဖြစ်၍ အာဒိစ္စဝံသ အသမ္ဘိန္နတလျှ နန်းစဉ်ဆင်းသက် နွယ်တော်ဆက်အားဖြင့်။ နဝမော၊ ရတနာသိခ ကုန်းဘောင် တည်ထောင်အစ ဘေးရွှေမှော်ကမှ ကိုးဆက်မြောက်တမူလည်းဖြစ်ထသော။

နိပုဏော၊ သာသနာဗာဟိ လောကီကျမ်းထွက် မျိုးမနက်သော မိစ္ဆာအယူနှင့် မစပ်ယှဉ်ပဲ ယောင်ယမ်းကာမျှ အကျိုးရသော ရတနတ္တယဂုဏ်စသည့်၌ ယုံကြည်သဒ္ဓါ သမ္မာဒိဋ္ဌိနှင့်သာ ယှဉ်သည်ဖြစ်၍ ကျစ်လစ်သိမ်မွေ့သော စိတ်နှလုံးလည်း ရှိတော်မူထသော။ မုဒုကော၊ ကြမ်းကြုတ်ခက်ထန် မျက်မာန်နှိမ်ချ ကျိုးကြောင်းပြ၍ ဆုံးမသွန်သင်ကာ သာယာခြင်းစွာ ပြုလုပ်ပြောဆိုခြင်းဟုဆိုအပ်သော နူးညံ့ပြောင်းပျော့ခြင်းလည်း ရှိတော်မူထသော။ ခန္တီ၊

သစ္စာသွေလှန် တော် မမှန်သော ပုန်ကန်ဖောက်ပြား ပြည်လှေး ပြည်မှားဖြစ်လင့်ကစား ညှဉ်းပန်းနှိပ်စက် နိုင်ထက်ကလူ ပြုတော်မမူပဲ မြေကြီးနှလုံး စွဲသုံးသတိ သည်းခံချိခြင်းလည်း ရှိတော်မူထသော။ ရာဇမမွေသု၊ အာဒိစ္စဝံသ မဟာသမ္မတမင်းတို့၏တံထွာ ခြောက်လတခါ မျိုးရိက္ခာပေးခြင်းစသော စတုသင်္ဂဟ သတ္တအပရိဟာနိယ ဒါနသီလစသော မင်းကျင့်တရားတို့၌။ သဏ္ဍိတော၊ မယိမ်းမယိုင် ကျောက်စာတိုင်၏သို့ မြဲမြံခိုင်ကျည် ကောင်းစွာတည်တော်မူထသော။ မုတ္တာစာဂေါ၊ ဒိဋ္ဌဓမ္မ သမ္ပရာယိက ဟိတမြော်မြင် ပြုစင်သဒ္ဓါ ရှိသည်ဖြစ်၍ ရေပြည့်အိုးတူ ဦးစောက်မူ၏သို့ ပြည်သူတို့အား လွတ်လွတ်စွန့်ကြဲခြင်းလည်းရှိတော်မူထသော။ မဟာပုညော၊ ငါးဦးမာရ်ချွေ သုံးလူ့ဆွေတို့ အောင်မြေကူးသန်း ကျွန်းကြင့်နန်းထက် တုဘက်ကင်းလွတ် ကြီးမြတ်သောဘုန်းတန်ခိုးလည်း ရှိတော်မူထသော။ ဉာတိသင်္ဂဟနံ၊ မြေကြီးသမုဒ္ဒရာ စကြဝဠာမက ကြီးလှသော ကျေးဇူးတော်ရှင် ရာဇနာဒေဝီ မဟေသီနတ် မယ်တော်မြတ်နှင့်တကွ နှမတော်ရင်း ညီတော်ရင်းစသော ဆွေတော် မျိုးတော်မြတ်တို့အား။ သင်္ဂဟော၊ နုထွတ်ရွှေချက် ကနက်ထီးပြုစသော စီးနင်းဆောင်ရွက် ခွန်ထွက်ပဏ္ဏာ မြို့ကျေးရွာစသည်တို့ဖြင့် အဆိုက်အလျောက် ချီးမြှောက်တော်မူထသော။

ယော ဘူပေါ၊ အကြင်ကေရာဇ်မင်းမြတ် သမုဘိနတ်သည်။ အမရပူရေ၊ ဘေးဘျမ်မသုံ အောင်ဘုံဇေယျတ် ရိမဒ်ဘပဲဖြစ်၍ သမန္တဘဒြတ် အင်္ဂီရသ်စသော အနုတ္တရ ဝိမောက္ခရတနာ ရောင်ဝါပြိုးပြက် အဖိုးအနန္တ လွန်တောက်ငြိသော မဏိဇောဘရယ် မျက်မြတ်အစစ်စသော အဝိညာဏက ရတနာ အဇဋ္ဌာတိမ်ညွန့် မြူးကွန့်ဖြန့်နှင်း မီးဝင်းလျှပ်ပြက် လေစက်အသွင်ပြန့်လျှံ ဗျတ္တိ စွမ်းရည်ရှိသော ဆဒ္ဒန်အဿ ဇာနေယျန္တယ်တူ ပြောင်ဖြူနာဂိန် သိန္ဓဝစသော သဝိညာဏကရတနာနှင့် ပြည့်စုံရာဖြစ်သောကြောင့် အမရပူရ အမည်ရှိသော ရွှေပြည်တော်ကြီး၌။ စတုဘ္ဘံ၊ နန်းစံအားဖြင့် နရာခိဖျား ဘေးတော်မင်းတရား အာဏာစက်ညီး ဉက္ကာမီးသို့ ဘကြီးတော်မင်းတရား ကောသ ရစ်ရောင် မြန်ဘောင်ထိပ်နင်း အာဏာချင်းသော ခမည်းတော်မင်းတရား ထိုသုံးပါးတို့၏နောက် လေးကြိမ်မြောက်၌။ ရဇ္ဇံ-ဆာဇဘာဝံ၊ ချက်ဗွေဘရာ ပဒုမ္မာမုံရင့် နေခြည်သင့်၍ ပွင့်သည့်အသား ကြီးမားသမ္ဘာ ပါရမီရွှေဆောင် ဘုန်းစက်ရောင်ဖြင့် ရန်မှောင်ပယ်လှင့် ဖြိုးတင့်ဉက္ကာ၌ ဆိုးပတ်သော ကေရာဇ်မင်းမြတ်အဖြစ်ကို။ ကာရေသိ၊ ဇီဝိတိန္ဒြေ ကြွေရအံ့သော တည်ရအံ့လောဟုတွေးတောမကင်း ဗိုလ်ခပင်းတို့ ဝပ်စင်းခညောင်း ခွင့်တောင်းပန်ထွာ ခယလာသည်ဖြစ်၍ မဟာသမ္မတ ဗုဒ္ဓင်္ကုရအတူ မင်းပြုတော်မူ၏။ သော ဘူပေါ၊ ထိုစတုတ္ထသင်းကျစ် ကေရာဇ်မင်းမြတ် သမုတိနတ်သည်။ ဘူမိယာ၊ လောကိသရ

မုဒ္ဒါဘိသေကလွှမ်းခြုံ လှုံစံပယ်ရာဖြစ်သော ရွှေနန်းတော်၏။ ပစ္ဆိမေ။ အနောက်မျက်နှာ ရပ်ခန်းဝါ၌။ ဗားကရာက္ကတိ သမ္မတ၊ ဧတုသံဝရ စုလျား ဒုက္ကူလ ခြယ်သဆင်ရုံ အာဂုမ်ပရိယတ် မြိုက်လေးမြတ်ဖြင့် သာသနုပဒ္ဓ ဒုသီလတို့၏ မိစ္ဆာဝါဒ ကင်းပပျောက်ငြိမ်းအေးလျက် လဇ္ဇီပေသလအဖြစ်ကို ပြုတော်မူရကား အဇဋ္ဌာလယ် စန်းနိုကာယ်သို့ သောင်းလက်ယာတွေ့ ကျွန်းသရေ၌ ပါကဋတရ ဂုဏပတ္တဋ္ဌဖြစ်တော်မူသော ဗားကရာဆရာတော်၏ ကိန်းဝပ်စံပယ်ရာဖြစ်၍ ဗားကရာတိုက်ဟု သမိုက်အပ်သော တိုက်ဟောင်းကို။ ပုန အသစ်တဖန်။ လက္ခံ၊ ကာလရှည်ရှည် တည်စိမ့်ငှာ ခိဋ္ဌာန် သဗ္ဗညာဏ်ဖြင့် မဟာဝိဇယာရာမဟူသော ကမ္ပည်းအက္ခရာ မော်ကွန်းစာကို။ ၎ငေ့တု၊ တံတိုင်း မီးတားတို့၏အပ၌ ဆောက်စိုက်တည်ထားဦး၍။ တတ္ထ၊ ထိုမဟာဝိဇယာရာမဟူသော ကမ္ပည်းမော်ကွန်း စည်ထွန်းသမိုက် ဆောက်စိုက်အပ်သော တိုက်တော်၌။

သပါသာဒါနုဝိဟာရ၊ မနောရမ္မ အတိဝိလာသဖြစ်၍ ကိုးမျက်ခြယ်သတ် ဘူတပတ်သေ၌နှင်း မင်း၏ဗိမာန် ဝေဇယန်ဝိုးဝါး ရိုးစမှားသော ပြာသာဒ်ကွန်းဦး ရောင်စိုင်ကွန့်မြူးသော သောက်ရှူကြယ်ပွင့် စန်းဆောင်တင့်သို့ ဘုံထွတ်စနုဒိုလ်ရှူခပ် ရှုကြည့်မရဲ မအံ့အဲနိုင်ရာ ဘောဂဆောင်နှင့်တကွသော။ ဝသုရူပေဟိ၊ ကွဋ္ဌကန္တ မနာပအစု ရောရှုပေါင်းထားဘိ၏သို့ အနဂ္ဃာရဟ လလိဘဖြစ်သော ဖန် မှန် ရွှေငွေ အမြုတေကျောက် ထိန်ထိန်တောက်သော ရတနာမျိုးတို့ဖြင့် လက်လက်ငြိုးငြိုး ရှုမပြီးသော တသိန်းကိုးသောင်း ကိုးထောင်ရှစ်ရာခုနှစ်ဆယ့်ငါးခုသော အရုပ်တို့ဖြင့်။ဝိစိတြ၊ ထိုသို့ရာဇဝင် စာတမ်းတွင်လည်း မထင်စမိ အစ္ဆရိယ အဗ္ဘုတပုဗ္ဗဖြစ်ရကား နတ်နန်းဘုံမက ပြဟ္မဗိမာန်နွှဲ နန်းရုံ တနန်းဖြစ်၍ ဆန်းကြယ်စွာထသော။ ဝိဟာရံ၊ ဆက်ရှည်လွန်ပြီး ရှေးအတီးက ကြီးကျယ်သမ္ဘာရ ပါရမီဉာဏ် ဘုန်းကျိုးဖန်၍ ရင့်သန်မှုံအာ ဗောဓိလျာဖြစ်သောသူတို့သည်သာလျှင် ပေးလှူခံစံထိုက်သော စမြင်နှင့်တကွ ဘုံငါးဆင့်ရှိသောကျောင်းတော်ကို။ နိဋ္ဌပေတိ၊ ရွှေငွေတောင်ပုံ ကုန်လင်မမှတ် နိရောကြောင့်နှုံး ရွှေနန်းပလ္လင် ဥကင်ဘုံချက်၌ အရဟတ္တဖိုလ် ကနက်လျှံလက်ဖြိုးမှောက် စိုက်ဆောက်လိုသော မနောပဏီဖြင့် ချက်ကုန်မသွေ ပြီးစေတော်မူပေ၏။

မဇ္ဈာဘုမ္မိမဟေသီ စ၊ ပုညခိုင်ဖြိုးသော ရှေးအတိတ်ကြောင့် ဘုန်းမီးရဟတ် က္ကာဒိပ်ဒ်ဖြင့် မြင့်မြတ်ရှာလေ့ သမ္ဘာကျွေ့သော အလယ်နန်းမတော်မိဖုရားသည်လည်း။ တတ္ထေဝ၊ ထိုအရှင်သူမွန်တို့ ကိန်းဝပ်ရာ မဟာဝိဇယာရာမဟူသော ကမ္ပည်းမော်ကွန်း စဉ်ထွန်းသမိုက် ဆောက်စိုက်အပ်သော တိုက်တော်၌

သာလျှင်။ တထာ၊ အမရပူရ စတုတ္ထသင်းကျစ် ကောရာဇ်မင်းမြတ် သမုဘိနတ်သည် ပြီးစေအပ်သောကျောင်းတော်နှင့်အတူ။ သပါသာဒါနုဝိဟာရံ၊ သော။ ဝသုရှုပေဟိ၊ ဣဋ္ဌကန္တ(လ)တသိန်းမကသောအရုပ်တို့ဖြင့်။ ဝိစိတြံ၊ ထသော။ ဝိဟာရံ၊ ယခေါင်သမ္မာ ကမ္မာဘဝက ပါရမီကဲမြင့် ရဲရင့်သမ္မာ ကြီးမြင့်တေဇာ အာဏာကဲဆောင်း ရှေးဘုရားလောင်းလျာဖြစ်သောသူတို့သည်သာလျှင် ပေးလှူခံစံထိုက်သော စမြင်နှင့်တကွ ဘုံလေးဆင့်ရှိသော ကျောင်းတော်ကို။ နိဋ္ဌာပေတွာ၊ ပုံယင်မသေ့ ရွှေငွေကုန်တွက် မငဲ့ကွက်ပဲ ဖိုလ်မင်ပန့်။ နိဗ္ဗူ မကုဋ္ဌ သျှောင်ဦးခြယ်သ တင်ပသွေးချီ ဆင်ရလိုသော ဥက္ကဋ္ဌစေတနာဖြင့် ချက်ကုန်မသေ့ ပြီးစေတော်မူလတ်၍။

ရာဇ်နော၊ တိုင်းနိုင်ငံသူ ဗိုလ်လူအပေါင်းတို့အား သဃမေစသည်လေးပါး သင်္ဂဟတရားတို့ဖြင့် နှစ်သက်မြတ်နိုးစေအပ်သော။ တဿ ဘူပဿ၊ ထိုသောင်းရွှေမျက်မှန် ဆဒ္ဒန်သခင် ဘုရင်မင်းမြတ် သမုတိနတ်အား။ အပ္ပေဟိ၊ ပုဗ္ဗေကတ ပုညာဘာစက်ကြောင့် မဖက်သမ္မာ အလျှဉ်ပါသဖြင့် အသက်တမျှ ကြည့်ရှုမှိုင်းမ ဌာနန္တရ ချီးပအထူး ကျေးဇူးရှင်ဖြစ်၍ အသစ်တစေ ပါရမီမိတ်ဆွေဖြစ်ပေတမုံ့ဟု မနောထဲသွင်း ဆောင်နှင်းဆက်သ၏။

ဘဏ္ဍာဂါရိပိ၊ ရွှေငွေဂေါမုတ် ဉဿဖယား ပြယိုးယားစသော ဖိုးထိုက်ဘဏ္ဍာ ရတနာတို့၏ သိုမှီးရာဖြစ်သော ရွှေတိုက်တို့ကို ကလျာဏိယစသောဂုဏ်ဖြင့် ပိုင်သစိုးအုပ်ချသော ရွှေတိုက်ဝန်မင်းသားသည့်လည်း။ တတ္ထေဝ၊ ဌိသာလျှင်။ တထာ၊ တူ။ သာနုဝိဟာရံ၊ လူဗိုလ်အစုံတို့၏မျက်စိဌ် ကောင်းစွာယူဆောင်၍ သွန်းလောင်းဘိုသည့်သဖွယ် တင့်တယ်မျိုးစု ဓာရှုရာဖြစ်သောအနောက်ဘောဂဆောင်နှင့်တကွသော။ ဝသုရှုပေဟိ၊ တို့ဖြင့်။ ဝိစိတြံ၊ ထသော။ ဝိဟာရံ၊ ဝိစိတတာပစိဘ သမ္မာရထန်း ခိုင်ဖြိုးပါရမီ စာဂီချင့်မာလောင်းလျာဖြစ်သော သူတို့သည်သာလျှင် ပေးလှူခံစံထိုက်သော စမြင်နှင့်တကွ ဘုံလေးဆင့်ရှိသော ကျောင်းတော်ကို။ ကာရေတွာ၊ မစ္ဆေရစ္ဆာချွတ် ကြည်ညွတ်သဒ္ဓါ စေတနာဖြင့် ဇာတရူပရဇ်တအချိ ကုန်ဘိမမှုတ် သာဟဘ္ဘကသွန်ပြပတ္တကုတ် ပြုလုပ်စေ၍။ ရာဇ်နော၊ သော။ တဿ ဘူပဿ၊ အား။ အပ္ပေဟိ၊ ကုသိုလ်သမ္မာ အလျှဉ်ပါသဖြင့် ဌာနန္တရ ချီးပအထူး ကျေးဇူးရှင်ဖြစ်၍ အသစ်တစေ ပါရမီဉာဏ်ဆွေ ဖြစ်ပေတမုံ့ဟု မနောထဲသွင်း ဆောင်နှင်းဆက်သ၏။ သော ဘူပေါ၊ သည်။ တေ၊ ထိုဆိုအပ်ပြီးသော အစ္စရိယအဗ္ဘုတပုဗ္ဗ မနောဝိလာသ အတိလလိတဖြစ်သော ကျောင်းတော်သုံးရပ်တို့ကို။ (ဤကားထည့်) မယှ၊ ဂုဏ်နာယက စုံအင်ရှစ်ဝ သာသနဓဇာတ ပါမောက္ခကြီး မထေရ်သည်ဃရာဇ်ဖြစ်သောငါ၏။ ဟတ္ထေ၊ လက်တော်၌။ ဒက္ခိဏောဒကံ၊

ပစ္စုပ္ပန်သံသရာ နှစ်ဖြာအကျိုး တိုးပွားကြောင်းဖြစ်သော အလှူရေစက်ကို။ ပါတော်မူ၊ ဤမြေပထဗျာ ဝသုန္ဒြာလည်း နောင်ခါသက်သေ ဖြစ်ပစေဟု လှစ်ဖွေညောင်းကာ ကရုဏာသား ရွှေကရားကို မင်းဖျားကိုယ်တိုင် လက်တော်ကိုင်လျက် ပနက်သွန်းချတော်မူ၍။ ကောဏ္ဍညော၊ သုနက္ခတ္တ သုမင်္ဂလ ဇေယျ ကိန်းညီ တိထိကောင်းရက် သိဒ္ဓိကြိုက်လျက် တပြိုင်နက်သောအခါ၌။ နိယျာဒေသိ၊ သင်္ခါရတရားတို့၏ ဘောက်ပြားဝိပါက် ဖြစ်ပျက်ဟန်ကို ထဲဉာဏ်ကြွေ့ကြွေ့ ငြိးငွေ့နိဗ္ဗာန် လက်ချိန်ပကတူ သံဝေယူ၍ နောင်နာဂတံ သမ္ဗုဒ္ဓစစ်ဖြစ်ရာလိုဟု ပတ္တနာသီသဖြင့် နှ ံးအပ်ဘင်လှူတော်မူ၏။

ဘူမိယာ၊ ရှင်ဖြူဖြန့်ခြုံ ဘိသိက်လုံ့ဆာ ရွှေနန်းသာ၏။ ဥတ္တရေ စ၊ ဘုန်းကြက်သရေ တက်နေတင့်ရာ မြောက်မျက်နှာအရပ်၌လည်း။ အခသာကာရာမေ၊ ဘေးတော်မင်းဖျား မင်းတရားသည် အသောကာရာမဟု ကမ္ပည်းကျောက်စာ ဝေါဟာသမိုက် စိုက်မှတ်တည်ထားတော်မူအပ်သော တိုက်ဘော်ဟောင်း၌။ စတသောအပ်ဒေဝိယော၊ ရွှေမြကြငှန်း သရေဘင့်ဆန်း ငွေလင်းသို့ လယ်ကွန်းရွှေဘုံ မြန်လုံမွယ်သော အလယ်နန်းမတော်မိဖုရား စမွယ်နဂိုရ်ခွန်သ အစိုးရသော စမွယ်နဂိုရ်မြို့စား မိဖုရား အင်ပူရ ခွန်ပိုင်သသော အင်ပူရမြို့စား မိဖုရား မကွေးသာထွတ် ခွန်ယူဆွတ်သော မကွေးမြို့စား မိဖုရား ဟုဆိုအပ်သော လေးယောက်သော မိဖုရားတို့သည်လည်း။ တထေဝ၊ ထိုအတူသာလျှင်။ သပါသာဒ ါန္ဒဝိဟာရံ သော။ ဝသုရူပေဟိ၊ ဖြင့်။ ဝိစ်တြ ံ၊ ထသော။ ဝိဟာရံ၊ အတိတ်ကမ္ဘာ စက်သံသာက မဟာသမ္မာရ ပုညစာဂီပ မိမိုရင့် ရသင့်ကြိုက်ကြုံ ရိုက်ရာလုံ့သော ရှေးဘုရားလောင်းလျာဖြစ်သော သူတို့သည်သာလျှင် ပေးလှူခံစံထိုက်သော မြောင်နှင့်တကွ ဘုံငါးဆင့်ရှိသော ကျောင်းတော်ကို။ (ဓုင်းလေးပုင်တိုကား ဤမှာလည်းလိုက်၍ယှဉ်) ဝိသုံ၊ အသီးအသီး၊ ကာရေတွာ၊ ရတနာဘောင်ရှိ ကုန်ဘိမ္မန်း ဝိမုတ္တိငြမ်းဖြင့် မင်္ဂလမ်းတန်ဆောင် အခေါင်ဘွေပြင် ဦးကင်လယ်ထိပ် ဖိုလ်ဖြူရိပ်ကို လုံ့ခဝလိုသော ပတ္တနာသီသဖြင့် ဟေမာဝလ မြေမှုဖိုးမောက် ပေါက်ဘိအသွင် ပြုပြင်ဆောက်လုပ်စေ၍။ ရုဇိနော၊ သော။ တသော ဘုပ၀ယာ၊ အား။ အပ္ပေသုံ၊ ကုန်၏။

သော ဘုပေါ၊ သည်။ တဆာ၊ ထိုမဟာဝိဇယာရာမဟူသော ကမ္ပည်းမောင်ကွန်း စည်ထွန်းသမိုက် ဆောက်စိုက်အပ်သောတိုက်တော်၌ ကျောင်းတော်သုံးရပ်ကို နှင်းအပ်တင်လှူတော်မူသည်နှင့်အတူ။ တေပိ၊ ထိုဆိုအပ်ခဲ့ပြီးသော မိဖုရားလေးယောက်တို့သည် ဆောက်လုပ်အပ်သော ကျောင်းတော်တို့ကိုလည်း။ မေ၊ ၏။ ဟတ္ထေ၊ လက်၌။ ဒက္ခိဏောဒကံ၊ ကို။ ပါတေတွာ၊ ၍။

ကောက္ခဏော၊ ၌။ နိယျာဒေတိ၊ ၏။ အဂ္ဂဒေဝီ စ၊ ဗလ၀စေတနာ သမ္ဘာဘုန်းရှင့် ညာနန်းမြင့်၍ ထီးဖြူရိပ်ဝယ် လှုံစမွယ်သော မိဖုရားခေါင်ကြီးသည်လည်း။ ဘူမိယာ၊ ကိုးမျက်ရောင်တောက် ကွန်းပြောက်ကြွင့်နန်း ရွှေဘုံနန်း၏။ သေန္ဓေ၊ အရွှေမြောက်စွန်း စဉ်းငယ်ယွန်းသောအရပ်၌။ မင်းအိုတိချာတော၊ ပါရမီပုံပြည့် ဝင်းမှည့်သမ္ဘာရ သီလသမာဓိ အစရှိသော အဓိကတရုတ် ဂုဏ်သက်တ်ကြောင့် များဖြင်ဗိုလ်လူ ကြည်ဖြူဗလ၀ အသေက္ခနိရဂ်ဏံ ယိုးယာမ်စလောက်သော မင်းအိုဆရာတော်ဘုရား၏ ကိုန်း၀ပ်စမွယ်ဆာဖြစ်၍ မင်းအိုတိုက်ဟု သမိုက်အပ်သော တိုက်တော်၌။ ပုရာဏံ၊ မိဖုရားခေါင်ကြီးသည် ဆောက်လုပ်ဆက်သသည်ဖြစ်၍ ဘေးတော်မင်းဖျား မင်းတရားသည် အောင်မြေဘုံကျော်ဟု ကမွည်းမော်ကွန်း တည်ထွန်းသမိုက် စိုက်မှတ်တင်လှူအပ်သော ခဏ္ဍဖုလ္လပလုဂ္ဂဟု တွင်းပဆွေးမြေ့ ယိမ်းရွှေတိမ်းစောင်း ကျောင်းတော်ဟောင်းကို။ ပုန၊ ဘန်။ ပါကတိကံ၊ ဇမ္ဗောနဒ နိက္ခသိင်္ဂီ နိတုံလှော်ကြည် နာရကဏီဦးသစ်ဇမ္ဗူရစ်မင်းစံ ပုဇွန်ခွံဘို့ဖြင့် မွမ်းမံခြယ်လယ် လျပ်နွယ်ယိုစီး ရွှေတောင်ကြီးသို့ ညီးညီးရောင်သန်း လောင်ဘနန်းလိလိ ပြကတွေ့ရှိအောင်။ ကတ္ဝာ၊ များဖြင်ရွှေငွေ ကုန်လေမငဲ့ မီးဆယ့်တဖြာ ငြိမ်းရာအောင်ခန်း သီဝံဘုံနန်း ဖြန့်လှမ်းလိုသော ကုသလဇ္ဈာသယဖြင့် ပြုပြင်လုပ်ဆောင်လတ်၍။ မယှံ၊ ၏။ ဟတ္ထေ၊ ၌။ ဒက္ခိဏောဒကံ၊ ကို။ ပါတေတွာ၊ ၍။ နိယျာဒေသိ၊ ၏။

တေသု၊ ထိုဆိုအပ်ခဲ့ပြီးသော သုံးရပ်တိုက်တော် ကျောင်းတော် ရှစ်ရပ်တို့၌။ ဝါရံဝါရံ၊ အလှည့်အလှည့်။ ဝသံ-ဝသန္တော၊ အသီးအသီး တိုင်းကြီးပြည်ကြီးတို့ဝယ် တင့်တယ်စွာ ဆောက်လှူအပ်သော ဝေဠုဝန် ဇေတဝန် နိဂြောဓာရုံစသော ကျောင်းတော်မြတ်တို့၌။မဟာရဇက္ခ မုဒိန္ဒြိယာဒိက ဝေနေယျတို့၏ အပ္ပရဇက္ခတိက္ခိန္ဒြိယာဒိကသမ္ဘ၀အကျိုးငှာ သုံးလူ့ဆွေသည် ဒေသစာရီ ကြွချီဖြန့်လှမ်းတော်မူလျက် ဝါရဝါရ ဓမ္မ အမြိုက် တိုက်ကျွေးစံနေတော်မူသည့် ဥပဒေလမ်းကို မှီငြမ်းပြုဘော်မူသဖြင့် ဘ၀ဘောဂ သမ္ပတ္တိဟိတာ အနုတ္တရဝိမောက္ခ၏ ဥပနိဿယအကျိုးငှာ များရွှေသိသာ ရံခ၀န်းကျင်ဖြင့် ဓမ္မအမြိုက်ချမ်းသာအေးကြည်စွာ တိုက်ကျွေး၍ ကိန်းပိုက်စံနေတော်မူထသော။ ပညာဇောတတောတိနာမိကော၊ သာမဏေရ ဒုလ္လဘကို ရခိုက်ကပင် ညာကြေန့်သိ ပရိယတ်ဂုဏ်ဟိတ် အတိဿယပါကဋဖြစ်၍ ဒုမရာဇာ ပဒေသာပင်ကြီး၏သို့ ခိုမှီးဗိုလ်လူ ဆွတ်ချူရာအစစ် ဖြစ်အံ့ကေန် ပါရမီသန်သောကြောင့် ဆရာမြတ်တို့၏ အထံမှရအပ်သော''ပညာဇောတ''ဟူသော ငယ်မည်ရှိတော်မူထသော။ စတုက္ခတ္တုံ၊ပုဂ္ဂိုလ်သာမှန်တို့သည် ကေ၀ါရမျ ကြုံခဲလှော် အဟော်ဝတ ချီးပစအပ် လေးထပ်လေးကြိမ်တိုင်တိုင်။ လဒ္ဓလဒ္ဓေ၊ သောင်းဇမ္ဗူဘွေကျွန်းသရေ၌ တေဇာလွှမ်းပတ် မန္ဓာတ်တန္တုန်း ဘုန်းစက်နေမီး ထိန်ညီးဝှန်ပြင်း

အာဏာချင်းသော ခမည်းတော်မင်းဖျား လက်ထက်က ရတော်မူအပ်သော “ပညာဇောတာဘိဓဇမဟာဓမ္မရာဇာဓိရာဇဂုရု”ဟူသော တံဆိပ်ဩဘာ ပရိဏာရိုက် ရပိုက်နန်းလျှာ မဟာဥပရာဇ် ဖြူရှစ်ကားစိုက် ရာရိုက်ဆက်ခံ လှူစံတော်မူသော သားတော်မင်းတရားလက်ထက် သဃ်ပါမောက်အထွတ်မြောက် ရတော်မူအပ်သော “ပညာဇောတာဘိသီရိပဝရာလင်္ကာရဓမ္မသေနာပတိမဟာဓမ္မရာဇာဓိရာဇဂုရု”ဟူသောတံဆိပ်၊မဟာဝေယန် ဘုံသာစံကျောင်းတော်မြတ်ကို နှင်းအပ်တင်လှူတော်မူစဉ်ကာလက ရတော်မူအပ်သော “ပညာဇောတာဘိသီရိပဝရဝိဇယာလင်္ကာရ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု” ဟူသောတံဆိပ် မဟာရတနာဘုံသာကျောင်းတော်ကြီးကို နှင်းအပ်တင်လှူတော်မူရာကာလက ရတော်မူအပ်သော “ပညာဇောတာဘိသီရိဓမ္မပါလအရိယာဝံသဓမ္မသေနာပတိမဟာဓမ္မရာဇာဓိရာဇဂုရု”ဟူသော တံဆိပ်နာမံ ရှိတော်မူထသော။ (၁၂၁၆-ခုနှစ်တွင် မင်းတုန်းမင်းလှူသည့် “ပညာဇောတဓမ္မသီရိကဝိဇေမဟာဓမ္မရာဇာဓိရာဇဂုရု”တံဆိပ်နှင့်မူ ၅-ထပ်ဖြစ်သည်။)သာသနဇောတကော၊ စတုပရိသုဒ္ဓိသီလ မကုဋ္ဌကတန်ဆာ ဦးသျှောင်ခြယ်ဆင်ကာ သာသနမဟာပါသာဒ၌ ဝေငှတိုက်ကျွေးတော်မူအပ်သော ဓမ္မဩဇာ မျိုးသုံ့ဒ္ဒါကို သဒ္ဓါကြည်ဖြူ သုံးတိုက်သူတို့၏ ကြီးမှူးဥက္ကဋ္ဌ ထွဋ်ဆုံးမြတ်ဘမူလည်း ဖြစ်ထသော။ထေရာ၊ယန္တရားဖြတ်ခွေ့ မုန်တိုင်းလေတို့ဖြင့် မယိမ်းမယိုင်တောင်မြင်းမိုရ်၏သို့ မြဲမြံစွာဖြစ်သော သီလသမာဓိ နိပုဏမလဗုဒ္ဓိ လဇ္ဇီပေသလ သိက္ခာကာမ ပရိယတ္တိဝေသာရဇ္ဇနိကာယဒွယဆောကစသော ဂုဏ်ရှိသည်၏ အဖြစ်ကြောင့် မဟာထေရ်ဖြစ်တော်မူသော သာသနာပြု ဆရာတော်ဘုရားသည်။

အင်္ဂုတ္တရ နိကာယဿ၊ အင်္ဂုတ္တရနိကာယ် ပါဠိတော်ကျမ်း၏။ နိဿယံ၊ မြန်မာလူမျိုးတို့၏ မှီရာတကဲ သဟဲဖြစ်သော အနက်ကို။ ဂဏံ၊ ဗဟုသုတသိပ္ပလိမ္မာ ရေးရာမြော်သိ ကဝိတဆူ မူစလောက်သော တပည့်အပေါင်းကို။ ဝါစေသိ၊ ကရုဏာရှေ့ညွှန့် သွန်သင်ပြသ ပို့ချတော်မူ၏။ တေသု၊ ထိုဗဟုသုတသိပ္ပလိမ္မာ ရေးရာမြော်သိ ကဝိတဆူမူစလောက်သော တပည့်အပေါင်းတို့တွင်။ ဆေကဥ္ဆ၊ ပါဠိဂဏာ ဋီကာအနု မခုလက်သန်းဟု ဆိုအပ်သော ပရိယတ္တိအရာ တတ်သိလိမ္မာသော “တေဇာဘိဓေ မဟာဓမ္မရာဇဂုရု” တံဆိပ်တော်ရ အန္တေဝါသိက တပည့်ကိုလည်း။ တံ၊ ထိုအင်္ဂုတ္တရကျမ်း၏ အတ္ထယောဇနာ မြန်မာဘာသာကို။ သိက္ခာပေသိ၊ ပုဗ္ဗာပရ ညှိနှိုင်းဆလျက် ဝဏ္ဏအက္ခရာ သေချာမမှား ရေးသားစေ၏။ အဟဥ္စ၊ ပါမောက္ခကြီး သဃ်ရာဇ်ထီး ဖြစ်သော ငါသည်လည်း။ တံ၊ ထိုပုဗ္ဗာပရ ညှိနှိုင်းဆလျက် ဝဏ္ဏအက္ခရာ သေချာမမှား ရေးသားစေအပ်သော အင်္ဂုတ္တရနိကာယ်ကျမ်း၏ အတ္ထယောဇနာ မြန်မာဘာသာကို။

ပခန်းကြီးမြို့ ရေစကြို ချောင်းဆုံယဲရွာ (ယနေ့ရွာငယ်)၌ အဖ ဦးဖိုးစိုး၊ အမိ ဒေါ်ငြိမ်းတို့မှ သက္ကရာဇ် ၁၁၇၅-ခုနှစ် နတ်တော်လဆန်း ၉-ရက်နေ့တွင် ဖွားမြင်တော်မူခဲ့လေသည်။ ငယ်နာမည် မောင်စံပေါ် ဖြစ်လေသည်။

## အခကြေးငွေဖြင့် နွားကျောင်းခဲ့ခြင်း

ဆရာတော်လောင်းလျာ၏ မိဘများမှာ ဥစ္စာဓနပြည့်စုံသူများ မဟုတ်ကြပေ။ သို့ဖြစ်၍ မောင်စံပေါ်သည် မိဘတို့၏ စေခိုင်းချက်အရ သူတပါးနွားကို အခကြေးငွေဖြင့် ကျောင်းခဲ့ရသည်။ ရသမျှ အခကြေးငွေကို မိဘနှစ်ပါးသို့ ရလျှင်ရချင်း ဝမ်းသာအားရစွာ အပ်နှံလေ့ရှိသည်။ မွေးချင်း ၃-ယောက် ရှိလေရာ မောင်စံပေါ်သည် အကြီးဆုံးဖြစ်ဟန် တူပါသည်။

## မောင်စံပေါ် ဉာဏ်ရည် ကိုရင်ကြီး ဦးသာလှေး သိ

မောင်စံပေါ်သည် နေ့စဉ်လိုလို ချောင်းဆုံယဲရွာ၏ အနောက်မြောက်ဘက်ရှိ ယွန်းကျောင်းအနီး နွားစားကျက်၌ နွားများ ကျောင်းလေ့ရှိ၏။ နေ့လယ် နေ့ခင်း နွားကျောင်းယင်း ယွန်းကျောင်းသို့ဝင်၍ ကျောင်းအောက်၌ အပင်ပန်းဖြေ နားနေလေ့ရှိသည်။ ရံဖန်ရံခါ အိပ်လျှောင်းလေ့ရှိ၏။ ယင်းသို့ နားနေယင်း ကျောင်းပေါ်မှ ကျောင်းသားကိုရင်များ ရွတ်အံသည့် စာများကို နာကြားရလေရာ နာကြားဖန်များသဖြင့် နှုတ်တက်ရွရွ ရနေသည်သာ များလေသည်။ ပရိတ်ကြီး၊ လောကနီတိ၊ သဒ္ဒါသုတ်ငယ်၊ အဘိဓမ္မတ္ထသင်္ဂြိုဟ် စသည်တို့ကို အစဉ်အတိုင်း မဟုတ်သော်လည်း ကွက်ကြားကွက်ကျား အာဂုံရရှိလေသည်။ ယင်းအကြောင်းကို ကိုရင်ကြီး ဦးသာလှေး သိလေ၏။ ဦးသာလှေးမှာ ယွန်းကျောင်း ဒါယကာဖြစ်လေရာ ဥစ္စာဓနပြည့်စုံသူဖြစ်၏။ အသက်အတော်ကြီးမှ ဃရာဝါသ ကိစ္စများမြောင် လူ့ဘောင်ကို ငြီးငွေ့စိတ်ပျက်သဖြင့် ကိုရင်ကြီး ဝတ်၍ တတ်အားသမျှ သာသနာ့ဝန် ထမ်းဆောင်သူ ဖြစ်၏။ ဦးသာလှေးသည် ဆရာတော်လောင်းလျာကို "မောင်စံပေါ်၊ မင်းနွားမကျောင်းနဲ့၊ တခြားလူ ကျောင်းပေစေ၊ မင်းနွားကျောင်းခငွေကို ငါကပေးစေမည်"ဟု ဆို၍ မိမိ၏ သား ကိုပြောင်ကိုခေါ်၍ နွားကျောင်းခနှင့်အမျှ ငွေကြေးကို မောင်စံပေါ်၏ မိဘများဖြစ်ကြသော ဦးဖိုးစိုးနှင့် ဒေါ်ငြိမ်းတို့အား ပေးစေလေသည်။

## သာမဏေဝတ် ပညာသင်

သက်တော် ၁၄-နှစ်သားအရွယ်တွင် ချောင်းဆုံယဲရွာ ယွန်းကျောင်း ဆရာတော်ထံ သာမဏေဝတ်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေ

သည်။ သာမဏေဘွဲ့ ရှင်ဝိမလဖြစ်၏။ ချောင်းဆုံးယော်ရွာ ယွန်းကျောင်းမှတဆင့် ချောင်းဆုံးယော်ရွာဦး မှန်ကျောင်းဆရာတော် ဦးဂန္ဓမာ၊ လူမည် ဦးဖဲ့ထံ ရောက်ရှိ၍ ပညာဆည်းပူးတော်မူခဲ့သည်။ ၎င်းမှတဖန် ရေစကြိုမြို့ မင်းအိုတိုက် ဆရာတော်ထံ ရောက်ရှိ၍ ပညာသင်ကြားတော်မူခဲ့လေသည်။

## ရဟန်းပြုတော်မူခြင်း

သက်တော် ၂၀-တွင် ကိုရင်ကြီး ဦးသာလှေး၏ ပစ္စယာနုဂ္ဂဟဖြင့် ချောင်းဆုံးယော်ရွာဦး သိမ်ကုန်းသိမ်တော်၌ ဆရာတော် ဦးဂန္ဓမာ (ဦးဖဲ) ကို ဥပဇ္ဈာယ်ပြု၍ ရဟန်းဘဝ ဒုလ္လဘကို ရတော်မူသည်။ ရဟန်းဖြစ်တော်မူသောအခါ ဦးဖဲက မူလ ရှင်ဝိမလဟူသော ဘွဲ့ကိုဖျောက်၍ အရှင်ဝရသမ္ဘောဓိဟု မှည့်ခေါ်တော်မူသည်[၁]။

## ဗားကရာဆရာတော် အရှင်ပညာဇောတထံ ပညာသင်

ရဟန်းဖြစ်ပြီးနောက် သိက္ခာတော် ၅-ဝါလောက်အရတွင် အမရပူရမြို့ ဗားကရာကျောင်းတိုက် ဒုတိယ ဗားကရာဆရာတော်ဟု ကျော်စောသော "ပညာဇောတာဘိသီရိသဒ္ဓမ္မဇောမဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ အရှင်ပညာဇောတထံ ရောက်ရှိ ပညာသင်ကြားတော်မူခဲ့လေသည်။

## အသောကာရာမတိုက်၌ သီတင်းသုံးစဉ်

ဒုတိယ ဗားကရာဆရာတော်ကြီး သာသနာပိုင်အရာ အပ်နှင်းခြင်းခံရ၍ အသောကာရာမတိုက်သို့ ပြောင်းရွှေ့ သီတင်းသုံးတော်မူသောအခါ အရှင်ဝရသမ္ဘောဓိသည်လည်း သာသနာပိုင် ဆရာတော်ဘုရားကြီးနှင့်အတူ အသောကာရာမတိုက်သို့ ကြွရောက် သီတင်းသုံးတော်မူလေသည်။ အသောကာရာမတိုက်၌ ကြာမြင့်စွာ သီတင်းသုံးတော်မူ၍ ပါဠိ၊ အဋ္ဌကထာ၊ ဋီကာကျမ်းဂန်တို့ကို ချပို့တော်မူ၍ ပရိယတ္တိသာသနာကို ချီးမြှောက်တော်မူခဲ့လေသည်။

## ရေစကြိုမြို့၌ သီတင်းသုံးတော်မူခြင်း

သက္ကရာဇ် ၁၂၃၀-ခုနှစ်တွင် စားတော်ဝန် ဦးခဲက အောင်မြေသာယာကျောင်းတိုက်ကြီးကို လှူဒါန်းသဖြင့် ရေစကြိုမြို့သို့ ကြွရောက်တော်မူ၍ အောင်

---

၁။ ဆရာတော် ရဟန်းပြုရာသိမ်မှာ ယခုတိုင် နှစ်တဲ့ဆောင်းနှင့်တကွ ရှိသေး၏။ ယွန်းကျောင်းမှာ နေရာမျှသာ ရှိတော့သည်ဟူ၏။

မြေသာယာကျောင်းတိုက်ကြီး၌ သီတင်းသုံး၍ နိဿယဝရ ကျမ်းဂန်ကို ချပို့တော်မူခဲ့လေသည်။

## ကျမ်းဂန်များစွာတို့ကို ပြုစီရင်တော်မူခြင်း

ဆရာတော်သည် ပါဠိ အဋ္ဌကထာ ဋီကာကျမ်းများကို မဟာသာဟ ဖွဲ့လို့လ ဖြင့် ချပို့တော်မူခဲ့လေသည်။ယင်းသို့ ပိဋကကျမ်းဂန်တို့ကို ဖန်ခါမပြတ် ချပို့တော်မူသဖြင့် ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်တည် နည်းထွင် အရှင်ဂန္ဓသာရ အစရှိသော အာဇာနည် တပည့်ကြီးများ ပေါ်ထွန်းခဲ့သည်။ ဆရာတော် အရှင် ဝရသမ္ဗောဓိသည် ဂန္ထဓူရ ကိစ္စလုပ်လျား ချိန်အကြားတွင် ကျမ်းဂန်များတို့ကို လည်း ပြုစီရင်တော်မူခဲ့လေသည်၊ ၎င်းတို့မှာ—

၁။ ဓမ္မပဒမဟာဋီကာကျမ်း၊
၂။ ပဋိသမ္ဘိဝိနိစ္ဆယကျမ်း၊
၃။ အဘိဓမ္မတ္ထသင်္ဂြိုဟ်ဂဏ္ဌိကျမ်း၊
၄။ ရာဇာဝသတိကျမ်း၊
၅။ သုတသာရပဏ္ဏာမကျမ်း၊
၆။ ယထာဘူတဉာဏဝိကာသိနီကျမ်း၊
၇။ မနောဒန္တဒီပနီကျမ်း၊
၈။ သာဓုဇနမနောဟာရီကျမ်း၊
၉။ မူလဋီကာမဟာနိဿယကျမ်း၊ (၂-ထုပ်)
၁၀။ ထေရဂါထာအဋ္ဌကထာနိဿယကျမ်း၊ (၂-ထုပ်)
၁၁။ ကထိန်အမေးအဖြေကျမ်း၊
၁၂။ ဥပသမ္ပဒအနုသာသနကျမ်း၊
၁၃။ သမာသာဒီသုတ္တဟောနိဿယကျမ်း၊
၁၄။ မဟာသီမာသိလာလေခန၊
၁၅။ ရေစကြိုတရားစာ၊
၁၆။ ရေစက်ချအမျိုးမျိုး၊
၁၇။ ဝံသာနုက္ကမဒီပနီကျမ်း၊
၁၈။ သံဝေဂကမ္မဋ္ဌာန်းကျမ်း၊

၁၉။ သာသနဗျူဟာကျမ်း၊

၂၀။ လောကဓာတ်ပုံပြကြေးမုံကျမ်း၊

၂၁။ ဓာတုရသကျမ်း၊

၂၂။ ဆဗ္ဗိသကျမ်း၊

၂၃။ ဝိပဿနာစာရဒီပနီကျမ်း၊

၂၄။ ဂမ္ဘီရဝိပဿနာကျမ်း၊

၂၅။ ဇာတိထေရုပ္ပတ္တိကျမ်း၊

၂၆။ ကောသလ္လဒီပနီကျမ်း၊

၂၇။ အလမ္ဗုတကျမ်း၊

၂၈။ ဗိသုကာကျမ်း၊

၂၉။ အနာဂတဝင်ကျမ်း၊

၃၀။ စိတ္တဒီပနီကျမ်း၊

၃၁။ သြဝါဒထူး စာရင်းကြူး၊

၃၂။ မေတ္တာစာ—

စသည်တို့ ဖြစ်ကုန်၏။

ဓမ္မပဒမဟာဋီကာပါဠိ

ယင်းကျမ်းများအနက် ဓမ္မပဒမဟာဋီကာကျမ်းကြီးမှာ ထူးမြတ်သောပါဠိကျမ်းဂန်ကြီးဖြစ်လေသည်။ ဆရာတော် အရှင်ဝရသမ္ဘောဓိသည် ဖော်ပြပါ ဓမ္မပဒမဟာဋီကာပါဠိကျမ်းကြီးဖြင့် ပါဠိကျမ်းပြုဘွဲ့ကို ဆွတ်ခူးတော်မူခဲ့လေသည်။ ရှေးရှေးကျမ်းပြုလိမ္မာဆရာတော်ကြီးတို့ အဋ္ဌကထာများ၏ဋီကာကို ရေးစီရင်ကြသော်လည်း ဓမ္မပဒအဋ္ဌကထာ၏ဋီကာကိုမူ မိမိအတွက် အခွင့်ပေး ချန်ထားခဲ့ကြပုံကို—

ဓမ္မပဒဋ္ဌကထာယ၊ နာနာနယသုသမ္ဘုတ္တံ။
ဋီကံ သုဘံ ဝိစိတြတ္ထံ၊ သဒ္ဒတ္ထာနတ္ထဂမ္ဘီရံ။

န ကုရုတေ တဋ္ဋီကဥ္စ၊ ပေါရာဏေဟိ ကာဝိန္ဒေဟိ။
ဂန္ထကာရေဟျတော ဒါနိ။ ဒေန္တာ ဝိယ မှမောကာသံ။

စသည်ဖြင့် ကျမ်းဦး၌ ဖော်ပြတော်မူခဲ့လေသည်။ ဋီကာအဆုံး၌ အရှင်ဗုဒ္ဓဃောသ၏ အဌုပ္ပတ္တိကို ဖော်ပြတော်မူခဲ့လေသည်။ ဤမဓုပဒမဟာဋီကာကို သက္ကရာဇ် ၅၃-နှစ်၊ ဝါတော် ၃၄- ဝါအရတွင် ရေးသားစီရင်တော်မူခဲ့လေသည်။

## ပဋိသန္ဓိဝိနိစ္ဆယကျမ်း

ပဋိသန္ဓိဝိနိစ္ဆယကျမ်းမှာ နာမည်ကျော် အဆုံးအဖြတ်ကျမ်းဖြစ်၏။ ဒီမိုင်းဆိုက် ၂၁၁-မျက်နှာရှိသည်။ မင်းအိုတိုက်၌ သီတင်းသုံးတော်မူစဉ် မှန်စေတီဒါယကာ ဦးရွှေသိန်း တောင်းပန်သဖြင့် ရေးသားစီရင်တော်မူခဲ့သည်။ ကျမ်းဦး၌—

ဘဝသန္ဓိဆိဒကရော၊ ဘဝမူလသမုစ္ဆေဒါ။
ဘဝပါရသုသမ္ပတ္တော၊ သော မံ ဒေတု ဇယံ ဇိနော။

ဘဝသန္ဓိအဆေကာနံ၊ ဘဝသန္ဓိသု ကင်္ခိနံ။
အတ္ထာယ မန္ဒပညာနံ၊ ကဿံ သန္ဓိဝိနိစ္ဆယံ—

ဟူသော ၂-ဂါထာဖြင့် အာသီသပတ္ထနာ ပဋိညာဉ်စသည် ပြုတော်မူခဲ့လေသည်။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ယင်းသို့ စာချကျမ်းပြု ပဓာန အလုပ်နှစ်ခုဖြင့် သဗ္ဗညုမြတ်စွာ သာသနာစည်ပင်ရေး အားပေးလုပ်ဆောင်ဆဲဖြစ်စဉ် သက္ကရာဇ် ၁၂၃၅-ခုနှစ်တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည်[၁]။

## သံဝေဂယူရန်

သရီရသာ ဂုဏာနဥ္စ၊ ဒူရမစ္စန္တ မန္တရံ။
သရီရံ ခဏဝိဒ္ဓံသိ၊ ကပ္ပန္တဋ္ဌာယိနော ဂုဏာ။

သရီရဿ၊ လေးပါးဓာတ်ခို ခန္ဓာကိုယ်၏လည်း။ ဂုဏာနဥ္စ၊ ကိုယ်ဝယ်တည်ရှိ သီလသမာဓိ ပညာဂုဏ်တို့၏လည်း။ အစ္စန္တံ၊ စင်စစ်ကေန် အမှန်မုချ။ အန္တရံ၊ မတူကွဲပြား ခြားနားခြင်းသည်။ ဒူရံ၊ ဝေးကွာလှချေ၏။ သရီရံ၊ လေးပါးဓာတ်ခို ခန္ဓာကိုယ်သည်။ ခဏဝိဒ္ဓံသိ၊ မကြာခဏ ပျက်လွယ်သောသဘော

၁။ ပခုက္ကူသာသနာဝင်။ ၂၀၄-၂၀၆-လည်းကြည့်။

ရှိ၏။ ဂုဏ္ဍ၊ ဇိဝိတိန္ဒြေ တည်သည့်အခိုက် ကိုယ်၌တည်သော ဂုဏ်ကျေးဇူး တို့သည်။ ကပ္ပန္တဋ္ဌာယိနေဝ၊ ကမ္ဘာဆုံးတိုင် ခိုင်တည်နေကုန်၏ ။

## ဒုတိယ ဗားကရာသာသနာပိုင် ဆရာတော်ဘုရားကြီး၏တပည့် အရှင်ပဒုမာဘိဇ မဟာထေရ်

အရှင်ပဒုမာဘိဇ မဟာထေရ်သည်လည်း ဒုတိယ ဗားကရာ သာသနာပိုင် ဆရာတော်ဘုရားကြီးထံ နည်းခံတပည့် ဖြစ်လေသည်။ ကျောက်ပန်းတောင်းမြို့ ခန်တောရွာ၌ သက္ကရာဇ် ၁၁၇၀-ခုနှစ် ပတ်ဝန်းကျင်လောက်တွင် ဖွားမြင် တော်မူသည်။

အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူ ခဲ့သည်။ အမရပူရမြို့ မဟာဝိဇယာရာမတိုက် ဒုတိယ ဗားကရာ သာသနာပိုင် ဆရာတော်ဘုရားကြီးအရှင်ပညာဇောတ မဟာထေရ်ထံ၌သည်တို့၌လည်း ပညာ သင်ကြားတော်မူခဲ့သည်[၂]။ အရှင်ပဒုမာဘိဇသည် မာဂဓကျမ်းများ၌သာ မဟုတ်၊ သက္ကတကျမ်းများ၌လည်း ချဉ်းနင်းသက်ဝင် ကျွမ်းကျင်တော်မူသည်။

### ဒဗ္ဗဂုဏပကာသနီဆေးကျမ်း

ဆရာတော် အရှင်ပဒုမာဘိဇသည် သီရိသုဓမ္မာ ဆေးနည်းဖြစ်သော ဒဗ္ဗဂုဏသကာသကျမ်းကို ဒဗ္ဗဂုဏပကာသနီအမည်ဖြင့် မြန်မာဘာသာ ပြန်ဆိုစီရင်တော်မူခဲ့လေသည်။ ကျမ်းဦးပထမပိုင်း၌—

အဘိဝါဒိယ သဗ္ဗညုံ၊ မနောဘောဂတိကိစ္စကံ။
ဘာသိဿာမိ ဒဗ္ဗဂုဏ-ပကာသဿ ပဒီပိကံ။

နာနာရဋ္ဌ စက္ကဝုဓ-သုဝါမိ သေတိဘိန္ဒိန။
ဇိဝိကောတိ ဒဒက်ဿ၊ ဘိသက္ကဿာဘိယာစနံ။
အနုဿရံ အဟံ ဒါနိ၊ ဘေသဇ္ဇာနံ ဝိဘာဝနံ—

ဟူသော ၂-ဂါထာခွဲဖြင့် ပဏာမ အဘိယာစက ပဋိညာဉ်ပြုတော်မူခဲ့လေ သည်။

---

၁။ မရဏာဿဘ်ဘာဝနာ။ ၂၂၄-ကြည့်၊

၂။ မောင်းထောင်သာသနာပိုင် ဆရာတော်ဘုရားကြီး၏ တပည့်ဟူသည်း အဆိုရှိသည်။

ဒုတိယပိုင်း အစအဦး၌—

နတွာ အဒုတိယံ ဗုဒ္ဓံ၊ အမတာသုခဒါယကံ။
ဂုဏာဒဗ္ဗပကာသသာ၊ ဝက္ခံ ဒုတိယဒီပကံ—

ဟူ၍၎င်း၊

တတိယပိုင်းအစဦး၌—

နတွာ တိလောကသာမိကံ၊ အမတာသုခဒါယကံ။
ဒဗ္ဗဂုဏပကာသသာ၊ ဝက္ခံ တတိယဒီပကံ—

ဟူ၍၎င်း၊

စတုတ္ထပိုင်း အစအဦး၌—

နတွာ စတုတ္ထကံ ဗုဒ္ဓံ၊ ဒုလ္လဘောသ္မမတံ ပဒံ။
ဒဗ္ဗဂုဏပကာသသာ၊ ဝက္ခံ စတုတ္ထဒီပကံ—

ဟူ၍၎င်း၊

ပဉ္စမပိုင်း အစအဦး၌—

နတွာ ပဉ္စဝိလောကနံ၊ ပဉ္စာမတဒဒံ ဇိနံ။
ဒဗ္ဗဂုဏပကာသသာ၊ ငက္ခံ ပဉ္စမဒီငကံ—

ဟူ၍၎င်း၊

ဆဋ္ဌပိုင်း အစအဦး၌—

နတွာ ဆဋ္ဌင်္ဂသမ္ပန္နံ၊ ဆဠာမတဒဒံ ဇိနံ။
ဒဗ္ဗဂုဏပကာသသာ၊ ဝက္ခာမိ ဆဋ္ဌဒီပကံ—

ဟူ၍၎င်း၊

သတ္တမပိုင်း အစအဦး၌—

သတ္တာမတံ ဒဒံ ဗုဒ္ဓံ၊ နတွာန ဂ္ဂသိ သတ္တမံ။
ဒဗ္ဗဂုဏပက်ာသသာ၊ ဝက္ခံ သတ္တမဒီပကံ—

ဟူ၍၎င်း၊

အဋ္ဌမပိုင်း အစအဦး၌—

နတွာ လောကဝိဒုံ ဗုဒ္ဓံ၊ အဋ္ဌင်္ဂိကာမတံ ဒဒံ။
ဒဗ္ဗဂုဏပကာသသာ၊ ဝက္ခံ အဋ္ဌမဒီပကံ—

ဟူ၍၎င်း၊

နဝမပိုင်း ကျမ်းဦး၌—

နတွာ လောကဟိတညာဏံ၊ နဝါမတ ဒဒံ ဇိနံ။
ဒဗ္ဗဂုဏာပကာသဿ၊ ဝက္ခံ နဝမဒီပကံ—

ဟူ၍ရှင်း ပဏာမ ပဋိညာဉ်ပြုတော်မူခဲ့သည်။ဖော်ပြပါ ဂန္ထာရမ္ဘဂါထာတို့ကို ထောက်၍ ဆရာတော် အရှင်ပဒုမာဘိဓဇ၏ ပါဠိစာပေအရည်အချင်း မြင့်မားကြောင်း သိသာလေသည်။

ဆရာတော် အရှင်ပဒုမာဘိဓဇ၏ ဒဗ္ဗဂုဏပကာသနီကျမ်းမှာ ၁၃၂၄–ခုနှစ် ရန်ကုန်မြို့ လယ်တီမဏ္ဍိုင်ပုံနှိပ်တိုက်ရိုက် ဒိမိုင်းဆိုက် ၂၇၆–မျက်နှာ ရှိလေသည်။

## ရာဇာဓိရာဇဂုရု

သက္ကရာဇ် ၁၂၁၀–ခုနှစ်၊ တန်ခူးလဆန်း ၁၅-ရက်နေ့တွင် ပုဂံမင်းတရားက "ပညာဇောတာဘိသိရီပဝရဝိဇယာလင်္ကာရဓမ္မသေနာပတိမဟာဓမ္မရာဇာဓိရာဇဂုရု"ဘွဲ့တံဆိပ်တော် ဒုတိယဗားကရာသာသနာပိုင် ဆရာတော်ဘုရားကြီးအား ကပ်လှူစဉ် အခြားဆရာတော် ၂၁-ပါးတို့အားလည်း ဘွဲ့တံဆိပ်တော်များ ဆက်ကပ်လေရာ ယင်းဆရာတော်များစာရင်းတွင် ပခန်းမင်းသမီးတိုက်နေ ပခန်းမြို့ ဆရာတော် အရှင်ပဒုမအား "ပဒုမာဘိသိရီဓဇမဟာဓမ္မရာဇာဓိရာဇဂုရု"ဘွဲ့တံဆိပ်တော် ဆက်ကပ်ကြောင်းပါရှိလေရာ ယင်း အရှင်ပဒုမမှာ ဖော်ပြပါ ဒဗ္ဗဂုဏပကာသနီကျမ်းပြု အရှင်ပဒုမာဘိဓဇ ဖြစ်ဖွယ်ရာရှိပေသည်၊

ဘဒ္ဒန္တပဒုမော ထေရော၊ ထေရော သမ္ဗုဒ္ဓသာသနေ။
သာသနံ သော ဟိ ပဂ္ဂဟေတွာ၊ ယထာကမ္မံ ဂတော သုဓီ။

## ဒုတိယ ဗားကရာသာသနာပိုင် ဆရာတော်ဘုရားကြီး၏တပည့် အုဂ်ဖိုရ်ဆရာတော် အရှင်ဥက္ကံဝံသမာလာ

အုဂ်ဖိုရ်ဆရာတော်ဘုရားကြီး အရှင်ဥက္ကံဝံသမာလာသည် ဒုတိယဗားကရာသာသနာပိုင်ဆရာတော်ဘုရားကြီးထံ ၇-နှစ်ဘိုင်တိုင် ပညာသင်ကြားခဲ့သည့် ပုဂ္ဂိုလ်မြတ် ဖြစ်တော်မူသည်။

သာရဝေါမြို့အနီး ရွာကလေးရွာ၌ အဖ ဦးရွှေဘန်း၊ အမိ ဒေါ်လေးတို့မှ သက္ကရာဇ် ၁၁၇၉–ခုနှစ်၊ တခေါင်းလဆန်း ၅-ရက်၊ တနင်္ဂနွေနေ့တွင် ဖွားမြင်တော်မူသည်။

အရွယ်ရောက်သော် ဆရာတော်ဦးဇော်ဂျီထံ၌ ပညာသင်ကြား၍ သာမဏေဝတ်ရာ ဘွဲ့တော်ရှင်ဥက္ကံဝံသမာလာဖြစ်သည်။ ၎င်းနောက် အင်း၀မှ ကြွလာသော မြသိန်းတန်ဆရာတော်၊ ဟသ်ာတ သရက်တောဆရာတော်၊ ရန်ကုန်မြို့ ပုဇွန်တောင်ဆရာတော်တို့ထံ ဆက်လက်၍ ပညာသင်ကြားတော်မူခဲ့လေသည်။ သက်တော် ၂၀-ပြည့်ရာအခါတွင် သာရ၀ေါ မန်ကျည်းတောဆရာတော်ထံ၌ ရဟန်းပြုတော်မူသည်။ ၎င်းနောက် အမရပူရမြို့ ရာဇာဓိရာဇဂုရု ဘွဲ့တံဆိပ်တော် ၅-ထပ်ရ ဒုတိယဗားကရာသာသနာပိုင်ဆရာတော် အရှင်ပညာဇောတထံရောက်ရှိ၍ ပညာသင်ကြားတော်မူခဲ့လေသည်။ ဆရာတော်သည် လွန်စွာထူးခြား ပြတ်သားသည့်ပုဂ္ဂိုလ်မြတ်ဖြစ်သည်။ ပုဂံရွှေနန်းရှင်က "ရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော် ဆက်ကပ်လှူဒါန်းသည်ကို ခံယူတော်မမူခဲ့ချေ။

ဆရာတော်သည် တနေ့တရက် စာတက်စာဆိုပျက်ရန်ကိုပင် မလိုလားချေ။ သာသနာပိုင်ဆရာတော်ထံ စာ၀ါများပျက်သဖြင့် ၇-နှစ် သီတင်းသုံးပြီးမှ စပါးတောတိုက် "ဇိနာဘိသဒ္ဓမ္မဓဇမဟာဓမ္မရာဇာဓိရာဇဂုရု" ဆရာတော်ကြီးထံ ပြောင်းရွှေ့သီတင်းသုံး၍ နေတ္တိနည်း၊ ဘေဒစိန္တာနည်း စသည်တို့ကို သင်ယူတော်မူသည်။

ပုဏ္ဏားဆရာကြီးသမ္ဘာရည်ချုံထံ၌လည်း သက္ကတကျမ်းစာများ သင်ယူတော်မူခဲ့သည်။ ဗန်းမော်ဆရာတော်ထံတွင်လည်း ဝိနိစ္ဆယဖြတ်ထုံးစသည်ကို သင်ယူတော်မူခဲ့သည်။ ၁၂၁၃-ခုနှစ်တွင် သာရ၀ေါမြို့သို့ ကြွရောက်တော်မူပြီးနောက် ၁၂၁၄-ခုနှစ်တွင် အုဂ်ဖိုရ်မြို့ (ယခု အင်ပူမြို့)သို့ ကြွရောက် သီတင်းသုံးတော်မူသည်။ ရေသိမ်ကိုအကြောင်းပြုပြီး ဒွါရ၀ါဒီဂိုဏ်းကို သီးခြားထောင်တော်မူ၍ မိမိစိတ်ဝင်စားသည့်အတိုင်း သာသနာပြုတော်မူသည်။

## ကျမ်းဂန်ပြုစုတော်မူခြင်း

ဆရာတော်သည်—

အာချာတ်သာမိနိယံအဖြေကျမ်း၊ ကံ ဒွါရအဆုံးအဖြတ် မေတ္တာစာနှင့် အခြားအခြားမေတ္တာစာ ၁၄-ပုဒ်၊ သေခင်းတမန့်စာတမ်း၊ နိယတာနိယတမိစ္ဆာဒိဋ္ဌိကကန်ါဘေဒကျမ်းစသည့် ကျမ်းပေါင်း စာတမ်းပေါင်း ၈၀-ကျော်တို့ကို ပြုစီရင်တော်မူသည်။ ဖော်ပြပါ ၈၀-ကျော်သော ကျမ်းများအနက် အာချာတ်သာမိနိယံအဖြေခေါ် တောင်တွင်းကြီးနယ်အဖြေကျမ်းမှာ နာမည်ကျော်လှသော ကျမ်းကောင်းဖြစ်သည်။ ဓမ္မာစရိယဆရာတော်တပါး ဖြစ်တော်မူသော "ဇိနာဘိသဒ္ဓမ္မဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ

မြသိန်းတန်ဆရာတော်ကြီး တိုက်တွန်းတော်မူသဖြင့် ရေးသားစီရင်တော်မူခဲ့သည်။

သို့ဖြစ်၍ ကျမ်းဦး၌—

နိယမံ နိယမသာရာ၊ ဆေ ဂန္ထေန မုယောဇိတော။

နတွာ မဇ္ဈေ ဝိရိယာမိ၊ ချာဟံ သောတူဟိ ပထျ သာ။

အဟံ၊ ငါသည်။နိယမံ၊ သုံးပါးသော ရတနာမြတ်ကို။ နတွာ၊ ရှိခိုးပါ၍။နတွာ၊ ရှိခိုးပြီး၍။သာ၊ သာသနာမြတ် တရားခေတ်၌ စွဲမှတ်တည်တံ့ခိုင်ခံ့သော ဉာဏ်သမာဓိ ရှိတော်မူသည်၏အဖြစ်ကြောင့် ရအပ်သော ဇိနာဘိသဒ္ဓမ္မဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု ဘွဲ့တံဆိပ်တော် ရရှိတော်မူသော ငါတို့ကျေးဇူးမန် မြသိန်းတန် ဆရာတော်ဘုရားကြီးနှင့်။ သဟ၊ တကွ။ မေ၊ ငါ၏။ နိ၊ ပြစ်မဲ့တသွန် ဂုဏ်မွန်အတိ ရှိတော်မူထသော။ ပထျံ၊ မြေပြင်မဆံ့ ကွန့်သော်သတင်းတော်လည်း ရှိတော်မူထသော။ သာ စ၊ အမရပူရ စတုတ္ထမြေ့ရာဇ် တရားမင်မြတ်၏ သဒ္ဒါရတနာတည်ရာ၏အဖြစ်ကြောင့် "ပညာဇောတာဘိဝံသ သိရိပဝရာလင်္ကာရ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု" အမည်တော်ရှိသော ဆရာသခင် ကျေးဇူးရှင်ကိုလည်း။ နတွာ၊ ရှိခိုးပါ၍။ နတွာ၊ ရှိခိုးပြီး၍။တေသု၊ ထိုဆရာတော်မြတ်နှစ်ပါးတို့တွင်။ သာ၊ ငါတို့ကျေးဇူးမန် မြသိန်းတန်ဆရာတော်ဘုရားကြီးသည်။ သောတူဟိ၊ ဆရာမိန့်မြွက် သြဇာနက်ကို မကွက်ကြည်ဖြူ နာယူကြောင်းဟိတ် ဗျုပ်နိမိတ်ကြောင့် ဗျာဒိတ်သံချို စာသင်ပျိုတို့နှင့်။ သဒ္ဓိ၊ တကွ။ မဇ္ဈေ၊ စာပွဲသဘင် လယ်ခုက်ခွင်၌။ အဟံ၊ ငါ့ကို။ဝါ၊ ငါ၏။ ဥယောဇိတော၊ နှိုးဆော်ရှက်စပ် တိုက်တွန်းအပ်သည်ဖြစ်၍၊ ဝါ၊ ကြောင့်။ ဝါ၊ သော။ အဟံ၊ ငါသည်။ ဟိ၊ ဖွင့်ဆိုလတ့်သော။ ဂန္ထေန၊ သုနောင်ဂုဏ် မွေးထုံလှစွာ နှံ့သာတမူ တူထသော။ နိယမသာရာ၊ အာခေတ်သာမိ အမည်ရှိသော နိယံကဗျာကျမ်း၏ အတ္ထသာရကိုဖွင့်ရာဖွင့်ကြောင်း၏ အဖြစ်ကြောင့် နိယမသာရအမည်ရှိသော ကျမ်းအထူးဖြင့်။ ဆေ၊ နိယံထိုကျမ်း ကြိုးပမ်းလေ့ကျက် ဆောင်ရွက်ကြည့်ရှု စာသင်နုတို့ နှစ်ခုမနှော ဒွေဇကောဟု ဉာဏ်ဇောညစ်တိုက် ဤစရိုက်ကိုအလိုက်ယှဉ်မှီး သုတ်သင်ပြီး၍။ ပထျံ၊ စာပွဲအလုံး ရိုက်ကြုံးရန် သုံးပုံ့ကြေးခြင်းငှာ။ ဝိရိယာမိ၊ နံ့မွှေးကြိုင်ပျံ့ လိမ့်စေအံ့—

ဟူ၍ ရတနာသုံးပါးနှင့်တကွ ဗားကရာသာသနာပိုင်ဆရာတော် အပါအဝင် မြသိန်းတန်ဆရာတော်ဘုရားကြီးကို ရှိခိုးဦးချ ပဏာမပဋိညာဉ်ပြုတော်မူခဲ့လေသည်။

## ဘုရားဆုပန် ပုဂ္ဂိုလ်ထူး

ဆရာတော်ကား ဘုရားသဗ္ဗညု ဆုကြီးပန်ပုဂ္ဂိုလ်မြတ် ဖြစ်တော်မူသည်။ ယင်းသို့ဖြစ်ကြောင်း—

၁။ သုမာပိတော ယော ဝိဟာရော၊ ဘာတရာ ဘောဇကေန စ။
ပညာသမာဓိပန္နေန၊ သဗ္ဗဇနေ ဒယေန စ။

၂။ မဟန္တဂုဏစေတိယာ၊ ပုညဝန္တနိဝါသနော။
သမီပုတ္တာရဋ္ဌာနေဝ၊ မြသိန်းတန်လဒ္ဓနာမကော။

၃။ ဥက္ကံသံသမာသာဌတိ၊ တတ္ထ တံ မေ ဥပါယျ ပိ။
ရိဿာမီတိ ပဋိညာတဗ္ဗော၊ ရစိ သန္တေန ဂန္ထယံ။

၄။ တိနဝုတ္တိ တိသတာဓိ–ဒွိသဟဿမှိ သာသနေ။
တေန သဗ္ဗညုတဉာဏံ၊ နိယမံ မေ မမာယိတံ[၁]–

ဟူသော နိဂုံးဂါထာများတွင် စတုတ္ထဂါထာမှ တတိယ၊ စတုတ္ထပါဒတို့ဖြင့် သိသာလေသည်။

## ဘဝနတ်ထံ ဝင်စံတော်မူခြင်း

ဤသို့စသည်ဖြင့် အံ့ချီးမပြီး ချီး၍မကုန် ကျေးဇူးဂုဏ်ဘို့နှင့် ပြည့်စုံတော်မူသော ဒုတိယဗားကရာသာသနာပိုင်ဆရာတော် နှယ်တော်ဝံသ သိဿအစစ် ဖြစ်တော်မူသော ဒွါရနိကာယဦးကိုင် စိုးပိုင်အာဏာ တည်ရှိတော်မူသော အုက်ဖိုရ်ဆရာတော်ဘုရားကြီးသည် သက္ကရာဇ် ၁၂၆၇–ခုနှစ်၊ တပေါင်းလဆုတ် ၂-ရက်၊ တနင်္ဂနွေနေ့ နံနက် ၉–နာရီအချိန်တွင် ဘဝနတ်ထံ ဝင်စံတော်မူသည်။

## သံဝေဂယူရန်

အာဂစ္ဆန္တဂ္ဂိက္ခန္ဓာဝ၊ မစ္စုဗျာဓိဇရာ တယော။
ပစ္စုဂ္ဂန္တုံ ဗလံ နတ္ထိ၊ ဇဝေါ နတ္ထိ ပလာယိတုံ[၂]။

အဂ္ဂိက္ခန္ဓာဝ–အဂ္ဂိက္ခန္ဓာဣဝ၊ အလျှံညီးညီး မီးပုံကြီးတို့ကဲ့သို့။ မစ္စုဗျာဓိဇရာ တယော၊ သေခြင်း နာခြင်း အိုခြင်းဟူသော သုံးပါးတို့သည်၊ အာဂစ္ဆန္တိ၊

---

၁။ မမာယိတံ၊ မြတ်နိုးအပ်သော။ သဗ္ဗညုတဉာဏံ၊ သဗ္ဗညုတဉာဏ်ကို။ ပိ၊ မျိုးရစေလို။ (ဆရာတော်၏အနက်)
၂။ ထေရဂါထာ၊ ၂၀၉။ (သိရိမဏ္ဍထေရဂါထာ)

မည့္သမထောက် ရွေးရှုရောက်လာကုန်၏။ ပဏ္ဏုဂ္ဂလ္လာ့၊ မရဏာဗျာဓိ ထိုပြည့်တဖြာ- ဇရာရန်ကို တန်ပြန်တော်လှန်တိုက်ထုတ်ခြင်းငှာ။ ဇလံ၊ အားခွန်ဗလစွမ်း ထာမသည်။ နတ္ထိ၊ မုချပုံသေ မရှိပါချေ။ ပလာယိတုံ၊ လွတ်မြောက်ရန်အရေး ထွက်ပြေးတိမ်းရှောင်ခြင်းငှာ။ ဇဝေါ၊ အဟုန်သည်။ နတ္ထိ၊ မုချပုံသေ မရှိပါချေ။

## ရဟန်းတော် အရှင်ဝိသုဒ္ဓ (နောက် ပခန်းမင်းကြီး ဦးရန်ဝေး)

အရှင်ဝိသုဒ္ဓသည်လည်း ဒုတိယဗားကရာသာသနာပိုင်ဆရာတော်ဘုရားကြီး၏ တပည့်ဖြစ်သည်။ ပခန်းမြို့၌ သက္ကရာဇ် ၁၁၇၄–ခုနှစ် တပေါင်းလတွင် ဖွားမြင်လေသည်။ ဗုဒ္ဓဟူးသားဖြစ်သည်။ သို့ဖြစ်၍ မိဖတို့က မောင်ရန်ဝေးဟု နေ့ည နံသင့် မှည့်ခေါ်ကြသည်။

## ရှင် ရဟန်းပြုခြင်း ပညာသင်ကြားခြင်း

အရွယ်ရောက်သော် ရှင် ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်ခဲ့လေသည်။ သာမဏေဘွဲ့ ရှင်ဝိသုဒ္ဓဖြစ်၏။ ရဟန်းဖြစ်သော် အရှင်ဝိသုဒ္ဓဖြစ်လေသည်။ အမရပူရမြို့ မဟာဝိဇယာရာမတိုက်တော်၌ ကြာမြင့်စွာ သီတင်းသုံး၍ ရေစကြို ဆရာတော်လောင်းလျာ အရှင်ဝရသမ္ဘာဓိ၊ဒက္ခိဏာရာမ ဘုရားကြီးဆရာတော် လောင်းလျာ အရှင်ဇာဂရ၊ အုတ်ဖိုရ်ဆရာတော်လောင်းလျာ အရှင်ဥက္ကံစံသမာလာ၊ အရှင်ဝဇိရဉာဏ(ဦးဖား)တို့နှင့်အတူ ပညာသင်ခဲ့လေသည်။ အရှင်ဝိသုဒ္ဓသည် ဗားကရာသာသနာပိုင်ထံ ဗြိဟ္မဏာ ရာဇမတ္တဏ်စသော လောကီကျမ်းတို့ကိုလည်း သင်ယူခဲ့ဟန်ရှိလေသည်။

## ပခန်းမြို့ မင်းကျောင်း၌ စာပေချပို့ သာသနာပြု

ပညာသင်ကြားတတ်မြောက်ပြီးနောက် ဇာတိချက်ကြွေမွေးရပ်မြေဖြစ်သော ပခန်းမြို့သို့ ကြွရောက်၍ ပခန်းကြီးမြို့ မင်းကျောင်း၌ သီတင်းသုံး၍ စာပေချပို့ သာသနာပြုခဲ့လေသည်။ အရှင်ဝိသုဒ္ဓကား ဉာဏ်ထက်မြက်သည်။ လက္ခဏာကြန်အင်လည်း အလွန်ကောင်းသည်ဟု အဆိုရှိသည်။ နဖူးပြောင် နဖူးကျယ် မျက်ခုံးကောင်းမျက်စိပေါ် မျက်နှာဖြိုးသည်ဟူ၏။ နားပေါက်ကျယ် နားရွက်ရှည် အသားလတ်သည်လည်း ဟူ၏။

## လူထွက်ခြင်း

မင်းတုန်းမင်း အထွတ်အမြတ်သို့ ရောက်တော်မူသောအခါ မင်းတုန်းမင်းတရားက တိုင်းပြု ပြည်ပြု နိုင်ငံတော်အေးချမ်းစည်ပင်အောင် ပြုလိုသဖြင့် လူထွက်စေသည်။ အကြိမ်ကြိမ်အခါခါ လူမထွက်ရန် ငြင်းဆန်ခဲ့သေးသည်။ သိက္ခာချပြီး နောက်တနေ့ လူဝတ်နှင့် နန်းတော်သို့ ဝင်လေသည်။ မင်းတရားသည် မင်းဆရာ မင်းတိုင်ပင်အမတ် လွှတ်တော်ဝန်ကြီးရာထူးဖြင့် သူကောင်းပြုတော်မူသည်။ ထိုအခါမှစ၍ ပခန်းမင်းကြီး ဦးရန်ဝေးဟု ထင်ရှားလေသည်။

## သံလျင်မြို့စား မိဖုရားနှင့် လက်ထပ်ခြင်း

မင်းတရားသည် မိဖုရားခေါင်ကြီးနှင့် တိုင်ပင်၍ ခမည်းတော် ရွှေဘိုမင်းတရား၏ သန်လျင်မြို့စား မိဖုရားငယ်ဖြစ်သော မိထွေးတော်နှင့် စုလျားရစ်ပတ် လက်ထပ်ထိမ်းမြားတော်မူခဲ့လေသည်။

## ကျောင်းတိုက်ကြီး တည်ဆောက်ခြင်း

ပခန်းမင်းကြီး ဦးရန်ဝေးသည် မိမိ၏ ငယ်ဆရာရင်းအား ခမ်းနားတင့်တယ်စွာ သီတင်းသုံးစေလိုသဖြင့် ပခန်းကြီးမြို့ အရှေ့ဘက် ပခန်းငယ်၌ တိုင်ပေါင်း ၃၃၂-တိုင် ပါရှိသော စနု၊ ဆောင်မှ၊ ဘောဂ စသည်တို့ဖြင့် ဆင်ယင်လျက် လွန်စွာ ခမ်းနားကြီးကျယ်သော ကျောင်းကြီးကို မြင့်မားထူထဲသော မဟာရံတံတိုင်းကြီး ဝိုက်သန်းကာရံလျက် ဆောက်လုပ်လှူဒါန်းခဲ့လေသည်။ ကျောင်းတိုက်ကြီးသို့ ဤစာပြုသူရောက်ဖူးရာ ကျောင်းတိုက်ဝန်းကြီးမှာ ဧက ၂၀-ခန့် ရှိမည်ဟု ခန့်မှန်းမိပါသည်။ ယခုအခါမှာ ကျောင်းကြီး၏ ပုံကို ခန့်မှန်း၍ မရလောက်အောင် ပြိုပျက်နေလေပြီ။ "မြင်မြင်သမျှ သင်္ခါရ စိတ်ကနှလုံးသွင်း" အတိုင်း ရှုဆင်ခြင်ရန် ဖြစ်၏။ မင်းကြီးသည် "အဂ္ဂသေနာပတိ ဝန်ရှင်တော်မင်းကြီး၊ ပခန်းကြီးမြို့စား၊ သေနတ်ဝန်မင်းကြီး သတိုးမင်းကြီး၊ သတိုးမင်းကြီး မဟာမင်းလှစည်သူ ဘွဲ့တံဆိပ်ဓတော်များဖြင့် ချီးမြှောက်ခြင်းကို ခံရလေသည်။

ပခန်းမင်းကြီးမှာ ရံခါ လေနာရောဂါထသဖြင့် အလုပ်ကိစ္စ လျော့ပါး-တတ်သည်ကို အကြောင်းပြု၍ ဗန်းမော်ဆရာတော်က—

"ပခန်းမှာလေ-"

ဟု စာချိုးခဲ့လေသည်[၁]။

ဗားကရာသာသနာပိုင် အရှင်ပညာဇောတသည် သာသနာပိုင် မဖြစ်မီ စာချဖြစ်စကတည်းကပင် မိမိထံမှောက်သို့ ဆောက်ရှိသော တပည့်များကို အရိပ်အကဲ သိတော်မူ၍ လောကုတ်၊ လောကီ ၂-လီသော ကျမ်းဂန်များကို သင်ပေးတော်မူခဲ့လေသည်။ သို့ဖြစ်၍ ဆရာတော်၏ တပည့်များ လူဖြစ်သော်လည်း ထိပ်တန်းတိုင်းပြည်ပြု ပုဂ္ဂိုလ်ကြီးများ ဖြစ်ကြသည်။

ရင်းပြင် အဿဘေဒကျမ်း၊ လီလာဝတီ ဂဏန်းကျမ်း၊ ဝိမုတ္တိရသကျမ်း၊ ကာယာနုပဿနာကျမ်း၊ နဝသ်ဒ္ဒန္တကျမ်း၊ မဟာသုဇာတကကျမ်း၊ ဓာတုပြ သံသကျမ်း၊ သတ်ညွှန်းကျမ်း၊ လိပိဒီပိကာကျမ်း၊ သဒ္ဒသင်္ဂဟကျမ်း၊ မဟာသမထ ဝိနိစ္ဆယကျမ်း၊ ရာဇဓမ္မသင်္ဂဟကျမ်း-စသည်တို့ကို ပြုစီရင်ခဲ့သော ယောအတွင်းဝန် ဦးဘိုးလှိုင်နှင့် ၃-ဆောင်တွဲ ဓမ္မသတ်ကြီး သမီးတော်ချောင်းနှင့် ပုခက်တင်ချောင်း၊ စိတ္တပုက္ကလေသစာတမ်း၊ တိဏ္ဏကပျို၊ ရတနာနဒီမော်ကွန်း၊ လန်ဒန်သွား မှတ်တမ်း၊ ပြင်သစ်သွားမှတ်တမ်း၊ နာနာနယသခေပ ကဗျာဗန္ဓကျမ်း၊ နေမိရကန် စသည့် ကျမ်းစာများကို ပြုစီရင်ခဲ့သော လယ်ကိုင်းမြို့စား အဂ္ဂမဟာသေနာပတိ သတိုးသုဓမ္မမင်းကြီး မဟာသက်တော်ရှည် ကင်းဝန်မင်းကြီး စသည်တို့သည် ဒုတိယ ဗားကရာသာသနာပိုင် ထံ ပညာသင်ကြားဘူးသည်။

ရင်းပြင် နေမျိုးဓမ္မကျော်သူဘွဲ့ခံ ဣဘိဝုဘ်ပါဠိဘော် နိဿယကျမ်းပြုစာတော်ပြင် ပညာရှိ ဦးဖားသည်လည်း အရှင်ဝဇိရဉာဏ အမည်ဖြင့် ရဟန်းဖြစ်ခဲ့ရာ ဒုတိယ ဗားကရာသာသနာပိုင် ဆရာတော် အရှင်ပညာဇောတထံ လောကီ လောကုတ္တရာ ပညာအသီးသီးကို ဆည်းပူးခဲ့သည်။ ဤသို့ စသည်ဖြင့် ဒုတိယ ဗားကရာသာသနာပိုင် ဆရာတော်ကား ရဟန်းပညာရှိ လူပညာရှိ တပည့်တို့ ဝိုင်းဝိုင်းလည် ပေါ်ပေါက်စေခဲ့သည်။ အမျိုး၊ဘာသာ၊သာသနာကို တိုးတက်စည်ကားစေတော်မူခဲ့သည့် ပုဂ္ဂိုလ်ထူး ဖြစ်လေသည်။

---

၁။ စာချိုးအပြည့်အစုံမှာ—

ပခန်းမှာ လေ၊ လောင်းရှည်မှာ ခါး၊
ခန်းပတ်မှာ နား၊ ရေနံတတိုင် ချဉ်းရုံနှင့်၊
လင်းနိုင်ပါ့မလား-ဖြစ်သည်။

## ပဏ္ဍိတသီလာလင်္ကာရ ကဝိဓဇမဟာဓမ္မရာဇာဓိရာဇဂုရု
## ပဏ္ဍိတဓဇာဓိပတိ သီရိပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု
## ဘွဲ့တံဆိပ်တော်၂-ထပ်ရ အရှင်ပဏ္ဍိတာဘိဝံသ

ဆရာတော် အရှင်ပဏ္ဍိတာဘိဝံသသည် အသောကာရာမတိုက်ကြီး၌ ကြာမြင့်စွာ သီတင်းသုံး၍ စာပေသင်ကြား ချပို့တော်မူခဲ့သည့် မထေရ်မြတ်ဖြစ်တော်မူသည်။ မိတ္ထီလာခရိုင် ကဖြူရွာ အဖ ဦးမြတ်ရွှန်း၊ အမိ ဒေါ်နှင်းထိုက်တို့မှ သက္ကရာဇ် ၁၁၈၈-ခုနှစ်တွင် မီးရှူးသန့်စင် ဖွားမြင်တော်မူခဲ့သည်။ ငယ်နာမည် မောင်ပန်ဖြစ်သည်။အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန် ထမ်းဆောင်တော်မူခဲ့လေသည်။ ဘွဲ့တော်မှာ အရှင်ပဏ္ဍိတ ဖြစ်လေသည်။ အသောကာရာမတိုက်၌ ကြာမြင့်စွာ သီတင်းသုံးတော်မူ၍ ဗားကရာသာသနာပိုင် ဆရာတော်ဘုရားကြီးထံ ပညာရင်နို့ သောက်စို့ခဲ့သည်။ ဇာဂရာဘိဝံသ တိပိဋကဓရမဟာဓမ္မရာဇာဓိရာဇဂုရု ဘွဲ့တံဆိပ်တော်ရ ဒက္ခိဏာရာမတိုက်တာတည် ဆရာတော်ဘုရားကြီး ထံ၌လည်း ပိဋကတ်ကို သင်ယူခဲ့ရာ ပိဋကတ်၌လွန်စွာ ကျွမ်းကျင်တတ်မြောက်တော်မူသည်။

ထိုခေတ်က နယုန်လတွင် ကျင်းပရိုးရှိသည့် သုဓမ္မာစာပြန်ပွဲကြီးတွင် ပဌမကျော် အောင်ပန်းကိုလည်း ဆွတ်လှမ်းအောင်မြင်တော်မူခဲ့သည်။ မိုးညှင်းမင်းသမီး၏ ပစ္စယာနုဂ္ဂဟဖြင့် ချီးမြှင့်ဆက်ကပ် လေးမြတ်ပူဇော်ခြင်းကိုလည်း ခံတော်မူရလေ့သည်။

ပဌမဆရာတော်ဘုရားကြီး လက်ထက်တွင် ဆရာတော်၏အလိုကျ ဂဏဝါစက စာချတာဝန်ကို ထမ်းဆောင်တော်မူကာ သာသနာပြုတော်မူခဲ့သည်။ ဆရာတော်ကြီး ၁၂၃၆-ခုနှစ်တွင် နတ်ပွဲသဘင် ဝင်စံတော်မူသဖြင့် သိက္ခာတော် ၂၄-ဝါမှစ၍ သံဃာတော် ၁၀၀၀-မျှ သီတင်းသုံးရာ ဒက္ခိဏာရာမတိုက်ကြီး၏ အဓိပတိမဟာနာယက ဖြစ်လာတော်မူသည်။

ဆရာတော်၏ ပရိယတ် ကျွမ်းကျင်တတ်မြောက်မှု ဂုဏ်များနှင့် သီလာဒိ၊ သိက္ခာကာမ ဂုဏ်တော်အဝဝတို့ကြောင့် ရတနာပုံ မန္တလေးမြို့ နန်းတည်မင်းတုန်းမင်းတရား၏ ပဏ္ဍိတာဘိသီလာလင်္ကာရကဝိဓဇမဟာဓမ္မရာဇာဓိရာဇဂုရု ဘွဲ့တံဆိပ်တော်နှင့် ရတနာပုံ ဒုတိယနန်းစံ သီပေါမင်းတရားကြီး၏ "ပဏ္ဍိတဓဇာဓိပတိသီရိပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ကိုလည်း ခံယူရရှိတော်မူသည်။ သက္ကရာဇ် ၁၂၄၆-ခုနှစ်တွင် ပျံလွန်တော်မူသည်[1]။

---

၁။ အကျယ်မန္တလေး သာသနာဝင် ဒုတိယတွဲ၊ ဒက္ခိဏာရာမသာသနာဝင် ကြည့်။

## အသောကာရာမတိုက် စာချသာသနာပြု အရှင်ဂုဏ

အရှင်ဂုဏသည်လည်း သက္ကရာဇ် ၁၂၀၀–ကျော်တွင် အသောကာရာမ တိုက်၌ ထင်ရှားသော စာပေချပို့ သာသနာပြုတော်မူသည့် မထေရ်မြတ် ဖြစ်သည်။ အရွယ်ရောက်သော် ရှင် ရဟန်းပြု၍ အမရပူရမြို့တော်၌ ထင်ရှား သော ကျမ်းဂန်တတ် ဆရာတော်ကြီးများထံ ပညာသင်ကြား တတ်မြောက် တော်မူခဲ့သည်။ အသောကာရာမတိုက်၌ ကြာမြင့်စွာ သီတင်းသုံးတော်မူ၍ စာပေချပို့ သာသနာပြုတော်မူခဲ့သည်။

### ရာဇဂုရုဘွဲ့တံဆိပ် အလှူခံရရှိခြင်း

သက္ကရာဇ် ၁၂၁၆–ခုနှစ်တွင် "ဂုဏာဘိမဓဇမ္မာဘိဓေဇာ မဟာဓမ္မ ရာဇ ဂုရု"ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော်မူသည်။

### အသောကာရာမတိုက် နာယကဆရာတော်များ

အသောကာရာမတိုက်ကြီး၌ သီတင်းသုံးတော်မူကြ၍ အုပ်ချုပ်တော်မူ ကြသော ဆရာတော်များမှာ မောင်ထောင် သာသနာပိုင် ဆရာတော် အရှင် ဉာဏာဘိဝံသ၊ လေလင်းသာသနာပိုင် ဆရာတော်၊ ဗားကရာ သာသနာပိုင် ဆရာတော်တို့ ဖြစ်တော်မူကြသည်။ ဗားကရာ သာသနာပိုင် ဆရာတော် ပျံလွန်တော်မူပြီးနောက် ဇေတုတ္တမြောက် နာယကဖြစ်လာသူမှာ လေးထပ်ကျောင်းတွင် သီတင်းသုံးသဖြင့် လေးထပ်ဆရာတော်ဟု ထင်ရှားလေ သည်။၎င်းဆရာတော်သည် မင်းတုန်းမင်းကြီး ဆက်ကပ်အပ်သော "ပညာသီဟာ ဘိမုနိ သဒ္ဓမ္မမဟာဓမ္မရာဇာဓိရာဇဂုရု"ဘွဲ့ကိုလည်း အလှူခံရရှိတော်မူသည်။

### စာချဆရာတော် အရှင်ပုည

လေးထပ်ဆရာတော် ပျံလွန်တော်မူပြီးနောက် စာချဆရာတော် ဦးပုည ကြီးဟု နာမည်တွင်ခဲ့သော ဆရာတော် အရှင်ပုညနာယက ဖြစ်လေသည်။ ဆရာတော်သည် တိုက်တာအုပ်ချုပ်ခြင်းစသော ကိစ္စများကိုပြုလုပ်ယင်း စာပေ မပြတ် ပို့ချရာ စာချကောင်းသဖြင့် စာချဦးပုညကြီးဟုလည်း နာမည်ရခဲ့သည်။

ဆရာတော်အရှင်ပုည၏နောက်တွင် ဆဋ္ဌတိုက်အုပ်ဆရာတော် အရှင်သုမန၊ အရှင်သုမန၏နောက်တွင် သတ္တမမြောက် တိုက်အုပ်ဆရာတော်မှာ ဆရာတော် အရှင်ကေတု၊ အရှင်ကေတုနောက် အဋ္ဌမတိုက်အုပ်ဆရာတော်မှာ ဆရာတော်

အရှင်တေဇဝန္တ ဖြစ်ခဲလေသည်။ အရှင်တေဇဝန္တနောက်တွင် တိုက်အုပ်ဆရာတော် ၂-ပါး ဖြစ်လေသည်။ ယင်းသို့ဖြစ်ရာ တောင်ဘက်တိုက်အုပ်မှာ ဆရာတော်အရှင်တိက္ခ၊ မြောက်ဘက်တိုက်အုပ်မှာ ဆရာတော် အရှင်ဝိလာသထေရ် ဖြစ်လေသည်။

## သမ္မုတိအဖွဲ့ဖြင့် တိုက်တာအုပ်ချုပ်ခြင်း

၁၃၁၀-ခုနှစ်လောက်ကစပြီး အသောကာရာမတိုက်ကြီးကို သမ္မုတိအဖွဲ့က အုပ်ချုပ်လျက်ရှိလေသည်။ သမ္မုတိအဖွဲ့မှာ အဖွဲ့ဝင် ၃-ပါးရှိလေသည်။ ယခုလက်ရှိသမ္မုတိ နာယကတိုက်အုပ် ဆရာတော်မှာ ဆရာတော်အရှင်ဉာဏဝံသမဟာထေရ် ဖြစ်လေသည်။

## အရှင်ဉာဏဝံသ မဟာထေရ်

ဆရာတော်သည် ၁၂၅၅-ခုနှစ်၊ ပဌမဝါဆိုလဆုတ် ၁၁-ရက်နေ့တွင် ဖွားမြင်တော်မူသည်။ ၁၂၇၁-ခုနှစ်တွင် မန္တလေးသို့ ရောက်ရှိတော်မူသည်။ ၁၂၇၄-ခုနှစ်၊ တန်ဆောင်မုန်းလဆုတ် ၁-ရက်နေ့တွင် ရဟန်းဖြစ်ခဲ့သည်။ အသောကာရာမတိုက် ရတနာဘုံမြင့်ကျောင်း ဆရာတော် အရှင်နန္ဒဝံသ၊ ရွှေရေးဆောင်ဆရာတော် ဦးကြည်၊ ဒက္ခိဏာရာမတိုက် ဆရာတော် ဦးဇာဂရကြီးတို့ထံ ပညာသင်ကြားခဲ့သည်။ တောင်ပေါက်ဆရာတော် ဦးစက္ကပါလထံ၌လည်း သက္ကတစသော ဘာသန္တရစာပေကို လေ့လာခဲ့ဘူးသည်။ အစိုးရစာမေးပွဲ ငယ်-လတ်-ကြီး တို့ကိုလည်း အောင်မြင်ခဲ့သည့်ပြင် သကျသီဟစာသင်တန်းကိုလည်း ဖြေဆိုအောင်မြင်ခဲ့ဘူးသည်။ မဟာဝံသစာကိုယ်၊ မဟာဝံသဋီကာတို့ကို သီဟိုဠ်ပါဠိမှ မြန်မာပါဠိအက္ခရာသို့ ပြောင်း၍ ရေးသားတော်မူသည်။ ၎င်းပြင် ဇင်းမယ်ပဏ္ဏာသ ပါဠိကိုလည်း မြန်မာဘာသာ ပြန်ဆိုရေးသားခဲ့သည်။ သက္ကတဘာသာ၊ သီဟိုဠ်ဘာသာ၊ တေလဂူဘာသာ စသည့်ဘာသာခြား စာပေတို့ကိုလည်း တတ်ကျွမ်းလေသည်။

## ဓမ္မစေတီ ပူဇော်ခြင်း

ဆရာတော်မှာ ထူးခြားသော လုပ်ငန်းတခုရှိသည်။ ၎င်းမှာ ပိဋကတ် ဓမ္မစေတီကို ပူဇော်ခြင်းဖြစ်သည်။ ပိဋကတ်ကို သေတ္တာတွင်ထည့်သွင်း၍ အဖုံးကိုဖွင့်ထားပြီး နံ့သာရေမွှေး ပန်းဆီမီးတို့ဖြင့် ပူဇော်သက္ကာရ နေ့စဉ်ပြုလေ့ရှိသည်။ ပိဋကတ်ကို ဖတ်၍ပူဇော်ရာ ၁၅-ခေါက်ရှိပြီးဖြစ်ကြောင်း သိရပါ

သည်။ ဗုဒ္ဓဝံသစရိယာပိဋကကို ရွတ်ဖတ်ပူဇော်ရာ ၇၅-ခေါက် တိုင်မြောက်ပြီးဟု သိခဲ့ရလေသည်။ ဆရာတော်သည် ချီးဝှဲထိုက်သော ပုဂ္ဂိုလ်များတွင် ပါဝင်လေသည်။

ဉာဏဝံသော ဉာဏေနေဝ၊ သံယုတ္တော ဇိနသာသနေ။
မမ္မစေတိယသက္ကာရ-ပူဇာဒီနိ အကာသိ သော။

အသောကာရာမတိုက် ဂဏဝါစက စာချဆရာတော်များ

အသောကာရာမတိုက်၌ စာချကောင်းဆရာတော်များ အခါအားလျော်စွာ ပေါ်ထွန်းခဲ့ဘူးသည်။ ပါရာဇိကဏ်ဂဏ္ဌိသစ်ကျမ်းကို ရေးသားစီရင်တော်မူခဲ့သော ဆရာတော် ဦးသုတသည် အသောကာရာမတိုက်၌ စာချအကျော် ဖြစ်ခဲ့ပြီးမှ ဘုရားကြီးတိုက်သို့ ပြောင်း၍ သီတင်းသုံးခဲ့သည်။

ဂုဏာဘိဝရမမ္မကဝိဇ္ဇောတ မဟာဓမ္မရာဇဂုရုဘွဲ့ရဆရာတော် အရှင်ဂုဏသည်လည်း အသောကာရာမတိုက်၌ မင်းတုန်းခေတ်တွင် ထင်ရှားသည့် ဂဏဝါစက ဆရာတော်ဖြစ်သည်။ နှောင်းခေတ်တွင်လည်း ဆရာတော် အရှင်တေဇဝန္တ သည်လည်း စာချကောင်း ဆရာတော်ဖြစ်သည်။ စာလိုက်သံဃာ ၁၀၀-လောက်အထိ များပြားခဲ့သည်။ ပြည့်ခရိုင် ကာမမြို့ဇာတိ ဖြစ်သည်။ သက်တော် ၆၀-လောက်တွင် ပျံလွန်တော်မူသည်။

ဆရာတော် အရှင်နန္ဒဝံသ

ဆရာတော်သည် တောင်ခွင်သာသနာပိုင်ခန့်သော တိုက်အုပ်တာဝန်ကို လက်မခံပဲ စာကိုသာ မွန်မှူချလေ့ရှိသည်။ မိုင်းခိုင်ဆရာတော်၊ မိုးထားဆရာတော်ထံ ပညာသင်ကြားတော်မူခဲ့သည်။ စာလိုက်သံဃာ ၁၀၀-ကျော်အထိရှိသည်။ မကွေးအောက် မြင်းကွင်းကပင့်သဖြင့် ကြွ၍ စာချပြန်သည်။ မြင်းကွင်းမှာပင် ပျံလွန်တော်မူသည်။

ဆရာတော် အရှင်သာဂရ

ဆရာတော်သည် အသောကာရာမတိုက်တွင် ကျောက်ဆစ်ကျောင်း၊ တမ္မဒီပကျောင်းတို့၌ သီတင်းသုံးခဲ့သည်။ စာတတ်ပေတတ် ပုဂ္ဂိုလ် ဖြစ်သည်။ စာလိုက်သံဃာများစွာတို့အား စာချခဲ့သည်။ ပရိယတ်ဂုဏ်ဆောင်ပုဂ္ဂိုလ်တပါး ဖြစ်သည်။

## ဆရာတော် အရှင်သုမင်္ဂလ

အရှင်သုမင်္ဂလဆရာတော်သည် အသောကာရာမတိုက် ဂဏဝါစကတို့တွင် ပါဝင်ထင်ရှားခဲ့သည်။ စာလိုက်သံဃာ ၂၀၀-ကျော်လောက်အထိ ရှိဘူးသည်။ သက်တော် ၄၅-နှစ်လောက်တွင် ပျံလွန်တော်မူသည်။

## အဂ္ဂမဟာပဏ္ဍိတဆရာတော် အရှင်တေဇနိယ

သာသနာတော်၌ လွန်စွာထင်ရှားလှသော ပြည်မြို့ ဇောတိကာရုံကျောင်းတိုက်ဆရာတော် အရှင်တေဇနိယသည်လည်း အသောကာရာမတိုက်၌ ထင်ရှားကျော်စောလှသော စာချပုဂ္ဂိုလ်ဖြစ်တော်မူခဲ့ဘူးသည်။ အသောကာရာမတိုက်အတွင်း ဇောတိကာရုံအုတ်ကျောင်းနှင့် သာသနဝုဍ္ဎိကာရီ အုတ်ကျောင်း၌ သီတင်းသုံးပြီး စာချခဲ့ရာ စာလိုက်သံဃာ ၇၀၀-လောက်အထိ ရှိခဲ့ဘူးကြောင်း သိရသည်။

ဆရာတော်သည် ပြည်ခရိုင် သဲကုန်းမြို့နယ် တပ်မရွာ အဖ ဦးထွန်းအေးနှင့် အမိဒေါ်ချင်းတို့မှ သက္ကရာဇ် ၁၂၅၉-ခုနှစ်၊ ကဆုန်လဆန်း ၈-ရက် စနေနေ့တွင် ဖွားမြင်တော်မူခဲ့သည်။ ၁၂-နှစ်သားအရွယ်တွင် သာမဏေဝတ်ခဲ့သည်။ ၁၂၇၈-ခုနှစ်၊ ဒုတိယဝါဆိုလဆန်း ၈-ရက်နေ့တွင် ပေါင်းတည်မြို့ ဘုရားကြီးတိုက် ဂိုဏ်းချုပ် အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော်ရ ဆရာတော်အရှင်ပုညာဘိဝံသကို ဥပဇ္ဈာယ်ပြု၍ ရဟန်းဖြစ်တော်မူခဲ့သည်။

ဥပဇ္ဈာယ်ဆရာတော်ထံတွင် ပညာသင်ယူခဲ့ပြီး မန္တလေး၊ ပခုက္ကူတို့သို့ ကြွ၍ ပညာသင်ကြားခဲ့သည်။ အသက် ၂၀-တွင် ပဌမကြီးတန်း စာမေးပွဲ၌ နံပါတ် ၁-ဖြင့် အောင်မြင်တော်မူခဲ့သည်။ နိုင်ငံလုံးဆိုင်ရာ ဝံသာနုစာမေးပွဲကြီး၌ ပဌမကျော်တန်းကိုလည်း အောင်မြင်တော်မူခဲ့သည်။ ၎င်းပြင် ရန်ကုန်မြို့၊ အလုံ ဇောတနာရာမတိုက် ဆရာတော်ကြီးထံ၌လည်း သက္ကဋစာပေများကို လေ့လာသင်ယူတော်မူခဲ့သည်။ အသောကာရာမတိုက်၌ စာချခဲ့ရာ မန္တလေး၌ ထိုစဉ်က စာလိုက်သံဃာအများဆုံးအဖြစ် ထင်ရှားခဲ့သည်။ ၁၃၀၁-ခုနှစ်တွင် နောက်ပြည်မြို့မှ ဒကာ ဒကာမတို့၏ ပင့်လျှောက်ချက်အရ ကြွရောက်ကာ ပြည်ဆံတော်ဘုရားအနောက်မုခ်အနီး ဇောတိကာရာမစာသင်တိုက်ကြီးကို တည်ထောင်၍ စာပေပို့ချရာ ပညာရှိတပည့်ကောင်းများစွာ ထွန်းကားလေသည်။

## လုပ်ဆောင်ချက်များ

ဆရာတော်သည် သာသနာစည်ပင်ရေးကို ရှေးရှုလျက် အောက်ပါတာဝန်များကိုလည်း ဆောင်ရွက်တော်မူခဲ့သည်။ ၎င်းတို့မှာ—

၁။ ပြည်ဆံတော်နှင့် မြတ်စွယ်တော်ဘဏ္ဍာထိန်းအဖွဲ့၏ ဩဝါဒါစရိယတာဝန်၊

၂။ ပြည်မြို့ မြို့မ ဆင္ဃသံဂါယနာပါဠိဝိသောဓကအဖွဲ့၏ ဥက္ကဋ္ဌ၊

၃။ မူလပဏ္ဏာသပဠိဝိသောဓကနှင့် အာရက္ခအဖွဲ့၏ ဒုတိယဥက္ကဋ္ဌတာဝန်၊

၄။ ပါဠိတက္ကသိုလ်အဖွဲ့၏ ဥက္ကဋ္ဌတာဝန်၊

၅။ မေ့ာ်ဘိ သာသနာသန့်ရှင်းပြန့်ပွားရေး အစည်းအဝေးကြီး၏ ဦးစီးအဖွဲ့ဝင် တာဝန်—

စသည်တို့ကိုလည်း ဆောင်ရွက်တော်မူခဲ့သည်။

## ကျမ်းဂန်များပြုစုခြင်း

ကျမ်းဂန်များကိုလည်း ပြုစုတော်မူခဲ့သည်။ ၎င်းတို့မှာ—

၁။ ဝါကျနိယံကျမ်း၊

၂။ ကစ္စာယနသာရဋီကာနိဿယ၊

၃။ ဝစနတ္ထဇောတိကာဋီကာနိဿယ၊

၄။ ဘေဒစိန္တာဒီပနီနိဿယ၊

၅။ သုဗောဓာလင်္ကာရဋီကာနိဿယ၊

၆။ နိဗ္ဗာနဇောတိကကျမ်း—

## နိဗ္ဗာနဇောတိကကျမ်း

ဆရာတော်သည် ဖော်ပြပါ ကျမ်းများအနက် နိဗ္ဗာနဇောတိကကျမ်းကို သက်တော် ၇၈-ဝါတော် ၅၈-ဝါရ၌ သက်တော်အရွယ်ရင့်တော်မူရာအခါ၌ နောက်ဆုံးရေးသား စီရင်တော်မူခဲ့လေသည်။ နိဗ္ဗာန်နှင့်စပ်သည့် ထူးမြတ်သည့် သဒ္ဓါသကန် မှတ်သားဖွယ်ကို လိုလားသည့်ပုဂ္ဂိုလ်တို့ လေ့လာထိုက်သော

ကျမ်းစာကောင်းတဆူ ဖြစ်လေသည်။ သာသနာရေးဦးစီးဌာနပုံနှိပ်တိုက်ရိုက် ကရောင်းတဆယ့်ခြောက်ချီး ၆၅-မျက်နှာခန့် ရှိလေသည်။

ဆရာတော်သည် ကျမ်းဦး၌—

၁။ ပစ္စက္ခကတနိဗ္ဗာနံ၊ သစ္စိကာတဗ္ဗဒေသကံ။
ဗုဒ္ဓံ ဓမ္မဉ္စ ပူဇေယျံ၊ နတွာ သံဃဉ္စ ဥတ္တမံ။

၂။ ပုညနာမံ မဟာထေရံ၊ အဂ္ဂါဒိဂုဏမဏ္ဍိတံ။
ဝန္ဒိတွာ မေ ဂရုံ ဓီရံ၊ ကဿံ နိဗ္ဗာနဇောတိကံ—

ဟူသော ၂-ဂါထာဖြင့် ဘုရား တရား သံဃာဟူသော ရတနာသုံးပါး ပဏ္ဏာမ ကျေးဇူးရှင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ဆရာတော် အရှင် ပုညပဏ္ဏာမ ပဋိညာဉ်ကို ပြုတော်မူခဲ့လေသည်။ ကျမ်း၏အဆုံး၌လည်း—

၁။ သိရိခေတ္တပုရေ ရမ္မေ၊ ဇောတိကာရာမနာမကေ။
ဆာယူဒကေဟိ သမ္ပုဏ္ဏေ၊ အာဝါသိကသုခေသာဘိတေ။

၂။ ဝသတာ ဇာတိယာ အဋ္ဌ-သတ္တတိနုပသမ္ပဒါ။
အဋ္ဌပဏ္ဏာသဝဿေန၊ ကတော နိဗ္ဗာနဇောတိကော။

၃။ နိဋ္ဌံ ဂတော ကဏှပက္ခေ၊ ဒုရာသာဠှဿ ဂိမှကေ။
ပဋ္ဌမေ ဇုဏှပက္ခဿ၊ သုက္ကဝါရပုဗ္ဗဏှကေ။

၄။ ယထာ အယံ ဂတော နိဋ္ဌံ၊ အဘာယော နိရုပဒ္ဒဝေါ။
တထာ ပဇာနံ့ ကိစ္စာနိ၊ အနဝဇ္ဇာနိ သာဓုနံ။

၅။ ကာလမိနာ ပုညကမ္မေန၊ ဘဝေယျံ ဒသဉာဏိကော။
သတသဟဿိကေ ကာလေ၊ ပူရိတော သဒ္ဓသဒ္ဓိကော။

၆။ ယာဝ တိဋ္ဌတိ နိဗ္ဗာနံ၊ တာဝ တိဋ္ဌတု ယံ ဂန္ထော။
လောကေဟိ သဗ္ဗသတ္တာနံ၊ ဒဿယန္တော ဝ နိဗ္ဗာနံ—

ဟူသော ၆-ဂါထာဖြင့် သီတင်းသုံးရာဌာန၊ ကျမ်းစာပြီးရာ ချိန်ခါသမယ ဆုတောင်းချက်ကို ဖော်ပြလျက် ပြည့်စုံစွာ နိဂုံးအုပ်တော်မူခဲ့လေသည်။ ဆရာ တော်သည် ဂန္ထခေါ် ကျမ်းရင်းစာသား၌—

(၁) အပြေခံညွှန်ကြားခြင်း၊ (၂) နိရောဓ ၇-မျိုး၊ (၃) တဒင်္ဂနိရောဓစသည်၊ (၄) နိဗ္ဗာန်မည်ကြောင်းနှင့် ပရိနိဗ္ဗာန်၊ (၅) နိဗ္ဗာန်၏ သဘာဝသင်္ခေပ၊ (၆) နိဗ္ဗာန်ရောက်ကြောင်းတရား၊ (၇) နိဗ္ဗာန်သို့ ရောက်ခြင်းနှင့် ရောက်ရာကာလ၊ (၈) နိဗ္ဗာန်ချမ်းသာ၊ (၉)

နိဗ္ဗာန်သုတ်အမျိုးမျိုး၊ (၁၀) နိဗ္ဗာန်ဝါဒများကို စိစစ်ခြင်း၊ (၈၁) ကျက်မှတ်ဆောင်ထားရန်တို့ကို ပြဆိုချက်တို့ ပါရှိလေသည်။

ဤကျမ်းကား ဆရာတော် အရှင်တေဇနိယ၏ နောက်ဆုံးကျမ်းစာဖြစ်ရာ မြတ်မြတ်နိုးနိုး ကြည့်ရှုလေ့လာထိုက်သောကျမ်း ဖြစ်ပေသတည်း။

## အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော်မူခြင်း

ဆရာတော်သည် သက္ကရာဇ် ၁၃၁၆-ခုနှစ်တွင် နိုင်ငံတော်အစိုးရတို့ လှူဒါန်းသည့် အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော်မူခဲ့လေသည်။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

သက်တော် ၈၂-နှစ်၊ ဝါတော် ၆၃-ဝါ ရရှိရာ ၁၃၄၀-ပြည့်နှစ်၊ နယုန်လပြည့်ကျော် ၉-ရက်နေ့တွင် သီတင်းသုံးရာ ပြည်မြို့ ဇေတဝနာရုံကျောင်းတိုက်၌ပင် ပျံလွန်တော်မူခဲ့လေသည်။

## သံဝေဂယူရန်

အတ္ထာ ဂေဟာ နိဝတ္တန္တေ၊ သုံသာနေ မိတ္တဗန္ဓဝါ။
သုကတံ ဒုက္ကဋံ ကမ္မံ၊ ဂစ္ဆန္တံ အနုဂစ္ဆတိ။

အတ္ထာ၊ ရတနာရွှေငွေ အထွေထွေသော စည်းစိမ်ဥစ္စာတို့သည်။ ဂေဟာ-ဂေဟာဝေ၊ နေမြဲနေရာ အိမ်ဂေဟာ၌သာလျှင်။ နိဝတ္တန္တေ၊ သေသူနောက်သို့ မရောက်မပါလစ် ကျန်ရစ်ကုန်၏။ မိတ္တဗန္ဓဝါ၊ ပီဖနှစ်ပါး သားနှင့်သမီး ဇနီးမိတ်ခင် ခုံင်ကျွမ်းဝင်သူတို့သည်။ သုသာနေ-သုသာနေဝေ၊ သုသာန်သင်္ချိုင်း၌သာလျှင်၊ ဝါ၊ သုသာနေ-သုသာနတော၊ သုသာန်သင်္ချိုင်းမှ။ ဂေဟံ၊ အိမ်သို့။ နိဝတ္တန္တေ၊ ပြန်သွားကြကုန်၏။ သုကတံ၊ ကောင်းစွာပြုအပ်သော။ ကမ္မံ၊ ကုသိုလ်ကံသည်ရင်း။ ဒုက္ကဋံ၊ ယုတ်မာညစ်ကျုံ မကောင်းသဖြင့် ပြုအပ်သော။ ကမ္မံ၊ အကုသိုလ်ကံသည်ရင်း။ ဂစ္ဆန္တံ၊ အတည်မကျ ဘဝတပါးသို့ ပြောင်းသွားရသူသို့။ အနုဂစ္ဆတိ၊ အရိပ်ပမာ မကွာစဉ်စိုက် လိုက်လေ၏။

## အသောကာရာမတိုက် သံဃာဦးရေ

အသောကာရာမတိုက် အစည်ကားဆုံးအချိန်က သံဃာတော် ၁-ထောင် လောက် သီတင်းသုံးရဖြစ်ကြောင်း သိနိုင်လေသည်။ စာချ စာသင်ချိန်မှာ တိုက်တွင်း၌ စာဆို စာလိုက် သွားကြ ပြန်ကြသော သံဃာတော်တို့၏ သင်္ကန်း ရောင်တို့မှာ တပြောင်ပြောင် ထိန်လင်း၍နေပေသည်။ ပတ်ဝန်းကျင်ကျောင်း တိုက်များမှ စာလိုက်သံဃာများမှာလည်း ဝင်လာမစဲ ဖြစ်ခဲ့လေသည်။

## သံဃာအနည်းဆုံးအချိန်

သံဃာအနည်းဆုံးအချိန်မှာ ၁၂၈၀-ပြည့်နှစ်လောက်က ဖြစ်သည်။ ထိုစဉ်က အသောကာရာမတိုက်၌ သံဃာတော်ဦးရေမှာ တိုက်စောင့်သာသာမျှ အနည်း အပါးသာ ရှိခဲ့ကြောင်း စုံစမ်းသိရှိရလေသည်။ ဒုတိယကမ္ဘာစစ်ပြီးသည့် နောက်ခေတ်တွင် သံဃာတော် ၄၀၀-ထိအောင် ရှိဘူးလေသည်။ ယခုမူ သံဃာတော် ၂၅၀-မျှသာ ရှိလေသည်။

## အသောကာရာမတိုက်နှင့် ညောင်ကန်တိုက်

အသောကာရာမတိုက်နှင့် ညောင်ကန်တိုက်သည် ဘိုးတော်မင်းတရား၏ ကောင်းမှုတော်ချည်းဖြစ်ကုန်၏။ ဆရာတော်ကြီးတို့အချင်းချင်းလည်း ကိုယ် ရောစိတ်ပါ ညီညာဖျဖျ သင့်တင့်ညီညွတ်ကြသည်။ အသောကာရာမတိုက်တည် တာတည် မောင်းထောင်သာသနာပိုင်ဆရာတော်မှာ အားလပ်ချိန်တွင် ညောင် ကန်တိုက်သို့ ကြွဟတ်သည်။ ညောင်ကန် ပဌမဆရာတော်ကြီးသည်လည်း တခါ တရံ နံနက်ခင်း၊ သို့တည်းမဟုတ် ညနေမိုးချုပ်ချုပ်တွင် အသောကာရာမ တိုက်သို့ ကြွရောက်၍ တရားစာပေ ဆွေးနွေးလေ့ရှိသည်။ ထိုအကြောင်းများ ကို ဘိုးတော်မင်းတရားကြီးသိသဖြင့် အသောကာရာမတိုက် မြောက်အပေါက် မှ အရှေ့တန်းတန်း ညောင်ကန်တိုက်အထိ အုတ်လမ်းမကြီး ခင်းပေးစေခဲ့လေ သည်။ ယခုတိုင် ယင်းအုတ်လမ်းကြီး၏ အစအနကို တွေ့မြင်နိုင်လေသည်။

ညောင်ကန်ထေရဝရော စာပိ၊ အသောကထေရကုဉ္စရော။
ဥဘော ခီရောဒကီဘူတာ၊ သမဂ္ဂါ မုဒိတာ ဘဝုံ။

## အသောကာရာမသာသနာဝင် လက်စသတ်ခြင်း

အသောကာရာမကျောင်းတိုက်ကြီး၏ သမိုင်းအကျဉ်း ချဉ်းနင်း၍ အသော ကာရာမတိုက်၌ သီတင်းသုံးတော်မူကြသော သာသနာ့ဝန်ဆောင် ဆရာတော်

ဘုရားကြီးများ၏ တပည့်အဆက်အနွယ်ကို အကျဉ်းချုပ်ဖော်ပြခဲ့ရာ အတော်အသင့် ပြည့်စုံပြီဖြစ်သဖြင့် ဤတွင် အသောကာရာမသာသနာဝင်ကို လက်စသတ်လိုက်ပါပြီ။

သုဇနာနံ ပသာဒါယ၊ သံဝေဂတ္ထာယ မေ ကတော။
အသောကာရာမဝံသော ယံ၊ သမတ္တော သာဓုဝဏ္ဏိတော။



# ရွှေရေးဆောင်သာသနာဝင်

ရွှေရေးဆောင်ကျောင်းတိုက်ကြီးသည် မဟာမုနိရုပ်ရှင်တော်မြတ်ကြီး၏ အနောက်မြောက်ဘက်တွင် တည်ရှိလေသည်။ မဟာမြတ်မုနိရုပ်ရှင်တော်ဘုရားကြီး အနောက်ဘက်စောင်းတန်းခါးပြတ်မှ မြောက်ဘက်ထွက်လိုက်လျှင် ရွှေရေးဆောင် ကျောင်းတိုက်ကြီးထဲ ရောက်တော့သည်။

## ကျောင်းတိုက်ကြီး မြင်ကွင်း

ကျောင်းတိုက်ကြီးကို ခမ်းနားကြီးကျယ်လှသော ရွှေယန်စံလွတ်အမည်ရှိသော အလယ်ကျောင်းတော်ကြီးကို ကျောင်းပေါင်းများစွာ ဝန်းရံ၍ တွေ့မြင်နိုင်လေသည်။ ယခုအခါ ယင်းကျောင်းတိုက်ကြီး၌ သံဃာတော် ၁၀၀-ခန့်၊ ၁၀၀-ပတ်ဝန်းကျင် သီတင်းသုံးတော်မူကြ၍ ပရိယတ် ပဋိပတ်အလုပ်ကို ကြိုးကုတ်တော်မူလျက်ရှိ၏။ ဒုတိယကမ္ဘာစစ် မဖြစ်မီက သံဃာတော် ၄၀၀-ကျော် ၅၀၀-ခန့် သီတင်းသုံးတော်မူခဲ့ကြသည်။ ဗြိတိသျှတို့ အုပ်စိုးစဉ်က ရွှေရေးဆောင်ကျောင်းဘိုက်ကြီး၌ ကျောင်းထိုင် ခန်းပိုင်ဆရာတော် ၃၀. ကျော်ရှိ၍ ယင်း ကျောင်းထိုင်ခန်းပိုင်ဆရာတော်၃၀-ကျော်တို့က မိမိဆိုင်ရာ တိုက်တာ သံဃာတော်ကို အုပ်ချုပ်တော်မူကြသည်။ ကျောင်းတိုက်၏ နာယကတပါးလည်း အစဉ်အလာအားဖြင့် ရှိမြဲဖြစ်သည်။

## သမိုင်းအကျဉ်း

သက္ကရာဇ် ၁၁၄၃-ခုနှစ်တွင် ရွှေထီးကနက္ကဒဏ်ချစ်တန်လွှင့်တူ ဧကရာဇ်မင်းအဖြစ်သို့ ရောက်တော်မူသော အမရပူရ ပဌမမြို့တည် နန်းတည် "သီရိပဝရဝိဇယာနန္တယသတြိဘုဝနာဒိတျာဓိပတိပဏ္ဍိတမဟာဓမ္မရာဇာဓိရာဇာ" ဘွဲ့တံဆိပ်နာမံတော်ရှိသော ဖအောင်မြေလောကစေတီတော်ဒါယကာ ဘိုးတော်မင်း

တရားကြီး၏ ကြင်ရာတော်သက်ထား တောင်ရွှေရေးဆောင်မိဖုရားကြီးဖြစ်သော သီရိမဟာမင်္ဂလာဒေဝီက သုံးထပ်ဇေတဝန်ရွှေကျောင်းတော်ကြီးကို ဆောက်လုပ်စေတော်မူ၍ ဝေယန်စိလ္လတ်အမည်သတ်မှတ် ကမ္ပည်းတပ်တော်မူ၍ ကောဇာသက္ကရာဇ် ၁၁၅၃–ခုနှစ် ပြာသိုလဆန်း ၁၁-ရက်နေ့တွင် မင်းတရားနှင့် မိဖုရားတို့ ကိုယ်တိုင်ထွက်တော်မူ၍ ကျောင်းလှူတ်သဘင် ဆင်ယင်ကျင်းပတော်မူကြ၍ အရှင်သြဘာသဓမ္မအား ကိုယ်တိုင်ရေစက်သွန်းချ တင်လှူတော်မူခဲ့ကြကုန်၏။ ကျောင်းတိုက်နာမည်ကား ကျောင်းဒါယိကာမမိဖုရားကြီး၏ အမည်ကိုစွဲ၍ ရွှေရေးဆောင်တိုက်ဟု ယခုတိုင် တွင်လေသည်။

ဒေဝိယာ နာမံ ပဋိစ္စ၊ ရွှေရေးဆောင်အဝှယော ဘဝိ။
ရွှေရေးဆောင် အာရာမောတွေဝ၊ အဇ္ဇနာပိ ပဝတ္တတိ။

### ရွှေရေးဆောင်တိုက် ပဌမဆရာတော် အရှင်သြဘာသဓမ္မ

ရွှေရေးဆောင်ကျောင်းတိုက်ကြီး၏ အာဒိကမ္မိက ပဌမဆရာတော်ဘုရားကြီး အရှင်သြဘာသဓမ္မသည် ဗန်ကျီတိုက်အဝင်အပါဆိုဘားရွာ၌ ဦးမော် ဒေါ်လေးတို့မှ သက္ကရာဇ် ၁၁၀၇–ခုနှစ်၊ ဝါဆိုလဆန်း ၁၄-ရက် တနင်္ဂနွေနေ့ နံနက် နေဝန်းထွက်ပေါ်ချိန်တွင် မီးရှူးသန့်စင် ဖွားမြင်တော်မူခဲ့လေသည်။

### ရှင် ရဟန်း ပြုတော်မူခြင်း

သက်တော် ၁၂-နှစ်သားအရွယ်တွင် ရွာဦးကျောင်းဆရာတော် အရှင်ပညာသာမိထံ မိဖတို့ အပ်နှံသဖြင့် ရောက်ရှိပညာသင်ကြားတော်မူသည်။ သက်တော် ၁၄-နှစ်ခန့်တွင် ရတနာပူရမြို့ ဘလေးဘော်သူ "တိပိဋကသဒ္ဓမ္မသာမိ မဟာဓမ္မသူဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ ဆိုတား ဆရာတော်ဘုရားကြီးထံ ရှင်သာမဏေဝတ်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ ဘွဲ့တော် ရှင်သြဘာသဓမ္မဖြစ်လေသည်။ သက်တော် ၂၀-ပြည့်မြောက်သည်တွင် ရဟန်းပြုတော်မူပြီး ပါဠိ အဋ္ဌကထာ ဋီကာကျမ်းဂန်တို့ကို သင်ယူ၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။

### စာပေချပို့တော်မူခြင်း

အရှင်သြဘာသဓမ္မသည် စာပေကျမ်းကျင် တတ်မြောက်ပြီးနောက် ရတနာပူရမြို့ ဥပဇ္ဈာယ်ဆရာတော် ဘလေးတော် ဆိုတားဆရာတော်ဘုရားကြီး၏ အထံ၌ တပည့် တပန်း ရဟန်းသာမဏေတို့အား စာချပို့တော်ခဲ့လေသည်။

## ရွှေရေးဆောင်တိုက်ကြီးကို အလှူခံတော်မူရခြင်း

"ဗဒုံတေဇာ ယုရုပါအင္ဂတိ'သယူ" ဟူသည်နှင့်အညီ ဗဒုံ (ဘိုးတော်)မင်းတရားသည် ဖောင်းကားမင်းနှင့် စစ်ကူးမင်းတို့ကို လုပ်ကြံတော်မူ၍ သက္ကရာဇ် ၁၁၄၃-ခုနှစ်တွင် နန်းတက်တော်မူသည်။ သက္ကရာဇ် ၁၁၄၄-ခုနှစ်တွင် အမရပူရမြို့တော်ကို စတင်တည်တော်မူသည်။ မင်းတရားသည် ၁၁၄၅-ခုနှစ် နယုန်လဆန်း ၁၂-ရက် တနင်းလာနေ့တွင် ကရဝိက် ပတ္တမြားမျက်ရှင်ကို ငုံ၍ ပျံဟန် ဘုံ ၁၁-ဆင့်ရှိသော ရွှေပြာသာဒ်တော်တင် ရွှေဖောင်တော်ကြီး၌ ထီးဖြူတော် ကနက္ကဒဏ်ဖြန့်မိုးလျက် အရှင်မိဖုရားခေါင်ကြီးနှင့်တကွ မင်းမိဖုရား သားတော် မြေးတော် ဆွေတော် မျိုးတော် မတ်တော် ဗိုလ်မှူး တပ်မှူး စစ်သည် သူရဲအပေါင်းခြံရံတော်မူပြီး ရွှေဖောင်တော် ရွှေလှေ ဆင်ယာဉ် မြင်းယာဉ်တို့ဖြင့် စစ်အင်္ဂါလေးပါးခင်းကျင်းလျက် ရတနာပူရ အင်းဝမြို့တော်မှ အမရပူရမြို့တော်သို့ ပြောင်းချီတော်မူခဲ့လေသည်။

အမရပူရရွှေမြို့တော်သို့ ရောက်တော်မူသောအခါ မြို့တော်အနောက် ခတ်နန်း၌ စံတော်မူ၍ နယုန်လဆန်း ၁၃-ရက် အင်္ဂါနေ့တွင် ရွှေမြို့တော်ကို"အမရပူရ"နန်းမြို့တော်၊ "မြနန်းဘုံစံ"ရွှေနန်းတော်ကို"အောင်နန်းစံရာ" မြို့တော်၊ လေးမျက်နှာတံခါး ၁၂-ရပ်တို့ကို ဦးနှိမ်သိမ်းစည်းစသော အမည်နာမများ ပေးတော်မူ၍ မော်ကွန်းစိုက်တော်မူသည်။

မင်းတရားသည် မိဖုရားကြီးအလွန်တရာ ကြည်ညိုလေးမြတ်တော်မူသော အရှင်ဩဘာသမ္မေကိုလည်း ရတနာပူရအဝမြို့တော်မှ ပင့်၍ ၁၁၅၃-ခုနှစ်၊ ပြာသိုလဆန်း ၁၁-ရက်နေ့တွင် ရွှေရေးဆောင်ကျောင်းတိုက်ကြီးကို တင်လှူတော်မူခဲ့လေသည်။ အရှင်ဩဘာသမ္မေသည် ရွှေရေးဆောင် ကျောင်းတိုက်ကြီးကို အလှူခံတော်မူ၍ ပရိယတ္တိကျမ်းဂန်ချပို့ သာသနာပြုတော်မူခဲ့လေသည်။

### ပျံလွန်တော်မူခြင်း

အရှင်ဩဘာသမ္မေသည် ရွှေရေးဆောင်ကျောင်းတိုက်ကြီး၏ ခေါင်းမဦးချနာယကဆရာတော်ဖြစ်၍ သာသနာပြုစဉ် ပစ္ဆိမအရွယ်တွင် ဘဝနတ်ထံ ဝင်စံတော်မူခဲ့လေသည်။

## သံဝေဂယူရန်

အနိမိတ္တ မနညာတံ၊ မစ္စာနံ ဣဓ ဇီဝိတံ။
ကသိရဥ္စ ပရိတ္တဥ္စ၊ တဉ္စ ဒုက္ခေန သံယုတံ^၁။

ဣဓ၊ ကြုံရဖြစ်ရ ဤလောက၌။ မစ္စာနံ၊ စွဲလာသေန္ဓေ တည်နေဖြစ်လာ သတ္တဝါတို့၏။ ဇီဝိတံ၊ အသက်သည်။ ဝါ၊ အသက်ကို။ အနိမိတ္တံ၊ အမှတ်နိမိတ် သင်္ကေတ မရှိပါချေ။ ဝါ၊ ပြုလုပ်စရာကိစ္စအဝဝ ကျန်ရှိနေသေးသဖြင့် မှသေရပါစေနှင့်ဟု ချိန်းချက်သတ်မှတ်မှု မရှိပါချေ။ အနညာတံ၊ ဤမျှကြာလျက် အသက်ရှည်အံ့ဟူ၍ မည်သူမည်ဝါမျှ ပိုင်ပိုင်မိမိ မသိအပ်နိုင်။ ကသိရဉ္စ၊ အကြောင်းရပ်ရပ် ကာလကြာတည် ရှည်ရန် ခဲယဉ်းလည်း ခဲယဉ်းလှချေ၏။ ပရိတ္တဉ္စ၊ မြက်ပေါ်ဆီးနှင်း အပ်ပေါ်မုန်ညင်းတမျှ နည်းကျဉ်းလည်း နည်းကျဉ်း လှချေ၏။ တဉ္စ ဇီဝိတံ၊ ထိုအသက်သမုတ် နာမ်နှင့်ရုပ်သည်လည်း။ ဒုက္ခေန၊ ပြောထူများလှ ဆင်းရဲဒုက္ခနှင့်။ သံယုတံ၊ ထာဝရအစဉ်မပြတ် ယှဉ်၏။

### ဒုတိယနာယကဆရာတော်

ကောဇာသက္ကရာဇ် ၁၁၇၁-ခုနှစ်တွင် ဘိုးတော်မင်းတရားကြီး၏ အရိုက် အရာဖြစ်သော ရွှေထီး ရွှေနန်းကို သိမ်းမြန်းဆက်ခံ စိုးစံတော်မူသော "သိရီတြိဘဝနာဒိတျပရမပဏ္ဍိတမဟာဓမ္မရာဇာဓိရာဇာ" ဘွဲ့တံဆိပ် နာမံ ရှိတော်မူသော စတုတ္ထရတနာပူရမြို့ မြို့တည်နန်းတည် မဟာဝိဇယရံသီစေတီ တော် ဒါယကာမင်းတရားကြီးလက်ထက်တွင် "နရိန္ဒာဘိသိရီဓဇ မဟာဓမ္မ ရာဇာဓိရာဇဂုရု" တံဆိပ်တော်ရ ပုလဲဆရာတော်ဘုရားကြီးသည် ဒုတိယ မြောက် ဆက်လက်သီတင်းသုံးတော်မူခဲ့သည်။

### တတိယနာယကဆရာတော်

ထိုနောက် သက္ကရာဇ် ၁၁၉၉-ခုနှစ်တွင် နောင်တော် စစ်ကိုင်းမင်း၏ အရိုက်အရာကို ဆက်လက်စိုးစံတော်မူသည့် "သိရိပဝရာဒိတျလောကာဓိပတိ ဝိဇယ မဟာဓမ္မရာဇာဓိရာဇာ" ဟူသော တံဆိပ်နာမံကို ခံယူရရှိသော အမရ ပူရ ဒုတိယမြို့တည်နန်းတည် လောကာမဏိစူဠာ စေတီတော် ဒါယကာမင်း တရားကြီးလက်ထက်တွင် မိုးနဲဗိုလ်မှူးကြီးဖြစ်သော ပခန်းမင်း "သိရိသီဟသူရ မဟာဓမ္မရာဇာ" ၏ ဆရာတော် "ပရမညာဏဓမ္မ မဟာဓမ္မရာဇာဓိရာဇဂုရု" တံဆိပ်တော်ရ မဟာထေရ်မြတ် တတိယမြောက် သီတင်းသုံးတော်မူလေသည်။

---

၁။ သုတ္တန်၊ ၃၇၁၊ သလ္လသုတ်။

## စတုတ္ထနာယက ဆရာတော်

"ပရမညာဏဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" ဆရာတော်မရှိသည့်နောက်တွင် "အာစယစာရဝံသ ဓဇသိရီပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ ဆရာတော်ဘုရားကြီး ဆက်လက် သီတင်းသုံးတော်မူသည်။ ယင်းဆရာတော်ကြီး မရှိသည့်နောက်တွင် "ပဏ္ဍိတဓဇ သိရီပဝရမဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ မိုင်းခိုင်းဆရာတော်ဘုရားကြီး သီတင်းသုံးတော်မူ၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။

## မိုင်းခိုင်းဆရာတော် အရှင်ပဏ္ဍိတမဟာထေရ်

ဝိနည်းအဆုံးအဖြတ် လေ့လာသူတိုင်း မိုင်းခိုင်းဆရာတော် ဟူသော နာမည်ဘွဲ့တော်ကို သိကြသည်။ ဆရာတော်သည် သာသနာတော်၌ နေလအသွင် လွန်စွာထင်ရှားလေသည်။ ရွှေရေးဆောင် ကျောင်းတိုက်ကြီး၏ ပဌမမြောက် အဓိပတိ မဟာနာယကလည်း ဖြစ်တော်မူလေသည်။

သလ္လာဝတီမည်သော အောက်ချင်းတွင်း ရွေးကအခေါ် ပဒို၊ ယခုအလုံနယ် သာစည်ရွာကြီးတွင် သက္ကရာဇ် ၁၂၀၄-ခုနှစ် တပေါင်းလဆုတ် ၁-ရက် ကြာသပတေးနေ့တွင် သူကြီးရိုးရာမိဘတို့မှ ဖွားမြင်တော်မူသည်။ သက်တော် ၇-နှစ်သားအရွယ်တွင် ဂိုဏ်းချုပ်ဆရာတော် အရှင်ရေဝတမထေရ်ထံ မိဘတို့ အပ်နှံကြသဖြင့် သင်ပုန်းကြီး၊ မင်္ဂလသုတ်၊ အောင်ခြင်းရှစ်ပါး၊ ရတနာရွှေချိုင့်၊ ပရိတ်၊ နမက္ကာရ၊ ထိုထိုစာငယ်တို့နှင့်တကွ ဇာတ်ကြီးဆယ်ဖွဲ့၊ ဆန်း၊ အလင်္ကာ၊ သဒ္ဒါ၊ အဘိဓာန်၊ သင်္ဂြိုဟ်တို့ကို ကျောင်းသားဘဝနှင့် သင်ယူတော်မူခဲ့လေသည်။

## သာသနာ့ဘောင်သို့

အရွယ်ရောက်သော် အရှင်ရေဝတထံတွင် သာမဏေဝတ်ခဲ့သည်။ ရှင်ပဏ္ဍိတဟူသော ဘွဲ့မည်ကိုလည်း ဥပဇ္ဈာယ်ဆရာတော်က မှည့်ခေါ်တော်မူသည်။ ရှင်ပဏ္ဍိတသည် သက်တော် ၁၇-နှစ်တိုင်အောင် သခေပဋီကာ၊ အဘိဓမ္မတ္ထဝိဘာဝိနီဋီကာ၊ အဋ္ဌသာလိနီ၊ မူလဋီကာ စသော အဘိဓမ္မာပိဋကကျမ်းများစွာကို သင်ယူတော်မူခဲ့လေသည်။

## စံကျောင်းဆရာတော်ဘုရားကြီးထံသို့

စံကျောင်းဆရာတော်ဘုရားကြီးသည် စံကျောင်းတိုက်သို့ ပြောင်းရွှေ့သီတင်းသုံးတော်မမူမီ မင်းကွန်းမြောက်ဘက် အုန်းသဇင်ရွာ ဂန္ဓသာလတော

ကျောင်း၌ သီတင်းသုံးတော်မူစဉ် သက်တော် ၁၇-နှစ်အရွယ်ရှိ သာမဏေ ရှင်ပဏ္ဍိတသည် စံကျောင်းဆရာတော်ဘုရားကြီးထံ ဥပဇ္ဈာယ် အရှင်ရေဝတထေရ်၏ လိုက်ပို့အပ်နှံသဖြင့် ရောက်ရှိပညာသင်ကြားရလေသည်။ စံကျောင်းဆရာတော်ဘုရားကြီးသည် ပိဋကတ်အခြေပါဒ ရရှိပြီးလည်းဖြစ်၊ သတ္တိဗျတ္တိ စွယ်စုံရှိသည်လည်းဖြစ်သော သာမဏေ ရှင်ပဏ္ဍိတကို အဘိဓမ္မာပိဋကတ်ကျမ်းစာ၊ ပါဠိ၊ အဋ္ဌကထာ၊ ဋီကာတို့ကို အဘိဓာန်၊ သဒ္ဒါ၊ အလင်္ကာ၊ ဗေဒင်းနေ့တွက်နည်း စသည်တို့ဖြင့် တန်းဆာဆင်လျက် အထူးချပို့ သင်ကြားပြသနည်းပေးတော်မူလေသည်။

## ဆင်ဖြူမရှင်မိဖုရား၏ ပစ္စယာနုဂ္ဂဟဖြင့် ရဟန်းဖြစ်ခြင်း

သက်တော် ၂၀-ပြည့်ရာ ၁၂၂၄-ခုနှစ်၊ ဂါဆိုလတွင် ဆင်ဖြူမရှင်မိဖုရားခေါင်ကြီး၏ ပစ္စယာနုဂ္ဂဟဖြင့် ကျေးဇူးရှင် စံကျောင်းဆရာတော်ဘုရားကြီးကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူလေသည်။ ရဟန်းဘွဲ့တော်မှာလည်း အရှင်ပဏ္ဍိတ ဖြစ်လေသည်။ စံကျောင်းဆရာတော်ဘုရားကြီးသည် မိုင်းခိုင်းဆရာတော်လောင်းလျာ အရှင်ပဏ္ဍိတအား သာမဏေဘဝကလည်း အဘိဓမ္မာ ပိဋကတ်ကို နည်းစုံကျင်း၍ စာပေပို့ချ နည်းပေးတော်မူသည်။ ရဟန်းခံစဉ်လည်း ဥပဇ္ဈာယ်ပြု၍ ချီးမြှောက်တော်မူသည်။ ရဟန်းခံပြီးနောက်၌လည်း လိုအပ်သော အတတ်ပညာတို့ကို အချောသတ် သင်ပြပို့ချနည်းနယ ပေးတော်မူသည်။ ထို့ကြောင့်ပင် တိပိဋကဝိနိစ္ဆယ ကျမ်းဦးအစဂန္ထာရမ္ဘ၌ အနန္တဂုဏ်အင် ကျေးဇူးရှင် စံကျောင်းဆရာတော်ဘုရားကြီးအား—

မဟာဓိရံ မဟာဉာဏံ၊ မဟာရညာ မမာယိတံ။
မဟာပါလံ မဟာလဇ္ဇိံ၊ မမုပဇ္ဈံ အဟံ နမေ။

မဟာဓိရံ၊ မယိမ်းမယိုင် ကျောက်စာတိုင်သို့ မြဲမြံခိုင်ဖြိုး ကြီးမြတ်သော သမာဓိလည်း ရှိထသော။ မဟာဉာဏံ၊ ပျက်ချင်းဘဏ ရှုကာမျှဖြင့် စူးရှသက်ပင် သိမြင်နိုင်သည်ဖြစ်၍ ကြီးမြတ်သော ဉာဏ်ပညာ ရှိထသော။ မဟာရညာ၊ မိဖုရားခေါင်ကြီးနှင့်တကွ ရတနာပုံ ပဌမမြို့တည် နန်းတည် ပဋ္ဌမသံဂါယနာတင် မင်းတရားကြီး သားတော်သီပေါမင်းတရားမြတ်သည်။ မမာယိတံ၊ ပရက်မစက် စုံမက်မြတ်နိုးကိုးကွယ်တော်မူအပ်သော။ မဟာပါလံ။ ကောင်းစွာ စောင့်ရှောက်အပ်သော စတုပါရိသုဒ္ဓိသီလ အာစာရပဋိပတ် အကျင့်မြတ်ရှိထသော။ ဝါ၊ တုမန္ဒိုင်းဖွယ် ကြီးကျယ်သော ကိုယ်၏စောင့်စည်းခြင်း နှုတ်၏



ပြင်သစ်နိုင်ငံ ပဲရစ်မြို့ အတွင်းဝန်ရုံး ပုံစံတူ ရွှေရေးဆောင်ကျောင်းကြီး

စောင့်စည်းခြင်း ရှိထသော။ မဟာလင်္ကာ၊ မျှားမြတ်တော သုဒ္ဓဿနဝရ ဓမ္မသာမိ မဟာဓမ္မရာဇာဓိရာဇဂုရုဟူသော ပဌမတံဆိပ်တော် သုဒ္ဓဿန ဓဇ အဘုလမိပတိ သိရိပဝရ မဟာဓမ္မရာဇာဓိရာဇဂုရုဟူသော ဒုတိယ တံဆိပ်တော်ရှိထသော။ မမ၊ ငါ၏။ ဥပဇ္ဈာ၊ ဥပဇ္ဈာယ်ဆရာ ဓမ္မာ စရိယအထူး ကျေးဇူးရှင်ဖြစ်တော်မူသော စံကျောင်းဆရာတော်ဘုရား ကြီးကို။ နမေ၊ ရှိသေစွာ ရှိခိုးပါ၏—

ဟူသော စကားရပ်တို့ဖြင့် မြတ်နိုးကော်ရော် ပူဇော်တော်မူခဲ့သည်။

## စံကျောင်းတိုက်သို့

စံကျောင်းဆရာတော်ဘုရားကြီးသည် သက္ကရာဇ် ၁၂၂၆-ခုနှစ်တွင် ပဉ္စမ သံဂါယနာတင် ဘဝရှင်မင်းတရားကြီး၏ လျှောက်ထားချက်အရ ရတနာပုံ မန္တလေးမြို့သို့ ကြွရောက်တော်မူ၍ စံကျောင်းတိုက်အတွင်း ရတနာဘုံစံကျောင်း တော်ကြီး၌ သီတင်းသုံးသောအခါ အရှင်ပဏ္ဍိတသည်လည်း ဖဝါးခြေထပ်ထက် ကြပ်မကွာ လိုက်ပါကြွရောက် သီတင်းသုံးရလေသည်။ အရှင်ပဏ္ဍိတသည် ရဟန်း ၅-ဝါလောက်မှစ၍ စာပေပို့ချရလေသည်။ ရဟန်းသိက္ခာ ၁၁-ဝါ အရတွင် ပဌမစာချအဖြစ် ချီးမြှင့်ခြင်းခံရသည်။

## စလင်းမြို့ မြို့မငါးစဉ် စံကျောင်းသို့

စံကျောင်းတိုက်ကြီးအတွင်း၌ တပည့်တပန်း ရဟန်းသာမဏေတို့အား စာ ပေပို့ချလျက်ရှိစဉ် စလင်းသူဌေးကြီးက စလင်းမြို့သို့ ကြွရောက်၍ သာသ နာ ချီးမြှောက်ပါမည့်အကြောင်း လျှောက်ထားသဖြင့် ၁၂၅၄-ခုနှစ်တွင် စလင်းမြို့သို့ ကြွရောက်တော်ပြီး စလင်းမြို့ မြို့မငါးစဉ်စံကျောင်းကို အလှူခံ တော်မူ၍ စာပေပို့ချခြင်း၊ ပဉှာဆက္က၊ ပဉှာဘေဒ၊ နိဿိဒနသန္တတအစရှိသော အဆုံးအဖြတ်များကို ရေးသားစီရင်တော်မူယင်း သီတင်းသုံးတော်မူလေသည်။

## ပြင်သစ်နိုင်ငံ ပဲရစ်မြို့ အတွင်းဝန်ရုံးပုံစံတူ ကျောင်းကြီး

မဒုံမင်းတရားကြီးနှင့် မင်္ဂလာအိမ်တော်ပါ တောင်ဆောင်တော် ရွှေရေး ဆောင် မိဖုရားကြီး၏ ကောင်းမှုတော် ပဌမသုံးထပ် ဇေတဝန်ဝေယန်စံလှတ် ကျောင်းတော်ကြီးမှာ သက္ကရာဇ် ၁၂၄၅-ခုနှစ်၊ နှောင်းတန်ခူးလဆန်း ၁၂ ရက်နေ့ ၂-ချက်တီးကျော် ၃-မောင်းခန့်အချိန် ရတနာဘုမ္မိရပ် ဦးဖိုး(ငဖိုး) **အိမ်မှ မီးသင့်လောင်လေရာအနောက်မြောက်လေတိုက်ခတ်သဖြင့် မဟာအောင်**

မြေ ရှာဟိုင်းဈေးရပ်၊ ယင်းမှ တောင်တူးမြောင်းကို ဖြတ်၍ မဟာမုနိရုပ်ရှင်တော်မြတ်၏ ဂန္ဓကုဋီရှေ့ပြာသာဒ်တော်ကြီးနှင့် စောင်းတန်းလေးသွယ်အပါအဝင် ပတ်ဝန်းကျင်ရှိ ကျောင်းတိုက်ကြီးများနှင့်အတူ မီးလောင်ကျွမ်းခြင်း ခံခဲ့ရလေသည်။

ကျွန်းလုံးဥသျှောင်ရပ်နေ မြို့သစ်အတွင်းဝန်မင်းကြီး ဦးဖိုးနှင့် ဝန်ကတော်ကြီး ဒေါ်ငြိမ်းတို့သည် ဗဒ္ဒိမင်းတရားနှင့် ရွှေရေးဆောင် မိဖုရားကြီးတို့၏ ကောင်းမှုတော် သုံးထပ်ဇေတဝန် ရွှေကျောင်းတော်ကြီး မီးသင့်လောင်ကျွမ်းခဲ့သဖြင့် ရှေးကျောင်းတော်ကြီး ပျောက်၍ မြေကွက်လပ်ဖြစ်နေရသည့် အလယ်ကျောင်းကြီး မြေနေရာကို တွေ့မြင်ကြရသောအခါ သံဝေဂဓာတ် အဟုန် ရိုက်ခတ်သဖြင့် ဘုရားမြတ်စွာ သာသနာတော်ကြီး၏ စည်ပင်ရေးကို အားပေးရန် သဒ္ဓါတရားထက်သန်သော စိတ်အကြံဖြင့် သက္ကရာဇ် ၁၂၅၀ ပြည့်နှစ်လောက်တွင် အရှေ့အနောက် ပေ ၁၀၀၊ အခန်း ၁၅-ခန်း၊ ဆင်ဝင် ဘုရား ပေ ၅၀၊ အခန်း ၄-ခန်း၊ တောင်မြောက် ပေ ၁၀၀၊ အခန်း ၁၂-ခန်း၊ အတွင်းဘက် အလယ်က စမြင်သုံးဘက်ပတ်လျက် ဟောခေါ်သော မြေကွက်လပ် ၃၂-ပေကျယ် ထားလျက် ဆင်ဝင်ဘုရားခန်းနှင့် တစပ်တည်း တိုက်မကြီး၌ဝဲယာ ၂-ခု၊ အခန်းကြီးအလယ်၌ စာချမှုကိစ္စ၊ ဝါဆိုဝါကပ်စသည့် သံဃကိစ္စအဝဝကို ချမ်းသာစွာ ပြုလုပ်နိုင်ရန် တောင်မြောက် ၄၅-ပေ၊ အရှေ့ အနောက် ၃၂-ပေခန့်ကျယ် အခန်းကြီးတခုကို အဓိကထား၍ အတွင်းစမြင် ပတ်လည် အထက်အောက် ၂-ထပ် အလယ်မှ အုတ်ရိုးခြားလျက် စာသင် သံဃာတော်များ သီတင်းသုံးရန် တထပ် ၃-ခန်း၊ အခန်းငယ် ၆-ခန်း၊ အရှေ့ဘက်ဘုရားခန်း အထက်ထပ် ဘုရားအောက်ထပ် စာသင်သားသံဃာ တော်များ သီတင်းသုံးသောအခန်းတခန်း၊ အနောက်ဘက်မှ အုတ်လှေကားကြီး ၂-စင်း ဝဲယာကွေ့ပတ်လျက် ထိပ်တိုက်တပ်ဆင်ထားရာ လှေကားကြီး ၂-စင်းထိပ်၌ ဖိနပ်ချွတ်ခန်းတွင် ဖိနပ်ချွတ်လျက် စမြင်မှနေ၍ ခန်းကြီးခန်းငယ် စာချခန်း၊ ဘုရားခန်းတို့၌ ဝင်ထွက်သွားလာနိုင်ရန် စီစဉ်၍ ပြင်သစ်နိုင်ငံ ပဲရစ်မြို့တော်မှ အတွင်းဝန်ရိုးကြီးပုံစံအတိုင်း[၁] ဆောက်လုပ်ခဲ့လေသည်။ ဖော်ပြပါ ကျောင်းတော်ကြီးကို ရွှေရေးဆောင်ကျောင်းတိုက်ကြီး၏ ပဌမ မြောက်နာယက ဖြစ်တော်မူသော "ပဏ္ဍိတဓဇသီရိပပရမဟာဓမ္မရာဇာဓိရာဇ ဂုရု" ဘွဲ့တံဆိပ်တော်ရ မိုင်းခိုင်းဆရာတော် အရှင်ပဏ္ဍိတသည်—

---

၁။ မြို့သစ်အတွင်းဝန်သည် ၁၂၄၆-ခုနှစ်၊ ပြာသိုလတွင် ပြင်သစ်နိုင်ငံသို့ ရောက်ခဲ့စဉ်က အတွင်းဝန်ရိုးပုံစံကို မှတ်ယူခဲ့သည်။

မဟာမြတ်မုနိနာမဿ၊ မဟာဗိမ္ဗဿ ပစ္ဆိမေ။
မဟာသောဘိဌကာဝါသေ၊ အန္တောမစ္စေန ကာရိတေ။
နဝဌာနိယဘောဇေန၊ ဝိညူနံ စိတ္တရာမိနာ။

မဟာမြတ်မုနိနာမဿ၊ မဟာမြတ်မုနိအမည်တော်ရှိသော။ မဟာဗိမ္ဗဿ၊ ဝေးနီးအောက်ထက် ဝင်းဝင်းတက်လျက် လျှံထွက်ကွန့်မြူး စံဘက်ကြူး၍ အထူးကြေညာ ဘေဇာဏ္ဍဒွိ တန်ခိုးရှိသော ရုပ်ပွားတော်ကြီး၏။ ပစ္ဆိမေ၊ အနောက်မုခ်ထွက် မြောက်ဘက်မျက်နှာ မဟာရံဝိုင်း တံတိုင်းကြီး၏ အပြင်ဘက်၌။ နဝဌာနိယဘောဇေန၊ မြို့သစ်မြို့စားဖြစ်သော။ ဝိညူနံ၊ ရဟန်းပညာရှိ လူပညာရှိတို့၏။ စိတ္တရာမိနာ၊ စိတ်နှလုံးကို ရွှင်ပြုံးနှစ်သက် စုံမက်စေနိုင်သော စည်းစိမ်ဥစ္စာ သဒ္ဓါ လုံလောက် ကုံထံသော ဉာဏ်ပညာရှိသော။ အန္တောမစ္စေန၊ အတွင်းဝန်မင်း မင်းကြီး မဟာဇေယျရာဇသင်္ကြံသည်။ ကာရိတေ၊ ဆောက်လုပ်စေအပ်သော။ မဟာသောဘိဌကာဝါသေ၊ ကောင်းမြတ်ကြီးကျယ် ရှုဖွယ်မခန်း ထူးဆန်းပြေပြစ် ကျစ်လစ်ချောမော တင့်တယ်သော အုတ်ကျောင်းကြီး၌''—

ဟု ဖွဲ့ဆိုတော်မူခဲ့လေသည်[၁]။

## မန္တလေးမြို့ ရွှေရေးဆောင်ကျောင်းတိုက်သို့

သက္ကရာဇ် ၁၂၅၇-ခုနှစ်တွင် မြို့သင်မြို့စား (မဟာဇေယျရာဇသင်္ကြံ) အတွင်းဝန်ကြီး၏ မန္တလေးမြို့ ရွှေရေးဆောင်ကျောင်းတိုက်သို့ကြွ၍ အထက် ဖော်ပြပါကျောင်းတိုက်ရှိ အုတ်ကျောင်းတော်ကြီး၌ သီတင်းသုံးတော်မူရန် အဖန်ဖန်လျှောက်ထားချက်ကို နှစ်သက်ကြည်ဖြူ လက်ခံယူ၍ ရွှေရေးဆောင် ကျောင်းတိုက်သို့ကြွ၍ အုတ်ကျောင်းတော်ကြီး၌ ယာပိုထ်လေးလီ မျှညီရွှင်ပြုံး သီတင်းသုံးတော်မူ၍ စာပေချပို့ခြင်း၊ ဝိနိစ္ဆယများ ရေးသားခြင်းစသည်တို့ကို ပြုလျက် သာသနာတော်ကို ချီးမြှောက်တော်မူလေသည်။ ၁၂၆၀-ပြည့်နှစ်၊ တပို့တွဲလဆန်း ၁၅-ရက်နေ့တွင် ပရိယတ္တိ သာသနဟိတအသင်းကြီး၏ ပရိယတ္တိ သာသနဟိတ ဓမ္မာစရိယ (မူလစာချ)အဖြစ်ဖြင့် ကိုးကွယ်ခြင်းကိုလည်း ခံယူတော်မူသည်။

---

၁။ တိုပေဋကဝိနိစ္ဆယ၊ ဒုတိယ၊ ၁၄၄၊ ၁၄၆။

## ပြုစုတော်မူသောကျမ်းများ

မိုင်းခိုင်ဆရာတော်သည် ကျမ်းဂန်များစွာတို့ကိုလည်း ပြုစီရင်တော်မူခဲ့သည်။ ၎င်းတို့မှာ—

၁။ ဝီထိပုံဘုံစဉ်ကျမ်း၊
၂။ ဆန်းပုံကျမ်း၊
၃။ ဆန်းပုံနောက်ဆက်တွဲကျမ်း၊
၄။ သိမ်ပုံကျမ်း၊
၅။ တိပိဋကဝိနိစ္ဆယကျမ်း ပဌမတွဲ၊
၆။ တိပိဋကဝိနိစ္ဆယကျမ်း ဒုတိယတွဲ—

စသည်တို့ ဖြစ်ကုန်၏။

### ဝီထိပုံဘုံစဉ်ကျမ်း

ယင်းကျမ်းများအနက် ဝီထိပုံဘုံစဉ်ကျမ်းမှာ ဆရာတော် ၁၃-ဝါအရ စာချဖြစ်စဉ် (၁၂၁၆) ခုနှစ်က အကျဉ်းထုတ်နုတ် စီရင်တော်မူခဲ့၍ ရွှေရေးဆောင်ကျောင်းတိုက် ရောက်ရှိသီတင်းသုံးပြီး စာပေပို့ချစဉ် ၁၂၅၉-ခုနှစ်က အကျယ် ဝေဖန်ရေးသားထားသောကျမ်း ဖြစ်လေသည်။

### ဆန်းပုံကျမ်း၊ ဆန်းပုံနောက်ဆက်တွဲကျမ်း

ဆန်းကျမ်းအတွက် အခက်ကြုံကြရသော စာသင်သားတို့အတွက် အခက်အခဲကို ဖျက်ခွဲနိုင်ရန် ရည်သန်တော်မူ၍ ဆန်းပုံကျမ်းကိုလည်း ရေးသားစီရင်တော်မူခဲ့သည်။ ယင်းကျမ်း၌ ဇယားကွက်အမျိုးမျိုး၊ လက္ခာအမျိုးမျိုးတို့ဖြင့် နားလည်နိုင်လောက်အောင် ရေးသား ပြဆိုတော်မူခဲ့သည်။ ၎င်းပြင် ဆန်းပုံနောက်ဆက်တွဲကျမ်းကိုလည်း ရေးသားတော်မူခဲ့သည်။ ယင်း နောက်ဆက်တွဲကျမ်း၌ ဂါထာများကို ဗိဇနီပုံ၊ ကာကပါဒပုံ၊ ဥပ္ပလပတ္တပုံ၊ ခဂ္ဂပုံ၊ ရထစက္ကပုံ စသည်၌သွင်း၍ ရေးပုံကို ပုံစံနှင့်တကွ ဖော်ပြထားသည်။ ဉာဏ်ကွန့်မြူးလိုသူတို့အတွက် အဖိုးတန်ကျမ်းငယ် ဖြစ်သည်။

### သိမ်ပုံကျမ်း

သိမ်ပုံကျမ်းကို ဝိနည်းမဟာဝါ ပါဠိအဋ္ဌကထာနှင့် ဋီကာအစောင်စောင်ကို ချုပ်ပို့ယင်း လေ့လာသုံးသပ်၍ ရေးသားတော်မူခဲ့သည်။ ဆရာတော်

သည် မန္တလေး၊ စစ်ကိုင်း၊ အင်းဝ၊ ရွှေဘို၊ သဒ္ဒေးရွာ၊ သာစည်၊ မိတ္ထီလာ၊ တောင်သာမြို့၊ ကနောင်မြို့၊ ဗိုလ်ကလေးမြို့၊ တောင်ငူမြို့၊ မြိတ်မြို့ စသည်တို့၌ ကိုယ်တိုင်ဦးစီး၍ ခဏ္ဍသိမ်များ သမုတ်တော်မူခဲ့သည်။ သိမ်နုတ်သမုတ်ရာ၌ ပြဿနာအမျိုးမျိုးကို ကိုယ်တိုင်ကြုံတွေ့တော်မူခဲ့သဖြင့် ယင်းပြဿနာအမျိုးမျိုး ရှင်းလင်းသည့်သဘောဖြင့် သိမ်ပုံကျမ်းကို ရေးသားတော်မူခဲ့ခြင်း ဖြစ်လေသည်။ ယင်းကျမ်းလေးကျမ်းကို အလျား ၁၁-လက်မ၊ အနံ ၇-လက်မ ဆိုက်ကြီးဖြင့် တအုပ်တည်း ရိုက်နှိပ်၍ တည်ရှိရာ သာသနာတော်၌ ကျေးဇူးများလှလေသည်။

## တိပိဋကဝိနိစ္ဆယကျမ်း ပဌမတွဲ

တိပိဋကဝိနိစ္ဆယကျမ်းကြီးမှာ အလွန်လျှင် စုံလင်ပြည့်ဝကောင်းမြတ်သည့် ကျမ်းကြီးဖြစ်လေသည်။ ယင်းကျမ်းကြီးကို ကြည့်ရှုလေ့လာသဖြင့် ဝိဒူပါမောက် ဖြစ်သည့် ရဟန်းတော်တွေ များလှချေပြီ။ ဝိနည်းမိုရ်ပုဂ္ဂိုလ်တိုင်းလိုလို လက်မလွှတ်ရသော ကျမ်းကြီးဖြစ်သည်။ ယင်းကျမ်းကြီး၌ သာသနာပါးထောင် အဆုံးအဖြတ်၊ သံဘောဂါဒိဝိနိစ္ဆယ၊ သံဃိကာဒိဝိနိစ္ဆယ၊ အဓမ္မိကဒါန ဝိနိစ္ဆယ အစရှိသော ဝိနိစ္ဆယပေါင်း၊ အဆုံးအဖြတ်ပေါင်း ၃၈-ခု ပါရှိလေသည်။ ဆရာတော်သည် ယင်း တိပိဋကဝိနိစ္ဆယကျမ်းကြီး၏ ကျမ်းဦး၌ -

၁။ တိလောကဂ္ဂံ တိပူဇေယျံ တိဒုဂ္ဂံ ဟံ တိခော နဒမ။
တိဝိဓေန တိမဂ္ဂေန၊ တိဝါနဂ္ဂံ တိပါပုဏံ။

၂။ မဟာဝီရံ မဟာဉာဏံ၊ မဟာရညာ မမာယိတံ။
မဟာပါလံ မဟာလဒ္ဓံ၊ မမုင္ဍ္ဍ မဟံ နမေ။

၃။ တတ္ထ တတ္ထ တေဟိ တေဟိ၊ ယေဘုယျေနာဘိယာစိတော။
ပိဋကေသု တိမ္ဗိဓေသု၊ ဂဏ္ဌိဌာနေသု နိစ္ဆိတေ။

၄။ မုခမတ္တံ ကာသိမဟံ၊ တိပေဋကဝိနိစ္ဆယံ။
သေသော ပိဏ္ဍာပိတောဒါနိ၊ အဝိနာသာဒိကာရကော—

ဟူသော ၄-ဂါထာဖြင့် ဗုဒ္ဓပဏာမ (ရတနတ္တယပဏာမ) ဂုရုပ္ပဏာမ အဘိ ယာစက ပဋိညာဉ်ပြုတော်မူခဲ့သည်။ ကျမ်း၏အဆုံး၌လည်း—

မန္တလာစလသန္တိကာ၊ ရတနာပုဏ္ဏပုရမှာ။
ဤသံမုတ္တရပစ္ဆိမေ၊ သတ္တဟတ္ထေန ဒဏ္ဍေန—

အစရှိသော ၁၇-ဂါထာပါဌ်အနက်ဖြင့် နိဂုံးအုပ်တော်မူခဲ့လေသည်။ ယင်း ၁၇-ဂါထာအနက်—

ဓေတန ပုညကမ္မေန၊ သိဝံ ခေမံ လဘာမဟံ။
နယံ လဘန္တု သဗ္ဗေဝ၊ သတ္တာ သဗ္ဗတ္ထသာဓကံ။

ဓေတန ပုညကမ္မေန၊ ဤသို့ယခု နည်းနာစု၍ ဆုံးဖြတ်ရသော ကောင်းမှုကံဖြင့်(ကံကြောင့်။) အဟံ၊ ငါသည်။ ခေမံ၊ မချွတ်မလွဲ အမြဲဘည်သော။ သိဝံ၊ ဘေးသျှမ်းမထန် ငြိမ်းရာမှန်သော နိဗ္ဗာန်ပြည် မြတ်ကို။ ခေမံ၊ မချွတ်၊ လဘာမိ၊ ရလိုပါ၏။ သဗ္ဗေဝ၊ မကြွင်းဉဿုံ အလုံးစုံသာလျှင် ဖြစ်ကုန်သော။ သတ္တာ၊ သတ္တဝါတို့သည်။ သဗ္ဗတ္ထ သာဓကံ၊ အလုံးစုံသော လောကီလောကုတ္တရာ အကျိုးစီးပွားကို ပြီးစေတတ် ပြီးစေနိုင်သော။ နယံ၊ အသက်မွေးကြောင်း ကောင်း မြတ်သော လောကီနည်းနာ, သုဂတိနိဗ္ဗာန်ရကြောင်း မှန်သော ဒါန သီလ သမထဝိပဿနာ ဘာဝနာစသော လောကုတ္တရာနည်းနာအစုကို။ လဘန္တု၊ ရကြစေကုန်သတည်း—

ဟူသော ၁၇-ခုမြောက်ဂါထာပါဌ်အနက်ဖြင့် မိမိသူတပါး ၂-ဦးအတွက် ကောင်းဆုတောင်းခဲ့လေသည်။ယင်း တိပေဋကဝိနိစ္ဆယကျမ်း ပဌမတွဲကြီးကို အကြိမ်ကြိမ်ရိုက်ခဲ့ရာ ၁၂၈၇-ခုနှစ် မန္တလေးမြို့၊ ဆိုင်းတန်းရပ်၊ ပညာသိပ္ပံ (ပိဋကတ်) စာပုံနှိပ်တိုက်ရိုက် ရှိုင်ဆိုက်စာမူဖြင့်ကား စာချက်နှာ ၆၀၈-ရှိလေ သည်။

## တိပေဋကဝိနိစ္ဆယကျမ်းဒုတိယတွဲ

တိပေဋကဝိနိစ္ဆယကျမ်း ဒုတိယတွဲကြီးမှာသည်း ဝိနိစ္ဆယအခန်းခန်း မှတ်သားဖွယ်အဖုံဖုံတို့ဖြင့် စုံသင်သည့် မဟာအမြုတေကျမ်းကြီးဖြစ်လေသည်။ ယင်းကျမ်းကြီး၌ ဘုရားဂုဏ်တော်ပါဌ်အနက်၊ တရားဂုဏ်တော် ပါဌ်အနက်၊ သံဃာ့ဂုဏ်တော်ပါဌ်အနက်၊ ဗောဓိပက္ခိယသင်္ဂဟပါဌ်အနက်၊ ဗောဓိပက္ခိယ သရုပ်အဓိပ္ပာယ်၊ ပဋိစ္စသမုပ္ပါဒ်ပါဌ်အနက်၊ ပဋိစ္စသမုပ္ပါဒ်အဓိပ္ပာယ်၊ အဘိဓမ္မာ ဘာဇနီယနည်း၊ ပဋိစ္စသမုပ္ပါဒ်ပါဌ်အနက်၊ ကမ္မဋ္ဌာန်းလေးဆယ်ပါဌ်အနက်၊ နိမိတ်သုံးပါး ဘာဝနာသုံးပါးဖြစ်ပုံအထူး၊ ဥဂ္ဂဟနိမိတ် ပဋိဘာဂနိမိတ်အထူး၊ တောလေးဆယ်ပါဌ်အနက်၊ ပဋ္ဌာန်းပစ္စယုဒ္ဒေသပါဌ်အနက်-စသည်နှင့် ၂၄-ပစ္စည်းမှတ်ရန်အဓိပ္ပာယ်၊ ဗုဒ္ဓစုတိဝိနိစ္ဆယစသည့် ဝိနိစ္ဆယပေါင်းများစွာပါရှိ လေသည်။

ဆံရာတော်သည် ကျမ်းဦး၌—

ဉာဏံ ဉာဏံ နဝါ ဉာဏံ၊ ယဿ ယဿ မဟေသိနော။
ဂတံ ဂတံ ဂတံ ဝါန-တန္တံ တန္တံ ဘိဝန္ဒိယ။

သိန္ဒိနုဂရ ဇာတေန၊ အဓုနာ မန္တလာသယာ။
ဘိုးလွယ်စိန္တာတိ နာမေန၊ မဟာဥပါသကေန စ။

ယာစိတောဟိ ဒီပေဿာမိ၊ ဗုဒ္ဓါဒိဂုဏာပါဠကံ။
အညဋ္ဌာပိ သရူပတ္တံ၊ ဝါစနံ စိန္တနံ ကရာ။

ယဿ မဟေသိနော၊အကြင်မြတ်စွာဘုရား၏။ ယံ ဉာဏံ၊ အကြင်သဗ္ဗညုတ ဉာဏ်တော်သည်။ဉာဏံ၊ သိအပ်သော ဉေယျတရားငါးပါးကို။ ဂတံ၊ သိတော်မူပြီ။ အဿ၊ ထိုသဗ္ဗညုတဉာဏ်တော်၏။ ဝါ၊ ထိုသဗ္ဗညုတ ဉာဏ်တော်အား။ အဉာဏံ၊ မသိအပ်သော တစုံတခုသော တရားသည်။နဝ-န ဝေ၊ မရှိသည်သာတည်း။အဂတံ၊ တခါတခေါက် မရောက်စဖူးသော နိရောဓသစ္စာ မဟာအသင်္ခတနိဗ္ဗာနဓာတ် ဘေးမဲ့ ရပ်သို့။ ဂတံ၊ရောက်တော်မူ ရတော်မူပြီးသော။ ဝါနတန္တံ၊ တရာ့ရှစ်ဖြာ တဏှာအစဉ်ကို။ တန္တံ၊ အရဟတ္တမဂ် ဉာဏ်သန်လျက်ဖြင့် ခုတ်ဖျက်သုတ်သင် စီရင်ကွပ်ညှပ်တော်မူပြီးသော။ တံ မဟေသိံ၊ ထိုမြတ်စွာဘုရားကို။ အဘိဝန္ဒိယ-အဘိဝန္ဒာမိ၊ အထူးသဖြင့် ရှိခိုးပါ၏။ အဘိဝန္ဒိယ–အဘိဝန္ဒိတွာ၊ အထူးသဖြင့် ရှိခိုးပြီး၍။

သိန္ဒိနုဂရဇာတေန၊ ကမ္ဘောဇတိုင်း သ မိုင်းအောင်မျို့ သိန္ဒိမြို့ဝယ် မျိုးနွယ်ထင်ရှား ဖွားမြင်ခြင်းရှိထသော။အဓုနာ၊ ယခုအခါ၌။မန္တလာသယာ၊ မန္တလေးနေပြည်တော်လျှင် ပျော်ရှင် နေထိုင်ရာရှိထသော။ ဘိုးလွယ်စိန္တာတိနာမေန၊ ဘိုးလွယ်စိန္တာအမည်ရှိသော။ မဟာဥပါသကေန စ၊ ရတနာမြတ်သုံးပါးနတ်ကို။ ဆည်းကပ်ခယ ရိုတုပ်ကွလျက် ကြည်ဆွစေတနာ သဒ္ဓါဖြိုးဖြိုး လှူဒါန်းမျိုးကို မိုးသို့စွေစွေ လှူလေလေနှင့် ပွားထွေဘာဝနာ ရှစ်ဖြာပဥ္စ ကျင့်သီလကြောင့် ဥပါသကဂုဏ် လွန်စုံသော ကုန်သည်ပွဲစားကြီးသည်လည်း။ ယာစိတော၊ ရိုသေညွတ်ပျောင်း တောင်းပန်အပ်သည်ဖြစ်၍။ သရူပတ္တံ၊ သရုပ်အနက် ပြက်ပြက် သိလွယ် အဓိပ္ပာယ်နှင့်တကွသော။ ဗုဒ္ဓဂုဏာပါဠကဉ္စ၊ ကိုရင်း။ အညဋ္ဌာပိ၊ ကိုရင်း။ ဝါစနံ စိန္တနံ၊ ရွတ်ဖတ်သင်အံ ကြံစည်လေ့ကျက်ခြင်းကို။ ကရာ–ကရာယ၊ ပြုခြင်းအကျိုးငှာ။ ဒီပေဿာမိ၊ ဖော်ပြရေးသား ထုတ်နုတ်ထားပေအံ့—

ဟူသော ၃-ဂါထာပါဌ်အနက်ဖြင့် ဂန္ထာရမ္ဘပြုတော်မူခဲ့သည်။ ဤဂန္ထာရမ္ဘကား ဘိုးလှယ်စိန္တာတောင်းပန်သည့် စာစုအတွက်သာဖြစ်သည်။ ယင်းစာစု၏ အဆုံး၌လည်း—

မန္တလာစလသန္တိကာ၊ ရတနာပုဏ္ဏဒေဝင္ဇာ။
ဤသာမုတ္တရပစ္ဆိမေ၊ သတ္တဟတ္တေန ဒဏ္ဍေန—

အစရှိသော ၇-ဂါထာဖြင့် နိဂုံးအုပ်တော်မူခဲ့သည်။

## အနက်ဉာဏ်သန်သော ဆရာတော်

မိုင်းခိုင်းဆရာတော်ဟု ထင်ရှားသော ရွှေရေးဆောင်ဆရာတော်ဘုရားကြီး အရှင်ပညာတိသသည် ပါဠိ၊ အဋ္ဌကထာ၊ ဋီကာလာ ဂါထာတို့ကို အနက် ယောဇနာတော်မူရာ၌လည်း သဒ္ဒါနက်၊ အဓိပ္ပာယ်နက်စသည် ထိမိအောင် ယောဇနာတော်မူနိုင်သော အနက်ဉာဏ်သည်းသန်သည့်ပုဂ္ဂိုလ်မြတ်ဖြစ်တော်မူသည်။ ယင်းသို့ဖြစ်ကြောင်း အောက်ပါဂါထာပါဌ်အနက်တို့ဖြင့် သိရာ၏—

နာညတြ ဗောဇ္ဈာ တပသာ၊ နာညတြိန္ဒြိယ သံဝရာ။
နာညတြ သဗ္ဗနိဿဂ္ဂါ၊ သောတ္ထိံ ပဿာမိ ပါဏိနံ[၁]။

ဗောဇ္ဈာ-ဗောဓိယာ၊ အရိယာမဂ်၊ ဉာဏ်သန့်လျက်ကို။ အညတြ၊ မှသုံးမဆင် ထားရှောင်ကြဉ်၍။ ပါဏိနံ၊ သတ္တဝါဆိုထိုမျှားလူဗိုလ် တို့၏။ သောတ္ထိံ၊ စီးပွားချမ်းသာ ဘေးမဲ့ရာကို။ န ပဿာမိ၊ ငါဘုရား စင် မြင်တော်မမူ။ တပသာ၊ အရိယမဂ်ကိုရကြောင်း ခေါင်းပါးသော အကျင့်ကို။ အညတြ၊ စိတ်နှလုံး၌ မသုံးမစွဲ ရှောင်ကြဉ်ဖဲ၍။ ပါဏိနံ၊ သတ္တဝါဆိုထို မျှားဗိုလ်လူဘို့၏။ သောတ္ထိံ၊ စီးပွားချမ်းသာ ဘေးမဲ့ ရာကို။ န ပဿာမိ၊ ငါဘုရားစင် မြင်တော်မမူ။ဣန္ဒြိယသံဝရာ၊စက္ခုန္ဒြိယ စသည်ခြောက်ထွေ ဣန္ဒြေကို၊ဝါ၊ ရာဂဒေါသ မောဟယုတ်ညစ် ဝင်ရှုံးမြဲကို မဖြစ်မဝင် ကွာဝေးစင်အောင် ရည်ဆောင် စောင့် ရှောက်ခြင်းဟူသော ဣန္ဒြိယသံဝရ မြတ်သီလကို။ အညတြ၊ မသုံး မဆင် ထားရှောင်ကြဉ်၍။ ပါဏိနံ၊ သတ္တဝါဆိုထို မျှားဗိုလ်လူတို့၏။ သောတ္ထိံ၊ စီးပွားချမ်းသာ ဘေးမဲ့ရာကို။ န ပဿာမိ၊ ငါဘုရားစင် မြင်တော်မမူ။ သဗ္ဗနိဿဂ္ဂါ၊ လုံးစုံများစွာ ကိလေသာကို ပယ်ခွာ ကုန်စင် စီရင်စွန့်ပစ်ခြင်းကို။ အညတြ၊ရှောင်ကြဉ်ဖယ်ထား၍။ ပါဏိနံ၊ သတ္တဝါဆိုထို မျှားလူဗိုလ်ဘို့၏။ သောတ္ထိံ၊ စီးပွားချမ်းသာ ဘေးမဲ့ ရာကို။ န ပဿာမိ၊ငါဘုရားစင် မြင်တော်မမူ[၂]။

---

၁။ သံ၊ ၁၊ ၅၂။ (သုဗြဟ္မသုတ်)
၂။ တိပေဋကဝိနိစ္ဆယ၊ ၂၊ ၄၃၀။

## အရပ်ပြစ်ရှစ်ပါးပြ ဂါထာပါဌ်အနက်

ပစ္စန္တဇော အရူပဇော၊ ဝိကလင်္ဂေါ အသညဇော။
မိစ္ဆာဒိဋ္ဌိ တိရစ္ဆာနေ၊ ပေတော နေရယိကော ပိစ။
ဧတေ အဋ္ဌက္ခဏာ ဝုတ္တာ၊ ဗုဒ္ဓေနာဒိစ္စဗန္ဓုနာ။

**ပစ္စန္တဇော**၊ အဝန်းယူဇနာ ကိုးရာတိတိ ပိုင်းခြားရှိသည့် မဇ္ဈိမအရပ်နယ်မှတ်အပ ပစ္စန္တရစ်အရပ်၌ဖြစ်သော ပုဂ္ဂိုလ်ငှင်း။ ဝါ၊ ဘုရားသာသနာရောင်ဝါစည်ကား မဖြစ်ပွား၍ မိုက်ငြားအတိ မှောင်ကြီးစင်စစ် အုပ်ရာဖြစ်သော ပစ္စန္တရစ်အရပ်၌ဖြစ်သော ပုဂ္ဂိုလ်ငှင်း။ အရူပိနော၊ ရုပ်နှင့်မစပ် နာမ်သာကပ်သော အရူပပုဂ္ဂိုလ်တို့ငှင်း။ ဝိကလင်္ဂေါ၊ မျက်စိနှင်ဖက် ခြေလက်နားနှာ အစဖြာသည့် အင်္ဂါကြီးငယ် ကြွယ်ချို့တဲ့သောပုဂ္ဂိုလ်ငှင်း။ အသညဇော၊ ရွှေရုပ်သဏ္ဌာန် ဝိညာဉ်မစပ် အသညသတ်ပုဂ္ဂိုလ်ငှင်း။ မိစ္ဆာဒိဋ္ဌိ၊သံသရာ့ သင်္ငုတ် နစ်စုပ်အပါယ် ကင်တွယ်မြဲမြဲ အယူလွဲ၍ မိုက်မဲသော မိစ္ဆာဒိဋ္ဌိပုဂ္ဂိုလ်ငှင်း။ တိရစ္ဆာနေ၊ မဂ်ဖိုလ်တည့်တည့် မသွားလှည့်ပဲ အလွဲဖီလာ ကန့်လန့်သာလျှင် သွားလာတတ်သော ခွေးငှက်ကြက်ငှက်စသော တိရစ္ဆာန်ငှင်း။ ပေတော၊ ခုမ်းသာဝေးကွာ ပြိတ္တာပုဂ္ဂိုလ်ငှင်း။ နေရယိကောပိ စ၊ အယခေါ်ဆို ကုသိုလ်ချမ်းသာ မရှိရာဖြစ်သော ငရဲသူပုဂ္ဂိုလ်ငှင်း။ ဧတေ၊ ဤရှစ်ရပ်သော အရပ်ပြစ်တို့ကို။ အဋ္ဌက္ခဏာ၊ ချိုးမြိန်ကောင်းမွန် တရားသံကို နာခံကျင့်သုံးခြင်း၏ အခွင့်ခဏ ကြိကာသ မဟုတ်ရာ ရှစ်ဖြာသော အက္ခဏတို့ဟူ၍။ အာဒိစ္စဗန္ဓုနာ၊ ဂေါတမဟု အစဆင်းသက် နွယ်တော်ဆက်ဖြင့် ရောင်စက်ထိန်ဝင်း သုံးကျွန်းလင်းသည့် နေမင်းသဟာ မဟာမိတ်ဆွေနှုတ်ဖြစ်တော်မူသော။ ဗုဒ္ဓေန၊ မြတ်စွာဘုရားသည်။ ဝုတ္တာ၊ ဟောတော်မူအပ်ကုန်၏[၁]။

ယင်း တိပေဋကဝိနိစ္ဆယကျမ်း ဒုတိယတွဲ နိဂုံး၌လည်း—

မန္တလာစလသန္တိကာ၊ ရတနာပုဏ္ဏဒေဝဋ္ဌာ။
ဤသမုတ္တရပစ္ဆိမေ၊ သတ္တဟတ္ထေန ဒဏ္ဍေန—

စသော ၇-ဂါထာဖြင့် ပဋ္ဌမတွဲနည်းတူ နိဂုံးအုပ်တော်မူခဲ့လေသည်။ ယင်း တိပေဋကဝိနိစ္ဆယ ဒုတိယတွဲ ကျမ်းကြီးကိုလည်း အကြိမ်ကြိမ် ရိုက်နှိပ်ခဲ့ရာ ၁၃၂၄-ခု၊ ဇမ္ဗူမိတ်ဆွေ ပိဋကတ်ပုံနှိပ်တိုက်ရိုက် ကျမ်းကြီးမှာ ရှိုင်ဆိုက် ၅၅၄-မျက်နှာ ရှိလေသည်။

---

၁။ တိပေဋကဝိနိစ္ဆယ၊ ၂၊ ၄၃၃။

## သီဟဠသန္ဒေသကထာမျာ

မိုင်းခိုင် (ရွှေရေးဆောင်) ဆရာတော် အရှင်ပဏ္ဍိတသည် ပါဠိ၊ မြန်မာ ရေးသားမှု၌ အလွန်လျှင် ကျမ်းကျင်တော်မူလေရာ "သုဒဿနဝရဓမ္မသာမိ မဟာဓမ္မရာဇာဓိရာဇဂုရု"နှင့် သုဒဿနအတုလဓိပတိသီရိပဝရမဟာဓမ္မရာဇာဓိ ရာဇဂုရု"ဘွဲ့တံဆိပ်တော်ရ စံကျောင်းဆရာတော်ဘုရားကြီး အရှင်သုဒဿနက ဝင်း၊ "နန္ဒသာရသီရိသဒ္ဓမ္မဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု"နှင့် နန္ဒာဘိဓဇဓိပတိ သီရိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု"ဘွဲ့တံဆိပ်တော်ရ ပခန်းသမ္မုတိ သာသနာ ပိုင် ဆရာတော်ဘုရားကြီး အရှင်နန္ဒကဝင်း၊ အချို့အချို့ ဝိနိစ္ဆယ သန္ဒေသ ကထာများကို ရွှေရေးဆောင် ဆရာတော်လောင်းလျာ မိုင်းခိုင်းဆရာတော် အရှင်ပဏ္ဍိတအား ရေးသားစေတော်မူကြကုန်၏။

## သီဟိုဠ်ကျွန်းသို့ ပေးပို့သော သန္ဒေသတပုဒ်

၁၂၅၄-ခုနှစ်က ဝါဆိုဝါကပ်နှင့်စပ်၍ ပခန်းသမ္မုတိ သာသနာပိုင် ဆရာ တော်ဘုရားကြီးအမိန့်အရ အရှင်ပဏ္ဍိတ ရေးသားအပ်သော သီဟိုဠ်ကျွန်းသို့ ပေးပို့သည့် သန္ဒေသထို ပါဠိစာပေ အရေးအသား အတုယူနိုင်ရန်နှင့် သီဟိုဠ် သာသနာနှင့် မြန်မာသာသနာ မည်သို့မည်ပုံ စပ်သွယ်ခဲ့သည်ထို သိရှိရန် ဤ၌ ဖော်ပြအပ်ပါသည်။

လင်္ကာဒီပတော သုဘူတိမဟာထေရဝရေန အာသာဠှိမာသဿ အပရပက္ခ ဆဋ္ဌိယံ သုက္ကဝါရေ ပဟိတာနိ ဒွေ သန္ဒေသပဏ္ဏာနိ သာဝဏမာသဿ ဇုဏှပက္ခဒွါဒသမိယံယေဝ မမ ဟတ္ထဂတာနိ ဟောန္တိ။

တာနိ ဩလောကေန္တော အမှာကံ လင်္ကာဒီပေ ကေစ္စေ မရမ္မဝံသိက မဟာထေရာ ဣမသ္မိံ သံဝစ္ဆရေ ဝဿံ ဥက္ကဋ္ဌိတုကာမာတျာဒိနာ တယာ အာရောစိတံ။ ဗဟူနံ မဟာထေရာနံ နာနာဝါဒိကဘာဝံ ဇာနာမိ။ ဇာနိ တွာ ဘေသံ အဝိဝါဒါယ ဣဒံ ပဋိသာသနပဏ္ဏံ ဒါတုကာမေန ဇမ္ဗုဒီပေ မရမ္မရဋ္ဌေ ရတနာပုဏ္ဏန္တိသင်္ခါတေ မန္တလေးနဂရေ ဝသန္တေန မယာ မဟာ သံဃရာဇသာသန သောဘဏကဘူတေန မဟာထေရဝရေန ဝေဒဂန္ထသာသန ဂန္ထေသု ကောဝိဒေဟိ မဟာထေရေဟိ သံသန္ဒိတွာ လိခိတွာ ဣမသ္မိံ ဇမ္ဗုဒီပေ မရမ္မရဋ္ဌေ သဗ္ဗေ မဟာထေရာ ဣမိနာ နယေန အဝိဝါဒိတာ။ တသ္မိံ လင်္ကာဒီပိကာ မဟာထေရာပိ ဧဝမေဝ ကတွာ အဝိဝါဒိတာ ဟော ထာတိ လင်္ကာဒီပိကာနံ ဇာနာပနတ္ထံ ဝိဝါဒဓိစ္ဆေဒပတိသံယုတ္တံ ဣဒံ သန္ဒေ

သပဏ္ဏံ အဘိနဝါရာမေ ဝသန္တဿ သုဘူတိထေရဝရဿ ဟတ္ထံ ပေသိယတော။

ဣမသ္မိံ သံဝစ္ဆရေ ကသ္မိံ ဒိဝသေ ဝဿူပဂတာ သုပဂတာ ဟောန္တီတိ အာဒိနာ တိဿော ပုစ္ဆာ လင်္ကာဒီပေ အဘိနဝါရာမေ ဝသန္တေန သုဘူတိမဟာထေရေန ပုစ္ဆိတာ ဟောန္တိ။

တတ္ထ ဣမသ္မိံ သံဝစ္ဆရေ ကသ္မိံ ဒိဝသေ ဝဿူပဂတာ သုပဂတာ ဟောန္တီတိ ဧတ္ထ။ ဝုစ္စတေ-ဣမသ္မိံ ဟိ ပကတိသံဝစ္ဆရေ အာသာဠှိမာသဿ ဇုဏှပက္ခပန္နရသိယာ ပါဋိပဒဒိဝသေ အသနိဝါရေ ပုရိမိကာယ ဝဿူပဂတာ စ သာဝဏမာသဿ ပုဏ္ဏမိယာ ပါဋိပဒဒိဝသေ စန္ဒဝါရေ ပစ္ဆိမိကာယ ဝဿူပဂတာ သုပဂတာဝ ဟောန္တီတိ ဝုစ္စတိ။ နနု ဣမသ္မိံ သံဝစ္ဆရေ ဝသော အနာကခိုဘော ပုဏ္ဏမိယာ ပုဏ္ဏာ တိထိယာ စ အာသာဠှိနက္ခတ္တေန စ အယုတ္တဘာဝေါ ဟောတီတိ။ အာသာဠှိပုဏ္ဏမိယာ ပါဋိပဒဒိဝသေ ဝဿူပဂတာ သုပဂတာ န သိယာတိ။ ဒွိန္နမ္ပိ မာသာနံ ပုဏ္ဏမိယာ ပုဏ္ဏာတိထိယာ စ အာသာဠှိနက္ခတ္တေန စ အယုတ္တေပိ ပါဋိပဒဒိဝသေ ဝဿူပဂတာ သုပဂတာ ဟောန္တိ။ ဒွိန္နံ မာသာနံ ပန ပါဋိပဒဒိဝသတော အညသ္မိံ ဒိဝသေ ပုဏ္ဏမိယာ ပုဏ္ဏာတိထိယာ စ အာသာဠှိနက္ခတ္တေ စ ယုတ္တေပိ ဝဿူပဂတာ နသုပဂတာ ဟောတိ။ ဒွိန္နံ မာသာနံ ပုဏ္ဏမိယာ အနန္တရေ ပါဋိပဒဒိဝသေယေဝ ဝဿူပဂတဿ အနုညာတတ္တာတိ။ တေန ဝုတ္တံ ဝိနယာလင်္ကာရဋီကာယံ—

> တတော ပရံ ပဌမာသာဠှမာသဿ ဇုဏှပက္ခေပိ ကာဠပက္ခေပိ ဒုတိယာသာဠှမာသဿ ဇုဏှပက္ခေပိ ပန္နရသီဒိဝသံ ကတွာ ပါဋိပဒဒိဝသေ တိထိယောဂံ ဝါ နက္ခတ္တယောဂံ ဝါ အနောလောကေတွာ ပါတော အရုဏုဂ္ဂမနာနန္တရတော ပဋ္ဌာယ ယာဝ ပုန အရုဏုဂ္ဂမနာ သကလဒိဝသရတ္တိယံ ယထာဇ္ဈာသယံ ဝဿံ ဥပဂစ္ဆန္တော သုပဂတောဝ ဟောတိ၊ နတ္ထိ ကောစိ ဒေါသောတိ။

ယဒိ ပန အာသာဠှိမာသဿ ပုဏ္ဏမိယံ တိထိနက္ခတ္တေဟိ အယုတ္တကာလေ မာသဒိဝသာနိ အကစိုဘော တိထိနက္ခတ္တယောဂေါ ဘဝေယျာတိ၊ ဧဝံပိ ဟိ တိထိနက္ခတ္တယုတ္တမတ္တေနေဝ အညသ္မိံ အင်္ဂေ အသမံ ဂတေ မာသဒိဝသာနိ နာကစိုတဗ္ဗာနီတိ။ ကသ္မာ ဟိ စေ၊ မာသဒိဝသာကစုဒေနသု ဟိ အဓိမာသပဘာန ယောဂေ စ သူရိယမာသတော စ စန္ဒရမာသေ အဓိကေ စ ဂေါရသိမှိယေဝ အမာဝသိယာ ဒွိက္ခတ္တုံ ဒိဋ္ဌကာလေ စာတိ တီဟိ အင်္ဂေဟိ သမ္ပုဏ္ဏာ

## ဆရာတော်ဦးကြည် ပံ့လွှန်တော်မူစဉ်က
## ဈာပနပွဲတွင် ကန်ဦးဆရာတော်ရေးသားစီရင်၍
## ရွှေပြည်ဆရာကြီး ဦးဘတင် ဖတ်ကြားအပ်သော
## စိန်ထီးရှစ်ချက် ကနက်ဖွင့်ရာ
## မဟာသြဘာစာ

ဇေယျတု။ ။အောင်သူတကာတို့၏ အဂ္ဂါဓိပတိ အောင်ဘိသေက ပ၀ရာဓိပ၀ရ မဟာဇေယျသ၀ဂ္ဂကျာထူး အောင်ပွဲမှူးအစစ်ဖြစ်သော ဂေါတမနွယ်ဘွား ဘုံသုံးပါး၌ ပြိုင်ရှားကင်းဘိ ၀ိသုဒ္ဓိပြဟ္မာ မဟာရာဇိန္ဒ ဓမ္မသေဋ္ဌနင်း မင်းမင်းသရဖူ မှန်ကူအသရေ ပရမေဖျား ဘုရားသယမ္ဘူသည် စက္က၀ါဠဟု မြင်းမိုရ်တော်တလုံးမျှ သု၀ဏ္ဏာသိင်္ဂါထိန်၀ါ၀ေကြွား ရွှေသားဇာတိ ဖိတ်ဖိတ်လျှံအိ မဏိဣန္ဒနာ ၀ဇိရာဓာတ် န၀ရတ်ဖြိုးထု ထီးရိုးပြုလျက် စကြ၀ဠာ သချာတွက်ကိန်း ကုဋေတသိန်း ပိတ်လိမ်းငွေစက် ထီးရွက်ထင်းပန်း နှုန်းနှန်းမက ၀ိမုတ္တိရသ အဘိမဟန္တာအချက် စိန်၀န်းစက်ဖြင့် ဖြန့်ကြက်သွန်းသွန်း ကျည်းရှင်ဟွန်းမြှင့် ကနက္ကဒဏ် စိန်လျှံဓိးဓိး ထီးဖြူကြီးကို ညီးညီးတင့်တင့် ဖွင့်လှစ်ဆိုက်ထူ ဖြန့်မိုးတော်မူပြီးလျှင် မရှုနရာ ဗြဟ္မာအထိ တြိဘ၀န သြကာသခေတ်အတွင်း၌ မှီတင်းနေခိုဇော်တပ ပုလ္လည်ထွေ မျှားဗိုလ်ခြေတို့အား ခိုစေရကား ရှိရှားကိုယ်တွင်း ပူပန်ခြင်းတို့မှ လွတ်ကင်းဝေးပဘောမခပဲ့ အေးမြချမ်းသာခြင်းသို့ ရောက်ကြရသတည်း။

ယင်းသို့ ညွှတ်ဘိ အတိ၀ိသုဒ္ဓိပြဟ္မာ ဘုရားရတနာ၏ ကောင်းစွာစိုက်ထူ လောကုတ္တရာသရဖူ ထီးဖြူတော်ကြီး ဘိတ်ဆီးလျှံကြွား ငွားငွားစွင့်စွင့် မကိုဋ်ဆင့်ဆင့် ဖြူ၀န်းတင့်ရှ် ဖွင့်တော်မူဆဲအခါ မဟာဆတ္တ ပရမတမွတ် အထွတ်အထိပ် ထီးရိုပ်ခိုလှုံ ယုံကြုံဆန္ဒ ဒါပ ဇ္ဇအမွေခံ ဆက်ဆံရင်းနှီး သားကြီးရတနာ မဟာထေရ်အပေါင်းတို့ကွင် တပါးအဂင်အပါ မဟာမဂဓိုရ် ရာဇဂြိုဟ်ဟုနဂိုရ်သမိုင်း၊ ဗဟိုဘိုင်း၌၊ ခက်ကျိုင်းညွန့်ရှင်၊ စရည်းပင်ရောက်ရာ၊ လိုဏ်ဝေဘာ၀ယ်၊ ပဌမာဒိက၊ လက်မှန်စဉ်း၊ မဆာ့သင်္ဂါယနာ၊ တင်သောခါ၌၊ မဟာနာဂိန္ဒ၊ တတိယအဂ္ဂသာ၀က၊ မဟာကဿပသခင်၊ ထေရ်အရှင်မှ၊ အစဉ်မပျက်၊ နွယ်ဆက်သိဿ၊ ပြည်ပေါက္ကံ၌၊ အရဟံမဟာ၊ ရဟန္တာအနွယ်၊ ဆက်သွယ်အရင်း၊ သဲအင်းသာသနာပိုင်၊ ဂုဏ်လှိုင်ထွန်းပ၊ ဥေယျာဘိစံသ၊ ဓမ္မသေနာပတိ၊ သိရီတန်ဆောင်၊ မောင်းထောင်သာသနာပိုင်၊ ရွှေဆိုင်လျှံမောင်း၊ စံကျောင်းဆရာတော်ကြီး၊ မိုင်းခိုင်းဆရာတော်ကြီးတို့မှ၊ ဂေါတ္တနွယ်စက်၊ ဆက်ကာဆက်ကာ၊ သန့်ရှင်းစွာ လာခဲ့သော၊ မဟာ့အဘိဇဇ္ဇ၀ံသဂုဏ်။

ဝသုန္ဒရာ၊ ပတလာအထွတ်၊ တမွတ်ကဒဏ်၊ မန်းဝေယန်ကို၊ လက်မွန်ဖန်သ၊ ပဌမရာဇဝင်ပိုင်၊ ဦးခိုင်ရွှေမှောက်၊ဘုန်းတောက်ရန်ငူး၊ ကွန့်ဖူးသေဌ်နင်း၊ မင်းတရားကြီးလက်ထက်တော်တွင်၊ အဟောဝတ၊ အစ္စရိယယောက်ျား၊ စလေမြို့စား၊ထင်လျားဂုဏ်သီး၊ မင်းကြီးသိရီမဟာ၊ ဇေယျကျော်ထင်၊သဘင်ရေကင်း၊ လှေသင်းအတွင်းဝန်ကြီးလျှင်၊ ဒါယကာပြု၍၊ "သုဒဿနဝရမ္မေသာမိမဟာဓမ္မရာဇာဓိရာဇဂုရု" "သုဒဿနဓဇအတုလဓိပတိသိရီပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု" ရေးထုခတ်နှိပ်၊ တံဆိပ် နှစ်ချပ်၊ မျက်ရှင်ကွပ်သို့၊ ရအပ်ဂုဏ်ပေါင်း၊ စံကျောင်းဆရာတော်ဘုရားကြီးကို၊ စိန်ထီးတန္တု၊ ဥပဇ္ဈာယ်ပြုပြီးမှ၊ "ပဏ္ဍိတဓဇသိရီပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု" လွှတ်ထုအကျော်၊ မိုင်းခိုင်းဆရာတော်စသော၊ အရှင်မြတ်တို့က၊ အနုသာသနကမ္မဝါစာဖြင့်၊ ချီးမြှောက်တော်မူကြပါသဖြင့်၊ ဥပသမ္ပဒ၊ သမဏာညွန့်လန်း၊ ဘိသိက်ဖျန်းသော၊ ရဟန်းမြတ်ဖြစ်သည့်နေ့ကစ၍၊ ဘဝကတ္တား၊ ကြွသွားနတ်ဌာန်၊ ပျံလွန်ထက်တိုက်၊ ကြုတ္တိုက်နက္ခတ်၊ ကျိုးမင်းနတ်နှင့်၊ ပါဠိနဝင်းဆိုင်၊ အံသာပြိုင်သား၊ လျှံအိုင်ကြွားကြွား၊ ပတ္တမြားတမွတ်၊ ငွေဝတ်ပွင့်ဝါ၊ စန်းစန္ဒာကဲ့သို့၊ ကောင်းစွာစင်ကြယ်၊ စံပယ်စကား၊ ချယားမိုးစွေ၊ သင်းခွေ ဖက်ဆွတ်၊ ဂေါဂတ်အိမ်ဒန်း၊ အနန်းရင်ခတ်၊ ဆတ်သွားဖူးအမုံ၊ ဂန္ဓရုံတို့ထက်၊ ဆထက်ပျံ့သင်း၊ မွှေးကြူခြင်းရှိတော်မူသော သီလဝန္တဂုဏ်။

တိုက်စက္ကဝါ၊ ခိုလျက်ကာသား၊ မဟာအဏ္ဏဝ၊ သမုဒ္ဒလယ်ချက်၊ စိုက်လျက်မှတ်ရပ်၊ အထပ်အထပ်၊ ခွေဝန်းချပ်လျက်၊ပဗ္ဗတုတ္တမ၊ ကနကမယေ၊ မိုးညွှန့်ဗွေဝယ်၊ခုနစ်ခွေမြုံ၊တောင်ရေရုံလျက်၊ အောင်ဘုံကေတု၊ သိနေရုကို၊ဝါယုမုသုံ၊ တိုက်လှင့်တုံလည်း၊မတုန်မယိုင်ဘိသကဲ့သို့၊ခိုင်တည်ခြင်းရှိတော်မူသော သမာဓိမန္တဂုဏ်။

သမ္မာသမ္ဗုဒ်၊ ဉာဏ်သမုဒ်ဖြင့်၊ ခုပ်နိုဒ်စင်ဘိ၊ ဟောမိန့်ရှိသား၊ တိပိဋကအဋ္ဌကထာ၊ ဋီကာဝန်းမြောင်၊ တောသုံးထောင်အတွင်းသို့၊ ထင်းထင်းထင်ထင် ဉာဏ်ကြည်သရာ၊ ဇာနီယာဖြင့်၊ ကောင်းစွာသက်ဝင်နိုင်သော ဂမ္ဘီရပညဝန္တဂုဏ်။

သတ္တဆေကပဏ္ဍိတခေါ်မှတ်၊ ဥဂ္ဂဟစာတတ်၊ ပရိပုစ္ဆာစာတတ်၊ ဝိနိစ္ဆယစာတတ်၊ သုံးရပ်သုံးစား၊ စာတတ်အင်္ဂါ၊ သုံးပါးတို့တွင်၊ များဖြင်ပါဠိ၊ စုဏ္ဏိယဂါထာ၊ အဖြာဖြာတို့ကို၊ အာနန္ဒာထေရ၊ တစိတ်တဒေသ၊ တူတန်သမျှ၊ သီဟဂဇ၊ သိန္ဓဝဟု၊ ဥဿဘခံတွင်း၊ စီးဆင်းသွန်သွန်၊ အနဝတတ်အိုင်

မွန်၊ ရေလွှတ်ပြွန်တို့ကဲ့သို့၊ ထိုတူတမျှ၊ တဝဥပမာ၊ အတူရှာသော်၊ အာကာ တခို၊ တိမ်ညိုမို့မှိုင်း၊ အဆီတို့ရိစိုင်းသကဲ့သို့၊ မဆိုင်းမတွ၊ ညက်ညက်ကျေမွ၊ အာဂမဉဂ္ဂဟာဂုဏ်။

သု-စိ-ပု-ဘာ၊ စကားလေးခွန်း၊ ကြိုးတန်းလက်သုံး၊ ရှေးထုံးပေါရာဏ၊ စမ လေးဖြာ၊ အကွာရာလေးခုတို့ကို၊ အစွဲပြုပြီးကာလ၊ သမဏာသိက္ခာ၊ဂါးဝါကစ၍၊ ပုပ္ဖရေဏုံ၊ ပန်းဝတ်မှုံသည်၊ အာမှုံနှစ်သက်၊ ဘမရာငှက်၊ အာသာမက်တို့အား၊ ဝတ်ရက်ရသ၊ ပေးဝေဘိသို့၊ သောင်းသောင်းမက၊ သောတ္တဇန၊ သိဿခပင်း တို့အား၊ အခြားကိစ္စ၊ ပလိဗောဓနဟဲ့၊ ရှင်းရှင်းပြဲ့စေလျက်၊ နေ့လှည့်ညဥ့်ယံ၊ စားပွဲခံလျက်၊ မွေကွန်အစ၊ ပရိယတ်သဘင်၊ ပွဲကြီးယင်၍၊ ကြည်လင်စွာ အား ထုတ် ဆောင်ရွက်ခြင်းတည်းဟူသော ပရိပုစ္ဆာဂုဏ်။

ပုစ္ဆာနက်လေ၊ ခက်ရေးအပေါင်း၊ သောင်းသောင်းများဘိ၊ ရှင်းလင့် ကစား၊ ထံတော်ပါးသို့၊ ရောက်ငြားလေကာ၊ တခဏဖြင့်၊ ရရမိမိ၊မှန်ပြားတုရို၊ စိန်နှင့်ဘိသကဲ့သို့၊ ဝိနိစ္ဆယ၊ ဖော်ပြခပင်း၊ ဥဿုံတျင်းတျင်း၊ ရှင်းလင်းဖြေပြ ခြင်းတည်းဟူသော ဝိနိစ္ဆယဂုဏ်။

စံကျောင်းဆရာတော်ဘုရားကြီး၊ မိုင်းခိုင်းဆရာတော်ဘုရားကြီးနှစ်ပါးကို၊ အရင်းထား၍၊ များပြားထပ်ထပ်၊ အရပ်ရပ်သော ပညာရှိ၊ကဝိသူမြတ်တို့ အထံ တော်တွင်၊ ကျမ်းဂန်သင်ယူ၊ ဂရုဒေသ၊ ဓမ္မုပဒေသ၊ အာစရိယ၊ နယလက် အုပ်၊ ချိန်မှန်တုပ်ကို၊ သရုပ်နှင့်တကွ၊ ရရှိတော်မူသော လဒ္ဓေါပဒေသဂုဏ်။

ဂမ္ဘီရတ္ထမည်သော စံဒကျောင်းနိယံကျပ်း၊ ဂမ္ဘီရတ္ထနိယာမ ဝိသဇ္ဇနာကျမ်း၊ သောတုဇနဟိတကာရီကျမ်း၊ သုဓောဓ ဇောတကပေဒင်ကျမ်းတို့ကို ပြုစုတော် မူခြင်းတည်းဟူသော အနန္တဉာဏဂုဏ်။

နာဂရီ၊ ဘင်္ဂလီ၊သီဟိုဠ်တဝ၊ သက္ကဋအလုံး၊ ဗျာကရုဏ်းကျမ်းတို့နှင့်တကွ၊ တွက်ရိုးသာခ၊ သုဘာသုဘ၊ ဟောပြကုရ၊ ယဇုယတြာ၊ သုံးဖြာဗေဒင်၊ အတင် တင်တို့၌၊ ထင်မြင်နှံ့သိ၊ ရဝိဆန္ဒြ၊ဘောမဗုဒ္ဓါ၊ ဇီဝါသုက္က၊ သူရရာဟု၊ ရှစ်နဂြိုဟ် မြတ်၊အနတ်နတ်တို့နှင့်၊ နက္ခတ်သတ္တဗီ၊ ယာယီအစဉ်၊ ဒွါဒသင်ကို၊ လက်တွင် ပတ္တမြား၊ တင်ကြည့်လားသို့၊ ဇယားသိန်းသန်း၊ ကိန်းနှင့်ခန်းကို၊ ဖြန်းဖြန်း ဝေငှ၊ အင်္ဂက ဝါမက၊တာပသအရှင်၊ တိမ်ချာန်ယာဉ်စီး၊ ရသေ့ကြီးတို့ကဲ့သို့၊ ထိုတူနိုင်းဘွေ၊ ဆိုလောက်ပေသော ဝေဒတ္တယ ပါရဂူဂုဏ်။

စတုပ္ပဒါန၊ လုံ့လလေးပါး၊လှုပ်ရှားကြံတက်၊ လင်းလင်းလက်မျှ၊ ဝီမံသာ-ဓိပတိ၊ မဏိဇောတိရှိ၊ အထွတ်တပ်သော၊ အာရဗ္ဘစိနတိုင်၊ အပြိုင်ရှေ့မှောက်၊ ထူဆောက်တော်မူခြင်းတည်းဟူသော သမာအာရဒ္ဓဇိရိယဂုဏ်။

တခွန်းလှိုင်းက၊ ကြားတိုင်းသူတို့၊ နှစ်လိုအေးကြည်၊ ခိုင်တည်ယဉ်ကျေး၊ နက်လေးသားနား၊ မင်္ဂလာရှိသော စကားတို့ကိုသာ၊ ပြောဟောတော်မူလေ့ရှိသော ဝါစာသိလိဋ္ဌ သုဘာသိတဂုဏ်။

လာဘာလာဘ၊ စသည်ရှစ်တန်၊ လောကဓံ တို့ကြောင့်၊ ဘောက်ပြန်မရှိ၊ သည်းခံချိသား၊ ခန္တိသောရစ္စဂုဏ်။

စချီပြောတုံ၊ဂုဏ်အပြည့်နှင့်၊အမျက်ငွေတနာ၊ မဟာသေတ္တ၊ လူ့ဇမ္ဗူတေစစ်၊ ဖြစ်ကြီးဖြစ်တော်မူသော၊ အာဒိစ္စရံသီ၊ ဂမ္ဘီရဉာဏ်ဂေဝရအခေါင်၊ ဒုတိယ ရွှေရေးဆောင်ဆရာတော် ဘုရားကြီးသည်၊ ညီးညီးထိန်ဝါ၊ ဝတီသာမှ၊ ဣန္ဒာသိကြား၊နတ်ရထားဖြင့်၊ ပင်ခြားအဖြစ်၊ ထိုသနစ်ကြောင့်၊နတ်တို့ခေတ်စန်း၊ ဝတိနန်းသို့၊ ကြွမြန်းဝင်စံတော်မူသတည်း။

ယင်းသို့နတ်ထံ၊ဝင်စံတော်မူရာ၊သေသာကြွင်းလတ်၊ဥတုဇဓာတ်၊ ရုပ်တော်ခတ်ကို၊ ကြာကလပ်ကြွားကြွား၊ ရွှေသားငွေသား။ စိန်သားလျှံရဲ၊ ပုလဲခေါင်းမြတ်၊ နဂါးခွေပတ်၊ နဝရတ်ပြိုးပြုး၊ မိုးလုံးလျှံညီး၊ ဥဿုံပြီး၍၊ ထီးဖြူတော်ဖွင့်၊ အခွင့်ထုံးတမ်း၊ အခမ်းအနားသို့ ရောက်လတ်ရကား—

ခဂ္ဂေါ စ ဆတ္တမုဏှီသံ၊ ပါဒုကာ ဝါဠဗီဇနီ။

ဣမေ ကကုဓဘဏ္ဍာနိ၊ ဘဝန္တိ ပဉ္စ ရာဇူနံ။

မာဂဓအဘိခါန် ကျမ်းဂန်အလာ မင်းမြောက်တန်ဆာ ငါးပါးတို့တွင် အဝင်အပါ မဟာဥကင် သီဟာသနပလ္လင်တော်၏လက်ဝဲဘက်၌ ကနက္ကဒဏ်ထီး၊ သူရိယထီး၊ပဒုမထီး၊ သမ္ဗုတိသီး၊ လက်ျာဘက်၌ ကမ္ဗုထီး၊ စန္ဒထီး၊ ကုမုဒထီး၊ ဝိသုကြုံထီး၊ ကိန်ညီးလင်းလင်း ရှစ်ဇင်သော ထီးဖြူတော်တို့တွင် ယခင်စွယ်တပ်နဗန်ချုပ်၍ "ကြာယပ်လူလူ ရွက်ဖြူရွှေတံ စွန်သုတ်ခံသား မင်းစံအချက် ကို.ပါး မျက်တိ ကနက္ကဒဏ် ဟူသော ပြည့်စုံမောင်ကွန်း မင်းစံအောင်ချက်၊ ရွှေနန်း ထက်၌ ကနက္ကဒဏ် ရောင်ဝှန်ဖြိုးညွန့် ရှစ်ဆိုင်ဖြန့်လျက်" ဟူသော မင်းရဲဒိဗ္ဗ ချောင်း၊ "ကနက္ကဒဏ် ဗိမာန်ဖြန့်ဝန်း ဥကင်စုန်းဝယ်" ဟူသော မင်းတရား မယ်တော် ချောင်း၊ "ကနက္ကဒဏ် ရောင်ဝန်ဖြန့်ဝန်း ဤသည်ကျွန်းဝယ်"ဟူသော ယိုးဒယားမင်းသမီးချောင်း၊ "လက်ဝဲမြောက်ဘက် ကနက္ကဒဏ် ရောင်ဝှန်

ထွန်းပ''ဟူသော သီရိနန္ဒကျော်ထင်ရေး ချေင်း၊ ယင်းသို့အလာ ကဗျာ ကျမ်း ဂန်အရ ဇမ္ဗုဒ္ဒ ကဏ္ဍကနက် ရွှေညောင်ရွက်ဖြာ နေဝါသဏ္ဌာန် စိန်လျှံ မီးမီး ဖိတ်ဖိတ်ယိုစီး စိန်ထီး ၈-လက်နှင့် တကွ သုဝဏ္ဏရောင်ဝေ ရွှေထီး လေးလက် တင့်ချက်အမွန် ရွှေပုဇွန်ထီးနှစ်လက် ငွေပုဇွန်ထီးနှစ်လက်တို့ဖြင့် သာသနဂဏ မဟာဂဏဿပ သက္ကရာဇ် (၂၄၇၉) ဖြိုး၍ဖြိုး၍ တိုးလေပွားဘိ သီရောမဏိ သိရိသိဒ္ဓတ္ထသဘော ကလိယောဂ ဆန်းထထွက်သော (၅၀၃၆) နှစ် မြန်မာခေတ် ဝေါဟာဆိုခြင်း စန်းနှင့်စမ္မ ပသ္ဓဆရ ချမ္မပဋ္ဌိလောမ ကိန်းအရကို ကွဲခြစား လာဘ်ကား သက္ကရာဇ် ခေတ်ဟောမန်ခွင် (၂)ရက် ဝင်သား ဝေဟင်ယုဂန် ကောင်းကင်ယံဝယ် ယုန်စန္ဒြာ ဣန္ဒြမာနှင့် သချာ ၇-သွယ် ကြက်သူ့ယ်စု ရုပ်တုပြီးစွာ ကျီးတာရာပြိုင် ဆဋ္ဌီဆိုင်လျက် ဂနိုင် စိုးကဲ ပန်းခဝဲပေ ပြည်ပန်းရွှေတို့ လေညီလာခံ တန်ခိုးလျှံ၍ ဂန္ဓမာကြ သရဒ ထွန်းထိန် ဥဏ္ဏဒိန်စက် ကျော်နှစ်ရက်၌ နေတက်ဆဋ္ဌီ ၁၂-နာရီအချိန်တွင် သဘင်မျိုးပေါင်း သောင်းသောင်းအုတ်ထွေ တီးမှုတ် သီဆို စေခြင်းနှင့်တကွ မြတပူသံ ပြင်းထန်သုံးချက် မြေအက်စလောက် ပစ်ဘောက်အဟုန် တုန်လျက် ခုန်လျက် သုန်စက်ဝိဗ္ဘမာ သတင်းသာစေလျက် ဖြဟ္မာသိကြား နတ်လူ များတို့ မားမားကိုယ်တိုင် ကိုင်ကာအသင့် ကျည်းရှင်သွန်းမြင့် ဖြူဝန်းတင့်ရန်း ထွန်းဘွင့်ပူဇော်ရာ သုတိထောမနာ ဤသြဘာစာတမ်းကို ဖတ်ဆိုပူဇော် ပါသည်။

သနက်ုမာရ် သဟမ္ပတိ စရှိများစွာ ဖြဟ္မာအပေါင်းတို့က ကောင်းကြီး သာစု အနုမောဒနာ ပြုသောအားဖြင့်၎င်း သုနိမ္မိတ သုနိမ္မနှင့် တုသိတ တဖြာ ယာမာဝတိန် အဂ္ဂါလိန်တို့၌ ထိန်ထိန်ထွန်းဘိ တန်ခိုးရှိသော သီရိဘုံ ခေတ် ဒေဝရာဇ်တို့ကလည်း နတ်ဖြစ်နတ်ဂန္ဓာ နတ်နံ့သာတို့ဖြင့် ပဏ္ဏာကော်ရော် ပူဇော်ခြင်းအားဖြင့်၎င်း ဂန္ဓဗ္ဗနတ်အပေါင်းတို့ကလည်း လက်ခုပ်တီးခတ် သံချပ် ထိုးမြှောက် တိုင်ဖောက်ထွတ်ထွတ် ကိုယ်ကို ကွေးညွှတ်သောအားဖြင့်၎င်း၊ သိကြားယုံကြုံ ဝိသုကြုံနတ်သားသည် သံတောင် ၄၂၀-ရှိ ဝိဇယုတ္တရ ခရု သင်းကို ပြင်းပြင်းညှင်းညှင်း အခင်းမယုတ် မှုတ်သောအားဖြင့်၎င်း၊ ပဉ္စသီခ နတ်သားသည် အလျားသုံးဂါဝုတ်ရှိသော ဗေလုဝ နတ်စောင်းကို သံပြောင်း သံလှဲ့ တျာတေအဖွဲ့ အသွဲ့ခန့်မူဒြ ကြူသော အားဖြင့်၎င်း၊ သူရိယဝစ္ဆသာ ကညာဒေဝီ နတ်သိဂီကလည်း ကသီရှင်ပြုံးသောအားဖြင့်၎င်း၊ ဟာဟာနတ် ဟူဟူနတ်တို့ကလည်း ပြေဒွန့်စတေ လေချွန်သောအားဖြင့်၎င်း၊ စတုလောက ပါလာမဟာရာဇ်နတ်မင်းကြီးတို့ကလည်း မျှားစွာဝမ်းမြောက်လက်ပမ်းပေါက် ခတ်ခြင်းဖြင့်၎င်း၊ ကုမ္ဘဏ်ယက္ခ ကာယအထူး နတ်ဘီလူးအပေါင်းတို့ကလည်း

ဟေးလား ဟားလား အသံပေးသောအားဖြင့်၎င်း၊ သုပဏ္ဏာဘသုန် နတ်ဂဠုန် တို့ကလည်း နတ်တောင်ဟုန်သံပေးသောအားဖြင့်၎င်း၊ ဘောဂဝတီ ဘုံဆီ တလွှား နတ်နဂါးတို့ကလည်း ပတ္တမြားခဲ မြှောက်ကြဲသော အားဖြင့်၎င်း၊ အာကာသဋ္ဌ ဘုမ္မရုက္ခာ သေလာခွေညွန့် ဟေဝန်သမုဒ္ဒ ရှိရှိသမျှသော နတ်အပေါင်းတို့ကလည်း ကောင်းချီးကြွေးကြော် သာဓုခေါ်ယူ အောင်လံထူသော အားဖြင့်၎င်း၊ဂန္ဓာရီထိုထို ဝိဇ္ဇာဓိုရ်အပေါင်းတို့ကလည်း လျှံမောင်းကြွားကြွား ထွက်ရပ်ပေါက်ငြား သံပြဒါးတို့ကို လက်ဝါးအပြင် တင်သောအားဖြင့်၎င်း ဝသုန်ရိုက်ချောင်း ပွဲတင်သောင်း၍ ကောင်းကြီးပေးကြပါစေကုန်သတည်း။

လယ်တီပဏ္ဍိတ မဟာဝိဇ္ဇာ ဦးမောင်ကြီး ရေးသားသီကုံး၍

ရွှေပြည် ဦးဘတင် ဖတ်ကြားအပ်သော

သြဘာစာ ရတုပိုဒ်စုံ

၁။ နန်းရွှေရေးဘုံ၊ တိမ်ခိုခြုံသား၊ နေယျုံမန္တလ၊ ဘူသိခဟု၊ ပြည်မမျက်နှာ၊ တောင်လက်ျာတွင်၊ တောင်သာမြို့ကျေး၊ မက္ခာဝေး သား၊ ဂုဏ်လေးတန်စို၊ မန်ကျည်းချိုဟု၊ ခေါ်ဆိုကြစေ၊ နိဂုံးမြေ၌၊ ကျက်သရေသစ်သစ်၊ ထွန်းပေါ်ဖြစ်သို့၊ တစ်နှစ်တစ်ကိုး၊ ဂဏန်းထိုး သည့်၊ ခေါ်ရိုးကောဇာ၊ လူ့ဝေါဟာတွင်၊ ဝါဆိုဆန်း၍၊ ရှစ်ရက်နေ့ ဝယ်၊ ချမ်းမြေ့ကြည်ဖြူ၊ ဖွားတော်မူသား၊ တွက်ယူချီးကျူး၊ ဂုဏ် ကျေးဇူးတို့၊ အထူးပြည့်ကျော်၊ ဆရာတော်ကား၊ ငါသော်ယောကျ်ား၊ ငါတကားဟု၊နတ်များအုံ့ဝိုင်း၊ တောင်းပန်ခိုင်း၍၊ နတ်တိုင်းပြည်ကွန်း၊ မြင်းမိုရ်စွန်းမှ၊လူ့ကျွန်းရပ်နယ်၊ပြောင်းစံပယ်သည်၊ ဆယ်နှစ်သားတွင်၊ စာသဘင်၌၊ မာတင်စွယ်စုံ၊ ပြည့်လောက်လုံသား၊ လွှမ်းခြုံဂုဏ်သိုက်၊ အမြိုက်ရည်လောင်း၊ ဉာဏ်ညွန့်ပေါင်း၍၊ စံကျောင်းဘုန်းမော်၊ ဆရာ တော်နှင့်၊ တေဇော်ဝိုက်သိုင်း၊ သိုက်သမိုင်းတွင်၊ မိုင်းခိုင်းသူမွန်၊ ပည ဝန်သို့၊ ပြည့်ညွန့်နည်းသွယ်၊ ချီးမြှောက်ရွယ်သည်။ ။မျိုးနွယ်အရှင် မြန်းပြီဘုရား။

၂။ ဖျန်းလေသွေးထုံ၊ နိုင်းလောက်တုံသား၊ ဉာဏ်စုံ ပွင့်လန်း၊ စာနိဒါန်းကို၊ နန်းမတော်ကြီး၊ မျက်မှောက်နီးတွင်၊ ဝှဲချီးအောင်ဆု၊ စာပြန်မှုနှင့်၊ ရှင်ပြုမင်္ဂလာ၊ ဆင်ယင်ကာလျှင်၊ သာမဏေယ်၊ သက် နှစ်ဆယ်၌၊ ကြီးထယ်ဂုဏ်သစ်၊ ရဟန်းဖြစ်၍၊ နေမြစ်နွယ်ရောင်၊ ရွှေရေး ဆောင်ဟု၊ မိုးခေါင်ထိပ်ဖျား၊ တံခွန်လွှားသား၊ ယောကျ်ားဇာနည်၊ ငါဖြစ်သည်ဟု၊ နှုတ်ရည်ချိုမြ၊ မဆိုပြလည်း၊ ဂန္ထဝိဒူ၊ ပါရဂူတည့်၊

တဆူမှုန်သောက်၊စွယ်စုံပေါက်ရှင့်၊ ထက်အောက်ခရိုင်၊ ဂုဏ်ပန်းခိုင်တို့၊ ပြန့်လှိုင်ထုံမွှေး၊ ဉာဏ်သူဌေးဟု၊ လေးနှစ်လီ၁၊ ရှစ်မျက်နှာမှ၊ ပညာလိုလား၊ တပည့်သားတို့၊ ဆင့်ပွားရာထောင်၊ မကအောင်လျှင်၊ မြားမြောင်ကျမ်းဂန်၊ခေါင်းတုံ့ပြန်လျက်၊ သာမန်လူတို့၊ ဆောင်ရွက်ဘိုကို၊ ဘယ်သို့ပြိုင်ဆိုင်၊ မတတ်နိုင်အောင်၊ ပိုင်ပိုင်နင်းနင်း၊ ချုပ်ယှင်းမှု၊ သေမင်းဟဲ့နေ၁်၊ ပင့်လျောက်ခေါ်သွား၊ ရွယ်တော်ခုနစ်၊ ဆယ်လီရှစ်တွင်၊ ကံသစ်ဖန်ချယ်၊ ပြောင်းစံပယ်သည်။ ။ကိုးကွယ်မမြင်၊ ပန်းပြီဘုရား။

၃။ ပန်းရေဝေးကြို၊ ပမာပုံသို့၊ အာရုံအာရမ္မဏိက်၊ ကုသိုလ်စိတ်ဖြင့်၊ ဆို ့ပိတ်အထူး။ ရှင့်ကျေးဇူးဟု၊ မြင့်မူးမြင်းမိုရ်၊ မားပိုသား၊ ကြည်ညိုတမ်းတ၊ ကျန်ရစ်ကြသည့်၊ သိဿများစွာ၊ သူသူငါတို့၊ ပူဆာထန်ပြင်း၊ ရှင်သေမင်းအား၊ စစ်ခင်းပြိုင်ဆိုင်၊ မတတ်နိုင်၍၊ လက်မှိုင်တွေချ၊ ရှင်ဘုရား့ဟု၊ ပါဒစက်စုံ၊ ခြေပဒုံဝယ်၊ ခိုလှုံဝပ်တွား၊ ပြုပါငြားလည်း၊ စကားတခွန်း၊ မဆိုညွန်းခဲ့၊ ပတ်ဝန်းပိတ်ကာ၊ လေးမျက်နှာက၊ ငွေကြာကလပ်၊ စိန်ဇာယပ်နှင့်၊ ကိုးထပ်ပန်းအုံ၊ ခြူးနွယ်ရုံသား၊ ပုံအသီးသီး၊ ပန်းဆီမီးတို့၊ ညီးညီးငွါးငွါး၊ မုလေးပွားနှင့်၊ နဂါးငွေရုပ်၊ ခေါင်းပတ်ချုပ်လျက်၊ ယမ်းလှုပ်နွဲ့နှောင်း၊ပုလဲခေါင်းဝယ်၊ အလောင်းတော်မြတ်၊ ပူဇော်မှတ်ရှင့်၊ တီးခတ်သံဝါ၊ တူရိယာတို့၊ ညီညာလင်ချွဲ၊ ငြိမ့်အောင်လွဲ၍၊ ခဝဲပွင့်တုန်း၊ တန်ဆောင်မုန်းဟု၊ ရွှေဘုန်းတော်ထွက်။ ဆုတ်နှစ်ရက်တွင်၊ နှစ်သက်ပန်ရွယ်၊ ကောင်းချီးကြွယ်သည်။ ။ညှိုးငယ်မရှင် လန်းပြီဘုရား။

**စေတီတည်ထား ကိုးကွယ်ကြခြင်း**

ဆရာတော်၏ ရုပ်ကလာပ်တော်ကို သက္ကရာဇ် ၁၂၈၇-ခုနှစ် တပို့တွဲလဆုတ် ၄-ရက်နေ့တွင် နောက်ဆုံးပူဇော်၍ မီးသင်္ဂြိုဟ်ကြပြီးလျှင် အရိုးဓာတ်တို့ကို သံကျောင်းဒါယကာသဌေး ဦးကျော် သဌေးကတော် ဒေါ်နှင်းဦးတို့၏ ကောင်းမှုစေတီတွင် ဌာပနာ၍ ကိုးကွယ်ခဲ့ကြကုန်၏။

ဥတုဇထေရဒေဟမ္ပိ၊ ကူဋ္ဌာဂါရေန ဈာပယိ။
အဋ္ဌော ကတ္ဝာန အဋ္ဌီနိ၊ စေတိယံ စ အကာရယိ။

**ဆရာတော် ဦးကြည်ထံ ပညာသင်တပည့်အချို့**

အရှင်အာဒိစ္စရံသီဘွဲ့ထူးချီသော ဆရာတော်ဦးကြည် ခေတ်ကောင်းစဉ်က ဆရာတော်ထံ သာသနာ့ထိပ်တန်းဝန်ဆောင်လောင်းလျာ ပုဂ္ဂိုလ်မြတ်တို့ ချဉ်း

ကပ်ရောက်၍ ပညာသင်ကြားတော်မူခဲ့ကြရာ ဤရွှေရေးဆောင်သာသနာဝင် ကျမ်းတွင် ယင်း မထေရ်မြတ်တို့ကို အမြွက်မျှ ထုတ်ပြအပ်ပါသည်။

### အဂ္ဂမဟာပဏ္ဍိတ အရှင်ပညာမဟာထေရ်

ပခုက္ကူမြို့ မဟာဝိသုတာရာမ ကျောင်းတိုက်ကြီး၏ ဦးစီးနာယကဖြစ်တော်မူသော အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ အရှင်ပညာဆရာတော်သည်လည်း ရွှေရေးဆောင်ဆရာတော်ဘုရားကြီး ဦးကြည်၏ စာဆိုဘပည့် ဖြစ်လေသည်။ မြင်းခြံခရိုင် တောင်ဆင်းနယ် ချွေပြုတ်ရွာ၌ ဦးပြော ဒေါ်မင်းဂုဏ်တို့မှ သက္ကရာဇ် ၁၂၄၀-ပြည့်နှစ် ကဆုန်လဆန်း ၂-ရက် ကြာသပတေးနေ့တွင် ဖွားမြင်တော်မူသည်။ အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်တည် ဒီဿဒဿီ ရေစကြိုဆရာတော်ဘုရားကြီး အရှင်ဂန္ဓသာရမဟာသေရ်ထံ စာပေကျမ်းဂန်တို့ကို ဆိုဝါဖြင့် သင်ယူခဲ့သည်။ ၁၂၇၅-ခုနှစ်လောက်တွင် ဖော်ပြပါ ရွှေရေးဆောင်ဆရာတော် ဦးကြည်ထံရောက်ရှိ၍ အဘိဓမ္မာအဋ္ဌကထာကြီးကို မူလဋီကာနှင့် တွဲဖက်၍ ဆိုဝါဖြင့် သင်ယူတော်မူခဲ့လေသည်။ ၁၃၀၈-ခုနှစ်တွင် ပျံလွန်တော်မူသည်[၁]။

### အဂ္ဂမဟာပဏ္ဍိတ အရှင်နန္ဒဝံသ

အရှင်ပညာပျံလွန်တော်မူပြီးနောက် အဘိဓဇမဟာရဋ္ဌဂုရုအဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ အရှင်သုန္ဒရနှင့်အတူ ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်ကြီး၏ မဟာနာယကဖြစ်တော်မူသော အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော်ရ အရှင်နန္ဒဝံသဆရာတော်ဘုရားကြီးသည်လည်း ရွှေရေးဆောင်ဆရာတော်ထံ ပညာဆည်းပူးခဲ့သည့် ပုဂ္ဂိုလ်မြတ်ဖြစ်လေသည်။ မြင်းခြံခရိုင် ပုဂံမြို့နယ် ဆင်သားမွေးရွာ၌ ဦးအိုးနှင့် ဒေါ်ဖီးတို့မှ သက္ကရာဇ် ၁၂၄၄-ခုနှစ် နတ်တော်လဆန်း ၂-ရက် စနေနေ့တွင် ဖွားမြင်တော်မူ၍ ၁၃၁၉-ခုနှစ် ကဆုန်လဆုတ် ၅-ရက်နေ့တွင် ပျံလွန်တော်မူသည်[၂]။

---

၁။ အကျယ် ပခုက္ကူသာသနာဝင် ၅၇၊ မဟာဝိသုတာရာမနိကာယ သာသနာဝင်။ ၂၂၁-၂၄၃-ကြည့်။ မဟာထေရလလိတလည်း ကြည့်။

၂။ အကျယ် ပခုက္ကူသာသနာဝင် ၆၁-၆၃။ မဟာဝိသုတာရာမ နိကာယ သာသနာဝင် ၂၆၄-၂၈၃-ကြည့်။ ထေရုပ္ပတ္တိဒီပနီလည်း ကြည့်။

## အဂ္ဂမဟာပဏ္ဍိတ အရှင်အဂ္ဂဝံသ

အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ တောင်သာမြို့ ကျွန်းရွာတောရ ဆရာတော်ဘုရားကြီး အရှင်အဂ္ဂဝံသ သည်လည်း ဆရာတော် ဦးကြည်ထံ နှစ်ပေါင်းများစွာ တပည့်ခံ၍ စာပေကျမ်းဂန် အရပ်ရပ်ကို လေ့လာသင်ယူတော်မူခဲ့သည့် မထေရ်မြတ်ဖြစ်လေသည်[၁]။

## အဂ္ဂမဟာပဏ္ဍိတ အရှင်ဇာဂရ

သက္ကရာဇ် ၁၂၄၅-ခုနှစ်၊ နယုန်လဆုတ် ၉-ရက်၊ အင်္ဂါနေ့တွင် ရွှေဘိုခရိုင် ဒီပဲရင်းမြို့ တောင်မျက်နှာ နဂါးဗိုလ်ရွာတွင် ဖွားမြင်သော အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ မန္တလေးမြို့ ပတ္တမြားဆရာတော်ဘုရားကြီး အရှင်ဇာဂရသည် လည်း ရွှေရေးဆောင် ဆရာတော် ဦးကြည်ထံ ပညာရင်နို့ သောက်စို့ဘူးသည့် မထေရ်မြတ်ဖြစ်သည် [၂]။

## အဂ္ဂမဟာပဏ္ဍိတ မိုးထိတိုက်ဆရာတော် အရှင်ဇာဂရ

မန္တလေးမြို့၊ မြောက်ပြင် မိုးထိတိုက် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ပါဠိတော် အဋ္ဌကထာဋီကာ ကျမ်းဂန်ပေါင်းများစွာတို့ကို စီရင်တော်မူခဲ့သော မိုးထိ ဆရာတော် အရှင်ဇာဂရသည် ဆရာတော် ဦးကြည်ထံ ရောက်ရှိ ပညာဆည်းပူးခဲ့သည့် မထေရ်မြတ်ဖြစ်သည် [၃]။

## အဂ္ဂမဟာပဏ္ဍိတ ဆရာတော်ကြီး ဦးကြယ်

အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ဒက္ခိဏာရာမ ဘုရားကြီးတိုက် ရွှေဘုန်းရှိန်ကျောင်း ဆရာတော် ဦးကြယ်သည်လည်း ဆရာတော် ဦးကြည်ထံ ပညာဆည်းပူးခဲ့သည့် မထေရ်မြတ်ဖြစ်သည် [၄]။

---

၁။ မန္တလေး သာသနာဝင်ကျမ်း ချမ်းသာကြီးသာသနာဝင် ကြည့်။

၂။ မန္တလေး သာသနာဝင်ကျမ်း ပတ္တမြား သာသနာဝင် ကြည့်။

၃။ မန္တလေး သာသနာဝင်ကျမ်း မိုးထိတိုက်သာသနာဝင် ကြည့်။

၄။ ဤမန္တလေး သာသနာဝင်ကျမ်း ဒုတိယတွဲ ဒက္ခိဏာရာမ သာသနာဝင် ကြည့်။

## အဂ္ဂမဟာပဏ္ဍိတ အရှင်ကောဏ္ဍည

အရှင်ကောဏ္ဍညသည် ဟံသာဝတီခရိုင် ခရမ်းမြို့အပိုင် ညောင်ပင်ရွာ၌ အဖဦးကျော်ဖူး အမိဒေါ်ရွှေရင်တို့မှ သက္ကရာဇ် ၁၂၄၀-ခုနှစ် ပြာသိုလဆန်း ၁၀-ရက် တနင်းလာနေ့ နံနက် ၂- နာရီအချိန်တွင် ဖွားမြင်တော်မူသည်။ အရွယ်ရောက်သော် ရှင် ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။ သက္ကရာဇ် ၁၂၇၂-ခုနှစ်တွင် မန္တလေးမြို့သို့ ကြွရောက်တော်မူ၍ ရွှေရေးဆောင် ဆရာတော် ဦးကြည်ထံ၌ တနှစ်ခန့် ပညာသင်ကြားတော်မူခဲ့လေသည်။ ၎င်းနောက် ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်ကြီးသို့ ကြွရောက်၍ ပညာသင်ကြား စာပေချပို့တော်မူသည်။ ၁၂၈၉-ခုနှစ်တွင် ရန်ကုန်မြို့ ခေမာသီဝံကျောင်းတိုက်၌ ဝါဆို၍ စာပေချပို့တော်မူသည်။ ၁၁၉၂-ခုနှစ်တွင် ခြောက်ထပ်ကြီးဘုရားကြီးကျောင်းတိုက်ကို စတင်တည်ထောင်တော်မူ၍ နိကာယ ၅-ရပ် ပိဋကတ်ချပို့ရာ လွန်စွာ အောင်မြင်ခဲ့လေသည်။ အောက်မြန်မာပြည်၌ သံဃာအများဆုံး ကျောင်းတိုက်အဖြစ် ထင်ရှားလေသည်။ ၁၃၁၄-ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော်မူသည်။ ၁၃၁၉-ခုနှစ် တန်ဆောင်မုန်း လဆန်း ၁၂-ရက်နေ့တွင် ဘဝနတ်ထံ ဝင်စံတော်မူသည်[၁]။

## အဂ္ဂမဟာပဏ္ဍိတ အရှင်ရေဝတဓမ္မ

ညောင်တုန်းမြို့ မဟာဝိသုတာရာမတိုက်သစ်ဆရာတော်ဟူ၍၎င်း၊ ရန်ကုန်မြို့ ဒေဝသာဂရသိမ်ကုန်း ဆရာတော်ဟူ၍၎င်း ထင်ရှားတော်မူသော အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်ရ အရှင်ရေဝတ ဆရာတော်ဘုရားကြီးသည်လည်း ရွှေရေးဆောင်ဆရာတော်ဘုရားကြီး ဦးကြည်ထံ ပညာရင်နို့ သောက်စို့တော်မူခဲ့သည်။

ဆရာတော်သည် မြင်းခြံခရိုင် တောင်သာမြို့ ဇော်ဂျင်းချမ်း ကံမြဲရွာ၌ အဖဦးသာဖြူ အမိဒေါ်လှဘူးတို့မှ သက္ကရာဇ် ၁၂၄၅-ခုနှစ် နတ်တော်လဆန်း ၅-ရက် ဗုဒ္ဓဟူးနေ့တွင် ဖွားမြင်တော်မူသည်။ အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။

---

၁။ မဟာဝိသုတာရာမနိကာယသာသနာဝင်၊ ၃၄၆-၃၅၄-ကြည့်။

## သာမဏေဘဝဖြင့် ဦးကြည်ထံရောက်ရှိ ပညာသင်

ဆရာတော်သည် သာမဏေဘဝ ငယ်စဉ်ကပင် ဖော်ပြပါ ရွှေရေးဆောင် ဆရာတော်ဘုရားကြီး ဦးကြည်ထံ ရောက်ရှိတော်မူ၍ ရွှေရေးဆောင်နိယံနှင့် တကွ ဓမ္မသင်္ဂဏီအဋ္ဌကထာနှင့် မူလဋီကာကို သင်ယူတော်မူခဲ့လေသည်။ ရဟန်း ဖြစ်ပြီးနောက်တွင်လည်း ရွှေရေးဆောင် ဆရာတော်ဦးကြည်ထံ ရောက်ရှိ၍ ဆက်လက် ပညာသင်ကြားတော်မူခဲ့လေသည်။ ကျီဝန်ဆရာတော်ထံ၌လည်း ပညာသင်ကြားခဲ့ဘူးသည်။ ၎င်းနောက် စစ်ကိုင်းမြို့နယ် ချောင်းဦးဆယ်ရွာ ဓမ္မာရုံကျောင်းကြီး စာချဆရာတော် အရှင်ဒီပ ပခုက္ကူမြို့ မဟာဝိသုတာရာမ တိုက် ရေစကြိုဆရာတော်ဘုရားကြီး အရှင်ဂန္ဓသာရ၊ အဂ္ဂမဟာပဏ္ဍိတ အရှင် ပညာတို့ထံ၌လည်း ပညာသင်ကြားတော်မူခဲ့သည်။ ၁၂၇၅-ခုနှစ်တွင် ညောင် တုန်းမြို့ မဟာဝိသုတာရာမတိုက်သစ်ကို တည်တောင်တော်မူ၍ စာပေချပို့ ပရိယတ္တိသာသနာပြုတော်မူခဲ့လေသည်။ နောက်တွင် ရန်ကုန်မြို့ ဒေဝသာဂရ သိမ်ကုန်းကျောင်းတိုက်၌ သီတင်းသုံးတော်မူ၍ အလုံ အောင်မင်္ဂလာပါဠိ တက်ကသိုလ်၊ အလုံ ဇမ္ဗူ့ရတနာပါဠိတက္ကသိုလ်၊တာမွေ နန္ဒဝံသပါဠိတက္ကသိုလ်တို့ ကို ကြီးမှူးအုပ်ချုပ် စောင့်ရှောက်တော်မူခဲ့သလေသည်။ ၁၃၁၆-ခုနှစ်တွင် "အဂ္ဂမဟာပဏ္ဍိတ" ဘွဲ့ဆိပ်တော်ကို အလှူခံရရှိတော်မူခဲ့လေသည်။ ၁၃၂၅- ခုနှစ် တန်ခူးလဆန်း ၆-ရက်နေ့တွင် ဘဝနတ်ထံ ဝင်စံတော်မူခဲ့လေသည်။

ဦးကြည်ထေရံ သုနိဿာယ၊ ရေဝတော သုဆေကော ဘဝိ။
တေဿ သုဆေကဘာဝေ ါ၊ ဦးကြည်ထေရသုမူလကော။

## အဂ္ဂမဟာပဏ္ဍိတ အရှင်ကလျာဏ

အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ မန္တလေးမြို့ အနောက်ပြင် ဝေဃန်ဘုံ သာဆရာတော် အရှင်ကလျာဏသည်လည်း ရွှေရေးဆောင်ဆရာတော် ဦးကြည် ထံ နည်းခံပညာသင်ကြားခဲ့သည့် မထေရ်မြတ်ဖြစ်တော်မူသည်[၂]။

---

၁။ အကျယ် မဟာဝိသုတာရာမ နိကာယသာသနာဝင်၊ ၃၅၉၊၃၆၃-ကြည့်။
၂။ မန္တလေးသာသနာဝင်ကျမ်း၊ ဝေဃန်ဘုံသာ သာသနာဝင် ကြည့်။

## အဂ္ဂမဟာပဏ္ဍိတ အရှင်သုဒဿန

ခရမ်းမြို့ ကိုင်းကုန်းကျောင်းတိုက် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ဆရာတော် အရှင်သုဒဿနသည်လည်း ရွှေရေးဆောင်ဆရာတော်ထံ ပညာရင်နို့ သောက်စို့တော်မူခဲ့သည့် မထေရ်မြတ်ဖြစ်တော်မူခဲ့သည်။

ဆရာတော်သည် ဟံသာဝတီခရိုင် ခရမ်းမြို့၊ သပြေကုန်းပိုင်း၌ အဖ-ဦးခင် အမိ ဒေါ်အေးသာ တို့မှ သက္ကရာဇ် ၁၂၆၂-ခုနှစ်၊ သီတင်းကျွတ်လဆုတ် ၁-ရက်နေ့တွင် ဖွားမြင်တော်မူသည်။ အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ ဆီမီးခုံမြို့ မဟာဝိသုတာ ရာမတိုက် ဆရာတော် ဦးနာရဒ စသူတို့၏အထံတွင် ပိဋကတ်အခြေခံ ကျမ်းစာ များနှင့်တကွ ပိဋကပါဠိ အဋ္ဌကထာ ဋီကာတို့ကို သင်ယူတော်မူခဲ့လေသည်။ ၁၂၈၉-ခုနှစ်တွင် မန္တလေးမြို့သို့ရောက်၍ ဘုရားကြီးတိုက် ဟံသာဝတီဆရာ တော် စသည်တို့ထံတွင် ပညာသင်ကြားတော်မူခဲ့လေသည်။

## ဆရာတော်ဦးကြည်ထံ ပညာသင်ကြားခြင်း

စာပေအရာ လွန်စွာကျော်စော ကိတ္တိရှိလှသော ဆရာတော် ဦးကြည်ထံ၌ လည်း စာပေကျမ်းဂန်တို့ကို သင်ယူတော်မူခဲ့လေသည်။ ၁၂၉၂-ခုနှစ်တွင် ခရမ်းမြို့၌ ကိုင်းကုန်း ကျောင်းတိုက်ကို စာသင်တိုက်ကြီးအဖြစ် ကြိုးပမ်းတော် မူ၍ စာပေပို့ချရာ ဟံသာဝတီခရိုင်တွင် သံဃာအများဆုံ ကျောင်းတိုက်အဖြစ် ထင်ရှားလေသည်။ ယခုအခါ ကိုင်းကုန်းကျောင်းတိုက်မှာ သံဃာတော် ၃၀၀-ကျော် ၄၀၀-နီးပါး သီတင်းသုံးတော်မူ၍ စာပေသင်ကြားချပို့ရာ ဝိဇ္ဇာလယ ကြီးအဖြစ် ထင်ရှားလေသည်[၁]။

> ဦးကြည် ထေရမှိ နိဿာယ၊ သုဒဿနော ဟိ ပဏ္ဍိတော။
> တေသ ပဏ္ဍိတဘာဝေါ၊ ဦးကြည် ထေရသုမူလကော။

---

၁။ အကျယ် မဟာဝိသုတာရာမနိကာယ သာသနာဝင်၊ ၄၈၉-၄၉၁-ကြည့်။

## အဂ္ဂမဟာပဏ္ဍိတ အရှင်ဝိမလဗုဒ္ဓိ

စစ်ကိုင်းတောင်ရိုး ဓမ္မာစရိယ ကျောင်းဆရာတော် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ အရှင်ဝိမလဗုဒ္ဓိသည်လည်း ဆရာတော် ဦးကြည်ထံ နည်းခံတပည့်ဖြစ်တော်မူသည်။

ရမည်းသင်းခရိုင် ယင်းတော်မြို့အနောက်လက်ပန်ပင်ရိုးရွာ၌ အဖ-ဦးမှဲ့ အမိဒေါ်ဂျမ်းတို့မှ သက္ကရာဇ် ၁၂၅၉-ခုနှစ်၊ ဝါခေါင်လဆန်း ၆-ရက်၊ ဗုဒ္ဓဟူးနေ့တွင် ဖွားမြင်တော်မူခဲ့လေသည်။ အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ ထိုစဉ်က မန္တလေးမြို့၌ ထင်ရှားသော ညောင်ကန် ဆရာတော် အရှင်ဣန္ဒာဝုဓ၊ ဒက္ခိဏာရာမ စာချဆရာတော် အရှင်ပရမတို့ထံတို့၌လည်း ပညာသင်ကြားတော်မူခဲ့လေသည်။

## ဦးကြည်ထံ ပညာသင်ကြားခြင်း

ရင်းပြင် အလွန်လျှင် သာသနာ့ဝေဟင်တွင် ထင်ရှားလှသည့် ရွှေရေးဆောင် ဆရာတော်ဘုရားကြီး ဦးကြည်ထံ၌လည်း—

ဝါကျသွား ဝါကျလာအမျိုးမျိုး၊ အနုသန္ဓေအထွေထွေ၊ ကျမ်းရိုးအသွယ်သွယ်၊ အဓိပ္ပာယ်အဖြာဖြာ၊ ဌာပနာပဉ္စက၊ ဌပနာဆက္က စသည့် နည်းနာနယအဝဝတို့ကို ကျနစွာ သင်ယူတော်မူခဲ့လေသည်။

> သန္တိကေ ဦးကြည် ထေရဿ၊ ဝိမလော နိမ္မလော ဝိဒ္ဒါ။
> ဝိဒ္ဒတ္တံ သော ဟိ ပဏ္ဍိတွာ၊ ဗဟုံ ဥဂ္ဂဟာနံ အကာ။

ဆရာတော် အရှင် ဝိမလဗုဒ္ဓိသည် သကျသီဟ အစိုးရစာမေးပွဲများကိုလည်း ဖြေဆိုအောင်မြင်တော်မူသဖြင့် ပရိယတ္တိ သာသနဟိတ ဓမ္မာစရိယ သီးခြားစာချ သာသနဓဇသီရိပဝရ ဓမ္မာစရိယ ဘွဲ့တံဆိပ်တော်တို့ကိုလည်း အလှူခံရရှိတော်မူခဲ့လေသည်။

၁၂၉၁-ခုနှစ်၊ တပေါင်းလတွင် စစ်ကိုင်းတောင်ရိုး တောင်တီလူးကျောင်းဆရာတော်ထံတွင် ၅-နှစ်တိုင် သီတင်းသုံးစာပေချပို့တော်မူခဲ့လေသည်။ ၁၂၉၆

ခုနှစ်တွင် ဓမ္မာစရိယချောင်ကို တည်ထောင်၍ စာပေချပို့ သာသနာပြုတော်မူခဲ့လေသည်။

ဆရာတော်သည်—

၁။ ပါဠိမဏ္ဍိုင်ကျမ်း၊
၂။ ဝါကျတ္ထပကာသနီပါဌ်၊
၃။ ဝါကျတ္ထပကာသနီ နိဿယ၊
၄။ ဝါကျအလင်းပြချိုးကျမ်း၊
၅။ ဝါကျအလင်းပြချိုးကျမ်း အဖြေ၊
၆။ ဥဒယဘဒ္ဒပျို့၊
၇။ အနီတ္ထိဂန္ဓပျို့၊
၈။ သုဗောဓာလင်္ကာရနီတိပါဌ်၊
၉။ ဆန္ဒောသာရနီတိပါဌ်—

စသည့်ကျမ်းဂန်များစွာတို့ကိုလည်း ပြုစီရင်တော်မူခဲ့လေသည်။

ယင်းသို့ စာချခြင်း ကျမ်းပြုခြင်း ဟူသော ကြီးမားသော ပရိယတ္တိဓုရန္ဓရဂုဏ် သီလဝန္တ သိက္ခာကာမဂုဏ်တို့ကြောင့် ၁၃၂၁-ခုနှစ်တွင် နိုင်ငံတော်အစိုးရတို့ ဆက်ကပ်လှူဒါန်းသည့် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော်မူခဲ့လေသည်။

၁၃၃၅-ခု၊ ကဆုန်လဆန်း ၁၀-ရက်နေ့တွင် ဘဝနတ်ထံ ပျံလွန်တော်မူသည်[၁]။

သံဝေဂယူရန်

ယထာပိ ကုမ္ဘကာရဿ၊ ကတာ မတ္တိကဘာဇနာ၊
သဗ္ဗေ ဘေဒနပရိယန္တာ၊ ဧဝံ မစ္စာန ဇီဝိတံ။

ကုမ္ဘကာရဿ၊ အိုးထိန်းသည်၏။ ဝါ၊ အိုးထိန်းသည်သည်။ ကတာ၊ ပြုအပ်ကုန်သော။ သဗ္ဗေ၊ အလုံးစုံကုန်သော။ မတ္တိကဘာဇနာ၊ မြေညက် အိုးခွက်တို့သည်။

---

၁။ စစ်ကိုင်းသာသနာဝင် ၂၂၂-၂၂၄ ကြည့်။

ဘေဒနပရိယန္တာယထာပိ၊ တနေ့နေ့တွင် ကွဲပျက်ခြင်းလျှင် အဆုံးရှိကုန်သကဲ့သို့ သာလျှင်။ ဧဝံ တထာ၊ ထိုအတူ။ မစ္စာနံ၊ ကြုံလာဖြစ်လာ သတ္တဝါတို့၏။ ဇီဝိတံ၊ အသက်သည်။ဘေဒနပရိယန္တံ၊ ပျက်စီးသေလွန်ခြင်းလျှင် အဆုံးရှိချေ၏။

## အဂ္ဂမဟာပဏ္ဍိတ အရှင်အာလောက

သိန္နီမြို့ မင်္ဂလာရုံကျောင်းတိုက် ဆရာတော် အရှင်အာလောကသည်လည်း ရွှေရေးဆောင် ဆရာတော် ဦးကြည်ထံ နည်းခံပညာ သင်ယူတော်မူခဲ့သည့် မထေရ်မြတ် ဖြစ်တော်မူသည်။

ကျောက်မဲမြို့အပိုင် ကုန်းစုံရွာ၌ အဖ ပူလွဲသံ၊ အမိ နိုင်လွယ်ထံးတို့မှ သက္ကရာဇ် ၁၂၅၉-ခုနှစ်၊ နှောင်းတန်ခူးလဆန်း ၆-ရက်၊ တနင်္ဂနွေနေ့တွင် ဖွားမြင်တော်မူသည်။ အရွယ်ရောက်သော် ရှင်ပဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ ဥပဇ္ဈာယ်ဆရာတော်ကြီး ဦးမဏိ၊ ပဲခူးခရိုင် တာဝတိံသာ ဒေဝနိုင်ကျောင်း ရွှေကျင်ဆရာတော်၊ ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက် အဂ္ဂမဟာပဏ္ဍိတ အရှင်ပညာထေရ် စသည်တို့ထံတွင် ပညာသင်ကြားတော်မူခဲ့လေသည်။

## ဆရာတော်ဦးကြည်ထံ ပညာသင်ကြားခြင်း

ရင်းပြင် ရွှေရေးဆောင်ဆရာတော် ဦးကြည်ထံ၌လည်း "အတက် အထွက် ဝါကျခွဲ ပဂ္ဂိုဟ်ဆို ညာသ်ကောက် အစရှိသော မန္တလေး စာချ စာပြောနည်းကို သင်ယူတော်မူခဲ့လေသည်။ ဆရာတော်သည် ရှမ်းအမျိုးထဲတွင် ထူးချွန်သည့် ဆရာတော်ဖြစ်သည်။ တပည့်သံဃာများအား စာပေကျမ်းဂန်ပို့ချခြင်း၊ သိန္နီမြို့တွင် ဝိနည်းစာပြန်ပွဲကြီးကို ဦးဆောင်ကျင်းပခြင်းစသည်တို့ကိုလည်း ပြုတော်မူခဲ့သည်။

၁၃၂၁-ခုနှစ်တွင် နိုင်ငံတော်အစိုးရဘွဲ့ လှူဒါန်းသည့် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော်မူသည်။ သက်တော် ၈၀-ပတ်ဝန်းကျင်တွင် ပျံလွန်တော်မူခဲ့လေသည်။

မြင်မြင်သမျှ၊ သခ်ါရ၊ စိတ်က နှလုံးသွင်း။

## အဂ္ဂမဟာပဏ္ဍိတ အရှင်နေမိန္ဒ

ယိုးဒယားနိုင်ငံ လန်းပန်းမြို့ ဇပ်တမ့်အိုကျောင်း ဆရာတော် အဂ္ဂမဟာပဏ္ဍိတ အရှင်နေမိန္ဒသည်လည်း ရွှေရေးဆောင်တိုက်၌ မိုင်းခိုင်ဆရာတော်နှင့် ဆရာတော် ဦးကြည်တို့ထံတွင် ပညာသင်ကြားခဲ့သည့် ရွှေရေးဆောင်အနွယ် ဖြစ်တော်မူသည်။

ညောင်ရမ်းမြို့နယ် အုတ်ဖိုရွာ၌ အဖ တိုက်သူကြီး ဦးရွှေရေး၊ အမိ ဒေါ်ဖားတို့မှ ၁၂၁၉–ခုနှစ်တွင် ဖွားမြင်တော်မူခဲ့လေသည်။ အရွယ်ရောက်သော် ရှင် ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ ပိဋကတ်အခြေခံ ကျမ်းစာများကို အုတ်ဖိုရွာ ဥပဇ္ဈာယ်ဆရာတော် အရှင်အာဒိစ္စထံတွင် သင်ယူတော်မူခဲ့လေသည်။

## ရွှေရေးဆောင်တိုက်၌ ပညာသင်

၎င်းနောက် ရွှေရေးဆောင် ကျောင်းတိုက်သို့ရောက်ရှိ သီတင်းသုံးတော်မူပြီး မိုင်းခိုင်းဆရာတော် အရှင်ပဏ္ဍိတဆရာတော် ဦးကြည်တို့ထံတွင်–

"ယောဇနာမျိုး၊ ကျမ်းရိုးငါးချက်၊ ဆက္ကဌပနာ၊ ပုစ္ဆာထွက်တက်၊ စုဒ်ဖက်နိုင်းညှိ၊ သန္ဓိအနု၊ ဇာဋ္ဌုဘနည်း၊ ဝိုတ္တောဒည်းကာ၊ ထုတ်နည်း၊ ပဋ္ဌာန၊ ပစ္စယနှင့်၊ ဝါကျခွဲစိတ်၊ ပုဒ်နိစ္ဆယ၊ ယမကလှောက်၊ဆဲ့ ခြောက်ဟာရ၊ နယလေးတန်၊ ပဋ္ဌာန်သာသာန၊ သဒ္ဒမ္မနေတ္တိ၊ ဉာဏ်၏ကောက်ပုံ၊ အစုံနှစ်ဖြာ၊ ကြိယာငါးချက်၊ စပ်လျက်ယှဉ်ကြ၊ အာဘောဂမှ၊ နယစုံလင်၊ တန်ဆာဆင်၍ "–

စသည့် မန္တလေးစာပြောနည်း စာချနည်းကို သင်ယူတော်မူခဲ့လေသည်။

ရွှေရေးဆောင် ထေရိန္ဒာနမ္ပိ၊ သန္တိကေ နေမိန္ဒော ဝိဒ္ဒါ။
စိရံ သော မဟုဿာဟေန၊ ဗဟုံဟိ သိက္ခနံ အကာ။

ပညာသင်ကြားပြီး ၁၂၇၃–ခုနှစ်မှစ၍ ကညွတ်ကွင်းမြို့နယ် ကြာအင်းရွာကျောင်းနှင့် သာစည်မြို့ သာယာကုန်းကျောင်းတို့၌ ၁၂–နှစ်ကြာမျှ သီတင်း

သုံး၍ စာပေ ချပို့တော်မူခဲ့လေသည်။ ၁၂၈၂-ခုနှစ်၌ ယိုးဒယားနိုင်ငံ ဝပ်တမအိုကျောင်း၌ သီတင်းသုံး၍ စာပေချပို့တော်မူခဲ့လေသည်။ ၁၃၂၃-ခုနှစ်တွင် နိုင်ငံတော်အစိုးရတို့ လှူဒါန်းသော အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော်မူခဲ့လေသည်။

အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော် အလှူခံရရှိပြီးနောက် နှစ်အနည်းငယ် အကြာတွင် ပျံလွန်တော်မူခဲ့လေသည်။

### သံဝေဂယူရန်

ငါနှင့်ရွယ်တူ၊ ငါ့အောက်လူ၊ ကြီးသူသေကြ များလှပြီ။
ခဏမစဲ၊ အိုစမြဲ၊ ကိုယ်လဲ သေဘက်နီးလှပြီ။
မသေမီက၊ မြတ်ဒါန၊ ပြုမှသင့်တော်မည်။
မသေမီက၊ ကျင့်သီလ၊ ကျင့်မှသင့်တော်မည်။
ဘာဝနာမှု၊ ငါယခု၊ ပြုမှသင့်တော်မည်။

### အဂ္ဂမဟာပဏ္ဍိတ အရှင်ဥက္ကံသ

အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ရန်ကုန်မြို့ ကြည့်မြင်တိုင် ဇေယျဝတီ ကျောင်းတိုက် နာယကဆရာတော် အရှင်ဥက္ကံသသည်လည်း ရွှေရေးဆောင် ဆရာတော် ဦးကြည်ထံ ပညာသင်ကြားခဲ့သည့် မထေရ်မြတ် ဖြစ်သည်။

ပြည်ခရိုင် ပန်းတောင်းမြို့နယ် လက်ပန်ကုန်းရွာ၌ အဖ ဦးဖြူလုံး၊ အမိ ဒေါ်သေးသေးတို့မှ သက္ကရာဇ် ၁၂၅၀-ပြည့်နှစ်၊ ဝါဆိုလဆန်း ၂-ရက်၊ တနင်္ဂနွေနေ့တွင် ဖွားမြင်တော်မူသည်။ အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။

ဥပဇ္ဈာယ် ရွှေနတ်တောင် တောရဆရာတော်နှင့် ရန်ကုန်ခရိုင် ဒလမြို့ ဇေယျဝတီကျောင်းတိုက် ဆရာတော် ဦးဉာဏနှင့် ပခုက္ကူမြို့ မဟာဝိသုတာ ရာမတိုက် ရေစကြိုဆရာတော်ဘုရားကြီး အရှင်ဂန္ဓသာရစသော မထေရ်မြတ် စသည်တို့ထံတွင် ပညာရင်နို့ သောက်စို့တော်မူခဲ့လေသည်။

## ရွှေရေးဆောင်တိုက် ဦးကြည်ထံ ပညာသင်

"ဟိ စ ပန နိပါတလည်း ကျစေ၊ မုချဖလူ တာရကူဟု လွယ်ကူ မကြာ ဥပစာလည်း ရစေ"—

ဟူသည့် ဆရာမြတ်တို့အဆုံးအမ ညွှန်ပြချက်အတိုင်း ဟိစပန စသည့် နိပါတ်ဆိုင်ရာများ သဘောကျနိုင်နင်းရန်နှင့် ဥပစာ အယူအဆ စသည် နိုင်နင်းလိုသဖြင့် ရွှေရေးဆောင် ဆရာတော် ဦးကြည်ထံ၌လည်း ရောက်ရှိ ပညာသင်ကြားတော်မူခဲ့လေသည်။ ၁၃၂၃-ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော်မူသည်။ ၁၃၃၇-ခုနှစ် နှောင်းတန်ခူးလဆန်း ၁၀-ရက်နေ့တွင် ပျံလွန်တော်မူသည် [၁]။

သဗ္ဗေ သင်္ခါရာ အနိစ္စာ=ရုပ်နာမ် ဓမ္မ၊သင်္ခါရ၊မုချ မမြဲစွာ။

### အဂ္ဂမဟာပဏ္ဍိတ အရှင်ပညာဝံသ

ရန်ကုန်မြို့ ပုဇွန်တောင် ဘုရားဖြူကျောင်းတိုက်ဆရာတော် အရှင်ပညာဝံသသည်လည်း ရွှေရေးဆောင်ဆရာတော် ဦးကြည်ထံ နည်းခံခဲ့သည့် မထေရ်မြတ် ဖြစ်တော်မူသည်။

မြင်းခြံခရိုင် ညောင်ဦးမြို့နယ် ငါးသယောက်တိုက်နယ် နှောပင်ရွာ၌ အဖ ဦးဘိုးငြိမ်း၊ အမိ ဒေါ်ဆိုးမယ်တို့မှ သက္ကရာဇ် ၁၂၅၄-ခုနှစ်၊ နယုန်လဆန်း ၈-ရက် ကြာသပတေးနေ့တွင် ဖွားမြင်တော်မူသည်။ အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။

ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက် ရေစကြိုဆရာတော်ဘုရားကြီး အရှင်ဂန္ဓသာရ အဂ္ဂမဟာပဏ္ဍိတ အရှင်ပညာ၊ အဂ္ဂမဟာပဏ္ဍိတ အဘိဓဇမဟာရဋ္ဌဂုရု အရှင်သုန္ဒရ၊ အဂ္ဂမဟာပဏ္ဍိတ အရှင်နန္ဒဝံသ၊ ပခုက္ကူမြို့ မဟာဝိဇယာရာမတိုက် ဆရာတော် အဂ္ဂမဟာပဏ္ဍိတ အဘိဓဇ မဟာရဋ္ဌဂုရု အရှင် ဇဝန စသည်တို့ထံ ပညာသင်ကြားခဲ့သည်။

---

၁။ မဟာဝိသုတာရာမနိကာယသာသနာဝင်။ ၁၁၁-ကြည့်။

## ရွှေရေးဆောင်ဦးကြည်ထံ ပညာသင်ကြားခြင်း

"နည်းပေါင်းစုံမှ ဉာဏ်ဟုန်ပြင်း" ဟူသည်နှင့်အညီ ဉာဏ်ဟုန်ပြင်းရန်၊ ဉာဏ်ပညာ အလွန်တရာတိုးတက်ရန် လိုအပ်သဖြင့် ရွှေရေးဆောင် ဆရာတော်ဘုရားကြီး ဦးကြည်ထံ၌လည်း ပါဠိအဋ္ဌကထာ ဋီကာကျမ်းဂန်တို့ကို သင်ယူတော်မူခဲ့လေသည်။ ဗုဒ္ဓပဝေဏီကျမ်း၊ ကစ္စာယနသာရဝိဘာဝနီကျမ်း၊ တိဝန္တနဝိဘာဝနီကျမ်း၊ ဓာတုကထာဝိဘာဂကျမ်း၊ မင်္ဂလသုတ္တတ္ထ ဂမ္ဘီရကျမ်း စသည်တို့ကိုလည်း ပြုစီရင်တော်မူခဲ့သည်။ ၁၃၂၃-ခုနှစ်တွင် အဂ္ဂမဟာ ပဏ္ဍိတ ဘွဲ့တံဆိပ်တော်ကို အလှူခံ ရရှိတော်မူသည်။ ၁၃၃၃-ခုနှစ် ဝါဆိုလဆန်း ၁၀-ရက်နေ့တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည် [၁]။

သဗ္ဗေ သင်္ခါရာ ဒုက္ခာ=သင်္ခါရနှပ်၊ အနှိပ်၊ ဆင်းရဲလှချေ၏။

### ဓမ္မာနာဒဆရာတော် အရှင်ပညာစက္က

မင်းကွန်းဓမ္မနာဒ ကျောင်းတိုက်ဆရာတော် အရှင်ပညာစက္ကသည်လည်း ရွှေရေးဆောင်ဆရာတော် ဦးကြည်ထံ ပညာသင်ကြား တက်မြောက်တော်မူခဲ့သည့် ကျမ်းဂန်တတ် မထေရ်မြတ်ဖြစ်တော်မူသည်။

အရှင်ပညာစက္ကသည် မြင်းခြံမြို့ သပြေပင်ရပ်၌ အဖ ဦးတူ၊ အမိ ဒေါ်အိမ်မြဲတို့မှ သက္ကရာဇ် ၁၂၄၇-ခုနှစ် တော်သလင်းလဆန်း ၂-ရက်နေ့တွင် ဖွားမြင်တော်မူသည်။ အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။

### ရွှေရေးဆောင် ဆရာတော် ဦးကြည်ထံ ပညာသင်

သက္ကရာဇ် ၁၂၇၆၊ ၁၂၇၇-ခုနှစ်များလောက်တွင် ရွှေရေးဆောင် ဆရာတော်ဘုရားကြီး ဦးကြည်ထံ မူလဋီကာကျမ်းကြီးကို ဆိုဝါဖြင့် သင်ယူတော်မူခဲ့သည်။ ၎င်းပြင် ရွှေရေးဆောင်နိယံ စသည်တို့ကိုလည်း သင်ယူတော်မူခဲ့သည်။ တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ အရှင် ဝိစိတ္တသာရာဘိဝံသသည် ဖော်ပြပါ ဆရာတော် အရှင်ပညာစက္က၏ တပည့်ဖြစ်သည်။ ဆရာတော် အရှင်ပညာစက္က သက်တော် ၅၃-နှစ် ဝါတော်

---

၁။ မဟာဝိသုဒ္ဓာရာမ မနိကာယ သာသနာဝင်၊ ၃၄၁-ကြည့်။

၃၃-၀၁ ရရှိရာ ၁၂၉၉-ခုနှစ် တော်သလင်း လဆုတ် ၉-ရက်နေ့တွင် ဘ၀ နတ်ထံ ပျံလွန်တော်မူခဲ့လေသည်။

သဗ္ဗေ မမ္ဗာ အနတ္တာ=ရုပ်နာမ်ဓမ္မ၊ ဟူသမျှ၊ မုချ အနတ္တပါတကား။

## အဂ္ဂမဟာပဏ္ဍိတ အရှင်နာရဒ

"အဂ္ဂမဟာပဏ္ဍိတ" ဘွဲ့တံဆိပ်တော်ရ ရန်ကုန် မြို့ ပြည် လမ်း ပဋ္ဌာန်း ကျောင်းတိုက်ဆရာတော် အရှင်နာရဒမထေရ်သည် မန္တလေးမြို့ တောင်ပြင် ရွှေရေးဆောင်ကျောင်းတိုက်၌ ကြာမြင့်စွာ စာပေသင်ကြားခဲ့သည့် မထေရ် မြတ်ဖြစ်ရာ ဤရွှေရေးဆောင် သာသနာဝင်၌ အကျဉ်းဖော်ပြ အပ်ပါသည်။

ဆရာတော်သည် ကြို့ပင်ကောက်မြို့ လမ်းမတော်လမ်း၌ အဖ စာရေးကြီး ဦးစိန်၊ အမိ စာရေးကတော် ဒေါ်မေတို့မှ သက္ကရာဇ် ၁၂၅၉-ခုနှစ် နတ်တော် လဆန်း ၄-ရက် စနေနေ့ ၁၂-နာရီကျော် အချိန်တွင် မီးရှူးသန့်စင် ဖွားမြင် တော်မူခဲ့လေသည်။ ဦးစိန်၊ ဒေါ်မေတို့၌ သားသမီး ခုနစ်ယောက်ရှိရာ ဆရာ တော်သည် ခြောက်ယောက်မြောက် အတိဇာတ သားထူးသားမြတ် ဖြစ်လေ သည်။

ဆရာတော်လောင်းလျာ သတို့သားသည် ၁၂၇၁-ခုနှစ် တန်ခူးလဆုတ် ၇-ရက်၊ ၁၉-နှစ်ကျော်အရွယ်တွင် မိခင်ကြီး၏ ပစ္စယာနုဂ္ဂဟဖြင့် ပြည်မြို့ အင်ကြင်းမြောင်တောရ ဆရာတော်ဘုရားကြီး အထံတော်၌ ရှင်သာမဏေ အဖြစ်သို့ ရောက်တော်မူသည်။ ထိုနေ့ ၆-နာရီ မိနစ် ၃၀-တွင် ရှင်သာမဏေ ဖြစ်ပြီး ထိုနေ့ ၇-နာရီအချိန်တွင် ပြည်မြို့ အင်ကြင်းမြောင်တောရကျောင်း ခဏ္ဍသိမ်တော်၌ အင်ကြင်းမြောင်တောရ ဆရာတော်ဘုရားကြီးကို ဥပဇ္ဈာယ် ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။

ကြို့ပင်ကောက်မြို့ အတန်းကျောင်း၌ သတ္တမတန်း အောင်မြင်သည်အထိ ၁၀-နှစ်သားအရွယ်မှစ၍ ဆည်းပူးသင်ကြားတော်မူပြီးလျှင် ပြည်မြို့ ခေမာရုံ ကျောင်းနှင့် ဂုဏဝတီ ကျောင်းတိုက်တို့၌ ပရိယတ္တိအခြေခံ ကျမ်းစာများကို သင်ယူလေ့လာတော်မူခဲ့လေသည်။

## ရွှေရေးဆောင်ကျောင်းတိုက်၌ ပဉ္စာသင်ကြားခြင်း

၎င်းနောက် စာပေအရာ အလွန်လျှင် ကျော်စောကိတ္တိရှိလှသော အရှင် အာဒိစ္စရံသီ ဘွဲ့ထူးချည်သော ဆရာတော် ဦးကြည်ထံ ရောက်ရှိချဉ်းကပ်၍ ကြာမြင့်စွာ ပုဒ်နေပုဒ်ထား ပုဒ်သွားပုဒ်လာ ဝါကျနေ ဝါကျထား ဝါကျ သွား ဝါကျလာ စသည်တို့ကို ပိုင်ပိုင်မိမိ သိမြင်ပေါက်ရောက်အောင် သင်ယူ တော်မူခဲ့လေသည်။

အာရစ္စရံသီ ထေရဿ၊ အာဒိစ္စဗန္ဓုနော သုဓီ။
သန္တိကေ စက္ကဿ ဝုဒ္ဓိ–ဘာဝါယ သိက္ခနံ ကရီ။

၎င်းပြင် ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချဆရာတော် အရှင် ဇာဂရ၊ အရှင် ဝိမလ တို့၏ အထံ၌၎င်း၊ မစိုးရိမ်တိုက် မြဲဝန်တိုက် အမရပူရမြို့ ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်၌၎င်း ဆက်လက်ပညာသင်ကြားတော်မူခဲ့ လေသည်။

ဆရာတော်သည် ခင်ဦးမြို့နယ် တောရကျောင်း၌ ၃–နှစ်ပတ်လုံး သီတင်း သုံးတော်မူသည်။ ၎င်းနောက် စစ်ကိုင်းတောင်ရိုး မော်လမြိုင်ကျွန်း ဖျာပုံ စသည်တို့၌လည်း သီတင်းသုံးတော်မူ၍ ပဋ္ဌာန်း ကျမ်းကြီးကို အခါခါ အခေါက်ခေါက် ချပို့တော်မူခဲ့လေသည်။ ၎င်းနောက် ရန်ကုန်မြို့ ပြည်လမ်း ပဋ္ဌာန်းကျောင်းတိုက်၌ နာယကအဖြစ်ဖြင့် သီတင်းသုံးတော်မူ၍ ပဋ္ဌာန်းညဝါ စသည်တို့ကို ချပို့၍ သာသနာပြုတော်မူခဲ့လေသည်။ သို့ဖြစ်၍ ပဋ္ဌာန်းဆရာ တော်ဟု ထင်ရှားခဲ့လေသည်။ ဆရာတော်သည် ကျမ်းဂန်များစွာတို့ကိုလည်း ပြုစုတော်မူခဲ့လေသည်။ ၎င်းတို့မှာ—

၁။ သင်္ဂြိုဟ် ၉-ပိုင်း သရုပ်ခွဲဇယားအကျဉ်း၊
၂။ သင်္ဂြိုဟ် ၉-ပိုင်း သရုပ်ခွဲဇယားအကျယ်၊
၃။ ပဋ္ဌာန်းပါဠိဂူကျမ်း၊
၄။ ယမိုက်ပါဠိဂူကျမ်း၊
၅။ မာတိကာ ဓာတုကထာ ပါဠိဂူကျမ်း၊
၆။ ယမိုက်ပါဠိဂူကျမ်း နောက်ဆက်တွဲ၊
၇။ ပရမတ္ထဝိနိစ္ဆယကျမ်းနှင့် နာမရူပပရိစ္ဆေဒကျမ်း၊
၈။ ဆဝါရသင်္ချာကျမ်း၊

၉။ ပဋ္ဌာဝေါရဝိဘင်ကျမ်း၊
၁၀။ ပစ္စယနိဒ္ဒေသ ပဌမပိုင်း၊ ဒုတိယပိုင်းကျမ်း၊
၁၁။ ပဋ္ဌာဝေါရသင်္ချာ အနုလုံ ပစ္စနိက်ကျမ်း၊
၁၂။ ပဋ္ဌာဝေါရသင်္ချာအနုလောမ ပစ္စနိက် ပစ္စနိယာနုလောမကျမ်း၊
၁၃။ ဆဝေါရဝိဘင်ကျမ်း၊
၁၄။ သင်္ခါရယမိုက် ပို့ချစဉ်ကျမ်း၊
၁၅။ အနုသယယမိုက် ပို့ချစဉ်ကျမ်း၊
၁၆။ စိတ္တယမိုက်နှင့် ဓမ္မယမိုက် ပို့ချစဉ်ကျမ်း၊
၁၇။ ဣန္ဒြိယယမိုက် ပို့ချစဉ်ကျမ်း၊
၁၈။ သစ္စယမိုက် ပို့ချစဉ်ကျမ်း၊
၁၉။ အာယတနယမိုက်နှင့် ဓာတုယမိုက် ပို့ချစဉ်ကျမ်း၊
၂၀။ ဓာတုကထာ အင်္ဂလိပ်ဘာသာပြန်ကျမ်း၊
၂၁။ ပဋ္ဌာန်း ပဌမအုပ် အင်္ဂလိပ်ဘာသာပြန်ကျမ်း၊
၂၂။ ပဋ္ဌာန်းဖောပုံ နည်းမျိုးစုံ အင်္ဂလိပ်ဘာသာပြန်ကျမ်း၊
၂၃။ ပဋ္ဌာန်း ဒုတိယအုပ် အင်္ဂလိပ်ဘာသာပြန်ကျမ်း—

စသည်တို့ ဖြစ်ကုန်၏။

ဖော်ပြပါ နေ့ညဉ့်မအား ဘုရားသာသနာ စည်ပင်ရေးအတွက် ဆောင်ရွက်ချက်တို့ကြောင့် ဆရာတော် အရှင်နာရဒသည် ၁၃၄၀-ပြည့်နှစ်တွင် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတမြန်မာနိုင်ငံတော်၊ နိုင်ငံတော်ကောင်စီက လှူဒါန်းဆက်ကပ်သည့် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော် မူခဲ့လေသည်။

ဘဒန္တနာရဒေါ ထေရော၊ သာဒရော သိက္ခာသု သုစိ။
သုစိနော သာသ္မနသောဝ၊ ဝုဒ္ဓိယာ ပဓာနံ ကရိ။

ဂဏန်းထိုး မပြနိုင်

အရှင်အာဒိစ္စရံသီ ဘွဲ့ထူးချီတော်မူသော ရွှေရေးဆောင် ဆရာတော်ဘုရားကြီး ဦးကြည်၏ တပည့်တို့ကား ဤရွှေဤမျှ ပမာဏရှိသည်ဟု အတိအကျ ဂဏန်းထိုးမပြနိုင်ပါချေ။ စာဝါစာလိုက် သံဃာ ၄၀၀-၅၀၀-၆၀၀-၇၀၀ စသည်ရှိလေရာ နှစ်ပေါင်း ဆယ်ပေါင်း များစွာ ဆက်တိုက် စာပေပို့ချတော်မူသော ဆရာတော်ဦးကြည်၏တပည့်တို့ကို ဤစာပြုသူသာမဟုတ်၊ မည်သူမျှ အတိ

အကျဲ ရေတွက်ပြသနိုင်ပါအံ့နည်း။ စင်စစ်တမူကား ရေတွက်၍ မပြနိုင်အောင် မြားမြောင်လှချေကုန်၏။ အမှန်ဆိုရမူ ဤကျမ်း၌ အမြွက်မျှထုတ်ပြခြင်းတည်း။

ဦးကြည်ထေရဿ သိဿာ ဟိ၊ အတိ၀ ဗဟဝေါ ဘဝူ။
ကော ပိ နာမ သမတ္ထော ဟိ၊ မုခမတ္တ နိဒဿနံ။

## ရွှေရေးဆောင်တိုက် အရှင်ကေ၀လာဘိဝံသ

မုံရွာမြို့ သပြေပင်တောရတိုက်တည် ဆရာတော် အရှင်ကေ၀လာဘိဝံသ သည် ရွှေရေးဆောင်တိုက်၌ ၈-နှစ်ကြာမျှ သီတင်းသုံးတော်မူ၍ ဝါကျူသွား ဝါကျူလာ အမျိုးမျိုးစသည်တို့ကို ဒိုးကဲ့သို့မွှေ အာဂုံကျေညက်အောင် သင်ယူ တော်မူခဲ့သည့် ကျမ်းပြုဆရာတော်တပါး ဖြစ်တော်မူသည်။

မုံရွာခရိုင် ချောင်းဦးမြို့နယ် ကျီကုန်းရွာ၌ အဘ ဦးရွှေကြိုင် အမိ ဒေါ်ပေါ သာတို့မှ သက္ကရာဇ် ၁၂၄၉-ခုနှစ် ပြာသိုလဆုတ် ၃-ရက် တနင်းလာနေ့တွင် ဖွားမြင်တော်မူခဲ့လေသည်။

ကျောင်းသားအရွယ်တွင် မိဘတို့အပ်နှံသဖြင့် ကျီကုန်းရွာဦးကျောင်း ဆရာတော်အထံတွင် ပညာသင်ကြားခဲ့သည်။ သာမဏေ၀တ်ချိန်အရွယ်တော် ခေတ်တွင် သာမဏေဝတ်၍ ဘုရားရှင်သာသနာ့ဝန်ကို အားသွန်ကြိုးပမ်းထမ်း ရွက်တော်မူခဲ့လေသည်။ သာမဏေဘွဲ့ ရှင်ကေ၀လ ဖြစ်သည်။

သက္ကရာဇ် ၁၂၈၂-ခုနှစ်လေးက်တွင် အလွန်လျှင် ကျော်စောကျော်ကြားရှိ သော လယ်တီတိုက်ကြီးသို့ ရောက်၍ ကျေးဇူးတော်ရှင် ပဌမလယ်တီဆရာ တော်ဘုရားကြီး၊ ဒုတိယလယ်တီဆရာတော်ဘုရားကြီးစသည်တို့ထံ ပညာသင် ကြားတော်မူခဲ့လေသည်။

သက်တော် ၂၀-ပြည့်မြောက်ရာ ၁၂၈၉-ခုနှစ်တွင် မိဘ ၂-ပါးတို့၏ ပစ္စယာနုဂ္ဂဟဖြင့် ရဟန်းဘဝ ဒုလ္လဘသို့ ရောက်တော်မူခဲ့လေသည်။

## ရွှေရေးဆောင်တိုက်သို့ ရောက်ရှိပညာသင်

၁၂၈၈-ခုနှစ် ဝါဆိုလတွင် မန္တလေးမြို့ တောင်ပြင် ရွှေရေးဆောင်ကျောင်း တိုက်ကြီးသို့ ပုဗ္ဗာရာမ ပုညပင့်ထောက်ရောက်ရှိ၍ ကျေးဇူးရှင်ဆရာတော် ဘုရားကြီး ဦးကြည်နှင့် အရှင်ပဏ္ဍိတတို့၏ ထံ၌—

"သု စိ ပု ဘာ၊ ဤလေးဖြာဖြင့်၊ ဆရာ့ထံရင်း၊ ဝပ်စင်းတုပ်ကွ၊ နာခံကမူ၊ နေယျအာဒိ၊ ထိုးထွင်းသိ၏"—

စသည်နှင့်အညီ ဆရာသခင်သင်ပေးသည်ကို နာယူခြင်း၊ ကြံစည်ခြင်း၊ မသိလျှင် မသဲမကွဲလျှင် မေးမြန်းခြင်း၊ ရွတ်ဆိုသရဇ္ဈာယ်ခြင်းဟူသော အင်္ဂါ ၄–ချက်ကို စွဲကိုင်၍ သင်ယူတော်မူခဲ့သည်။

## ရွှေရေးဆောင်နိယံ အာဂုံဆောင်

အရှင်ကေဝလကား ဉာဏ်ကလည်း လက်လက်ရှ ဝီရိယကလည်း လွန်ကဲလှသူဖြစ်ရာ—

"ဟိ စ ပန်၊ နပါတ၊ ဝါကျဒရှဉ်တွင်၊
ဟိနက်မှတ်သား၊ ထင်ရှားချဲ့မြ၊ နက်စွဲသုံးအင်၊ ရွှေစကားနှင့်အတူပင်"

စသည့်နိယံပေါင်း ၆၅၁-ပုဒ်ပါရှိသည့် ဂမ္ဘီရတ္ထနိယာမခေါ် ရွှေရေးဆောင်နိယံကျမ်းကို နှုတ်တက်ရွရွ အာဂုံကျက်ဆောင်တော်မူခဲ့သည်။ ကရားရေလွှတ်တတွတ်တွတ်ရသည်။ ကြောင်ပုစွန်စား ကြွပ်ကြွပ်ဝါးရသည်။ မိုးဝကောင်းကင် သိန္ဓောနှင်သလို လျှပ်မြန်စွာ ပြန်ဆိုနိုင်အောင် ရသည်။

သို့ဖြစ်၍ ဝါကျနည်းနာ အရပ်ရပ်ကို သရဖူဆောင်းတတ်မြောက်တော်မူခဲ့လေသည်။ ဝါကျဆိုင်ရာ ကျမ်းကြီးတကျမ်းပြုစုရန် ထိုစဉ်ကပင် ကြံစည်စိတ်စေး တွေးဆတော်မူခဲ့သည်။

ရွှေရေးဆောင် ပရိဝေဏောပိ၊ သိက္ခိတွာ ကေဝလော သုမိ။
ကေဝလပရိပုဏ္ဏော သော၊ ကဝိတ္တံ မဂမိ ဂမိ။

ရဟန်းသိက္ခာ ၁၀-ဝါအရ ၁၂၉၅-ခုနှစ်တွင် ကျေးဇူးရှင် ဒုတိယလယ်တီဆရာတော်ဘုရားကြီး၏ အမိန့်အရ မုံရွာမြို့ မိခင်လယ်တီတိုက်မဟာသို့ ပြန်လည်ကြွရောက်၍ ဂဏဝါစက အဖြစ်ဖြင့် နေ့ဝါညဝါ ကျမ်းဂန်စာပေမွှေနှောက်၍ ချပို့တော်မူခဲ့လေသည်။

ပဉ္စမလယ်တီ အရှင်ဝါယမသည် ၁၂၉၆-ခုနှစ်တွင် သဒ္ဓါတရား ခိုင်လှသော ကျောင်းဒါယကာကြီး ဆန်စက်ပိုင် ဦးဖေ၏ မတည်ချက်ဖြင့် အရွှေ

လယ်တီတိုက်သစ်ကို တည်ထောင်တော်မူ၍ စာပေချပို့ သာသနာပြုတော်မူခဲ့လေသည်။ ထိုအရှင်ကေဝလသည် ဆရာတော်အရှင်ဝါယာမနှင့်အတူ လိုက်ပါ၍ အရှေ့လယ်တီတိုက်၌ ဆိုက်ရောက်မှီခိုလာသော သောတုဇနစာသင်ပျိုတို့အား စာပေချပို့ သာသနာ့ဝန် ထမ်းဆောင်တော်မူခဲ့လေသည်။

၁၃၀၇-ခုနှစ်တွင် သပြေပင်တောရဝိဇ္ဇာလယကို တည်ထောင်တော်မူ၍ ဝိဇ္ဇတ္ထိက စာသင်သားတို့အား စာဝါမျိုးစုံ ညဏ်ကုန်လွှတ်၍ ချပို့သာသနာပြုတော်မူခဲ့လေသည်။

## ကျမ်းစာများ ပြုစုတော်မူခြင်း

ဆရာတော်သည် ကျမ်းဂန်များစွာတို့ကိုလည်း ပြုစုစီရင်တော်မူခဲ့လေသည်။ ၎င်းတို့မှာ—

၁။ ဝါကျတ္ထ ဒီပကကျမ်း၊
၂။ ကလျာဏမိတ္တကျမ်း၊
၃။ ဘာသာသဟိတမဟာသမယကျမ်း၊
၄။ မိစ္ဆာဝါဒပဟာနကျမ်း၊
၅။ မာဂဓမုတ္တဝလိကျမ်း၊
၆။ ဗုဒ္ဓဘာဘာလက်စွဲ ပနက်သဲကျမ်း-
စသည်တို့ဖြစ်ကုန်၏။

ယင်းကျမ်းများအနက်၌ ဝါကျတ္ထဒီပကကျမ်းမှာ ပရိယတ္တိသာသနာအား လွန်စွာ အထောက်အကူပြုသော ကျမ်းဖြစ်သည်။ ဝါကျနှင့်စပ်လျှင် အကောင်းဆုံးကျမ်းဟု ဆိုလောက်၏။ ၁၃၀၀-ပြည့် မတိုင်မီ အပြီးရေးခဲ့သော ကျမ်းဖြစ်သည်။ ဆရာတော်အရှင်ကေဝလာဘိဝံသ၏ အရည်အချင်းကို ပိုင်ပိုင်မိမိ သိကြသော လယ်တီဂဏဝါစက အရှင်ပဏ္ဍိတ၊ လယ်တီဂဏဝါစက ပဌမကျော် အရှင်ကောဝိဒ၊ လယ်တီဂဏဝါစက ပဌမကျော် အရှင်ဉာဏဝံသ အစရှိသော တပည့်ကြီးယယ်တို့က ဝါကျဆိုင်ရာ ကျမ်းတစောင်တဖွဲ့ ရေးသားပါရန် အဖန်ဖန် တောင်းပန်လျှောက်ထားကြသည်။ သို့ဖြစ်၍ ဝါကျတ္ထဒီပကကျမ်းကို ကြိုးပမ်းအားသစ် ပြုစီရင်တော်မူခဲ့လေသည်။ အရှင်ကေဝလာဘိဝံသသည် ကျမ်းဦး၌—

၁။ ၀ါကျတ္ထဒီပကော ဗုဒ္ဓေါ၊ လောကေကော ၀ါကျသာမိကော။
၀ါကျဒ္ဒန္တံ နမာမျဟံ၊ ကေ၀လ၀ါကျပါရဂံ။

၂။ မဓုရံ ပဂုဏံ ဓမ္မံ၊ သုဝိဘတ္တမသခ်တံ။
ဝိရာဂမနေဇမသောကံ၊ နမာမိ ဗုဒ္ဓသေဝိတံ။

၃။ ဓမ္မဒသံ ဝရာစာရံ၊ သုဂတသောရသံ ဝရံ။
ပဏာမာမိ ရိယသံဃံ၊ ပုညက္ခေတ္တံ မဃပ္ပဟံ။

၄။ ယတော သင်္ဂမှ ယာစန္တိ၊ ၀ါကျနယာဘိမာနိနော။
နာတိသင်္ခေပဝိတ္ထတံ၊ ကဿံ ၀ါကျတ္ထ ဒီပကံ—

ဟူသော ၄-ဂါထာဖြင့် ရတနတ္တယပဏာမ၊ အဘိယာစက၊ ကရဏပ္ပကာရ ပဋိညာဉ် ပြုတော်မူခဲ့လေသည်။

ဘ၀င်မမြင့် မာန်မထ နှိမ့်ချသော ဆရာတော်

ဆရာတော်ကား ဘ၀င်မမြင့် မာန်မထ နှိမ့်ချသောဆရာတော်ဖြစ်လေသည်။ ၀ါကျတ္ထဒီပကကျမ်း ဂန္ထာရမ္ဘဂါထာများ "အနက်အဆုံး၌ အိုစာရှုသူတို့၊ မေတ္တာသက်ဝင် သနားကြင်နာ ချစ်ခင်လေးမြတ်တော်မူကြသည်ဖြစ်၍ ဤကျမ်း၌ အမှားများ ရေးသားမိလျှင် မိမိကျမ်းစာအသွင် ပြင်ဆင်တော်မူ၍ ကြည့်ရှုတော်မူကြပါ"ဟူသော အဓိပ္ပာယ်ဖြင့်—

မေတ္တာယန္တာ ဒယန္တာ ဟေ၊ ခလိတံ စေဟ ပဿထ။
သောဓေထ သကဂန္ထံ၀၊ ဝ္လက္ခထ စ နိရန္တရံ—

ဟူသော ဂါထာဖြင့် မှာကြားတော်မူခဲ့သည်။

ကျမ်း၏ အဆုံး၌လည်း—

ပေါရာဏကေဟိ ၀ါစေယျံ၊ နယံ နိဿာယ လေခိတံ။
နာနာနိယာမသမ္ပုဏ္ဏံ၊ ဣတံ ယံ ဉာဏ၀ဍ္ဎနံ—

အစရှိသော ၅-ဂါထာဖြင့် နိဂုံးအုပ်တော်မူခဲ့လေသည်။

## ဆုံမိလျှင် စာအကြောင်းမိန့်ကြား

ဆရာတော်ကား စာဝါသနာပါလှ၏။ ဆုံမိလျှင် စာအကြောင်း များများ ပြောတတ်သည်။ ဤစာပြုသူ ယခုစဉ်က ဆရာတော်၏ ဂုဏ်သတင်းကြောင့် ဆရာတော်ထံ ရောက်ရှိဘူးပါသည်။ တွေ့လျှင်တွေ့ချင်း ဦးပဥ္စင်း ဘယ်က ကြွလာတုံး။ ဘုရားတပည့်တော် ပခုက္ကူ မဟာဝိသုတာရာမ တိုက်ကြီးက ပါ၊ ယခုတော့ ရန်ကုန် ကမ္ဘာအေးမှာ သံဃါယနာတင် အဋ္ဌကထာ ဋီကာတွေ အခြားဆရာတော်များနှင့် ပြင်ဆင်၍ နေထိုင်ပါတယ်ဘုရား။ မုံရွာမရောက်ဘူးလို့လာပါတယ်။ မုံရွာ ရောက်တော့ ဆရာတော်ကို ဖူးချင်လို့ လာပါတယ်ဘုရားဟု လျှောက်ထားရာ ဆရာတော်က အခြား လောကစကား မပြော၊ ဘယ်ပါဠိ ဘယ်လိုရှိပါတယ်။ ဘယ်ကျမ်းက ဘယ်လို စသည်ဖြင့် မိန့်ကြားတော်မူပါသည်။ မိမိသည် အကျေနပ်ကြီး ကျေနပ်ခဲ့ပါသည်။

## ပျံလွန်တော်မူခြင်း

ဆရာတော်ကား ခန္ဓာကိုယ် ခိုင်းလွန်းလှသည်။ ခန္ဓာကိုယ် ခိုင်းလွန်းသဖြင့် ကြာမြင့်စွာ ဒူလာပါဒရက်ရောဂါကို နှစ်ရှည်လများ ခံစားတော်မူရရှာသည်။ ယင်းဝေဒနာဖြင့် သက်တော် ၇၂-နှစ် သိက္ခာတော် ၅၂-ဝါ ရရှိရာ ၁၃၃၇-ခုနှစ် ပြာသိုလဆုတ် ဂ-ရက်နေ့တွင် ပျံလွန်တော်မူခဲ့လေသည်။

ဘဒ္ဒန္တကောဝလော ထေရော၊ ဓွေရေးဆောင်ဝံသိကော သုဓီ။
လယ်တီဝှသုနိကာယေပိ၊ ပသိဒ္ဓေါ ထေရပုင်္ဂဝေါ။
သောပိ မစ္စုဝသံ ပတ္တော၊ မာဒိသေသု ကထာဝ ကာ။

## ဆရာတော် အရှင်အာသဝ

အရှင်အာသဝ မထေရ်သည် ဆရာတော် ဦးကြည် ပျံလွန်တော်မူပြီး နောက် ယေရ်စဉ်ဝါလိုက် ဟိုက်အုပ်ဖြစ်သော်လည်း သက်တော်ကြီးရင့်သော အခါ ဆရာတော်ဦးကြည်၏ စာဆိုယ်တပည့်ရင်း သကျသီဟ မူလဓမ္မာစရိယ စာချအကျော် ဆရာတော် အရှင်ပဏ္ဍဝမထေရ်မြတ်အားတိုက်အုပ်အဖြစ် လွှဲအပ် တော်မူသည်။ မန္တလေး ပွဲကုန်းရပ် ဦးရှမ်းကြီးနှင့် ဒေါ်အုံ့တို့က ဆောက်လုပ် လှူဒါန်းခဲ့သော ကျောင်းကြီးကို မူလဆရာတော် သက်တော်ထင်ရှားရှိစဉ်



စာချအကျော် ရွှေရေးဆောင်ဆရာတော် အရှင်ပဏ္ဍဝ

၁၂၉၀-ပြည့်နှစ် တန်ခူးလဆုတ် ၅–ရက်နေ့တွင် အရှင်ပဏ္ဍဝထေရ်အား လှူအပ်တော်မူခဲ့သည်။

## စာချအကျော် ရွှေရေးဆောင်ဆရာတော် အရှင်ပဏ္ဍဝ

ဆရာတော် အရှင်ပဏ္ဍဝသည် ရွှေရေးဆောင် ကျောင်းတိုက်ကြီး၏ မဟာနာယက ဖြစ်တော်မူ၍ ဆရာတော် ဦးကြည်၏ စာချလုပ်ငန်းကို ဆက်လက်ထမ်းဆောင်တော် မူခဲ့သည့် ဘုရားဇိနော် သာသနာတော်၌ ရနိုင်ခဲသည့် ထိပ်တန်း ပရိယတ္တိ သာသနာ့ဝန်ဆောင် ဆရာတော်ဖြစ်တော်မူသည်။

## ဖွားမြင်တော်မူခြင်း ပညာသင်ကြားခြင်း

မြင်းခြံခရိုင် တောင်သာ မြို့နယ် အနောက်သက် ကန်မြဲရွာ၌ အဖ ဦးအောင်ပို အမိ ဒေါ်ပွေးတို့မှ သက္ကရာဇ် ၁၂၅၈-ခုနှစ် ဝါဆိုလဆုတ် ၁-ရက်နေ့တွင် ဖွားမြင်တော်မူသည်၊ ငယ်မည် မောင်ပု ဖြစ်လေသည်။

နောင်တော် မောင်ဖိုးစိန်နှင့်အတူ သက်တော် ၆-နှစ်သား အရွယ်တွင် မိဖတို့ အပ်နှံသဖြင့် ကန်မြဲရွာ ဘုရားကြီးတိုက်ဆရာတော် ဦးသောဘိတထံ ရောက်ရှိ ပညာသင်ကြားခဲ့လေသည်။ ဆရာတော်လောင်းလျာ မောင်ပုသည် "များများ သင်အံ မြန်မြန်တတ်မြောက် ရသမျှ မမေ့ပျောက်" ဟူသော အင်္ဂါနှင့် ကိုက်ညီအောင် သင်ယူနိုင်သည့် သာသနာ့ အာဇာနည် လောင်းလျာ ကျောင်းသားသူငယ်ဖြစ်သည့်အလျောက် ၃–နှစ်အတွင်း နမက္ကာရပါဠိအနက်၊ ပရိတ် ၁၁-သုတ်၊ လောကနီတိစသည့် အောက်ခြေစာတို့ကို ကရေးရေလွှတ် တတွတ်တွတ်ရသူ ဖြစ်ခဲ့လေသည်။ သက်တော် ၉–နှစ်အရွယ်တွင် ဆရာတော် အရှင်သောဘိတက သဒ္ဒါကြီးကို ကန်မြဲနည်းအတိုင်း ချပို့သင်ကြားပေးတော်မူရာ သက်တော် ၁၂-နှစ်အရွယ်တွင် သဒ္ဒါကြီး ရှစ်စောင်ကို ကျောင်းပုစွန်စားကြွပ်ကြွပ်ဝါး ရသူဖြစ်လာလေသည်။ သဒ္ဒါကျမ်းကို သူငယ်နှင့် မလိုက်အောင် တတ်မြောက်ခဲ့လေသည်။

## သာမဏေဝတ်ခြင်း ဆက်လက်ပညာသင်ကြားခြင်း

သက်တော် ၁၂-နှစ်သား အရွယ်တွင် ကန်မြဲ သူကြီး၏နှမ ဘုရားအမကြီး ဒေါ်ပုက ကြီးကျယ်ခမ်းနားစွာ ပဗ္ဗဇ္ဇမင်္ဂလာသဘင် ဆင်ယင်ကျင်းပ၍

ရှင့်ဒါယိကာမအဖြစ် ခံယူ၍ သာသနာတွင်း သွတ်သွင်းသဖြင့် ရှင်သာမဏေ ဝတ်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ သာမဏေ ဘွဲ့တော် ရှင်ပဏ္ဍဝဖြစ်လေသည်။

## ဆက်လက်ပညာကြားခြင်း ရဟန်းပြုခြင်း

ရှင်ပဏ္ဍဝသည် ဆရာကြီး ဦးဂုဏထံတွင် အခြားသော စာသင်သား ရဟန်းသံဃာများနှင့်အတူ သဒ္ဒါကြီးကို ထပ်မံ၍ သင်ယူတော်မူခဲ့လေသည်။ အဘိဓမ္မတ္ထဝိဘာဝိနီမည်သော ဋီကာကျော်ကျမ်းကိုလည်း ဆိုဝါဖြင့် သင်ယူတော်မူခဲ့လေသည်။ ရပ်ပြင် ကန့်မြရွာ ဆရာတော် ဦးသောဘိတ၊ ဆရာတော် ဦးပညာ၊ ဆရာကြီး ဦးဂုဏတို့ထံ၌ သဒ္ဒါ၊ ရူပသိဒ္ဓိ၊ ပါတိမောက်၊ ကခ်ါ၊ အဘိဓမ္မာ ညဝါများကို သင်ယူ တတ်မြောက်တော် မူခဲ့ပေသည်။

## ရဟန်းဖြစ်ခြင်း ဆက်လက်ပညာသင်ကြားခြင်း

သက်တော် ၂၀-ပြည့်မြောက်ရာ ၁၂၇၈-ခု၊ တန်ဆောင်မုန်းလတွင် မူလ ရှင့်အမကြီးဖြစ်သူ ဒေါ်ပု၏ ပစ္စယာနုဂ္ဂဟဖြင့် ဆရာတော် ဦးသောဘိတကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူခဲ့လေသည်။ ရဟန်းဖြစ်ပြီးနောက် ၄-လခန့်အကြာ တပေါင်းလတွင် မန္တလေးမြို့ ရွှေရေးဆောင် ဆရာတော် ဘုရားကြီး အရှင်အာဒိစ္စရံသီ ဘွဲ့ထူးခံသော ဦးကြည်ထံ ရောက်ရှိ၍ ဝိနည်း အဋ္ဌကထာကို လိုက်ဝါဖြင့်၎င်း၊ ရဟန်း ၂-ဝါမှစ၍ မူလဋီကာကို ဆိုဝါ ဖြင့်၎င်း၊ ဘေဒစိန္တာစာကိုယ် ဒီပနီဋီကာဟောင်းတို့ကို လိုက်ဝါဖြင့်၎င်း သင်ယူတော်မူခဲ့လေသည်။

## ဂဏဝါစက စာချဖြစ်ခြင်း

ရဟန်းသိက္ခာ ၅-ဝါအရတွင် ဇာတိချက်ကြွေ မွေးရပ်မြေဖြစ်သော ကန့်မြ ရွာ ဥပဇ္ဈာယ်အထံသို့ ပြန်ကြွတော်မူ၍ ရွှေရေးဆောင်ဝါကျနည်း ကန့်မြ သဒ္ဒါနည်းတို့ဖြင့် စာသင်သား ၁၀၀-ကျော်ခန့်တို့အား စာပေ ချပို့၍ ဂဏဝါစက စာချအဖြစ်သို့ ရောက်တော်မူလေသည်။

ရဟန်းသိက္ခာ ၆-ဝါ အရတွင် ရွှေရေးဆောင် ဆရာတော်ဘုရားကြီး ဦးကြည်၏ အမိန့်အရ ဆရာတော်ဘုရားကြီးခြေတော်ရင်းသို့ ပြန်လည်ရောက်

တော်မူ၍ ဆရာတော်ဘုရားကြီးအထံ၌ နေ့တ္တိပါဠိတော်၊ အဋ္ဌကထာ၊ နေ့တ္တိဋီကာပေါင်းတို့ကို စာလိုက်သံဃာ ၅၀၀–ကျော်တို့အလယ် ဆိုဝါဖြင့် သင်ယူတော်မူခဲ့လေသည်။ ကိုယ်တိုင်ကလည်း စာလိုက်သံဃာ ၂၀၀-ကျော်တို့အား ချာသကျမ်းကို ရွှေရေးဆောင်နိယံနှင့်တကွ ဝါကျနည်း သဒ္ဒါနည်းတို့ဖြင့် ချပို့တော်မူခဲ့လေသည်။

## ပရိယတ္တိသာသနဟိတ မူလစာချဖြစ်ခြင်း နာယကဖြစ်ခြင်း

ယင်းသို့ စာလိုက်သံဃာ မြားမြောက်စွာတို့အား စာပေ ပို့ချ ပရိယတ္တိသာသနာ့ဝန်ကို အားသွန်ကြိုးပမ်း ထမ်းရွက်တော် မူသဖြင့် ရဟန်းသိက္ခာ ၁၀-ဝါအရတွင် ပရိယတ္တိ သာသနဟိတ အသင်းကြီး၏ ''ပရိယတ္တိသာသနဟိတာဓမ္မာစရိယ မူလစာချ'' အဖြစ်ဖြင့် ကိုးကွယ်ခြင်းကို ခံယူတော်မူရလေသည်။ ၁၂၉၁-ခုနှစ်တွင် ရန်ကုန်မြို့ သဌေးဦးဘကျော်၊ သဌေးကတော် ဒေါ်နှင်းဦးတို့က ပရိယတ္တိ ဓမ္မပါလ သံကျောင်းကြီး ဆောက်လုပ်လှူဒါန်းသဖြင့် ကျောင်းထိုင် စာချဖြစ်၍ ဆရာတော်ဘုရားကြီး ဦးကြည် ဦးအာသဝတို့ ပျံလွန်တော်မူသည့်နောက်တွင် ရွှေရေးဆောင်ကျောင်းတိုက်ကြီး၏ ဦးစီးနာယက ဖြစ်တော်မူလေသည်။

## နှစ်ပေါင်းများစွာ စာလိုက်သံဃာများစွာတို့အား စာပေချပို့ခြင်း

ဆရာတော်သည် စာချဖြစ်သည်မှစ၍ သက်ဆုံးတိုင် စာပေဖြင့် ပျော်တော်မူသည်။ ဒုတိယကမ္ဘာစစ်အတွင်းက ခေတ္တမြင်းခြံမြို့စသည်၌ သီတင်းသုံးတော်မူရသော်လည်း စာပေချပို့ခြင်း၊ စာဝါအနာပါသော ဆရာတော်အချင်းချင်း စာအကြောင်း ပေအကြောင်းများကို ဆွေးနွေးခြင်းတို့ဖြင့် အချိန်ကိုလွန်စေတော်မူခဲ့လေသည်။ ခေတ် ပြန်ကောင်းသောအခါ ရွှေရေးဆောင်ကျောင်းတိုက်ကြီး၌ ပြန်လည် သီတင်းသုံးတော်မူ၍ ကျောင်းမဆံ့အောင် များပြားလှသော စာသင်သား ရဟန်းသာမဏေတို့အား ထာဝစဉ် စာပေချပို့၍ ပရိယတ္တိ ကန်ပေါင်ကန်သင်းကို ဆည်ဖို့တော်မူခဲ့လေသည်။

## ဝေယံစိလွတ်ကျောင်းသစ်ကြီးပေါ် စာချခြင်း

၁၃၂၃–ခုနှစ်မှစ၍ မန္တလေးမြို့ မဟာဗန္ဓုလဦးဆိုင်နှင့် ဒေါ်စောတင်တို့၏ ကောင်းမှု ဝေယံစိလွတ် ကျောင်းကြီးပေါ်၌ စာပေချပို့တော်မူရာ စာလိုက်

သံဃာ များလွန်းသဖြင့် ကျောင်းဒါယကာ ဒါယိကာမများကပင် အသံ ချဲ့စက် တပ်ဆင်လှူဒါန်းပေးရလေသည်။ ဆရာတော်ကား ဝိနယဂရုက သိက္ခာ ကာမဂုဏ်နှင့်လည်း ပြည့်စုံတော်မူပါပေသည်။

## အာမိသာနုဂ္ဂဟဖြင့်လည်း ချီးမြှောက်

ဆရာတော်သည် စာပေကျမ်းဂန် ချပို့ခြင်းဟူသော ဓမ္မာနုဂ္ဂဟဖြင့်သာ ရှောင့်ရဲတင်းတိမ်တော်မမူပဲ စာတဝါ စာတကျမ်းချ၍ပြီးတိုင်း ဆွမ်းခဲဖွယ် ကျွေးမွေးလှူဒါန်းခြင်း၊ သင်္ကန်း သပိတ် ထီး ဖိနပ်စသည် လှူဒါန်းခြင်း ဟူ သော အာမိသာနုဂ္ဂဟကုသိုလ်ကိုလည်း ဆည်းပူးတော်မူခဲ့လေသည်။

## ဘဝနတ်ထံ ဝင်စံတော်မူခြင်း

ယင်းသို့ ပရိယတ္တိ အလုပ်ကို မဟုဿာဟ ဇွဲလုံ့လဖြင့် ကြိုးပမ်းအား သစ်တော်မူစဉ် သက်တော် ၇၅-နှစ်၊ ဝါတော် ၅၅-ဝါ ရရှိရာ သက္ကရာဇ် ၁၃၃၂-ခုနှစ် တော်သလင်းလဆန်း- ၈-ရက်နေ့ည သန်းခေါင်ကျော် ၁-နာရီ အချိန်တွင် ဘဝနတ်ထံ ဝင်စံတော်မူခဲ့လေသည်။

## သံဝေဂယူရန်

ဒဟရာ စ မဟန္တာ စ၊ ယေ ဗာလာ ယေ စ ပဏ္ဍိတာ။
သဗ္ဗေ မစ္စုဝသံ ယန္တိ၊ သဗ္ဗေ မစ္စုပရာယဏာ[၁]။

ယေ ဒဟရာစေဝ၊ အကြင်အရွယ်နုနယ် ငယ်လျသူတို့သည်၎င်း။ ယေ မဟန္တာ စ၊ အကြင် ဇရာထန်သည်း ကြီးရင့်အိုမင်းသူတို့သည်၎င်း။ ယေ ဗာလာ စ၊ အကြင် အသိပညာမကပ် လူမိုက်သတ္တဝါတို့သည်၎င်း။ ယေ ပဏ္ဍိတာ စ၊ အကြင် ပညာရှင်ပဏ္ဍိတ် ကဝိကဝိန် သုခမိန်တို့သည်၎င်း။ သန္တိ၊ ပညတ်အနေ ထင်ရှားရှိပေကုန်၏။ သဗ္ဗေ၊ အလုံးစုံကုန်သော။ တေ၊ ထိုငယ်သူ ကြီးသူ မိုက်သူ ပညာရှိသူတို့သည်။ မစ္စုဝသံ၊ ယုတ်မာစင်းစင်း သေမင်း၏အလိုနိုင်ငံသို့။ ယန္တိ၊ မလိုက်ချင်လဲ လွှဲမရပါ လိုက်ပါကြရကုန်၏။ သဗ္ဗေ၊ သတ္တဝါအနန္တ ဟူသမျှ တို့သည်။ မစ္စုပရာယဏာ၊ သေမင်းလျှင် လည်းလျောင်းရာ ရှိကြကုန်၏။

---

၁။ သုတ္တနိ၊ ၃၇၁။ သလ္လသုတ်။

## ရွှေရေးဆောင်ဆရာတော် အရှင်စန္ဒိမာ

ဆရာတော် အရှင်စန္ဒိမာသည် ဆရာတော် အရှင်ပဏ္ဍိစ ပျံလွန်တော်မူပြီး နောက် ရွှေရေးဆောင်ကျောင်းတိုက်ကြီး၏ နာယကဖြစ်တော်မူသည်။

ဆရာတော်သည် မုံရွာခရိုင် အလုံမြို့နယ် ကျောက်မော် တိုက်နယ် စုံချောင်း အနောက်ရွာ၌ အဖ ဦးရွှေကြူး–အမိ ဒေါ်ကြိုင်တို့မှ သက္ကရာဇ် ၁၂၆၂–ခု တော်သလင်းလဆုတ် ၄–ရက် အင်္ဂါနေ့ နံနက် ၄–နာရီအချိန်တွင် ဖွားမြင် တော်မူသည်။

### ပညာသင်ခြင်း ရှင် ရဟန်းပြုခြင်း

သက်တော် ၉-နှစ်သားအရွယ်တွင် ရန်ကုန်မြို့ ပုဇွန်တောင်ကျောင်းတိုက် အဂ္ဂမဟာပဏ္ဍိတ အရှင်ဂန္ဓမာ မဟာထေရ်ကျောင်း၌ ၃-နှစ်ကြာ နေထိုင်၍ ပညာသင်ကြားခဲ့လေသည်။ သက်တော် ၁၂-နှစ်သားအရွယ်တွင် ရှင်သာမဏေ ဝတ်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ သက်တော် ၂၀-ပြည့် မြောက်ရာ ၁၂၈၁–နှစ်တွင် ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။ ဘွဲ့တော် အရှင်စန္ဒိမာ ဖြစ်လေသည်။ မုံရွာတဖက်ကမ်းရှိ ဆားထုံးရွာ သာသနဇောတိ ကာရာမ ကန်ဖျားတိုက်သစ် ဆရာတော်ထံ၌ နေ့စဉ် ဂါထာဖြစ်လျှင် တနေ့ ၁၀-ဂါထာ၊ စုဏ္ဏိယဖြစ်လျှင် ၁၇-ကြောင်း လက်မှတ်ထိုး၍ စာကျက် ရလေသည်။ ဥပုသ်နေ့တိုင်း နောက်ကစာများကို နှုတ်လွတ်အာဂုံပြန်ဆိုရခြင်း၊ ရေးဖြေရခြင်းတို့ကို ပြုလုပ်တော်မူရလေသည်။ အရှင်စန္ဒိမာသည် ရဟန်းငယ် ဘဝကပင် သဒ္ဒါ၊ သင်္ဂြိုဟ်၊ ဒွေမာတိကာ၊ ကစ္စာယနသာရ၊ ဝါစ္စဝါစက၊ အဘိ ဓာန်၊ အလင်္ကာ၊ ဆန်းတို့ကို အာဂုံဆောင်တော်မူခဲ့လေသည်။

### ရွှေရေးဆောင်တိုက် ရောက်ရှိပညာသင်

ရဟန်းသိက္ခာ ၄–ဝါအရတွင် ရွှေရေးဆောင် ကျောင်းတိုက် မယ်ဇယ် ကျောင်းသို့ ရောက်ရှိ၍ ဆရာတော်ဘုရားကြီး ဦးကြည်ထံ စာဝါကြီးများကို အမြဲတစေ လိုက်ဝါဖြင့် သင်ယူတော်မူ၍ ဆရာတော် အရှင်ပဏ္ဍိစထံတွင် သဒ္ဒါ၊ ဋီကာကျော်၊ အဘိဓမ္မာအဋ္ဌကထာ၊ ဋီကာစာဝါများကို လိုက်နာတော်မူခဲ့ လေသည်။ ဒက္ခိဏာရာမဘုရားကြီးတိုက်၌ စာချအကျော်ဆရာတော်များထံ၌ လည်း စာပေကျမ်းဂန်လိုက်နာ သင်ယူတော်မူခဲ့လေသည်။

## စာပေကျမ်းဂန်ချပို့တော်မူခြင်း

ရဟန်းသိက္ခာ ၁၂-ဝါအရတွင် ရဟန်းငယ် သာမဏေငယ်တို့အား ကစ္စည်းသဒ္ဒါကြီးကို ချပို့ခဲ့သည်။ နောက်တွင် ဆက်လက်၍ ရူပသိဒ္ဓိဋီကာကျော်၊ ကင်္ခါဝိတရဏီအဋ္ဌကထာ၊ ကင်္ခါဝိတရဏီဋီကာသစ်တို့ကို ချပို့တော်မူခဲ့သည်။ ညအခါ ပုဒ်စစ်၊ မာတိကာ၊ ဓာတုကထာ၊ ယမိုက်အရကောက်တို့ကို ချပို့တော်မူ၍ ပရိယတ္တိသာသနာကို ယထာဗလ ယထာသတ္တိ ချီးမြှောက်တော်မူခဲ့လေသည်။

## သင်္ဘောကျောင်းဆရာတော်ဟု တွင်ခြင်း

၁၃၀၁-ခုနှစ်တွင် မယ်ဇယ်ကျောင်းနေရာ၌ နှစ်ထပ်ကျောင်း ဆောက်လုပ်လှူဒါန်းသဖြင့် ယင်းကျောင်း၌ သီတင်းသုံးတော်မူ၍ စာပေချပို့တော်မူခဲ့လေသည်။ ၎င်းနောက် သင်္ဘောကျောင်း(၁)သင်္ဘောကျောင်း(၂)စသည်တို့ကိုလည်း အလှူခံတော်မူရလေသည်။ယင်း သင်္ဘောကျောင်းများ၌လည်း လှည့်လည်သီတင်းသုံးတော်မူ၍ စာပေချပို့တော်မူသဖြင့် သင်္ဘောကျောင်းဆရာတော်ဟု ထင်ရှားတော်မူခဲ့လေသည်။ ဆရာတော် အရှင်စန္ဒိမာသည် စာချအကျော် နာယကဆရာတော် အရှင်ပဏ္ဍဝ ပျံလွန်တော်မူသဖြင့် ၁၃၃၂-ခုနှစ်မှစ၍ ရွှေရေးဆောင်ကျောင်းတိုက်ကြီး၏ မဟာနာယကဖြစ်၍ တိုက်တာအကျိုး သာသနာ့အကျိုးတို့ကို ဦးစီးဆောင်ရွက်တော်မူခဲ့လေသည်။

## ခေတ်သုံးခေတ် သမိုင်းစာပေကျမ်း ပြုစုခြင်း

ဆရာတော်သည် ရွှေရေးဆောင်ကျောင်းတိုက်ကြီး၏ ခေတ်သုံးခေတ်သမိုင်းစာပေကျမ်းကိုလည်း ပြုစုစီရင်ရိုက်နှိပ်စေတော်မူ၍ မွေးနေ့မင်္ဂလာ ဓမ္မဒါနအဖြစ် လှူဒါန်းတော်မူခဲ့လေသည်။ ဆရာတော်ကား စာပေလည်း ဝါသနာပါ အလှူဒါနလည်း ဝါသနာထုံတော်မူသည့် ပုဂ္ဂိုလ်ဖြစ်တော်မူသည်။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ယင်းသို့ဖြင့် ဘုရားမြတ်စွာသာသနာ ထွန်းလင်းတောက်ပြောင်ရေး အဖက်ဖက်မှ အားပေးတော်မူသော နာယကဆရာတော်အရှင်စန္ဒိမာသည် သက်တော် ၇၈-နှစ်၊ ဝါတော် ၅၈-ဝါ ရရှိရာ ၁၃၄၀-ခုနှစ် ဝါခေါင်လဆုတ် ၇-ရက်၊ နံနက် ၁၁-နာရီအချိန်တွင် ဘဝနတ်ထံ ဝင်စံတော်မူခဲ့လေသည်။

## သံဝေဂယူရန်

အဗလံ့ ဒုဗ္ဗလံ အာယုံ၊ ဗဟူဟိ သမ္ဘန္ဓံ ဘဒ၀။
တသ္မာ မုဟုတ္တန္တရေပိ၊ ဘဝေယျ မရဏံ ဟိ ခေါ။

ယသ္မာ၊ အကြင့်ကြောင့်။အာယု၊ အသက်သည်။ အဗလံ၊ အားခွန်ဗလမရှိသည်ရင်း။ဒုဗ္ဗလံ၊အားနည်းလှသည်ရင်း။ဗဟူ ဟိ၊ထွက်သက်ဝင်သက် လေးချက်ဣရိယာ တဖြာပူအေး လေးထွေမဟာ အစာအာဟာရ စသည်စုပေါင်းများစွာသောအကြောင်းအရာတို့နှင့်။သမ္ဘန္ဓံ၊ဆက်စပ်သည်ရင်း။ဘဝေ၊ဖြစ်၏။ တသ္မာ၊ထိုကြောင့်။ မုဟုတ္တန္တရေပိ၊ တမုဟုတ်ချက်တဖြုတ် ကိုတောင်းသောကာလအတွင်း၌လည်း။ မရဏံ၊စုတိပြတ်ကြွေ သေလွန်ခြင်းသည်။ ဘဝေယျဟိ ခေါ၊ ဖြစ်နိုင်ပေသည်သာ။

## ရွှေရေးဆောင်တိုက် ဂဏဝါစက စာချဆရာတော်များ

ရွှေရေးဆောင်ကျောင်းတိုက်ကြီးကား ဂဏဝါစက စာချဆရာတော်များစွာတို့၏ စာပေပို့ချရာ စာသင်သား ရဟန်းတော်များစွာတို့၏ စာပေကျမ်းဂန်အမျိုးမျိုး သင်ယူရာ ပရိဝေဏဖြစ်လေရာ ရွှေရေးဆောင် ကျောင်းတိုက်၌ စာပေချပို့ ရှင်ပျော်ပျို့တော်မူကြသော ဂဏဝါစက အရှင်မြတ်တို့၏ အဖြစ်တော်စဉ်ကိုလည်း အမြွက်မျှ ဖော်ပြအပ်ပါသည်။

## ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ အရှင်ဥတ္တရ

ဆရာတော် အရှင်ဥတ္တရသည် မြင်းခြံခရိုင် ကျောက်ဆောက်မြို့ ဆီဆုံကုန်းရွာ၌ သက္ကရာဇ် ၁၂၃၁-ခုနှစ် နတ်တော်လဆန်း ၉ ရက် တနင်္ဂနွေနေ့တွင် ဖွားမြင်တော်မူသည်။ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၂၅၀-ပြည့်နှစ် တပေါင်းလဆုတ် ၁၀-ရက်နေ့တွင် ကျောက်ဆောက် ဂိုဏ်းအုပ်ဆရာတော် အရှင်သုမနကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။ ရွှေရေးဆောင်ဆရာတော် ဦးကြည်စသူတို့ထံတွင် စာပေသင်ကြား၍ တတ်မြောက်တော်မူသည်။စာပေသင်ကြားတတ်မြောက်ပြီးနောက် ပိဋကတ်အခြေခံ ကျမ်းစာများနှင့် ကျမ်းဂန်ကြီးများကို ချပို့၍ ရဟန်း သာမဏေများတို့ စာပေလိုက်နာကြသည်။အရှင်ဥတ္တရသည် ၁၂၆၂-ခုနှစ်တွင် ပရိယတ္တိ သာသနဟိတအသင်းကြီး၏ "ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ" (မူလစာချ) အဖြစ်ဖြင့်

ကိုးကွယ်ခြင်းကို ခံယူတော်မူရလေသည်။ သက်တော် ၃၇-နှစ်၊ ဝါတော် ၁၇ ဝါရရှိရာ ၁၂၆၈ ခု၊ တပို့တွဲလဆန်း ၈-ရက်နေ့တွင် ဘဝနတ်ထံ ပျံလွန်တော်မူသည်။

နုနုရိတ္တာ သဗ္ဗသခ်ါရာ=သင်္ခါရဓမ္မ၊ ဟူသမျှ၊ မုချ အနှစ်သုဉ်းသတည်း။

## မာဂဓသက္ကတကောဝိဒ အရှင်နန္ဒမာလာ

အရှင်နန္ဒမာလာသည် မအူ ဉင်ခရိုင် ညောင်တုန်းမြို့နယ်၌ ၁၂၅၁-ခုနှစ်တွင် ဖွားမြင်တော်မူခဲ့သည်။ အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။ ရွှေရေးဆောင်ဆရာတော် ဦးကြည်ထံရောက်၍ ကျမ်းစာအမျိုးမျိုးကို သင်ယူတော်မူခဲ့လေသည်။ အိန္ဒိယနိုင်ငံ၊ ဗာရာဏသီမြို့သို့ လည်း ကြွရောက်သီတင်းသုံးတော်မူ၍ ဝိဿဝိဇ္ဇာနာယ ကာလိပ်၌ သက္ကတ ကျမ်းစာများကို သင်ယူတတ်မြောက်တော် မူခဲ့လေသည်။ အရှင်နန္ဒမာလာ သည်—

၁။ မုဒ္ဓဗောဓနိဿယ၊

၂။ အမရကောသနိဿယ၊

၃။ သုတဗောဓဆန်းနိဿယ၊

၄။ လဃုကောမုဒီသဒ္ဒါနိဿယ၊

၅။ ကုဋ္ဌမုဂ္ဂရဆေးကျမ်းနိဿယ—

စသည်တို့ဖြစ်ကုန်၏။ ဖော်ပြပါကျမ်းများအနက် မုဒ္ဓဗောဓနိဿယ "သန္ဓိ နာမ် ကာရက သမာသ်၊" ၄-ကျမ်းပါရှိသော ပုံနှိပ်ပြီး ပဥ္စမအုပ်ကို တွေ့ဘူး၏။ ယင်း နိဿယ၏ ကျမ်းဦး၌—

၁။ မုဒ္ဓါနံ ဗောဓကော ဗုဒ္ဓံ၊ သာဝိဇ္ဇာဒိ ပဘောဒကံ။
ဓမ္မံ တပ္ပဋိပဇ္ဇန္တံ၊ နတွာ သံဃံ နိရင်္ဂဏံ။

၂။ ပိဋ္ဌကေသု ဝိသာရဒံ၊ သိဿာနံ နိစ္စဝါဒေန္တံ။
သက္ကတေသွာပိ ကောဝိဒံ. သုဘာဒိစ္စသ ဇှနံ ဝ။

၃။ တန္နာမကံ ဂုရုံ မယှံ၊ ဝန္ဒိတွာ သိရသာ မဟံ။
လိခိဿံ မုဒ္ဓဗောဓဿ၊ မြမ္မဘာသာယ နိဿယံ။

၄။ တသ္မိံ သုဋ္ဌု ပဓာရေတွာ၊ ယုတ္တံ ဂဏှန္တု သာဓဝေါ။
အယုတ္တံ စေ သုသောဓိယ၊ ပသန္တု တုဋ္ဌစေတသာ—

ဟူသော ၄-ဂါထာဖြင့် ဂန္ထာရမ္ဘပြုတော်မူခဲ့လေသည်။

## ဆရာတော် အရှင်ပဏ္ဍဝနှင့် အလွန်ရင်းနှီးသူ

ဆရာတော် အရှင်နန္ဒမာလာသည် ရွှေရေးဆောင်ဆရာတော် အရှင်ပဏ္ဍဝနှင့် အလွန်ရင်းနှီးသူဖြစ်သည်။ အရှင်ပဏ္ဍဝကား အရှင်နန္ဒမာလာအောက် ၇-နှစ် ခန့်ငယ်သည်။ အရှင်ပဏ္ဍဝသည် စပ်မိလျှင် စာအကြောင်း ပေအကြောင်း ဝါကျ အကြောင်း ပြောတတ်သည်။ ဘယ်နေရာမျိုး ဟိ-နေတတ်သည်။ ဘယ်နေရာမျိုး စ-ထားတတ်သည်။ ဘယ်နေရာမျိုး ကျမ်းဆရာတို့ ပန-ထားလေ့ရှိသည် စသည် ဖြင့် ပြောဆို ဆွေးနွေးလေ့ရှိသည်။ သို့ဖြစ်ရကား အရှင်နန္ဒမာလာက အရှင် ပဏ္ဍဝကို ဟိ- စ- ပန- ဆရာကြီးဟု ရင်းရင်းနှီးနှီး ပြောဆိုလေ့ရှိပါသည်[၁]။

## သဒ္ဒသင်္ဂဟ နိဿယရေးဆဲတွင် ပျံလွန်

အရှင်နန္ဒမာလာသည် အနောက်ပြင် ခင်မကန်တိုက် မန်ကျည်းပင်ကျောင်း စာချဆရာတော် အရှင်သီလာစာရ တောင်းပန်သဖြင့် သဒ္ဒသင်္ဂဟ နိဿယရေး သားစဉ် သက်တော် ၃၅-နှစ် ရှိရာ ၁၂၇၅-ခုနှစ် ပြာသိုလတွင် ပျံလွန်တော် မူခဲ့လေသည်။

## သံဝေဂယူရန်

အာနန္ဒ၊ ညီဘွားလိမ္မာ အာနန္ဒာ။ ပဿ၊ သေချစွေ့ငုံ ရှုဆင်ခြင်လေလော့။ သင်္ခတ၊ အလုံးစုံကုန်သော။ တေ သင်္ခါရာ၊ ထိုသင်္ခါရတို့သည်။ အတီတာ၊ လွန် သွားခဲ့ကုန်ပြီ။ နိရုဒ္ဓါ၊ ကွယ်ပျောက်ချုပ်ငြိမ်း ရုပ်သိမ်းခဲ့ကုန်ပြီ။ ဝိပရိဏတာ၊ ဖောက်ပြန်ပျက်စီးခြင်းသို့ ရောက်ခဲ့ကုန်ပြီ[၂]။

---

၁။ ၁၃၃၀-ခုနှစ် လောက်က ဤစာပြုသူနှင့် အရှင်ပဏ္ဍဝမထေရ် တွေ့ဆုံစဉ် အရှင်ပဏ္ဍဝ မိန့်ကြားတော်မူသည်။ ဤစာပြုသူနှင့် တွေ့ပြီး ၂-နှစ်ခန့်အကြာတွင်အရှင် ပဏ္ဍဝပျံလွန်တော်မူသည်။

၂။ ဒီ၊ ၂။ ၁၆၁၊ မဟာသုဒဿနသုတ် ကြည့်။

## ဆရာတော် အရှင်သူရိယ

"ပဏ္ဍိတဓဇ သိရိပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ မိုင်းခိုင်းဆရာတော် အရှင်ပဏ္ဍိတ လက်ထက် ရွှေရေးဆောင်တိုက် ဘဏ္ဍာစိုးကျောင်း၌ ဆရာတော် အရှင်သူရိယသည် စာပေချပို့၍ သာသနာပြုတော်မူခဲ့သည်။

## ဆရာတော် အရှင်သီဟ

ဆရာတော် အရှင်သီဟသည်လည်း "ပဏ္ဍိတဓဇသိရိပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ မိုင်းခိုင်းဆရာတော်လက်ထက်က ရွှေရေးဆောင်တိုက်၌ ထင်ရှားသော စာချဆရာတော်ကြီး ဖြစ်တော်မူသည်။

## ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ အရှင်ဂုဏ

အရှင်ဂုဏသည် ကစ္စည်းသဒ္ဒါကြီး ချရေးပို့ချ၌ အလွန်နိုင်နင်းသည့် ပုဂ္ဂိုလ်မြတ် ဖြစ်လေသည်။ ယင်းသို့ ဖြစ်ကြောင်း ၎င်း၏ ကစ္စာယနဝိနယကျမ်းကြီးက ပြောနေသည်။

မြင်းခြံခရိုင် တောင်သာမြို့နယ် မြို့ဘုရွာ၌ ၁၂၃၇-ခုနှစ်ခန့်တွင် ဖွားမြင်တော်မူသည်။ အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ ငယ်ရွယ်စဉ်ကပင် မြို့ဘုဆရာတော်ဘုရားကြီးထံ၌ ကစ္စည်းသဒ္ဒါကြီး၊ အဘိဓာန်၊ အလင်္ကာ၊ ဆန်း၊ ဋီကာကျော်- စသည်တို့ကို သင်ယူတော်မူခဲ့လေသည်။

မန္တလေးမြို့ "သုဓမ္မာ ဘိဓဇသိရိပဝရမဟာဓမ္မ ရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ မိုးတား သာသနာပိုင်ဆရာတော် အရှင်သုဇာတ "ပဏ္ဍိတာဘိဓဇ သိရိပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ မိုင်းခိုင်း(ရွှေရေးဆောင်) ဆရာတော် အရှင်ပဏ္ဍိတ၊ ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက် ရေစကြိုဆရာတော်ဘုရားကြီး အရှင်ဂန္ဓသာရစသည်တို့ထံတွင် စာပေကျမ်းဂန် အရပ်ရပ်ကို သင်ကြားတတ်မြောက်တော်မူခဲ့လေသည်။ အရှင်ဂုဏသည် ရွှေရေးဆောင်ကျောင်းတိုက်၌ ကြာမြင့်စွာ သီတင်းသုံး၍ စာပေကျမ်းဂန်များကို ချပို့တော်မူခဲ့လေသည်။

ရဟန်းသိက္ခာ ၆-ဝါ အရတွင် ပရိယတ္တိသာသနဟိတ အသင်းကြီး၏ "ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ (မူလစာချ) အဖြစ်ဖြင့် ကိုးကွယ်ခြင်းကို ခံယူတော်မူရလေသည်။

တချိန် ဝါတော် ၂ဝ-ခန့်တွင် သာသနာ့ဘောင်မှ ဆင်းခဲ့၍ လူအဖြစ်ဖြင့် စာပေချဖိုရာ မြို့ဘဆရာကြီး ဦးကြွက်ဟု ထင်ရှားခဲ့လေသည်။ ဆရာကြီးသည် တိပိဋကပါဒေါ် မူလဥဒါဟရဏ်၌ အမျိုးမျိုး၊ ကိုဥဒါဟရဏ်၌ အမျိုးမျိုး စိစစ်ရာ စိစစ်ကြောင်းဖြစ်သော ဂစ္စာယနဝိစယကျမ်းကြီးကို ရေးသားစီရင်ခဲ့လေသည်။ ယင်းကျမ်းကြီးမှာ ကန့်မြဲဇောင်ချမ်း သဒ္ဒါချနည်းပင်ဖြစ်ရာ ကန့်မြဲဇောင်ချမ်းသဒ္ဒါချနည်းကို ပိုင်ပိုင်မိမိ သိလိုလျှင် ဤကစ္စာယန ဝိစယကျမ်းကြီးကို လေ့လာကြည့်ရှုရန်ဖြစ်၏။ ယင်းကျမ်းကြီးမှာ ၄-တွဲရှိ၍ ပဌမတွဲ ၁၂၉၇-ခုနှစ် မန္တလေးမြို့ ဟံသာဝတီပိဋကတ်ပုံနှိပ်တိုက်ရိုက် ရှိုင်ဆိုက် စာမျက်နှာ ၄ဝ၄။ ဒုတိယတွဲ ၁၂၉၈-ခုနှစ် မန္တလေးမြို့ ဟံသာဝတီပိဋကတ် ပုံနှိပ်တိုက်ရိုက် စာမျက်နှာ ရှိုင်ဆိုက် ၃၄၈။ တတိယတွဲ ၁၂၉၉-ခုနှစ် မန္တလေးမြို့ သာသနာ့မဏ္ဍိုင် ပိဋကတ်ပုံနှိပ်တိုက်ရိုက် ရှိုင်ဆိုက် ၃၅၆။ စတုတ္ထတွဲ မန္တလေးမြို့ မန္တလာဘုမ္မိ ပုံနှိပ်တိုက်ရိုက် စာမျက်နှာ ၃၄ဝ-ရှိလေသည်။ ကျမ်းဦး၌—

သမ္ဗာဂဝေသကံ ဗုဒ္ဓံ၊ ဓမ္မံ သမ္ဗုဒ္ဓပူဇိတံ။
ဂဏံ ဥတ္တမံ ဝန္ဒိတွာ၊ ကဿံ ဝိစယခါရကံ—

ဟူသော ဂါထာဖြင့် ရတနတ္တယပဏာမ ပဋိညာဉ်ပြုခဲ့သည်။

ကျမ်း၏ အဆုံး၌လည်း—

ကစ္စာယန ဝိစယော စ၊ တဒ္ဒီပကော အယံ မယာ။
ကတော ဟိတာယ သောတူနံ၊ နာနာဂန္ထေဟိ သံဒိယ။

ပုညေန တေနိမေဝါဟံ၊ ပဗ္ဗေါမိ ဂမ္ဘီရံ ပဒံ။
နော စ ဘဝေ စ ဏ္ဌေဟိ၊ သမ္ဗန္ဓော ဘဝါမီတိ—

ဟူသော ၂-ဂါထာဖြင့် ကျမ်းပြုပုံ အခြင်းအရာ မိမိဆုတောင်းပတ္တနာချက်တို့ကို ဖော်ပြ၍ နိဂုံးအုပ်ခဲ့လေသည်။ ဆရာကြီး ဦးကြွက်ကား ရဟန်းဘဝဖြင့်လည်း ပရိယတ္တိဝန်၊ လူအဖြစ်ဖြင့်လည်း ပရိယတ္တိဝန်ကို ဆောင်ခဲ့သည့် ပုဂ္ဂိုလ်မြတ်ဖြစ်လေသည်။ ၁၃၁၁-ခုနှစ်တွင် ကွယ်လွန်အနိစ္စရောက်ခဲ့လေသည်။

## သံဝေဂယူရန်

နေနှင့်လလ၊ ပြိုပျက်ဆဲ၊ မလွဲရောက်ရသည်။
သင်္ခါရခပဲ၊ ချုပ်ပျက်စဲ၊ မလွဲရောက်ရသည်။
သူ့သဘာဝ၊ မည်သူမျှ၊ လွန်ရ မရှိသည်။

## ကျီကုန်း အရှင်ကောဏ္ဍည

ကျီကုန်းဆရာတော် အရှင်ကောဏ္ဍညသည်လည်း ရွှေရေးဆောင်တိုက်၌ စာပေချပို့၍ သာသနာပြုတော်မူခဲ့သည်။ ချောင်းဦးမြို့အနီး ကျီကုန်းရွာဇာတိ ဖြစ်သည်။ ယင်းသို့ ကျီကုန်းရွာဇာတိ ဖြစ်သဖြင့် ရွှေရေးဆောင်တိုက်၌ သီတင်းသုံး၍စာချစဉ် ကျီကုန်း အရှင်ကောဏ္ဍညဟု ကျော်စော၍ ကျီကုန်းရွာ၌ သီတင်းသုံး၍ စာပေချပို့သောအခါ ကျီကုန်းဆရာတော် အရှင်ကောဏ္ဍညဟု ကျော်စောလေသည်။

စာချကျော်စောစဉ်က ဆရာတော် အရှင်ပဏ္ဍဝနှင့် ခေတ်ပြိုင်ဖြစ်သည်။ အရှင်ကောဏ္ဍညကား ဆရာတော် အရှင်ပဏ္ဍဝထက် သက်တော်ကြီးသည်ဟု သိရသည်။ ရွှေရေးဆောင်တိုက်၌ စာချစဉ် စာလိုက်သံဃာများစွာတို့ အရှင်ကောဏ္ဍညထံ စာပေလိုက်နာသင်ယူတော်မူကြသည်။ ရံခါ ဆရာတော်ဦးဂြုဇ် ခရီးကြွလျှင် ချပို့လက်စ စာဝါတချို့ကို ဆရာတော် လွှဲအပ်ချက်အရ ကိုယ်စား ချပို့တော်မူရသည်။ ရွှေရေးဆောင်နိယံအာဂုံရ ဝါကျနိုင် စာချကောင်းဖြစ်သည်။

မုံရွာမြို့ သပြေပင်တောရဆရာတော် အရှင်ကေဝလာဘိဝံသသည် ကျီကုန်းဆရာတော် အရှင်ကောဏ္ဍညထံ၌လည်း ကျမ်းစာအချို့ကို သင်ယူတော်မူခဲ့ဘူးသည်ဟု သိရ၏။

ဘဒ္ဒန္တ ကောဏ္ဍညော ထေရော၊ ရွှေရေးဆောင်ဝံသိကော သုဓီ။
အာရာမေ တမှိ ဝါစေတွာ၊ ဇိနသာသနဇောတကော။

## စာချဆရာတော် အရှင်အာစာရ

ဆရာတော် အရှင်အာစာရသည်လည်း ရွှေရေးဆောင်တိုက်၌ စာပေချပို့၍ ပရိယတ္တိသာသနာ့အလုပ်ကို ကြိုးကုတ် အားသစ်တော်မူခဲ့သည်။ မြို့ဘ

ဇာတိဖြစ်၍ ကစ္စာယနဝိစထကျမ်းပြု အရှင်ဂုဏ (နောက်ဆရာကြီးဦးကြွက်)၏ ငယ်တပည့်ဖြစ်သည်။ အရှင်ဂုဏာလောကနီးနီး ကစ္စည်းသဒ္ဒါကြီးကို ချပို့မှု၌ နိုင်နင်းသည်ဟု သိရ၏။

ကစ္စည်းသဒ္ဒါကြီးကို နိုင်နင်းစွာချပို့သဖြင့် တချို့က "စူဠကစ္စည်း ဦးအာစာရ"ဟုပင် ချီးမွမ်းကြသည်။ နောက်တွင် ဇာတိရပ်မြေသို့ ပြန်လည်သီတင်းသုံးနေထိုင်သည်ဟု သိရ၏။

## ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ အရှင်ပါရမီ

ဆရာတော် ဦးကြည်လက်ထက်က ဦးပါစကကျောင်း၌ ဆရာတော်အရှင်ပါရမီသည်လည်း ထင်ရှားသည့် ရွှေရေးဆောင်တိုက် စာချဆရာတော်တပါး ဖြစ်တော်မူသည်။ ပရိယတ္တိသာသနဟိတဓမ္မာစရိယဘွဲ့ရ ပုဂ္ဂိုလ်မြတ်ပင် ဖြစ်သည်ဟု သိရ၏။

## ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ အရှင်ဝဏ္ဏ

အရှင်ဝဏ္ဏသည်လည်း ဆရာတော်ဘုရားကြီး ဦးကြည်လက်ထက်က ရွှေရေးဆောင်တိုက် ဘဏ္ဍာစိုးကျောင်း၌ စာပေချပို့ခဲ့သည့် မထေရ်မြတ် ဖြစ်တော်မူသည်။ ပရိယတ္တိသာသနဟိတဘွဲ့ရ ပုဂ္ဂိုလ်ပင် ဖြစ်သည်။

## အဘိဓမ္မာညဝါ စာချအကျော် ဆရာတော် အရှင်ဝဇိရဗုဒ္ဓိ

အရှင်ဝဇိရဗုဒ္ဓိသည် အဘိဓမ္မာညဝါအကျော် စာချဆရာတော်ဖြစ်တော်မူသည်။ ကရင်ပြည်နယ် ဖားအံခရိုင် လှိုင်းဘွဲ့မြို့အပိုင်နောင်ဘိုကြီး ကိုင်းကောင်းရွာ၌ အဖ ဦးအေးကြိုင် အမိ ဒေါ်ရင်တို့မှ သက္ကရာဇ် ၁၂၇၃-ခုနှစ်တွင် ဖွားမြင်တော်မူသည်။

အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ ရင်းငြိမ် ကျောက်လုံးကြီးဆရာတော်ထံ၌ ပညာသင်ကြားတော်မူခဲ့လေသည်။ အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ပဲခူးမြို့မ ဆရာတော် အရှင်ဣန္ဒာစာရ၊ အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ တောင်ထီးလင်း ပါဠိတက္ကသိုလ် ဇောတိကာရုံ အုတ်ကျောင်းဆရာတော် အရှင်ဇောတိကတို့၏အထံ ပရိယတ္တိပညာအရပ်ရပ်ကို ဆည်းပူးတော်မူခဲ့လေသည်။ ၁၃၁၅-ခုနှစ်တွင် အစိုးရဓမ္မာစရိယဘွဲ့ကို အောင်မြင်ရရှိတော်မူခဲ့သည့်ပြင် "ပရိ

ယတ္တိ သာသနဟိတဓမ္မာဧရိယမူလစာချ" အဖြစ်ဖြင့် ကိုးကွယ်ခြင်းကိုလည်း ခံယူတော်မူခဲ့လေသည်။

## အဘိဓမ္မာညဝါ ကြီးစားချပို့ခြင်း

ဆရာတော် အရှင်ဝဇိရဗုဒ္ဓိသည် တောင်ပြင်ထီးလင်းတိုက်၌ ယမိုက်ပဋ္ဌာန်းဟူသော အဘိဓမ္မာညဝါကြီးများကို အခေါက်ပေါင်းများစွာ ချပို့တော်မူခဲ့လေသည်။မန္တလေး ပေးပြင်လေးရပ်မှ ညဝါစာသင်သားများ၊ မန္တလေးအနီးတဝိုက်မှ ညဝါစာသင်သားများ ရာပေါင်းများစွာတို့ ဆရာတော် အရှင်ဝဇိရဗုဒ္ဓိထံ ရောက်ရှိသင်ယူကြကုန်၏။

၁၃၄၁-ခုနှစ် ဝါဆိုဦးမှစ၍ ရွှေရေးဆောင်တိုက်၌ သီတင်းသုံးတော်မူ၍ အဘိဓမ္မာများကို ဆက်လက်၍ချပို့တော်မူသည်။ ဆရာတော်သည် သဒ္ဒါတရား အလွန်ကောင်းသည်။ စာသင်သားတပည့်များအား စာပေချပို့၍ ချီးမြှောက်ရုံသာမက မိမိရရှိသော သင်္ကန်း ထီး ဖိနပ် ပရိက္ခရာတို့ကိုလည်း စာသင်သားတို့အား စာရေးတံမဲချ၍ လှူဒါန်းလေ့ရှိတော်မူသည်။ ရွှေရေးဆောင်တိုက်ကား ဘူမိနက်သန် အောင်မြေမှုံလှပေ၏။ စာချအကျော်အမော်တို့၏ စာပေကိုချ၍ သမ္မာသမ္ဗုဒ္ဓသာသနာတော်ကို စည်ပင်အောင် ဆောင်ရွက်ရာ အောင်မြေစင်စစ်ဖြစ်လေသည်။

ဆရာတော် အရှင်ဝဇိရဗုဒ္ဓိသည်–

၁။ ယမကသစ်ပကျမ်း၊

၂။ ပဋ္ဌာနနယသစ်ပကျမ်း–

စသည့်တို့ကိုလည်း ပြုစီရင်တော်မူခဲ့သည်။ ဆရာတော် နှစ်ပေါင်းကြာမြင့် သက်တော်ရှည်၍ ဘုရားဇာနော် သာသနာတော်ကို ဆထက်ထမ်းပိုး တိုးတက်စည်ပင်အောင် ဆောင်ရွက်နိုင်ပါစေဟု ဆုတောင်းအပ်ပါသည်။

ဝဇိရဗုဒ္ဓိ ထေရော ဟိ၊ ဝဇိရဉာဏိကော သုဓီ။
သော ဟိ ဝဿသတံ ကာလံ၊ ဌတွာ သာသနဇောတကော။

## ရွှေရေးဆောင်ကျောင်းတိုက်ကြီး မီးသင့်ခြင်း

ဥရောပတိုက် အာရှတိုက် တိုက်အသီးသီးတို့၌ ဒုတိယကမ္ဘာစစ်မီး တောက်နေစဉ် ၁၃၀၃-ခုနှစ် နတ်တော်လတွင်[၁] ဂျပန်က အင်္ဂလိပ်အမေရိကန်တို့ကို စစ်ကြေငြာ၍ စစ်တိုက်သည်တွင် ပြာသိုလဆန်း ၇ ရက်နေ့၌ ရန်ကုန်မြို့တော်ကို စတင်ဗုံးကြဲလေသည်။

တပေါင်းလဆန်း ၆-ရက်နေ့တွင် အင်္ဂလိပ်ဘုရင်ခံက မြန်မာပြည်မြေလတ်ပိုင်း တောင်ငူမှအထက်ကို ဖော်မိုဆာတရုပ်အစိုးရ ချန်ကေရှိတ်အား ဂျပန်ကို အနိုင်တိုက်ယူရန်လွှဲအပ်သော စာချုပ်လက်မှတ်ရေးထိုးပွဲကို မန္တလေးနန်းတော်မြို့ရိုးအတွင်း နန်းတော်တောင်ဘက် ဥယျာဉ်တွင်းရှိ ကလပ်၌ ပြုလုပ်နေချိန် ၁၃၀၃-ခုနှစ် တပေါင်းလဆန်း ၆-ရက်နေ့ ၃-နာရီခန့်အချိန် ကလပ်ကို ဗုံးတလုံး ကြဲချလေသည်။

ဘုရင်ခံနှင့် ချန်ကေရှိတ်တို့ မထိမမှန်ပဲ လွတ်မြောက်သွားကြသည်။ နန်းတော်တောင်စမုတ် ဗုံးဆံငယ်ထိမှန်သဖြင့် အနည်းငယ် ပျက်စီးသည်မှအပ အခြားတစုံတရာကြီးကြီးကျယ်ကျယ် ပျက်စီးခြင်းမရှိ။ နောက်ရက်များမှကြာမီ ဂေါ်ရာ စစ်ဗိုလ်တယောက်နှင့် ပန်ချာပီစစ်သား ၁၁-ယောက်ပါရှိသော တပ်စိတ်တစိတ်ရောက်လာပြီး ဂေါဝိန်ဆိပ်ကမ်း၊ မရမ်းခြံဆိပ်ကမ်း၊ မင်းကွန်း တဖက်ကမ်း အာလောင်ကျွန်းတို့၌ ဒိုင်းနမိုင်းခွဲ၍ မီးရှို့ဖျက်ဆီးသည်။ အစိုးရပိုင်ဘဏ်တိုက်၊ အင်္ဂလိပ်လူမျိုး အိန္ဒိယလူမျိုး သဌေးများ ပိုင်ဆိုင်သော အရောင်းလက်ကားဆိုင် ကုမ္ပဏီတိုက်ကြီးများနှင့် ဈေးချိုအရှေ့ဘက်ရှိ တိုက်တန်းကြီးများကို မီးရှို့ဖျက်ဆီးစဉ် ၁၃၀၃-ခုနှစ် တန်ခူးလဆုတ် ၄-ရက် ၁၁-နာရီလောက်တွင် အရှေ့တောင်ထောင့်မှ ဂျပန် လေယာဉ်ပျံများ အောက်သို့ထိုးဆင်းလျက် အနိမ့်ပျံသန်းပြီး ပစ်ခတ်ရာ လျှပ်စစ်ဓာတ်အားပေးစက်ရုံကြီး တရုပ်တန်းဈေး၊ မြို့တောင်တိုက် ရွှေကျောင်းကြီးမှစ၍ အနှံ့အပြားဆုံးရှုံးခဲ့သည်။ လူကြီး လူငယ် အများအပြား၊ ကျွဲနွားစသော တိရစ္ဆာန် အများအပြားတို့ သေကျေပျက်စီးကြသည်။

တဖန် ကဆုန်လဆန်း ၁၁-ရက်နေ့ ၄-နာရီ ခန့်တွင် ဂေါ်ရာစစ်ဗိုလ်တယောက်ဦးစီးသော ပန်ချာပီမြင်းစီးတပ်စိတ်တစိတ်သည် မြောက်မှတက်လာ

---

၁။ ၁၉၄၁-ခု ဒီဇင်ဘာလ။

ပြီး မြင်းဝန်တိုက်အနောက်ဘက် စနေထောင့်ရှိ အိန္ဒိယအမျိုးသားလာဘက်ရည်ဆိုင်ကို မီးကျည်သေနတ်ဖြင့်ပစ်၍ မီးရှို့လေရာ စာတိုက်ကြီးနှင့် မြို့လယ်ဆေးရုံကြီးစသည်နှင့်တကွ လူနေအိမ်ခြေများစွာ၊ ရဟန်းသံဃာတော်တို့ သီတင်းသုံးရာ ကျောင်းတိုက်ပေါင်းများစွာတို့ မီးသင့်လောင်ကျွမ်းပျက်စီးလေသည်။ ရွှေရေးဆောင် ကျောင်းတိုက်ကြီးလည်း မီးစာဖြစ်ခဲ့လေသည်။ ဒေါင်းဒင်္ဂါးတတင်းကျော် အကုန်အကျခံ၍ ဆောက်လုပ်ခဲ့သော မြို့သစ်အတွင်းဝန်မင်းကြီးကောင်းမှုတော် အလယ်တိုက်ကျောင်းတော်ကြီးလည်း မရှုမလှ မီးစာဖြစ်ခဲ့ရလေသည်။

ဧဝံ အနိစ္စာ သင်္ခါရာ၊ စဥ္စလာ အသယံ ဝသီ။
တသ္မာ သဗ္ဗသင်္ခါရေသု၊ အလမေဝ ဝိမုစ္စိတုံ။

## ကျောင်းတိုက်ကြီးစည်ကားလာခြင်း
## အလယ်ကျောင်းကြီးပြန်လည်ဆောက်လုပ်ခြင်း

ဒုတိယ ကမ္ဘာစစ်မီး ငြိမ်းစဲပြီးနောက် သံဃာတော်များလည်း တဖြည်းဖြည်း များလာလေပြီ။ အရံကျောင်းများလည်း သက်ဆိုင်ရာ ကုသိုလ်ရှင်တို့ ဆောက်လုပ်လှူဒါန်းကြသဖြင့် အဆောင်အသင့် ပြည့်စုံလာလေပြီ။ သံကျောင်းဆရာတော်ဟု ကျော်စောကိတ္တိရှိတော်မူသော ဆရာတော် အရှင်ပဏ္ဍဝမဲထေရ်လည်း ပြန်လည်ကြွရောက် သီတင်းသုံး၍ စာပေချပို့ရာ စာဆို စာလိုက်သံဃာတော်တို့ ပျားပန်းခတ်မျှ စည်ကားလာလေပြီ။

၁၃၂၁ ခုနှစ်၊ တန်ဆောင်မုန်းလပြည့်ကျော်လောက်တွင် မင်းကွန်းဓမ္မနာဒဆရာတော် "တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက" ဘွဲ့တံဆိပ်တော်ရ ဆရာတော်အရှင်ဝိစိတ္တသာရာဘိဝံသထံမှ ဆရာတော်ဦးပဏ္ဍဝထံ ဆရာတော်ဘုရား အလည်တိုက်ကြီးကို အသစ်တဖန် မွန်းမံဆောက်လုပ်လှူဒါန်းလိုကြောင်း အမည်မဖော်လိုကြသော ကျောင်းဒါယကာ ဒါယိကာမတို့က လျှောက်ထားသဖြင့် လက်ခံမခံ တိုင်ပင်လိုကြောင်း စာရောက်လာသဖြင့် ဆရာတော် အရှင်ပဏ္ဍဝမဟာထေရ် မင်းကွန်းသို့ ကြွတော်မူလေရာ တိပိဋကဓရဆရာတော်က ကြောင်းကျိုးဖော်ပြ လျှောက်ထားလေရာ ဆရာတော် အရှင်ပဏ္ဍဝ သည် အလယ်ကျောင်းကြီး ပြန်လည်ဆောက်လုပ်ရန် လက်ခံတော်မူခဲ့လေသည်။

အမည်မဖော်လိုကြသော ကျောင်းဒါယကာ ဒါယိကာမတို့မှာ မန္တလေးမြို့၌ထင်ရှားသော မဟာဗန္ဓုလသက်နှ်းအလုပ်နှင့် တိုက်ပိုင်ရှင် ဗန္ဓုလဦးဆိုင်နှင့်

ဇနီးဒေါ်စောတင်တို့ ဖြစ်ကြကုန်၏။ သူတို့နှစ်ဦးသည် ရွှေ၊ ငွေ၊ ပုလဲစသည့် လောကီဥစ္စာရတနာများရှိသလောက် သဒ္ဓါ၊ သီလ၊ သုတ၊ စာဂ-စသည့် လောကုတ္တရာဥစ္စာလည်း များစွာရှိသူတို့ပေတည်း။

ဦးဆိုင်တိဂဟပတိ စ၊ ဒေါ်စောတင်ဆရသာမိနီ။
မဟာဒ္ဒနာ မုတ္တစာဂါ၊ သဒ္ဓါပယာတပါကဋနော။

## ပရိတ်ရွတ် ကျောင်းတိုက် နေရာသန့်စင်

ဆရာတော်အရှင်ပဏ္ဍဝ မင်းကွန်းမွေန်ာဒကျောင်းတိုက် တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ဆရာတော် အရှင်ဝိစိတ္တထံမှ ပြန်ကြွတော်မူ၍ ရက်သတ္တတပတ်လောက် ရောက် သော အ ခါ ၁၃၂၀-ခုနှစ်၊ နတ်တော်လဆန်း ၄-ရက်၊ ၇-နာရီ အချိန်လောက်တွင် ဗန္ဓုလ ဦးဆိုင်နှင့် ဒေါ်စောတင်တို့သည် အခြွေအရံ ပရိသတ်အချို့နှင့်ရောက်လာကြပြီး ဆွမ်းတော်အုပ် ကန်တော့ပွဲ ပရိတ်ပန်း တကောင်းတို့ကို အလယ်တိုက်ကြီးဘုရားခန်းအောက်ထပ်စားပွဲပေါ်၌ ပြင်ဆင်ထားကြပြီး ပရိတ်တရား နာလိုပါသည်ဟု လျှောက်ထားသဖြင့် ဆရာတော်အရှင်ပဏ္ဍဝနှင့် သဒ္ဓေးကျောင်းဆရာတော် အရှင်စန္ဒိမာအမှူးရှိသော သံဃာတော်အရှင်မြတ်တို့သည် မင်္ဂလသုတ်၊ ရတနသုတ်၊ မေတ္တသုတ်၊ မဟာသမယသုတ်တို့ကို ရွတ်ဖတ်သရဇ္ဈာယ်တော်မူကြကုန်၏။ကျောင်းဒါယကာကြီး ဦးဆိုင်နှင့် ကျောင်းဒါယိကာမကြီး ဒေါ်စောတင် အမှူးရှိသော ပရိသတ်တို့သည်လည်း လေးမြတ်ကြည်ဖြူ ပရိတ်တရားနာယူကြကုန်၏။

## တနှစ်ကျော်ဖြင့် ၀ေ ယန်စံလွတ်ကျောင်းတော်ကြီး အပြီးဆောက်

ယင်းသို့ ပရိတ်ရွတ် မြေသန့်ပြီးနောက် ၄-ရက်၊ ၅-ရက်ခန့် အကြာတွင် ကားကြီးကားငယ်တို့ဖြင့် လက်သမားဘက်ဆိုင်ရာ သစ်၊ သံ၊ သွပ်များနှင့် ပန်းရံဘက်ဆိုင်ရာ အုတ်၊ သဲ၊ ထုံး၊ ဘိလပ်မြေတို့ကို ပြည့်စုံစွာ သယ်ယူစုပုံစေပြီး လိမ္မာကျွမ်းကျင်သော လက်သမား၊ ပန်းရံသမားတို့ဖြင့် အင်တိုက်အားတိုက် တည်ဆောက်စေရာ တနှစ်ကျော်ကျော်အတွင်း ရှေးလက်ရာမပျက်

နတ်တို့ဖန်လာသည့်အလား ခမ်းနားကြီးကျယ်လှသည့် ကျောင်း တော် ကြီး ပြီးစီးလေသည်။

## ခမ်းနားကြီးကျယ်သော ကျောင်းလှူတ်သဘင်

ကျောင်းဒါယကာကြီး ဦးဆိုင်နှင့် ကျောင်းဒါယိကာမကြီး ဒေါ်စောတင်တို့သည် မဟာမြတ်မုနိဘုရားကြီးမြောက်ဘက်ရှိ အနောက် ၄၅-တာမြောက်လပ်ကြီးအတွင်း၌ ရွှေရောင်တဝင်းဝင်း ထွန်းလင်းတောက်ပသော ဘုံပြာသာဒ်အဆောင်တို့ဖြင့် ကျယ်ပြောလှစွာ တင့်တယ်စွာ ဆောက်လုပ်အပ်သော မဏ္ဍပ်ကြီးအတွင်း၌ ၁၃၂၃ – ခုနှစ်၊ တပို့တွဲလပြည့်ကျော် ၅-ရက်၊ ၆-ရက်နေ့မင်းကွန်း ဓမ္မနာဒတိုက် တိပိဋကရေမမ္မဘဏ္ဍာဂါရိက အဂ္ဂမဟာပဏ္ဍိတ အရှင်ဝိစိတ္တသာရာဘိဝံသဆရာတော်၊ ၇-ရက်၊ ၈ – ရက်နေ့ စစ်ကိုင်းတောင်ရိုးနိုင်ငံကျော်ဓမ္မကထိက အဂ္ဂမဟာပဏ္ဍိတ အနီးစခန်းဆရာတော် အရှင်ပဏ္ဍိတ၊ ၉-ရက်၊ ၁၀-ရက်နေ့ ရန်ကုန်မြို့ နိုင်ငံကျော်ဓမ္မကထိက ကျိုက်ဝိုင်း ဦးဣန္ဒက တို့ကို တရားဟောစေတော်မူ၍ လာလာသမျှ ပရိသတ်အား ဓမ္မအလှူကြီးကို ပေးကြကုန်၍ရှင်း၊ ၁၁-ရက်နေ့ညမှစ၍ ၁၂-ရက်နေ့ နေ့လယ် ၁၂ – နာရီအထိ လှူပရိသတ်အား ညှော်ခံကျွေးမွေးလျက်ရှင်း၊ ၁၃-ရက်နေ့နံနက် ၉-နာရီအချိန်တွင် ပင့်သံဃာ ၃၀၀- နှင့် ဝေယျာဝစ္စကာရကသံဃာတော် ၁၀၀- ကျော်တို့အား ဆွမ်းဘောဇဉ် ချိုချဉ်သြဇာ အမြိန်အရသာတို့ကို ဆက်ကပ်လှူဒါန်းကြကုန်၍ရှင်း၊ ပင့်သံဃာ ၃၀၀ - တို့အား သက်န်းဒွိဝံ အစရှိသော ရဟန်းအသုံးအဆောင်တို့ကို လှူဒါန်းကြကုန်၍ရှင်း ကျောင်းရေစက်ချ ပွဲလှူတ်သဘင်ခမ်းနားစွာ ကျင်းပကြ၍ ပရိယတ္တိသာသနဟိတ မူလဓမ္မာစရိယ စာချအကျော် ပရိယတ္တိဓမ္မပါလသံကျောင်းဆရာတော်အရှင်ပဏ္ဍဝမဟာထေရ်အား တင်လှူပူဇော်ကိုးကွယ်ကြကုန်၏။ ကျောင်းတော်ကြီး၏အမည်ကိုလည်း မူလအမည်ရင်းအတိုင်း ဝေယန်စံလှူတ်ကျောင်းတော်ဟု သမုတ်ပညတ်တော်မူကြကုန်၏။

ဖော်ပြပါ ကျောင်းရေစက်ချ ကျောင်းလှူတ်သဘင်ပွဲကြီးတွင် "တိပိဋကဓရ မေ့ဘဏ္ဍာဂါရိက အဂ္ဂမဟာပဏ္ဍိတ အရှင် ဝိစိတ္တသာရ စီကုံးတော်မူ၍ မြန်မာနိုင်ငံတော် သမိုင်းကော်မရှင် ဂီတသုတေသနမှူး ရွှေပြည်ဆရာကြီး ဦးဘတင် ဖတ်ကြား လျှောက်ထား အပ်သော ဝေယန်စံလှူတ် မူလကမ္ဗည်းသတ်သော ရွှေရေးဆောင် မဟာဝိဟာရပ္ပတ္တိကထာ မော်ကွန်းသံပိုင်းစာမှာ အလက်ာရသ ဂုဏ်မြောက် ပြည့်စုံလှသဖြင့် သုတေသီတို့အကျိုးငှာ ဤ၌ဖော်ပြအပ်ပါသည်။

## ရွှေရေးဆောင် မဟာဝိဟာရပ္ပတ္တိကထာ
## မော်ကွန်းသံပိုင်းစာ

(နမော ဗုဒ္ဓါယ) သိဒ္ဓမ်။

ဝေယန်စံလွှတ်သမညော ယော၊ ရွှေရေးဆောင် ဉာတိ ဝိဿုတော။
မိမတံ ဇာတုဗ္ဗိဘူတော၊ သာဓုမနော နုဟာသကော။
ဝိဟာရော သော စိရံ ဌာတု၊ သတ္တုစက္ကဟိတာဝဟံ။

ယော ဝိဟာရော၊ သိကြားဗိမာန် ဝေဇယန်နှင့် ပုံဟန်နှုန်းလျော် အကြင်ရွှေကျောင်းတော်သည်၊ ဝေယန်စံလွှတ်သမညော၊ မူလပြုဖန် မှည့်ရင်းနာမ်ဖြင့် ဝေယန်စံလွှတ် ကမွည်းသတ်သည့် မြတ်သော အမည်ရင်းသည်း ရှိပေ၏။ ရွှေရေးဆောင်ဉာတိဝိဿုတော၊ အသောကာချုံ ဘွဲ့မည်ပုံသို့ လူတုံဒါယိကာ သူ့သညာဖြင့် မင်္ဂလာလင်းပြောင် ရွှေရေးဆောင်ဟု မြန်ဘောင်ဝန်းလျား ကျော်စော ထင်ရှားလှပေ၏။ မိမတံ၊ ပိဋ္ဌကဝိဓိုရ် ပုဂ္ဂိုလ် ပုဂ္ဂိုလ်ဟုထိုဆို များတောင်း ပညာရှင် အပေါင်းတို့၏။ ဇာတုဗ္ဗိဘူတော၊ ဖြစ်ထွန်းပေါက်ဖွားရာ သော်မြေချာသဖွယ်လည်းဖြစ်ပေ၏၊ သာဓုမနောနုဟာသကော၊ သူတော်စင်တို့ စိတ်နှလုံးကို ရွှင်ပြုံးကြည်ပျို့ အကြိမ်ကြိမ် နှစ်မြို့စေတတ်၏၊ သော ဝိဟာရော၊ သိကြားဗိမာန် ဝေဇယန်နှင့် ပုံဟန်နှုန်းလျော် ထိုရွှေကျောင်းတော်သည်။ သတ္တုစက္ကဟိတံ၊ ဘုရားသာသနာ လင်းပွင့်ရာအကြောင်း အစီးအပွားကောင်းကို။ အာဝဟံ-အာဝဟန္တော၊ ဥပနိဿယသည်း ပစ္စည်းမြောက်အောင် ရွက်ဆောင်သမှု ကျေးဇူးပြုလျက်။ စိရံ ဌာတု၊ ဘုရားဟူသော အသံ ဤလူ့ဌာနံဝယ် နှုတ်မွန်ချီးပ ရှိသမျှပင် ကာလမြင့်ရှည် ကြံ့ကြံ့တည်ပါစေသော်။

အောင်သူတကာတို့၏ မဟာဇိနေန္ဒြာဓိပတိ သိဒ္ဓိပ္ပရ အတုလဥသျှောင် သုံးလောက ထွက်ထား ဘုရားငါးမာရ်အောင်သည် မြေတောင်ဗဟို ရာဇဂြိုဟ်ပြည်မွန် ဝေဠုဝန်သမိုက် ဥယျာဉ်တိုက်၌ ယာပိုထိမွေ့လျော် ကိန်းစံတော်မူသောကာလ သာဝကများစွာ ထေရ်သံဃာတို့အား သေနာသန ဝိဟာရကျောင်းသခ်မ်းကို နိဒါန်းဝတ္ထု ပေါ်ချိန် မျှော်ရှု၍ ခွင့်မပြုသေးရကားများစွာသော ရဟန်းတို့သည် တောတန်းသစ်ပင် ရှုမြောင်ခွင်နှင့် တောင်လျှိုတောင်ခေါင်း သုသာန်စောင်းက သောင်းပြောင်းဥဒဟို ရပ်ထိုထို၌ ညဥ့်ခိုကိန်းစံတော်မူကြ၍ မိုးသောက်အခါ ကြည်ညိုဖွယ်ရာသော ဣရိယာပထဖြင့် ထိုမှ ဤမှ ထွက်ကြွတော်မူလာကြသည်ကို ရာဇဂြိုဟ် သဋ္ဌေးအဝေးမှ မြင်လတ်

အနီးသို့ ချဉ်းကပ်၍ နှုတ်လွှတ်သံညောင်း ကျောင်းဆောက် လှူလိုကြောင်းနှင့် မြတ်စွာဘုရားအား လျှောက်ထားပေးပါရန် အကြောင်း တောင်းပန်လျှောက်ကြားသဖြင့် များစွာသော ရဟန်းတော်တို့ ဇိနေဝ်ထံမှောက် ချဉ်းကပ်ရောက်၍ ကြားလျှောက်သမှု ကြောင်းဝတ္ထုဝယ် "အနုဇာနာမိ ဘိက္ခဝေ ပဉ္စလေဏာနိ"ပိုဒ်ဦးချီ၍ ဝိဟာရကျောင်းသခ်မ်းကို ရဟန်းတို့ သုံးဆောင်ရန် ကရုဏာလှုံ့ဖန်၍ သမ္မာသမ္ဗုဒ္ဓ သုံးလောက မျက်ရှု သဗ္ဗညုသည် ခွင့်ပြုပညတ်တော်မူလေသတည်း။

မဟာဝိဇည်း ငါးမာရ်လှည်းလျှင် ကျောင်းပစ္စည်းဝတ္ထု အခွင့်တော်ပြုလတ်သော် အမှုသည်ရင်း ရာဇဂြိုဟ် သဌေးမင်း သူဇော်ကောင်း ကျောင်းပေါင်းခြောက်ဆယ် ထိုနေ့ဝယ် ပန္နက်ရိုက်၍ လိုက်လိုက်ကြည်ဖြူ ဆောက်လုပ်လှူသည့် ပုညူပစယ လက်မှန်စ၍ ဤဘုရားသာသနာဝယ် အနာထပိဏ်၊ ဝိသာခါ၊ ဆရာဇီဝက၊ ဤသို့စသည့် ဘုရားရှေ့လက်ထက်တော်အခါ ကျောင်းဒါယကာတို့မှစ၍ မဇ္ဈိမတိုက်တခို သီဟိုဠ်နှင့် မြန်မာဘခွင် သာသနာဝင် ဆင်းသက်ကျောင်းဒါယကာ အဆက်ဆက်တို့သည် သူ့ထက်ငါဦး နိဗ္ဗာန်ကို အရောက်ကူးမည်ဟု အထူးထူးသော ကျောင်းဝိဟာတို့ကို သဒ္ဓါကဲမောက် တည်ဆောက်လှူဒါန်းကြသည့် ဝိဟာရဒါနဝင် အစဉ်ပွားစီး၍ လာခဲ့ရာ မြန်မာတန်ဆောင်ဘုန်းလျှံပြောင်၍ ကုန်းဘောင်ကနက် နေအနွယ် ဆက်သည်တွင် ရာဇက္ကမခြောက်ဆင့်မြောက်တိုင်သသော အခရပူရ ပဋ္ဌမမြို့နန်းတည် "သိရိပဝရဝိဇယာနန္တယသ တြိဘဝနာဒိတျာဓိပတိပဏ္ဍိတ မဟာဓမ္မရာဇာဓိ ရာဇာ" မင်္ဂလာရွှေလိပ် တံဆိပ်နာမံ ခံဘော်မူသော ဘိုးတော်မင်းတရားကြီး၏ တောင်ရွှေရေးဆောင်စံ "သီရိမဟာ မင်္ဂလာဒေဝီ"ဘွဲ့မည်ထင်ရှား ရှင်မိဖုရားသည် များစွာသော အသပြာတို့ကို ခေမာဆိပ်ဦး တံဘားကူး၍ ထူးကဲသော စေတနာဖြင့် မဟာမုနိ ရုပ်ရှင်တော်မြတ် အနောက်မြောက်အရပ်ဝယ် အမိုးသုံးထပ်ဇေတဝန်ကျောင်းတော်မြတ် ဆောက်လုပ်ပြီးပြေ၍သည်။ သက္ကရာဇ် ၁၁၅၃-ခုနှစ် ပြာသိုလဆန်း ၁၁-ရက်နေ့၌ ဘိုးတော်မင်းတရားကြီးကိုယ်တိုင် ရွှေကရားဖြင့် ရေစက်တော်သွန်းချ၍ ကျောင်းတော်၏ အမည်နာမ်ကိုလည်း "ဇေယန်စံလွှတ်" ကမ္ပည်း စိုက်သတ်မှတ်လျက် ထေရ်မြတ်သခင် အရှင်ဉာဏာဘိသ မွှေအား အစဦးစွာ သဒ္ဓါစင်ဖြူ နိဗ္ဗာန်နန်း ဆုယူ၍ တင်လှူပူဇော်လတ်သတည်း။

ထိုမှနောက်တွင် ဖန်နန်းရှင်ခေါ် ဘကြီးတော် မင်းတရား လက်ထက်အခါ "နရိန္ဒာဘိသီရိဓဇ မဟာဓမ္မရာဇဂုရု" သွန်းထုခတ်နှိပ် တံဆိပ်တော်ရ

အကျော် ပုလဲဆရာတော်၊ ကုန်းဘောင်မင်းတရားလက်ထက်၌ မိုးနဲဗိုလ်မှူး၏ ဆရာတော် "ပရမညာဏဓဇမဟာဓမ္မရာဇဂုရု" တံဆိပ်တော်ရ မဟာထေရ်မြတ်၊ ထိုမှနောက်အခါ "အာစာရဝံသဓဇသီရိပဝရ မဟာဓမ္မရာဇာဓိ ရာဇဂုရု" တံဆိပ်တော်ရ ဆရာတော်ဘုရားတို့ မပြတ်ရွှေနောက် ထိန်းစောင့်ရှောက်ကြ၍ ကျောင်းတော်တည်သည်မှ ကာလမြင့်ညောင်း နှစ်ပေါင်း ကိုးဆယ်ကျော် အကြာ ကောဇာသက္ကရာဇ် ၁၂၄၅–ခုနှစ် ခန့်သို့ ရောက်သောကာလ မူလ ရွှေကျောင်း ဟောင်းနွမ်းပျက်ပြား ရှိသည်များကို ပယ်ရှားသုတ်သင်၍ အရှင် သီပေါမင်းတရား လက်ထက်တော်ခေတ်တွင် မြို့သစ်မြို့စား "မင်းကြီးမင်းလှ မဟာဇေယျသင်္ကြံ" ဘွဲ့မည်ခံသည့် ဉာဏ်ရည်ထိန်လင်း အတွင်းဝန်မင်းနှင့် ဇနီး မြစ်သားမြို့စား "သုသီရိပဘာ" ဘွဲ့ခံ အတွင်းဝန်ကတော်တို့က ဘုရားရွှေ လက်ထက်တော်အခါ ပုဗ္ဗာရုံရွှေကျောင်းနှင့် အကောင်းယှဉ်ဆိုင် အလှဂုဏ် မာန်ပြိုင်သကဲ့သို့ ခံ့ခိုင်တင့်ဆန်း အခန်း ၃၂၂-ရှိ အုတ်ကျောင်းကြီး အသစ် တဖန်တော်လစ်၍ ရှင်ချစ်သားကျော် ဆရာတော်တို့ကို ပူဇော်တင်လှူပြီးနောက် ၁၂၅၇–ခုနှစ်အရောက်တွင် ဘုန်းတော်မြတ်စွာ သာသနာ၌ ပညာအရောင် လောင်စလိလိ ရွှန်းလျှံအိသော "ပဏ္ဍိတဓဇသီရိပဝရ မဟာဓမ္မရာဇာဓိ ရာဇ ဂုရု" သွန်းထုခတ်နှိပ် တံဆိပ်ရအကျော် မိုင်းခိုင်းဆရာတော်ဘုရားကြီး စလင်း မြို့တွင် သူကောင်းကြီးက ဆောက်လုပ်လှူဒါန်းသည့် "မြို့မငါးစဉ်" ကျောင်း ကြီး၌ ပွားစီးလို့လ မှုရနှစ်တန် ကျင့်ကြံအားသစ် ရှိနေတော်မူသည်ကို ကြည် ညိုသဒ္ဒါ ရိုသေစွာပင့်ဆောင်၍ ရွှေရေးဆောင် အလယ်အုတ်ကျောင်းကြီးကို အုပ်စီးစောင့်ရှောက် သာသနာတော်ကြီးကို ချီးမြှောက်ပြုစုရန် တောင်းပန် ကော်ရော် ထို မိုင်းခိုင်းဆရာတော်အား ပူဇော်တင်လှူလတ်သတည်း။

မိုင်းခိုင်းဆရာတော်ဘုရားကြီး သာသနာ့တန်ဆောင်ဆီမီးသည် ဝိဇ္ဇာည်းမြေ ကောင်း ရွှေရေးဆောင် အုတ်ကျောင်း၌ ကိန်းအောင်း စံနေတော်မူကာ အဋ္ဌဒိသာ မှာမှာအရပ်တို့မှ ချဉ်းကပ်လာသမျှ သောတုဇနတို့အား ဂန္ထဓူရ နေ့ညမအား ဟောကြားပို့ချ ပြသခြင်း၊ ပြဿနာဆစ်ပိုင်း ရောက်လာတိုင်းကို မဆိုင်းလျင်မြန် အဖြေမှန်ဖြင့် ဝေဖန်ပြီးပြတ်အောင် ဆုံးဖြတ်တော်မူခြင်းကို ကိုယ်တော်မြတ်အတွက်တာ အခွင့်ရတိုင်းအခါတို့၌ ဘာဝနာတရား ပွားများ အားထုတ်ခြင်း နှစ်ခင်းမှုရ ရဟန်းတို့ကိစ္စဖြင့် ကာလကိုကုန်စေကာ ကောဇာ သက္ကရာဇ် ၁၂၆၁–ခုနှစ် ပစ္ဆိမတောင်ယံ ဝင်စံသောနေသဖွယ် ကွယ်လွန် တော်မူလတ်လျှင် လောကဓာတ်စကြာ အရှေ့မျက်နှာမှ သော်တာလစန်း ပေါ်ထွန်းထွက်ပြူ၍သို့ ဆရာတော်၏ငယ်တပည့်ရင်း သုံးခင်းပိဋက ဝေဒဝိမ္ဒိရ်

မာဂဓ သက္ကတ ကျမ်းထိုထို၌ တစ်ဆိုသလောက် ဉာဏ်ရည်မြောက်၍ ထက်အောက်မြန်ခွင် ကျော်စောထင်သည့် "အရှင်အာဒိစ္စရံသီ" ဘွဲ့ထူး ချီသော "ဦးကြည်"ဆရာတော်ဘုရားသည် လပ်လျားမရှိ အချိန်ပြည့်လျှင် မှုန်မြတ်စွာ သာသနာ၀န် မှုရနှစ်တန်ကို ဆက်ခံဖြည့်တင်း ကျေးဇူးသတင်း ရှစ်ရပ်လင်းစေလျက် ယင်း ရွှေရေးဆောင်အုတ်ကျောင်းကြီးကို အုပ်စီးထိန်းစောင့် ၁၂၆၂-ခုနှစ်ကစ၍ ဓမ္မသဘင် ပွဲကြီးယင်လျက် ရှင်ပင်မြတ်စွာ သာသနာ သုံးခင်း စန်းရောင်အလင်းကို ထိန်၀င်းတောက်ပြောင် စေခဲ့သတည်း။

"အရှင်အာဒိစ္စရံသီ" ဘွဲ့ထူးချီသော "ဦးကြည်" ဆရာတော်ဘုရား လရသာသလျှင် တရားငွေရောင် ဆွတ်ဆွတ်ပြောင်စေ၍ ၁၂၉၇-ခုနှစ်တွင် တောင်စွယ်အတ္တာ် စုတိခွင်သို့ ၀င်စံတော် မူလတ်သောအခါ ဆရာတော်ဦးကြည်၏ တပည့်ရင်း ဓမ္မနန္ဒ၀ါသိက သာဋ္ဌကထ တိပိဋက ၀ိသာရဒ မူလဋီကာ ကျွမ်းကျင်စွာဟု စာသင်သား အပေါင်းတို့ နှစ်ထောင်းလေးမြတ်ချီးမွမ်းအပ်သော ဂုဏ်ကျေးဇူးရှိသည့် ပဏ္ဍိတနွယ်တန်ဆောင် "အရှင်ပဏ္ဍ၀" ထေရ်ဘုန်းခေါ်သည့် ရွှေရေးဆောင် ကျောင်းတိုက်အတွင်း ပရိယတ္တိ ဓမ္မပါလ သံကျောင်း၌ သီတင်းသုံးနေတော်မူကာ စာတော်သဘင် နေ့ညဥ့်ယင်လျက် အရှင်ဆရာတော်၏ ဓမ္မမြုံသိုက် ရွှေရေးဆောင် ကျောင်းတိုက်၏ သိုက်မြိုက်လင်းပြောင် အသရေကို ဆောင်တော်မူခဲ့ရာ ၁၃၀၃-ခုနှစ် ဒုတိယကမ္ဘာစစ်ကြီး ညီးတပြောင်ပြောင် မီးသင့်လောင်သည်တွင် ရွှေရေးဆောင် အုတ်ကျောင်းကြီးနှင့်တကွ အရံပေါင်းများစွာ မီးခ၍ အုတ်ကျောင်းကြီးမှ နံရံမျှသာကျန်ရှိ ဆောက်လုပ်ဖွယ်ဒါယကာ ဆယ့်ရှစ်နှစ်ခန့် အချိန်ကြာအောင် မလာမရှိ ဖြစ်နေဘိသည်တွင်—

"လောကီဥစ္စာ ရတနာကား ငါးဖြာရန်စု ဆက်ဆံမှုကြောင့် သေတ္တာအနှစ် မဟုတ်လစ်ဖူး မခွေရရန် ပယ်တုန်းလှန်၍ ဆယ်တန်ဒါန အားသစ်မှသာ ဘောဂဥစ္စာ ရတနာ၏ ခေမာရောက်ရန် အနှစ်မှန်ပုံဟု ၀ေဖန်ခွဲခြမ်း ဉာဏ်ပြဋ္ဌာန်းကြသည့် မန္တလေးမြို့ ဓားတန်းရပ် ကျောင်းဒါယကာ မဟာဗန္ဓုလ ဦးဆိုင်၊ ကျောင်းအမ ဒေါ်စောတင်- သားသမီးတစုတို့သည် နိဗ္ဗာန်အောင်မြေ ဆုပန်ချွေကြ၍ ရွှေရေးဆောင် အုတ်ကျောင်းကြီး ပျက်စီးယွင်းယို နံရံမျှကြွင်းကျန်ရှိနေသည်ကို ထိုကျောင်းတိုက်ကြီး၏ ဦးစီးနာယက အရှင်ပဏ္ဍ၀ မဟထေရ်အထံမှ ပြင်ဆင်ဆောက်လုပ်ရန် ခွင့်ပန်ရရှိ၍ ပီဘိရှင်လန်း၊ အားရမ်းနှစ်ထောင်း ကောင်းသည်ထက် ကောင်းအောင် ထပ်လောင်းတဖန်

အသစ်မွမ်းမံ မူလပုံစံအတိုင်း သမိုင်းမော်ကွန်း စိုက်ထူညွှန်းလောက်အောင် သွန်းသွန်းမိုမောက် တည်ဆောက် ပြုပြင်ကြခြင်း၊ သီဟာသနပလ္လင် ဥကင်တံကဲနှင့်တကွ ဥဒ္ဒိဿရုပ်ပွား ကျောက်သား ဆင်းတုတော်ကို ပူဇော်တည်ထားခြင်း၊ ဆဋ္ဌ သံဂါယနာတင် ပါဠိတော်နှင့် အဋ္ဌကထာ အုပ်ရေ ၉၁ - ဓမ္မက္ခန္ဓာတို့ကို ကိန်းစံတော်မူရာ ဂန္ဓကုဋီ ဗီရို စာတိုက်နှင့်တကွ ဓမ္မစေတီ အဆူဆူ တည်လှူပူဇော်ခြင်း၊ အာဂါသိက အာဂန္တုက နှစ်ဝသော သံဃာတို့ ချမ်းသာစွာ သုံးစွဲရန် စက်ရေတွင်း ကိရိယာ အစုံအလင် အုတ်ရေစင်ကြီးနှင့်တကွ ရေသုံး သံဃာ့ဝစ္စကုဋီ တည်လှူခြင်း၊ တရာ့ငါးဆယ်သော မောင်ရှင်လောင်းတို့ကို ကောင်းမွန်သော ဝတ်စုံပရိက္ခရာတို့ဖြင့် သာမဏေဘုံရောက် ချီးမြှောက်ထောက်ပံ့ခြင်း၊ ကျောင်းတိုက်ရှိ သံဃာအကုန်နှင့် တကွအခြားတိုက်တာတို့မှ သံဃာများပါ ပင့်သံဃာ ၃၀၀-တို့အား သဒ္ဓါကြည်ယုံ အစုံအစုံသော သင်္ကန်းတို့ကို လှူဒါန်းဆက်ကပ်ခြင်း၊ လေးရာကျော်အဘိုင်း အရှည်ရှိသော အရိယဝံသာ သံဃာတော်အရှင်မြတ်တို့အား မွန်မြတ်သော ဆွမ်းခဲဖွယ်ဘောဇဉ် ချိုချဉ်ရသာတို့ကို သဒ္ဓါဖြူဖွေး ကျွေးမွေး ဆက်ကပ်ခြင်းအစရှိသော ကောင်းမှု ဝမ်းမြောက်စွာပြုကြလျက် ယခု ၁၃၂၃-ခုနှစ် တပို့တွဲလပြည့်ကျော် ၁၃-ရက်နေ့တွင် လေ့လေ့ဝမ်းသာ စေတနာဥက္ကဋ္ဌ ဇောစိတ္တုပ္ပါဒ်ဖြင့် ကျောင်းလွှတ်သဘင် ရေစက်ချပွဲကြီးယင်လျက် သံလွင်ချိုမြ အမျှခွန်း ကျူကျူဟပြီးလျှင် များလှသော ဥစ္စာတို့ကို အာသာမကွက် မစွဲရ မနှောင့်ယှက်ဘဲ ရက်ရက်ကြည်ဖြူ ပေးစွန့်လှူ၍ အောင်နိဗ္ဗူ ဘုံကြငှန်းသို့ စောင်းတန်းသွယ်ယူကြသတည်း။

## သံပိုင်းလင်္ကာ

ဇေယျတုမင်္ဂလာ၊ သံပိုင်းမှာပိမ့်၊ မြတ်စွာမိန့်မှတ်၊ သာသနာမြတ်လျှင်။ မြန်ရဋ္ဌ်တိုက်ဘောင်၊ လင်းလင်းပြောင်က၊ ကုန်းဘောင်ဆဋ္ဌ၊ နရိန္ဒ၏၊ ဒက္ခိဏရံ၊ တောင်ဆောင်စံသည့်၊ ဘုန်းကံကြီးမား၊ မိဖုရားသည်၊ တည်ထားပြုဖန်၊ အဘိဓာန်ဖြင့်၊ "ဝေယန်စံလွှတ်" ကမ္ပည်းမှတ်သား၊ မြတ်ဝိဟာမွန်၊ ဇေဘဝန်ဟု၊ မိုးစွန်ထိုးညောင်း၊ စံရွှေကျောင်းလျှင်၊ နှမ်းဟောင်းတုံလစ်၊ ထိုသို့ဖြစ်က၊ "မြို့သစ်အတွင်းဝန်"၊ တိပိဋကဉာဏ်ဖြင့်၊ တဖန်အုတ်ကျောင်း၊ တည်ဆောက်ရှောင်းခဲ့၊ နောက်နှောင်းကာလ၊ ခါသမယတွင်၊ ဒုတိယဖြစ်၊ ကမ္ဘာစစ်ကြောင့်၊ ချစ်ချစ်တောက်ပြောင်၊ မီးသင့်လောင်က၊ စွမ်းဆောင်

စေတနာ၊ ထဲနှီးပါ၍၊ မဟာဗန္ဓုလ၊ ကမ္ပည်းသသည့်၊ ဝါဏိဇ္ဇဒိုင်၊ စိုးမိုးပိုင်သား၊ "ဦးဆိုင်သညာ"၊ ကျောင်းဒကာနှင့်၊ ကလျာဂိုဏ်းဝင်၊ "ဒေါ်စောတင်"တို့၊ အသခ်တ၊ ဆုပန်ကြလျက်၊ ဇယသချာ၊ သိမ်းသပြာကို၊ အာသာမကုက်၊ စွန့်လှူရက်၍၊ တဆက်ပြုပြင်၊ ကောင်းမှုယင်သား၊ ဓမ္မဥရ၊ ကြောင်းချင်းတကို၊ တိပိဋကမိုရ်း ထေရ်ပုဂ္ဂိုလ်လျှင်၊ မပိုစေရ၊ သံခိပ်မျှဖြင့်၊ နှောင်းထလူရှင်၊ သိကောင်းအင်ဟု၊ ဖြစ်စဉ်နိဒါန်း၊ ထုတ်ဖော်ညွန်းသည်။ ။မော်ကွန်း ရွှေစာ သံပိုင်းတည် ။

ဇင်းပြင် တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက အဂ္ဂမဟာပဏ္ဍိတ အရှင်ဝိစိတ္တသာရာဘိဝံသပင် ဓိကုံး၍ မန္တလေးတက္ကသိုလ် မြန်မာစာဌာန ဆရာကြီး ဦးဆန်းထွန်း ဖတ်ကြားလျှောက်ထားသည့် ရွှေရေးဆောင်တိုက် အလယ်အုတ်ကျောင်းကြီး၏ အဋ္ဌုပ္ပတ္တိအကြောင်းအရာ မင်္ဂလာရတုပိုဒ်စုံကိုလည်း အောက်ပါအတိုင်း ဖော်ပြအပ်ပါသည်—

ရွှေရေးဆောင်တိုက် အလယ်အုတ်ကျောင်းကြီး၏
အဋ္ဌုပ္ပတ္တိအကြောင်းအရာ
မင်္ဂလာရတုပိုဒ်စုံ

၁။ အောင်ခွန်းဇေယျာ၊ သောင်းတိုက်ညာတည့်၊ မဟာမုနိ၊ တို့ဘုန်းရှိလျှင်၊ သီရိမင်္ဂမိုရ်၊ ရာဇဂြိုဟ်ဟု၊ နဂိုရ်ရိပ်မွန်၊ ဝေဠုဝန်၌၊ နိဗ္ဗာန်ဆုနှင်း၊ ကျွတ်ပွဲခင်း၍၊ လင်းလင်းစက်ခြည်၊ နေစံတည်က၊ ထိုပြည်သဌေး၊ တောင်းပန်ရေးကြောင့်၊ ရှေးဦးစစွာ၊ ကျောင်းဝိဟာကို၊ ရှေ့ဗျာရင့်ကြေး၊ ခွင့်တော်ပေးခဲ့၊ သဌေးရာဇဂြိုဟ်၊ ညဏ်ဝိမိုရ်ကား၊ ထိုသည့်နေ့၌၊ ပန္နက်ရိုက်၍၊ အမြိုက်ဆုရွယ်၊ ကျောင်းခြောက်ဆယ်ကို၊ အံ့ဖွယ်သဒ္ဒါ၊ ဆောက်လှူပါသား၊ မဟာပုညာ၊ လက်မှန်စ၍၊ မဇ္ဈိမခုက်ချာ၊ ကျွန်းလက်ာနှင့်၊ မြန်မာတိုင်းချက်၊ သာသနာဆက်အောင်၊ ဆင်းသက်စဉ်လာ၊ ဒါယကာတို့၊ မဟာဝိဟာရ၊ မြိုက်ဗီဇဟု၊ ဒါနပဝေဏီ၊ ဆင့်ဆင့်ချီက၊ သိင်္ဂိနိက္ခ၊ ပဗ္ဗတလျှင်၊ ထိုမှဉ်မှု၊ ပေါ်ထွန်းပသို့၊ ဘုရားသာသနာ၊ လင်းရာရာ၌၊ သဒ္ဓါလုလု၊ ဒကာထုလည်း၊ သူ့ထက်ငါမြောက်၊ ကျောင်းကျောင်း

ဆောက်၍၊ ဘုန်းတောက်သာသနာ၊ ပြုခြင်းရကား၊ ပူဇာပူဇနိယ၊ ဤနှစ်ဝတို၊ ပပလင်းပွင့်၊ သရေဆင့်သည်။ ။နေနှင့်လနှယ် တင့်ပြီ တကား။

၂။ ထောင်ဝန်းနေဝ၊ ရွှေသမ္မာဖြင့်၊ မြန်မာတို့ဘုန်း၊ မိုးနှယ် ချုန်း၍၊ ကုန်းဘောင်နတ်ဆွေ၊ ခြောက်ဆင့်နေဟု၊ စက်တေဇာမိ၊ လက်လက်ညီသော်၊ ဒက္ခိဏရံ၊ တောင်ဆောင်စံသား၊ ဘုန်းကံကြီး မှား၊ မိဖုရားလျှင်၊ မြောက်မြားဥစ္စာ၊ စွန့်လှူကာဖြင့်၊ မဟာမုနိ၊ စေသာကိမှ၊ ပစ္ဆိမုတ္တနရ၊ အောင်ရပ်မြေ၌၊ ဇေတဝန်ကျောင်းကြီး၊ မိုးထိနီးကို၊ ဆောက်ပြီးလတ်သော်၊ မြတ်ဘိုးတော်ဟု၊ နတ်ကျော် ကြပ်မ၊ ရေစက်ချလျက်၊ သြဘာသမည်၊ မဟာထေရ်အား၊ စတည် လှူဒါန်၊ ကျောင်းဗိမာန်ကို၊ "ဝေယန်စံလွတ်"၊ ကမ္ပည်းသတ်ခဲ့၊ ထေမြတ်နရိန္ဒ၊ ပရမနှင့်၊ အာစာရဝံသာ၊ မင်းဆရာ့ကို၊ စည်ကာထိန်း စောင့်၊ ရန်မနှောင့်ပဲ၊ ကုန်းဘောင့်နတ်ဆွေ၊ ဆယ့်ဘစ်နေ၏၊ စက် တေဇာလှစ်၊ခါတော်ခေတ်ဝယ်၊ "မြို့သစ်အတွင်းဝန်"၊ဉာဏ်ရည်ချွန်၍ တဖန်အုတ်ကျောင်း၊ တည်ဆောက်ရှောင်းက၊ ထေရ်ကောင်းမိုင်းခိုင်း၊ ဉာဏ်ခိမိုင်းနှင့်၊ မြန့်တိုင်းလွှဘ်ချုံ၊ ကျေးဇူးပုံသား၊ စွယ်စုံ"ဦးကြည်" ဆက်ခဲ့စည်၍၊ "ထေရ်ပဏ္ဍဝ"၊ လက်ဆက်ကျဒအောင်၊ ဓမ္မဆောင်စွင့်၊ မှောင်ချွေလှင့်သည်။ ။ရွှေနှင့်မြနှယ် ဆင့်ပြီတကား။

၃။ ဆောင်သွန်းဒေဝါ၊ ၊နတ်ဖန်လာသို၊ မဟာဣင္ဂကာ၊ ဝိဘာ ရလည်း၊ ဒုတိယဖြစ်၊ ကမ္ဘာစစ်ကြောင့်၊ ချစ်ချစ်ခဘောက်ပြောင်၊ မီး သင့်လောင်က၊ နက်ခေါင်သမ္ပဉ်၊ နေ့ညဉ့်ယှဉ်လျက်၊ ဓမ္မဋ္ဌရ။ ကြိုးလုံ့ လ၍၊ တကာ့ဂုဏ်ရိပ်၊ ပုဏ္ဏရိက်ဟူ၊ တံဆိပ်ခတ်နိုင်၊ ကောင်းတင်းလှိုင် သား၊"ဦးဆိုင်"သညာ၊ ကျောင်းဒကာနှင့်၊ ကလျာဂိုဏ်းဝင်၊"ဒေါ် စောတင်"ကို၊ အသခ်တ၊ ဆုပန်ကြ၍၊ မူလအုတ်ကျောင်း၊ စစ်မီး မောင်းကြောင့်၊ မကောင်းသမျှ။ စွန့်ပယ်ချ၍၊ ပုနရပိ၊ ဣဒါနိဝယ်၊ ပကတိပုံ၊ ကျောင်းဘောဘုံနှင့်၊ နိတုံဆောင်ဖိဘ်၊ ရွှေရည်ပိဘ်မျှ၊ ဥဒ္ဒိသာ ရုပ်ပွား၊ မြတ်ဘုရားတည့်၊ နတ်မျှားကြည်သရာ၊ ဝန်းခကာသား၊ သီ ဟာသန၊ ပလ္လင်္ကနှင့်၊ ရဇဥကင်၊ တံကဲပျဉ်မှ၊ မြင်မြင်သူမျှား၊ ကုသိုလ် ပွား၍၊အားကျလောက်လျှင်း၊ စက်ခရေတွင်းက၊ အရင်းစကာ၊ သာသ နာ၏၊ သင်္ချာမျှားတောင်း၊ ဆောက်ဦပေါင်းကို၊ သိန်းသောင်း

ဘဏ္ဍာ၊စွန့်လှူတ်ကာဖြင့်၊ ခိုင်မာဘည်ဆောက်၊ နိဗ္ဗူရောက်အောင်၊ ကွန်းထောက်နန်းဆဲ့၊ မဂ်သမ်းဖွင့်သည်။ ။ရေနှင့် ကြာ့နှယ် မြင့်ပြီတကား။

## ရွှေရေးဆောင်သာသနာ၀င် အပြီးသတ်ခြင်း

ရွှေရေးဆောင်ကျောင်းတိုက်ကြီး ပေါ်ထွန်းလာသည်မှ စ၍ ယခုလက်ရှိအခြေအနေအထိ လက်လှမ်းမီသရွေ့ သူတော်ကောင်းတို့ ကြည်ညိုရန်၊ သံဝေဂဉာဏ်ရရန် ရည်သန်၍ သမိုင်းအဆက် သာသနာ၀င်အစဉ်ကို ဖော်ပြခဲ့ရာ အတော်အသင့် ပြည့်စုံပြီဖြစ်သဖြင့် ဤတွင် ရွှေရေးဆောင်သာသနာ၀င်ကို လက်စသတ်လိုက်ပါပြီ။

သုဇနာနံ ပသာဒါယ၊ သံဝေဂတ္ထာယ မေ ကတော။
ရွှေရေးဆောင်သာသနာ၀ံသော၊ သမတ္တော သာဓုဝဏ္ဏိတော။

## မန္တလေးသာသနာ၀င် ပဋ္ဌမတွဲကျမ်းကြီး အပြီးသတ်ခြင်း

မန္တလေး သာသနာ၀င်ကျမ်းကြီးကို ခြင်းခါးနိုင်ငံဗုဒ္ဓသာသနာအဖွဲ့အုပ်ချုပ်ရေး အရာရှိချုပ်၊ နောက်တွင် ပြည်ထောင်စုဆိုရှယ်လစ်သမ္မတမြန်မာနိုင်ငံတော်သာသနာရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်၊ တဖန် နိုင်ငံတော်ကောင်စီဝင်ဖြစ်သော ဦးလှမောင် တောင်းပန်သဖြင့် ၀ုဆောင်းရေးသားခဲ့သည်။ တဖန်သာသနာရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ် ဦးကြည်ညွန့် ထပ်မံလျှောက်ထားပြန်သဖြင့် အပြီးသတ်သည့်ခွာက်သုဘ်သင်ပြင်ဆင်ခဲ့လေရာ မန္တလေးသာသနာ၀င်ကျမ်း ပဋ္ဌမတွဲ ၁၃၄၁-ခုနှစ် တပေါင်းလဆန်း ၁၃-ရက်နေ့တွင် အောင်လံစိုက်ဆောက် ပြီးမြောက်ပါသည်။ မိမိသည် စာသင်သား တပည့်ကြီးတို့အား အင်္ဂုတ္တရနိကာယပါဠိတော်ကို အဋ္ဌကထာတွဲဖက်၍ ချပို့ခြင်း၊ စာသင်သား တပည့်ငယ်တို့အား ကစ္စည်းသဒ္ဒါကြီးကို ချပို့ခြင်း၊ ထူးထူးချွန်ချွန် ဘာသန္တရလေ့လာတတ်မြောက်လိုကြသော တပည့်ရဟန်းတော်များအား မုဒ္ဓဗောဓသက္ကတဗျာကရဏ်းကျမ်းကိုချပို့ခြင်း၊ တိပိဋကပါဠိမြန်မာ အဘိဓာန် တ-ဝဂ်ကျမ်းကြီးနှင့် တိပိဋကပါဠိပဒ တ-ဝဂ်ကျမ်းညွှန်းကျမ်းကြီးတို့ကို ဦးစီးရေးသားခြင်းစသည့် အလုပ်ကိစ္စတွေကြားမှ ရနိုင်သမျှ အချိန်ယူ၍ ဤမန္တလေးသာသနာ၀င်ကျမ်းကြီးကို ဖြည့်စွက်ရေးသား သုတ်သင်တည်းဖြတ်ရပါသည်။ ယင်းသို့ ရေးသား သုတ်သင်တည်းဖြတ်ခဲ့ရာ မန္တလေးသာသနာ၀င်ပဋ္ဌမတွဲကျမ်းကြီး အောင်မြင်ပြီးမြောက်ပါသဖြင့် အောက်ပါဂါထာပါဠိ နိဂုံးကိုအတွတ်တပ်၍ မန္တလေးသာသနာ၀င် ပဋ္ဌမတွဲကျမ်းကြီးကို နိဂုံးအုပ်အပ်ပါသည်။

## မန္တလေးသာသနာဝင်ကျမ်း ပဌမတွဲနိဂုံး

၁။ ပခုက္ကူပုရသေဋ္ဌာ၊ ပစ္ဆိမေ အာသိ ဝိသုတော။
စတုဂါဝုတ ဒေသမှိ၊ ကန်ရပ်ဂါမော သုသောဘဏော။

ဘုရားမြတ်စွာ သာသနာရောင် တောက်ပြောင်ထိန်ဝင်း လင်းလက်ရာဖြစ်သဖြင့် မြို့မွန်မြို့မြတ်ဖြစ်သော ပခုက္ကူမြို့၏ အနောက်ဘက် ၄-ဂါဝုတ်ပမာဏ ဝေးကွာသော အရပ်၌ ပခုက္ကူခရိုင်အတွင်း ကျော်စောခြင်းရှိသော ရွာ၏ လေးဘက်လေးတန်၌ ကျောင်းကန်ဘုရား စေတီပုထိုး အမျိုးမျိုးတို့ဖြင့် တင့်တယ်သာယာသည့် ကန်ရပ်ရွာကြီး တည်ရှိလေသည်။

၂။ ဒွိနော ဒွိဝေကသာဏမှိ၊ ဇမ္မိ ဇာတေန ဇာတိယာ။
လင်္ကာဘာရတအာဒီသု၊ ဝုဋ္ဌပုဗ္ဗသုတေသိနာ။

ထိုကန်ရပ်ကြီးရွာ၌ မူလချက်မြှုပ်အနေအားဖြင့် ၁၂၉၂-ခုနှစ်၌ မွေးဖွားသော သီဟိုဠ်နိုင်ငံ(သီရိလင်္ကာနိုင်ငံ) ဘာရတခေါ်သည့် အိန္ဒိယနိုင်ငံ အစရှိသော နိုင်ငံရပ်ခြား တိုင်းတပါးတို့၌ ကြာမြင့်စွာ နေခဲ့ဘူး၍ သက္ကတ၊ ပရာကရိတ်၊ အင်္ဂလိပ် အစရှိသော ထိုထိုဘာသန္တရ စာပေဗဟုသုတသမိုင်း ရာဇဝင် အမျိုးမျိုးကို ရှာမှီး လေ့လာ သင်ယူလေ့ရှိသော။

၃။ ဝိသုတာရာမ သီဟာနံ၊ သိက္ခိတေန တိပေဋကံ။
သန္တိကေ နဝဝဿာနိ၊ သံဂီတိကိစ္စကာရိနာ။

ပခုက္ကူမြို့ မဟာဝိသုတာရာမဝိဇ္ဇာယတနကြီး၌ တိုက်အုပ်ဆရာတော် အရှင်နန္ဒိယမဟာထေရ် အစရှိကုန်သော မဟာဝိသုတာရာမဝါသီ ပညာရှင် မထေရ်

---

၁။ ၁၂၉၂-ခုနှစ် နတ်တော်လဆုတ် ၁၁-ရက်နေ့ ဦးဘရှန်၊ ဒေါ်လှပိုတို့မှ ဖွားမြင်သည်။ မြိုင်မြို့နယ် ကန်တိမ်ရွာ ဦးဘသင်း၊ ဒေါ်စိန်ခတို့၏ ပစ္စယာနုဂ္ဂဟဖြင့် ရဟန်းအဖြစ်သို့ ရောက်သည်။ ပခုက္ကူခရိုင် ကန်ရပ်ရွာ ဦးပျော်ပါး၊ ဒေါ်သောင်း တို့ကရင်း၊ ညောင်တုန်းမြို့ ကျုံတမာရွာ ဦးကျော်ထင်၊ ဒေါ်စိန်ချစ် တို့ကရင်း သိမ်ထပ်၍ ဒါနပြုကြသည်။

မြတ်တို့၏ အထံ၌ ကိုးနှစ်တိုင် ပိဋကတ်သုံးပုံကို သင်ယူခဲ့သော ဆင္ဒသံဂါယနာ-မဟာဓမ္မသဘင်ကြီး၌ စာပေလုပ်ငန်းအဝဝကို ပြုလုပ်လေ့ရှိသော၊

၄။ ဒက္ခိဏာရာမဝါသီနံ၊ သန္တိကေပိ သုဝိညုနံ။
သိက္ခိတေန နဝဝီသ-ဝဿိကေန ယသဿိနာ။

ရတနာပုံ ဘွဲ့မည်စုံသော မန္တလေးမြို့ တောင်ပြင် ဒက္ခိဏာရာမ ဘုရားကြီးတိုက် အမရပူရကျောင်း ဆရာတော် အရှင် ဥက္ကံသာဘိဝံသ အစရှိသော ပညာရှင် မထေရ်မြတ်တို့အထံ၌လည်း သင်ယူအပ်သော နည်းနာနယ အဘတ်ပညာအဝဝရှိသော ရဟန်းသိက္ခာ ၂၉-ဝါရပြီး တပည့်ဘပန်း အခြံအရံနှင့်လည်း ပြည့်စုံသော၊

၅။ သုန္ဒရေ ပုရသေဋ္ဌမှိ၊ သုန္ဒရေ ဝိသုတေ သုံတေ။
သုန္ဒရေ ဇောတိပါလမှိ၊ ဝသတာ ဂဏဝါစိနာ။

ကောင်းမြတ်တင့်တယ် နေချင့်စဖွယ်ကောင်းလှသော ပခုက္ကူ ပိဋကတ်အဘတ် မြို့တော်မြတ်၌ တင့်တယ်သာမော ကျော်စောထင်ရှားလှသော မဟာဝိသုတာရာမ ဝိဇ္ဇာယတနကြီးအတွင်း၌ တိပိဋကပါရဂါမီ ဒီဃဒဿီ ကျေးဇူးရှင်ရေစကြို ဆရာတော်ဘုရားကြီး အရှင်ဂန္ဓသာရမဟာထေရ်၊ အဂ္ဂမဟာပဏ္ဍိတ အရှင်ပညာမဟာထေရ်၊ အဂ္ဂမဟာပဏ္ဍိတ အရှင်နန္ဒဝံသမဟာထေရ်တို့ သီတင်းသုံး၍ မူရနှင်ပါး ပွားများ အားသင်ရာ ဌာနမွန်ဖြစ်သဖြင့် တင့်တယ်သာယာ နေချင်စရာကောင်းလှသော သာသနဇောတိပါလကျောင်းကြီး၌[၁] နေထိုင်လျက် သဒ္ဒါ၊ သင်္ဂြိုဟ်၊ ပါတိမောက်၊ ရူပသိဒ္ဓိ၊ ဋီကာကျော်၊ ကင်္ခါဝိတရဏီအဋ္ဌကထာ ဟူသော စာငယ် စာလတ် ကျမ်းဂန်များနှင့်တကွ ဒီဃနိကာယ်ပါဠိအဋ္ဌကထာ၊ မဇ္ဈိမနိကာယ်ပါဠိအဋ္ဌကထာ၊ သံယုတ္တနိကာယ်ပါဠိအဋ္ဌကထာ၊ အင်္ဂုတ္တရနိကာယ်ပါဠိအဋ္ဌကထာ၊ ခုဒ္ဒကနိကာယ်နေတ္တိပါဠိအဋ္ဌကထာ ဟူသော မာဂဓနှင့် ဗုဒ္ဓဃောသ၊ အမရကောသ၊ ဓာဏကျနီတိ အစရှိသော သက္ကတ စသည့် ဘာသန္တရ ကျမ်းဂန်အမျိုးမျိုးတို့ကို ချပို့လေ့ရှိသော အကျွန်ုပ်သည်—

---

၁။ သာသနဇောတိပါလ ကျောင်းကြီးကား ကျောင်းဦးမှ စနုပြာသာဒ်ကြီး၊ ဆောင်မ၌ အမိုး ၅-ဆင့် ရွှေရောင်တောက်နေသော ထီးငယ်ပေါင်း ၃၀-ခန့်တို့ဖြင့် တန်ဆာဆင် တပ်ဆင်ထားရာ အလွန်လျှင် တင့်တယ်လှ၏။

၆။ နိဿာယ ကလ္လတိုဟာသေ စ၊ သီလာလိပိ ပဘူတယော။
ဗဟုလေ ဂန္ထသေဋ္ဌေပိ၊ ကတော ယံ ဝိဒုမှာနိတော။

သမိုင်းရာဇဝင် သာသနာဝင် အဋ္ဌုပ္ပတ္တိ ကျမ်းဂန်အမျိုးမျိုး၊ ကျောက်စာ စသော စာတမ်းအမျိုးမျိုး၊ အခြားတပါးသော သက်ဆိုင်ရာ ကျမ်းဂန် အမျိုးမျိုးတို့ကို မှီငြမ်းပြု၍ ပညာရှင်အပေါင်းတို့ နှစ်ထောင်းဝမ်းသာ ထောမနာ အပ်သော ဤမန္တလေး သာသနာဝင် ပဋ္ဌမတွဲ ကျမ်းကြီးကို ကြိုးပမ်း ရေးသား အပ်ပါသတည်း။

၇။ တိဋ္ဌတံ အယံ မေ ဂန္ထော၊ သုသာရော ယာဝ သာသနံ။
တိဋ္ဌတော ဝ သုတေသီနံ၊ သုဝံသံ သုပ္ပကာသယံ။

အကျွန်ုပ် များလှတွေပြား စာချစာရေး ဝိုင်းဝိုင်းလည်နေသော အလုပ်ကိစ္စတွေ ကြားမှ စိတ်အားသက်သန်စွာ ရေးသားပြုပြင် စီရင်အပ်သော ဤမန္တလေး သာသနာဝင် ပဋ္ဌမတွဲ ကျမ်းမြတ်ကြီးသည် ဘုရားမြတ်စွာ သာသနာရောင်ခြည် တည်ရှိသေးသမျှ ကာလပတ်လုံး သာသနာဝင် သမိုင်းအဋ္ဌုပ္ပတ် သုတေသီတို့အား ကောင်းမြတ်သော အနွယ်အဆက်ကို ပြလျက် တည်ထွန်းပါ စေသတည်း။

၈။ အနေန သုဝိသိဋ္ဌေန၊ ပုညေနညေန ကမ္မုနာ။
မနိသီဘိ ဂုရူဟော ဝ၊ ဂစ္ဆေယျံ အမတံ သိဝံ။

ဤမန္တလေး သာသနာဝင် ပဋ္ဌမတွဲ ကျမ်းကြီးကို ရေးသားပြုစု ကြိုးပမ်းရသော ကောင်းမှုထူးနှင့် အခြားကျမ်းဂန်များကို ရေးသားရသော ကောင်းမှု၊ စာပေကျမ်းစာ ပို့ချရသော ကောင်းမှု အစုစုကြောင့် ပညာရှင်ချည်းများသာ ဖြစ်တော်မူကြသော ကျေးဇူးတော်ရှင် မဟာထေရ်မြတ်ကြီးတို့နှင့်အတူ အမတ ကျွန်းငူ သိဝနန်းသို့ စံမြန်းရပါစေသတည်း။

မန္တလေး သာသနာဝင်ကျမ်း ပဋ္ဌမတွဲ အလုံးစုံ ပြီးပြီ။



## မန္တလေးသာသနာ့ဝင်ကျမ်း ပဌမတွဲ ပြင်ဆင်ချက်

| မျက်နှာ | ကြောင်းရေ | အမှား | အမှန် |
|---|---|---|---|
| ၃၂ | ၁၁ | လှပသဖြင့် | လှပါသဖြင့် |
| ၃၄ | ၂၈ | ဋ | ဠ |
| ၄၃ | ၄ | အဌမတွဲတွင် | ပဌမတွဲတွင် |
| ၄၅ | ၂၂ | လွန်ကနှင့် | လွန်ကနှင့် |
| ၅၂ | ၃ | ဝိမုရသ်ဟု | ဝိမုတ်ရသ်ဟု |
| ၅၃ | ၁၇ | ရတနာပုဏ္ဏလဍ္ဍတော | ရတနာပုဏ္ဏလဍ္ဍကော |
| ၁၅၃ | ၁၉ | ဖိနပ်ရုပ်ခြင်း | ဖိနပ်ချွတ်ခြင်း |
| ၁၇၇ | ၁ | မဟာမြတ်မုနိရသေ့ကြီး | အခြေခံနဝမပိုင်း |
| ၁၈၀ | ၁၇ | မဟာမုနိ ဆင်းတုတော် ကြီးကို | မဟာမုနိ ဆင်းတုတော် ကြီးသည် |
| ၁၈၇ | ၂ | ဤ အဆောင်တို့သည် | ဤအဆောင်သည် |
| ၂၁၁ | ၁၅ | သီရိသဒ္ဓမ္မဓမ္မ | သီရိသဒ္ဓမ္မဓဇ |
| ၂၁၂ | ၈ | ငွေတော်အတူ | ငွေဘော်အတူ |
| ၂၁၇ | ၁၈ | ပခန်းကြီးမြို့ ကျေးမိုးထူးဆင်တဲရွာ | ပခန်းကြီးမြို့ကျေး မိုးထူး ဆင်တဲရွာ |
| ၂၂၀ | ၅ | ၁၃၃၄–ခုနှစ် | ၂၃၃၄–ခုနှစ် |
| ၂၄၈ | ၂၂ | သုတ်နိပါတ်ပါဠိတော် နိဿယ | သုတ္တနိပါတ်ပါဠိတော် နိဿယ |
| ၂၄၉ | ၅ | သုတ္တနိဒ္ဒေသစသည် | သုတ္တနိဒ္ဒေသနိဿယ စသ ည် |
| ၂၅၃ | ၈ | အသောကာရာမ တိုက်ကြီးကို | အသောကာရာမ တိုက်ကြီးသည် |
| ၂၆၆ | ၂၉ | သာသနာတော်ဘွဲ့တံဆိပ် တော်သမိုင်းများ | သာသနာ့ဝင် ဘွဲ့တံဆိပ် တော် သမိုင်းများ |
| ၂၆၉ | ၁၈ | ကရိတ္တာန | တရိတ္တာန |
| ၂၇၄ | ၁၉ | သိ၊သိ၊သစ်၊ | သိ၊ဠိ၊သစ်၊ |
| ၂၉၅ | ၂၆ | ဘုန်းဘောင်မန္တတ် | ကုန်းဘောင်မန္တတ် |
| ၂၉၅ | ၃၁ | လွှ့ကျော်ဝေးနိုး | လွှမ်းကျော်ဝေးနိုး |
| ၃၆၃ | ၂၈ | စရိယျာဒိတ္တာသီသော၀ | စရေယျာဒိတ္တာသီသော၀ |

| မျက်နှာ | ကြောင်းရေ | အမှား | အမှန် |
|---|---|---|---|
| ၄၀၁ | ၁ | အသောကာရာမ သာသနာ၀င် | ရွှေရေးဆောင် သာသနာ၀င် |
| ၄၀၃ | ၁ | ။ | ။ |
| ၄၀၅ | ၁ | ။ | ။ |
| ၄၀၉ | ၁ | ။ | ။ |
| ၄၁၁ | ၁ | ။ | ။ |
| ၄၁၃ | ၁ | ။ | ။ |
| ၄၂၅ | ၂၂ | မပါရှိချေ | မရှိပါချေ |
| ၄၂၇ | ၃ | သန္ဒွေစဉ် | သန္ဒွေဟည်စဉ် |
| ၄၆၃ | ၁၀ | နပါတ | နိပါတ |
| ၄၆၃ | ၁၉ | ပရိဝေဏောပိ၊ | ပရိဝေဏောပိ |
| ၄၉၅ | ၉ | အသံမေ ဂန္ထေ | အယံ မေ ဂန္ထော |